အမရပူရမြို့ မင်္ဂလာတိုက်ကျောင်း

## အဂ္ဂမဟာ ပဏ္ဍိတ

## မိုးကုတ်ဆရာတော်ဘုရားကြီး

၏

# တစ်ဘဝ သာသနာ

တစ်ဘဝသာသနာ အရှင်ဗောသိတ



ကျေး ဇူး တော် ရှင် အ ဂ္ဂ မ ဟာ ပ ဏ္ဍိ တ
မိုးကုတ်ဆရာတော်ဘုရားကြီး



ဆရာတော်ဘုရားကြီး၏ မီးမခသော မျက်လုံးတော် တစ်စုံအနက်မှ
မိုးကုတ်မြို့တွင် ကျန်ရှိနေသော မျက်လုံးတော်ပုံ



ဆရာတော်ဘုရားကြီး၏ မီးမခသော အံပွားတော်



ဆရာတော်ဘုရားကြီး၏ ဆံတော်များလုံးစုနေပုံ



ဆရာတော်ဘုရားကြီး၏ အရိုး၊ အသွေး၊ အသားတော်တို့မှ
ဖြစ်ပေါ်လာသော ဓာတ်တော်များ

# တစ်ဘဝသာသနာ

ပဉ္စမအကြိမ်ပုံနှိပ်ခြင်း၊ ၂၀၀၂ ခုနှစ်၊ အောက်တိုဘာလ

အုပ်ရေ - ၅၀၀၀

တန်ဖိုး - ၃၀၀၀ ကျပ်

စာမူခွင့်ပြုချက်အမှတ် - ၄၄၈/၂၀၀၂ (၈)

မျက်နှာဖုံးခွင့်ပြုချက်အမှတ် - ၄၄၅/၂၀၀၂ (၈)

**ထုတ်ဝေသူ**

ဒု-ဥက္ကဋ္ဌ ဦးအောင်ချို (မြ - ၀၈၃၁)

မိုးကုတ်ဝိပဿနာတရားစဉ်နှင့် လုပ်ငန်းစဉ်ပြန့်ပွားရေးအဖွဲ့ချုပ်

အမှတ် (၈၂)၊ နတ်မောက်လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း - ၅၄၁၈၆၀

**မျက်နှာဖုံးနှင့် အတွင်းပုံနှိပ်သူ**

ဦးဝင်းအောင် (မြ - ၀၅၁၃၁)

သန်းထိုက်ရတနာပုံနှိပ်တိုက်

အမှတ် (၈၄)၊ လမ်း ၅၀၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း - ၂၉၈၆၇၄

# မာတိကာ



## အခြေပြုနိဒါန်း



## ပထမ ဆယ်စုနှစ်



## ဒုတိယ ဆယ်စုနှစ်



## တတိယ ဆယ်စုနှစ်

## စတုတ္ထ ဆယ်စုနှစ်



## ပဉ္စမ ဆယ်စုနှစ်



## ဆဋ္ဌ ဆယ်စုနှစ်

## သတ္တမ ဆယ်စုနှစ်

## ကမ္မဇရုပ်ချုပ်ငြိမ်း–ရုပ်သိမ်းပြီးနောက်



## နောက်ဆက်တွဲ အခန်း



**အရှင်ဇောတိက၏ တစ်ဘဝတာ ၅၆၉**



မိုး
ချုန်းထစ်သံ ဟိန်းပါဘိ
ခြိမ်းခြိမ့်ခြိမ့် လာပြီ
ရွာသည်တဲ့ မိုး။
ရွာတုန်း ရေခဲလို့
နေရဟာန် ကောန်မြန်းလိုတဲ့
မလေးမေ ပူမသန်းရအောင်
ဖျန်းပက်လို့ ချိုး။ ။




မိုးကုတ်ဝိပဿနာဓမ္မရိပ်သာအဖွဲ့ချုပ်၊ ရန်ကုန်မြို့



## နှိုးဆော် တိုက်တွန်းခြင်း

"မိုးက ၄-မျိုး ရှိသည်"ဟူ၍ ရှင်တော်မြတ်ဘုရား ဟောကြားထားသည်။

(အင်္ဂုတ္တိုရ်ပါဠိတော် စတုက္က)

၁။ ချုန်းထစ် ဟိန်းဟောက်ပြီးမှ မရွာသော မိုး၊

၂။ သဲသဲမဲမဲ ရွာသော်လည်း မထစ်ချုန်းသော မိုး၊

၃။ မချုန်းလည်း မချုန်း မရွာလည်း မရွာသော မိုး၊

၄။ ချုန်းလည်း ချုန်း၍ ရွာလည်း ရွာသော မိုးတို့ ဖြစ်ကြ၏။

**[ချုန်းလျက် မရွာ၊ ရွာလျက် မချုန်း၊ မချုန်း မရွာ၊ ချုန်းရွာ ရွာသား...။]**

ယခု ရွာလာသော မိုးကား နံပါတ်(၄) အမျိုးအစား ဖြစ်၏၊ ချုန်းလည်း ထစ်ချုန်း၏၊ သဲသဲမဲမဲလည်း ရွာသည်၊ မိုးကုတ်စက်ဝိုင်းအတွင်းမှာ နေရာအနှံ့-စကြဝဠာ ဖြန့်၍ အေးစိမ့်ပြန့်သွားအောင် ရွာသောမိုး ဖြစ်သည်၊ မိုးကုတ် ဝိပဿနာ ဓမ္မဒေသနာမိုးကို ဆိုလို၏။ မိုးဆိုမှမိုး၊ အပူတွေ အကုန်ဝေးဖို့ အေးအောင် စိမ့်အောင် ရွာသည့်မိုး။

သို့ဖြစ်၍ ရွာတုန်းရွာခိုက် အခွင့်ကောင်းကြုံတုန်းမှာ မိုးရေတွေကို ခံယူထားကြ၊ အဓိပ္ပာယ်မှာ- နှလုံးသားဖြင့် အေးမြသော ဓမ္မဒေသနာတရားမိုးရေတို့ကို ခံယူထားကြပါ-ဟု ဆိုလိုသည်။

နေရဗာန် (နိရဗာန=နိဗ္ဗာန်)နန်းကို မြန်းလိုကြတဲ့ "မလေးမေ"နှင့် တူသော ယောဂီများအားလုံး ရွှင်ပြုံး လန်းဆန်း အပူမသန်းရအောင် ဖျန်းပက်လို့ ဝဝချိုးလိုက်ကြ၊ ရွဲအောင်-စိုအောင်-စိမ့်အောင် ချိုးလိုက်ကြ" ဟူ၍ နှိုးဆော်လိုက်ရပါသည်။

### မိုးရွာရင် ရေချိုးမယ်၊ အမေလာရင် နို့စို့မယ်

**အခု မိုးတွေ ရွာလာပြီ**

မိုးရွာလျှင် ရေဇလာ ချိုးကြပေတော့၊ အကျိုးမကြာခင် အသရေဟာ တိုးမည်ကြောင့်၊ တန်ခိုးဖြာလွင် ကမ္ဘေကမ္ဘာတောင် မညှိုးနိုင်ဘူ့၊ ခေမာအကျိုးကို သိမှတ်စရာ လမ်းတွေကွယ့်၊ ဝိပဿနာစခန်းတွေနဲ့ အခြေအမှန်သာ... ဗွေသံသရာမှာတဲ့ အဟို့ဟိုပြေး။

နေရဗာန်လျှာတဲ့ သို့မို့ကလေး...(အမယ်မင်း) အမေမြန်မြန်လာပါလို့ ဓမ္မာနို့ချိုကို ကျွေး...။

(လယ်တီပဏ္ဍိတ ရေး)

# ရခဲသောသူ

ထွန်းထွန်းကားကား
ယောကျ်ားတစ်ဆူ
ထိုသသူလျှင်
လူ့ဌသော်လဲ
ရနိုင်ခဲ၏။
နက်နဲသိမြော်
ကြီးမြင့်သော်မူ
လေးဖော်မျိုးစစ်
မှီရာ ဖြစ်လိမ့်...။

(ကိုးခန်းပျို့)

**န ဘိက္ခဝေ ဟီနေန အဂ္ဂဿ ပတ္တိ ဟောတိ၊**
**အဂ္ဂေနစ ခေါ ဘိက္ခဝေ အဂ္ဂဿ ပတ္တိ ဟောတိ။**

ရဟန်းတို့... အညံ့စား လုံ့လ ဝီရိယဖြင့်
အမြတ်စား အထွတ်အထိပ်သို့ ရောက်ရိုး ထုံးစံ မရှိချေ။
အမြတ်စား လုံ့လ ဝီရိယဖြင့်သာလျှင်
အမြတ်စား အထွတ်အထိပ်သို့ ရောက်ရိုး ထုံးစံ ရှိချေသည်။

(နိဒါနဝဂ္ဂသံယုတ်၊ ၂၆၇)




မိုးကုတ်ဆရာတော်ဘုရားကြီး၏ “တစ်ဘဝ သာသနာ” ဤကျမ်းစာကို ရေးသားသောသူမှာ အမရပူရမြို့၊ မဟာဂန္ဓာရုံ၊ ဘာသာဋီကာများ ကျမ်းပြုအကျော်၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဇနကာဘိဝံသ၏ “တစ်ဘဝသာသနာ” ကို ရေးသားခဲ့သော အရှင် ဃောသိတပင် ဖြစ်ပါသည်။

**“အရှင်ဃောသိတသည် ဆရာတော်ဘုရားကြီး ၂-ပါး၏ “တစ်ဘဝသာသနာ” ကို ရေးသားခွင့်ရသဖြင့် အာဂလူပဲ၊ ဒါမှသူကွဲ”**

ဤသို့ပင်လျှင် အများက မြင်ကြ၊ အများက ပြောကြ၏၊ ဟုတ်ပါသည်၊ မိမိကလည်း အမရပူရမှာ ကြာရှည်လေးမြင့်စွာ နေထိုင်လာခဲ့သူဖြစ်၍ အမရပူရမှာ သီတင်းသုံးတော်မူကြသော ဆရာတော်ဘုရားကြီး နှစ်ပါးလုံးကို မျက်ဝါးထင်ထင် ဖူးမြင် နေခဲ့ရ နီးနီးကပ်ကပ်ဆည်းကပ်ခွင့်ရခဲ့သောသူလည်း ဖြစ်နေခဲ့ ရ၏၊ သို့ဖြစ်၍လည်း ဝံ့ဝံ့စားစား ရေးသားရခြင်း ဖြစ်လေသည်။

မိမိမှာ ငယ်စဉ်မှစ၍ ဘဝတစ်လျှောက်လုံး ဆရာတော် အရှင် ဇနကာဘိဝံသ၏ တတွတ်တွတ် ပြောဆို ဆုံးမသော ဩဝါဒကို ခံယူခဲ့ရ၏၊ အသက် အရွယ်ထောက်လာသောအခါ မိုးကုတ်ဆရာတော် ဘုရားကြီး၏ ညွှန်ကြားမှုဩဝါဒတို့ကိုပါ ရယူလာခဲ့ပါတော့သည်။

ထို့ကြောင့် မိမိဘဝကို သုံးသပ်ကြည့်မည် ဆိုပါလျှင် မိမိ၏ ဘဝရှေ့ပိုင်းကို လူလားမြောက်အောင် (လူရာဝင်အောင်၊ လူတစ်လုံး-သူတစ်လုံး ဖြစ်လာအောင်) ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ၊ ကျမ်းပြုအကျော်အမော် ဆရာတော် အရှင် ဇနကာဘိဝံသက ပြုစုပျိုးထောင်ပေးတော်မူခဲ့၏။

မိမိ၏ ဘဝနောက်ပိုင်းကိုကား သံသရာ ခရီး အတွက် ခြေလှမ်းသွားတတ်အောင် ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ၊ မိုးကုတ်ဆရာတော်ဘုရားကြီးက ညွှန်ကြားပေးတော်မူသည်-ဟု ဆိုလျှင် မမှားပါချေ။

## အရိပ်တော်တို့ဖြင့် ထိပ်ပေါ်မိုးထားသလို

ဤသို့လျှင် မိမိဘဝကို ပရိယတ် အကျော် အမော် ဆရာတော်ဘုရားကြီးနှင့် ပဋိပတ် အကျော် အမော် ဆရာတော်ဘုရားကြီး ၂-ပါးတို့၏ အေးမြသော အရိပ်တော်တို့က မိမိ၏ ထိပ်ပေါ်တွင် အုပ်မိုးထားသလို ဖြစ်တော့သည်။

ဆရာတော်ဘုရားကြီးတို့၏ အရိပ်တို့သည် **အေး**မြလှပါ၏၊ လောကနီတိကျမ်းတွင် စတုရင်္ဂဗလ အမတ်ကြီးက “အမိအဖတို့၏ အရိပ်၊ ဆရာသမားတို့၏ အရိပ်ဆိုတာ သာမန်သစ်ရိပ်-ဝါးရိပ်၊ တောရိပ်-တောင်ရိပ်တို့ထက် အဆပေါင်းများစွာ ပို၍ အေးမြချမ်းသာ၏” ဟု ဆိုထားသည် မဟုတ်ပါလော။

မိမိ၏ ဘဝအတွက်ကား ဆရာတော်ဘုရားကြီး ၂-ပါးလုံး ကျေးဇူးကြီးမားတော်မူကြပါပေ၏၊ အနှိုင်းအဆ လွန်သော ကျေးဇူးရှင်ကြီးများလည်း ဖြစ်တော်

မှုကြပါပေသည်၊ သို့ဖြစ်၍ မိမိက ကျေးဇူးတုံ့ပြန်သည့် အနေ–ရိုသေဂါရဝ၊ ဦးညွှတ်ခလျက် ...။

ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ၂–ပါးတို့၏ တစ်ဘဝတာခရီးကို ကိုယ်စီကိုယ်င ဆောင်ရွက်တော်မူခဲ့ကြသော သာသနာပြုလုပ်ငန်းရပ်တို့ဖြင့် တန်ဆာဆင်ကာ စေတနာအပြည့်အဝဖြင့် လှလှပပ "တစ်ဘဝသာသနာ" ကျမ်းစာများအသီးသီး ရေးသား၍ လေးစားစွာ ပူဇော်ကန်တော့ခွင့် ရခဲ့ပါတော့သည်။

## တစ်ဘဝသာသနာစာအုပ် ဖြစ်ဖို့အရေး

ဆရာတော် ဘုရားကြီးတို့၏ "တစ်ဘဝသာသနာ" ကို ရေးရသည်မှာ လွယ်ကူလှသည်တော့ မဟုတ်ပါ၊ မိမိအမြင်–မိမိအယူအဆ–မိမိအတွေ့အကြုံမျှဖြင့်လည်း လုံလောက်ပြီဟု မယူဆပါ၊ သို့အတွက် အပြင်လောကသို့ထွက်၍ ဆရာတော်ဘုရားကြီးတို့နှင့် ဆက်ရာ စပ်ရာတို့ကိုလည်း လေ့လာရ–မေးမြန်းရ–စုံစမ်းရပါတော့သည်။

မိုးကုတ်ဆရာတော်ဘုရားကြီးနှင့် ပတ်သက်လာလျှင် မှန်မှန်ကန်ကန်ဖြစ်ဖို့– ပြည့်ပြည့်စုံစုံ ဖြစ်ဖို့အတွက် အချိန်ယူရပါသည်၊ ၁၉၈၆ –ခုနှစ်မှစ၍ ၁၉၉၅– ခုနှစ်အထိ (၁၀) နှစ်ခန့်မျှ ရှာရ ဖွေရ စုံစမ်းရပါ၏၊ ဤသို့ အချိန်ယူပြီးလျှင် ရှာရင်းဖွေရင်း–လေ့လာရင်းဖြင့် တစိမ့်စိမ့်ရေးသားလာခဲ့ရပါသည်။

အိန္ဒိယနိုင်ငံကြီး၏ ခေါင်းဆောင် သူတော်စင်ကြီး မဟတ္တမဂန္ဒီ အကြောင်းကို ရေးကြတော့မယ်–ဆိုတော့ မရေးသားမီ ဝိုင်းဝန်း၍ အချက်အလက်များ ပြည့်ပြည့်စုံစုံ ဖြစ်အောင် လေ့လာကြ– ရှာဖွေကြ–စုဆောင်းကြပါသေးသတတ်။

သူတော်စင်ကြီး သွားရာ လာရာ ကျက်စားရာ အရပ်တို့ကို အနှံ့အပြားသွား၊ ပြည့်ပြည့်စုံစုံ လေ့လာမှတ်သားပြီးမှ တိတိကျကျ ရေးသားကြပါသတတ်၊ ထို့အတူပင် မိမိတို့လည်း ဤစနစ်ကို ယူ၍ မြို့ရွာအနှံ့–နယ်အနှံ့ ခရီးဆန့်ခဲ့ကြပါသည်။

## လေ့လာရေးခရီး ထွက်ခဲ့ကြခြင်း

ဦးစွာပထမ ညောင်လေးပင်မြို့ကို စတင်၍ လေ့လာရေး ခရီးထွက်ခဲ့ကြပါသည်၊ ရန်ကုန်မြို့၊ မိုးကုတ် ဝိပဿနာ အဖွဲ့ချုပ်ကြီးမှ နာယကကြီး ဦးသန်းမောင် (ကျားပျံ)က "အေး ... ဆရာတော်ကြီးအတွက် သွားကြ မှာဆိုရင် ငါ့ကားကို ယူသွားကြကွ" တဲ့၊ သူ့ထံသို့ တောင်းခံသူမရှိဘဲလျက် သူကအလျင် စေတနာ တွေ ဒလဟောဖြင့် ပေးပါတော့သည်။

ခါတိုင်းဆိုလျှင် သူ့ကားကို လမ်းကြမ်းကြီးများပေါ်တွင် သွားခွင့်မပေး၊ လမ်းချောညက်သော ရန်ကုန်မြို့၊ မြို့နီစီပယ် နယ်နိမိတ်အတွင်း၌သာလျှင် သွားခွင့်လာခွင့်–သုံးစွဲခွင့် ပေးလေ့ရှိပါသတတ်၊ ပြန်ရောက်လျှင်လည်း တိုက်အောက်ထပ်မှာ သူ့ကားနုနုကလေးကို အဝတ်ဖြင့် ခြုံအုပ်ထားစေသည်ဟူ၏၊ ယခုမူ ဝေးလံသီခေါင်သော ခရီးကြမ်း ခရီးလမ်းပေါ်မှာပင် သွားခွင့်ပေးနေသည်၊ ဆရာတော်ဘုရားကြီးကို ကြည်ညိုလွန်း၍ ပေးခြင်း ဖြစ်၏။

အရှင် ဃောသိတသည် ဥက္ကဋ္ဌကြီး ဦးအောင်ကျော်၊ ဒု–ဥက္ကဋ္ဌ ဦးအောင်ချို၊ အမှုဆောင်အဖွဲ့ဝင်လူကြီးဦးချုန်ထွန်း၊ မိုးကုတ်ယောဂီ ဦးဖြိုးတို့နှင့် အတူ ညောင်လေးပင်မြို့သို့ လေ့လာရေးခရီး ထွက်ခဲ့ကြ၏၊



**မိုးကုတ်မြို့တွင် မိုးကုတ်ဆရာတော်ဘုရားကြီးအကြောင်းကို မေးမြန်းမှတ်သားနေစဉ်**

သက်ဆိုင်ရာ ပုဂ္ဂိုလ်တို့နှင့်လည်း တွေ့ရ မေးမြန်းရ–မှတ်သားရပါသည်၊ သူတို့ သိသမျှ ပြောပြကြပါ၏။

နောက်တစ်ဖန် ပတ္တမြားမြေ မိုးကုတ်မြို့သို့လည်း အရှင်ဃောသိတ၊ ပဏ္ဍာသမဏ ဦးပညာစာရ၊ ဥက္ကဋ္ဌကြီး ဦးအောင်ကျော်၊ ဓမ္မကထိကဆရာကြီး ဦးကံစိန်နှင့် အတူ သွားခဲ့ကြ–လေ့လာခဲ့ကြပါ၏၊ လူပုဂ္ဂိုလ် (၃၀) ကျော်တို့က သူတို့ သိသမျှ ပြောပြကြပါသည်။

ထိုမှတစ်ပါး– မန္တလေးမြို့၊ အမရပူရမြို့နှင့် ဆရာတော်ဘုရား၏ ဇာတိချက်ကြွေ ဖွားရာမြေ ဥယျာဉ်တော်ရွာသို့ကား အကြိမ်ကြိမ် အဖန်ဖန်၊ အတန်တန် အခေါက်ခေါက်– ရောက်ခဲ့ကြရ၏၊ ထိုမှနောက်၌ အဘိဓမ္မာညဝါအကျော် ဆရာကြီး ဦးအုန်း၏ ဇာတိ ရမည်းသင်း မြို့နယ်က အလည်ကုန်း ရွာကိုလည်း အလွတ်မထားခဲ့။

ဆရာတော်ဘုရားကြီးနှင့် ဆက်စပ်သူ ဟူသမျှ၊ သိမီသူဟူသမျှ၊ ပြောပြနိုင်သူဟူသမျှတို့ထံ သို့လည်း ရောက်ခဲ့ရ–တွေ့ဆုံမေးမြန်းခဲ့ရ–မှတ်သားခဲ့ ရပါသည်။

## ကျမ်းစာအုပ်ဖြစ်အောင် ပုံဖော်ခြင်း

ဤကဲ့သို့ အနယ်နယ်အရပ်ရပ်မှ ရရှိခဲ့သော အကြောင်းအရာတို့ကို ကောင်းစွာစိစစ်၊ အမှန် အကန် ဖြစ်အောင် ရွေးချယ်၊ "ဟုတ်တယ်" လို့ ယူဆရသည့် အချက်အလက်တို့ကိုမှ လက်ခံကြပါသည်။

ထိုမှနောက်၌ ဆရာတော်ဘုရားကြီး၏ ဘဝခရီး တစ်လျှောက်ကို "ဆယ်စုနှစ်" "ဆယ်စုနှစ်" စီ ပိုင်းခြားပြီးလျှင် ဆိုခဲ့ပြီး အကြောင်းအရာတို့ကို ဆိုင်ရာ ဆယ်စုနှစ်တို့အတွင်းမှာ သွင်းထည့်ပေးပါသည်။

ထိုသို့သွင်းထည့်ပြီး၊ ခွဲဝေပုံပိုင်းပြီးမှ ဆယ်စုနှစ်များ၏ နောက်ခံသမိုင်း၊ တိုင်းပြည်၏ အခြေအနေ၊ လူနေ ပတ်ဝန်းကျင်၊ သာသနာ့လုပ်ငန်းခွင်၏ ပမာဏတို့ကို ဖော်ပြ၍–ဖော်ပြ၍ ဆရာတော်ဘုရားကြီး၏ တစ်ဘဝတာကို ရေးသားပါသည်။

ဤသို့လျှင် တကယ် လက်တွေ့ ရေးသားလာသောအခါ–ဆရာတော်ဘုရားကြီး၏ "တစ်ဘဝသာသနာ" မှာ အလွန်အကျူး အထူးခက်ခဲ နက်နဲ သိမ်မွေ့နေသည်ကို တွေ့လာရပြန်တော့၏၊ အဘယ့်ကြောင့်ဆိုသော် ကိုယ်တိုင် လက်တွေ့ တရားလုပ်ငန်းခွင်တွေ ပါနေသောကြောင့် ဖြစ်ပါသည်။

သို့ဖြစ်၍ "ရေးတတ်ရုံ သက်သက်မျှဖြင့် မရနိုင်၊ ကိုယ်တိုင်လက်တွေ့ တရားအားထုတ်မှု လုပ်ငန်းခွင်ပါ– ပါဝင်ပေါင်းစပ်မှ အာဘော်မိအောင် ရေး၍ ရနိုင်မည်"–ဟု သိလာရတော့၏၊ ထို့ကြောင့် ထိုအချိန်မှစ၍ လက်တွေ့အားထုတ်မှုလုပ်ငန်းခွင်ပါ ပါဝင်ပေါင်းစပ်ရပါတော့သည်။

## တစ်ဘဝလုံး မရပ်မနား၊ အလုပ်လုပ်တော်မူခဲ့

သည့်စာအုပ်ကြီး တစ်အုပ်လုံးကို ဖတ်ကြည့်လျှင် မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့ဘဝ ရုပ်လုံးပေါ်လာမှာပါ၊ ငယ်စဉ်မှစ၍ လူလားမြောက်လာအောင်ရယ်၊ သာသနာ့ သားကောင်းတစ်ယောက်ဖြစ်လာအောင်ရယ်– ဘယ်လို ကြိုးစားခဲ့ရတယ်ဆိုတဲ့ အချက်တွေ၊ အဲဒီနောက် သာသနာတော်အတွက် ဘယ်လို ဆောင်ရွက်ခဲ့တယ်ဆိုတဲ့ အပိုင်းတွေ ...။

ပြီးတော့ သက်တော် ၆၃ နှစ်ကို ထက်ဝက်ခွဲပါက ဘဝရှေ့ပိုင်းတစ်ဝက်မှာ ပရိယတ်သသနာတော်အတွက် သံဃာတော်များအား အဘိဓမ္မာ ညဝါတွေကို နေ့မအား–ညမအား ပို့ချပေးခဲ့ပုံတွေ ...။

ဘဝနောက်ပိုင်း တစ်ဝက်မှာကား ပဋိပတ်သာသနာတော်အတွက် မိမိကိုစွ ပြည့်စုံအောင် ရွက်ဆောင်ပြီးလျှင် အများရှင်လူ တရားယူလိုသူတို့အား သစ္စာတရားတွေကို နေ့မအား–ညမအား ဟောကြားညွှန်ပြ ဆုံးမခဲ့ပုံတွေကို အသေးစိတ် တွေ့ကြရမှာဖြစ်ပါသည်။

ဆရာတော်ဘုရားကြီးရဲ့ ဘဝတစ်ခုလုံးကို ခြုံငုံကြည့်လျှင် နားသည်မရှိ၊ ရပ်သည်မရှိ၊ (အတ္တဟိတ–ပရဟိတ) ကိုယ်ကျိုး–သူကျိုးအတွက် တစ်ဘဝလုံး တလှုပ်လှုပ်–တရှားရှား ကြိုးစားလာခဲ့သူသာ ဖြစ်ပါ၏။

မိုးပေါ်ကျ မဟုတ်ပါ၊ အလိုလို ဖြစ်လာသည်လည်း မဟုတ်ပါ၊ သူ့လို ကိုယ့်လိုထဲက ကြိုးစားခဲ့၍သာလျှင် လောကီ–လောကုတ္တရာ အောင်မြင်လာခြင်း ဖြစ်ပါသည်။ "အောင်မြင်ချင်ရင် ငါ့လိုကြိုးစားကြ" လို့ စံပြနမူနာအဖြစ် ပြောပြသလိုလည်း ဖြစ်ပါ၏၊ ဤသဘောတို့ကို ဤစာအုပ်ကြီးထဲမှာ ကျယ်ကျယ်ပြန့်ပြန့် တွေ့ကြရမှာ ဖြစ်ပါသည်။

## ပညာအားတွေ အသုံးချ၍ လုံ့လတွေ စိုက်ခဲ့လို့သာလျှင်

ဤကဲ့သို့ ပြည့်ပြည့်စုံစုံ ပါဝင်အောင်– အချက်အလက်တွေ ကုန်အောင်ရေးဖို့ အနားသို့လာ၍ ခဏခဏ သတိပေးနေသူကတော့ ဒကာကြီး ဦးပေါ်ဇပင်ဖြစ်ပါ၏၊ ဦးပေါ်ဇသည် မိမိအပေါ် ကောင်းကျိုးလိုလားသူ ဒကာကြီးတစ်ဦး ဖြစ်ပါသည်၊ ထိုမှတစ်ပါး–

"အရှင်ဘုရား ... ဆရာတော် အရှင်ဇနကာဘိဝံသ၏ တစ်ဘဝသာသနာကို ရေးတုန်းက ကိုယ်ကျင့်သီလ ဝိနည်းသာသနာ အရေးကြီးပုံ

ပေါ်လွင်အောင် ရေးသားခဲ့သလို–
ယခု မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလ၏ တစ်ဘဝသာသနာကို ရေးတဲ့ အခါမှာလဲ ပဋိပတ် ကျင့်စဉ်လုပ်ငန်းခွင်တွေ ပေါ်လွင်အောင်၊ ဆရာ တော်ဘုရားကြီးရဲ့ အာဘော်မိအောင်၊ ဒီစာအုပ် ကြီးကို ဖတ်ရုံနဲ့ တရားအလုပ် အားထုတ်တတ် အောင် ရေးပါဘုရား ...”

ဤသို့လည်း ဒကာကြီး ဦးပေါ်ဖဲက သတိပေးတတ် ပါသေး၏၊ သို့ဖြစ်၍ အတတ်နိုင်ဆုံး ကြိုးစားပြီး အားလုံးနားလည်နိုင်လောက်အောင် စွမ်းနိုင်သမျှ တင်ပြ ထားပါသည်၊ စေတနာ သဒ္ဓါ ဝီရိယ သတိ သမာဓိ ပညာအားတို့ကို စက်ကုန်လွှတ် အသုံးချ၍ လုံ့လတွေ စိုက်ထားလို့သာ သည်စာအုပ်ကြီးပြီးတာ ပါ။

သို့ရာတွင် “လို” သွားသော အချက်၊ “ဟာ” သွားသောအကွက်နှင့်တိမ်းပါးချွတ်ယွင်းသော“အမျက်” ကလေးများဆိုတာရှိတတ်စမြဲပါပဲ၊ ကင်းနိုင်မည် မဟုတ် ပါ၊ အကယ်၍များ တွေ့ရှိပါကလည်း ဖြည့်စွက်၍ ပြင်ဆင်၍ ကြည့်ရှုကြပါ– လို့ တိုက်တွန်းပါသည်။

တစ်စုံတစ်ဦးအပေါ်မှာ ထိခိုက်စေ–နစ်နာစေ– ဆိုတဲ့ စေတနာလည်း မပါရိုး အမှန်ပါ၊ သို့ရာတွင် မလွတ်မကင်းများဖြစ်၍သွားပါက ခွင့်လွှတ်ကြပါ– လို့ တောင်းပန်ပါသည်။

## အကောင်းဆုံးဖြစ်အောင် ဘယ်လိုလုပ်ကြမလဲ

ဤသို့လျှင် စေတနာ သဒ္ဓါ ပညာ ဝီရိယ သတိ သမာဓိအားတို့ဖြင့် ကြိုးစား၍ မိမိတစ်ပါးတည်း ရေးသားလာခဲ့ရာ ၁၉၉၂– ခုနှစ် ကုန်ခါနီးတွင် စာမူ ကြမ်းကြီး တစ်ခုလုံး ပြီးစီးသွားပါတော့သည်။

ထိုနှစ်ကုန်၍ ၁၉၉၃– ခုနှစ်သို့ ကူးသောအခါ နှစ်သစ်ဦးအစမှာပင် ရန်ကုန်မြို့၊ မိုးကုတ်ဝိပဿနာ အဖွဲ့ချုပ်ကြီး၌ တစ်နိုင်ငံလုံးရှိ မိုးကုတ်ဝိပဿနာအဖွဲ့ ခွဲ များမှ ကိုယ်စားလှယ်တော်များ (ဒုတိယအကြိမ်) စုံညီမွေ့သဘင် စည်းဝေးပွဲကြီး ကျင်းပကြပါသည်။

ထိုမွေ့သဘင်ကြီးတွင် မိမိရေးသားခဲ့သော ိကုတ် ဆရာတော်ဘုရားကြီး၏ “တစ်ဘဝသာသနာ” ာမူတွေကို အားလုံး၏ ရှေ့မှာ ကြေညာ၍ ရန်ကုန်မြို့ ိကုတ်ဝိပဿနာအဖွဲ့ချုပ်ကြီးသို့ လှူဒါန်းလိုက်ပါသည်။

သို့တစေလည်း အကြောင်း အမျိုးမျိုးကြောင့် ာအုပ် ဖြစ်မလာဘဲ ကြန့်ကြာနေခဲ့ရပါ၏၊ ထိုအခါ အဖွဲ့ဝင်လူကြီးများ၏ စည်းဝေးဆုံးဖြတ်ချက်အရ– မိမိကိုပင် “စာအုပ်ကြီး ဖြစ်လာအောင် ရွက်ဆောင် ပေးပါ၊ အကောင်းဆုံးဖြစ်အောင်လဲ ရွက်ဆောင်ပေး ပါ” ဟု တာဝန်အပ်နှင်းလာပြန်တော့သည်။

သို့အတွက် **“အကောင်းဆုံးဖြစ်အောင် ဘယ်လို လုပ်ကြမလဲ” “ဘယ်သူနဲ့ ညှိနှိုင်းမလဲ” “ဘယ်စက် ကို အပ်မလဲ”** ဟု စဉ်းစားကြည့်သောအခါ– ရန်ကုန်မြို့၊ လမ်းမတော်မြို့နယ်၊ အောင်ရတနာလမ်း၊ အမှတ် (၂/က) မှ **“နေရီရီ ပုံနှိပ်တိုက်နှင့် နေရီဦးစာအုပ်တိုက်”** ကို သွား၍ သတိရပါတော့သည်။

ယင်းပုံနှိပ်တိုက်ဖြင့် ဆက်သွယ်၍ အလုပ်လုပ် ကြရာ (၆)လအတွင်းမှာပင် အကောင်အထည် ပေါ်လာ ပြီးလျှင် ယခု စာဖတ်သူတို့၏ လက်ထဲသို့ ရောက်လာ သည်အထိ ဖြစ်ပါတော့သတည်း။

**အရှင်ဃောသိတ**
သာသနဓဇ သိရီပဝရ ဓမ္မာစရိယ
မိုးကုတ်အဖွဲ့ချုပ် ကမ္မဋ္ဌာနာစရိယ/ဓမ္မကထိက
သံဃာ့တက္ကသိုလ်ကျောင်းတိုက်၊ ရေကူး၊ ကမ္ဘာအေး၊
ရန်ကုန်မြို့။ (၁၃၅၇– ခု ကဆုန်လ)။

# "ပျားသို့ပမာ"

နောက်မျက်နှာဖုံးပေါ်တွင် "ပျားအုံကြီး" ကိုဖော်ပြထား၏၊ ပျားကောင်တွေ များစွာ ဝိုင်းအုံ တွေခဲနေသည့်ပြင်– အရည်တွေလည်း ရွှန်းအိ၍ ပြည့်လျှံဖိတ်ကျလုမျှ ဖြစ်နေသည်၊ ယင်း၏ အဓိပ္ပာယ်များမှာ ဤသို့ ဖြစ်ပါသတတ်။

၁။ "ပျားရည်" ဆိုသည်မှာ ချိုမြိန်သော အရသာ ရှိ၏၊ အင်အား ပြည့်စေ၏၊ ချမ်းသာမှုကို ပေး၏၊ ဆေးဖက် ဝင်၏၊ အားလုံးက နှစ်သက်ကြ၏၊ မွန်မြတ်သောပစ္စည်း ဟု သတ်မှတ်ကြသည်။

ထို့အတူ မြတ်စွာဘုရား ဟောကြားတော်မူသော အမှန်လေးပါး သစ္စာတရား တို့သည်လည်း ဤပျားနှင့် အလားတူကြ၏၊ ပျား၏ အင်္ဂါရပ်များကဲ့သို့ ဖြစ်တော့သည်။

၂။ ထိုမှတစ်ဖန်– ပျားရည်တို့သည် ပုပ်သိုးသည့် အလေ့မရှိ၊ ပျက်စီး၍ စွန့်ပစ်ရသည့်ထုံးစံမမှတာ သူ့မှာမပါ၊ အမြဲတမ်း ရှင်သန်နေသကဲ့သို့ဖြစ်တော့၏၊ သို့ဖြစ်၍ "မသေဆေး"ဟူ၍လည်းဥပမာပေးကြ၏။ ကြသည်။

ထို့အတူ သစ္စာတရား တို့သည်လည်း ဘဝအဖန်ဖန် မသေရအောင် စွမ်းဆောင်နိုင်ကြသဖြင့် ပျားနှင့် ဥပမာတူကြသည်ဟု နှိုင်းကြပြန်၏။

၃။ ထိုမှတစ်ပါး "ပျားရည်" ဆိုသည်မှာ အထွတ်အမြတ်၊ ပန်းပေါင်းစုံတို့၏ ဝတ်မှုန်–ဝတ်ရည် တို့သာ ဖြစ်ကြ၏၊ ပျားကောင်များက သယ်ဆောင်ပေးကြ၍သာ "ပျားရည်" ဟု ခေါ်နေကြခြင်းဖြစ်သည်၊ စင်စစ်သော်ကား အမွန်အမြတ်၊ အထွတ်အဖူး ပန်းတကာ့ပန်းတို့၏ ဝတ်မှုန်–ဝတ်ဦးတို့သာ ဖြစ်ကြ၏။

ထို့အတူ–သစ္စာတရားတို့သည်လည်း တရားတကာ တရားတို့၏ အထွတ်အမြတ်–အညွန့်အဖူး အဦးဝတ်မှုန်တို့သာ ဖြစ်ကြ၍ ပျားနှင့်တူမျှသည်ဟု နှိုင်းခိုင်းကြသည်။

ဤဆိုခဲ့ပြီး အဓိပ္ပာယ်တို့ကို ဖော်ပြလို၍လည်း ကောင်း၊ မိုးကုတ်ဆရာတော်ကြီး၏ ဘဝတွင်လည်း သုံးကြိမ် သုံးခါ ပျားတွေလာ၍ ဝိုင်းကြ–အုံကြ–ဝန်းရံခဲ့သည်ကို မှတ်တမ်းတင်လို၍လည်းကောင်း၊ ထိုမှ တစ်ပါး မိုးကုတ်နှင့် ပျားသည် မင်္ဂလာများ ဖြစ်သည် ဟု သိမှတ်စေလို၍လည်းကောင်း ဤပျားအုံပုံကြီးကို ဖော်ပြပါသတတ်။

## မိုးကုတ်ဝိပဿနာဓမ္မရိပ်သာ
## အဖွဲ့ချုပ်၏အမှာစာ

မိုးကုတ်ဆရာတော်ဘုရားကြီး၏ တစ်ဘဝသာသနာလုပ်ငန်းရပ်များကို မိုးကုတ် ဝိပဿနာ ဓမ္မရိပ်သာအဖွဲ့ချုပ် ကမ္မဋ္ဌာနာစရိယဆရာတော်၊ ဦးယောသိတအရှင်မြတ် သည် နှစ်ပေါင်း(၁၀) နှစ်တိုင်တိုင် ပင်ပင်ပမ်းပမ်း ကြိုးစားပြုစုထားပြီး၊ စာမူများကို ၁၉၉၃ ခု၊ ဇန်နဝါရီလတွင် ကျင်းပ သော ဒုတိယအကြိမ် ဓမ္မသဘင်ညီလာခံ၌ အဖွဲ့ချုပ်သို့ လှူဒါန်းခဲ့ပါသည်။ ဤစာမူများဖြင့် ဆရာတော် ဦးယောသိတကိုယ်တိုင် ဦးစီးကြီးကြပ်ပြီး အဖွဲ့ချုပ်က တာဝန်ယူ၍ ပထမအကြိမ် အုပ်ရေ တစ်သောင်း (၁၀၀၀၀) ရိုက်နှိပ်လျက် ၁၉၉၅ ခု၊ ဇူလိုင်လတွင် စတင်ဖြန့်ဝေခဲ့ရာ နှစ်နှစ်အတွင်း ကုန်သွားသဖြင့် ယခုတဖန် ဒုတိယအကြိမ် အုပ်ရေ ငါးထောင် (၅၀၀၀) ထပ်မံပုံနှိပ် ထုတ်ဝေခြင်း ဖြစ်ပါသည်။

မြတ်စွာဘုရားဟောကြားဆုံးမတော်မူခဲ့သော တရားတော်များသည် များပြားလှပြီး၊ သိမ်မွေ့၊ နက်နဲ၊ ခက်ခဲလှသဖြင့် ယောဂီပုဂ္ဂိုလ်များ နားလည်ရန် မလွယ်ပါ။ အထူးသဖြင့် ပါဠိဘာသာများ ရောနှောပါဝင်နေရာ အဓိပ္ပါယ်သဘောမပေါက်၍ လက်လှမ်းမမှီဖြစ်ခဲ့ရပါ သည်။ သို့ဖြစ်၍ ရှေးပညာရှိ သူတော်ကောင်းများက တရားအားထုတ်ရာတွင် ဆရာလိုအပ်ကြောင်းကို အောက်ပါအတိုင်း ရေးသားထားခဲ့ပါသည်။

"ရဟန်း ပုဂ္ဂိုလ်၊ လူထိုထို၊ စာကိုကျင့်သုံး၏။
စာကားမှန်၏၊ ဉာဏ်မမိ၊ ထိအောင်သူမသိ။
ယထာဘူထာ၊ ကျဘို့ရာ၊ ဆရာရှာလေဘိ။
တိမ်လျက်နက်တယ်၊ ကျဉ်းလျက်ကျယ်၊ တကယ်ကျမ်းမှာရှိ။
လွယ်လျက်ခက်တယ်၊ သိနိုင်ဘွယ်၊ တကယ်ဆရာရှိ"
ဟူ၍ ဖြစ်ပါသည်။

မှန်ပါသည်။ ကျေးဇူးရှင်မိုးကုတ်ဆရာတော်ဘုရားကြီးသည် မြတ်စွာဘုရားအလိုတော် အတိုင်း သစ္စာလေးပါးတရားတော်များကို ဟုတ်တိုင်းမှန်စွာ သိရှိနားလည်စေရန်နှင့် ယောနိ သောမနသိကာရ နှလုံးသွင်းမှန်စေရန် အများနားလည်သောစကားများဖြင့် နည်းမျိုးစုံသုံး၍ ဟောကြားတော်မူခဲ့ပါသည်။ ယောဂီများအတွက်လည်း အခက်အခဲမရှိ တရားအားထုတ်နိုင် ရန် ဝိပဿနာကျင့်စဉ်များကို နေ့စဉ်သုံးစကားများဖြင့် သွန်သင်ဆုံးမထားခဲ့ပါသည်။

ဆရာတော်ဘုရားဟောကြားဆုံးမခဲ့သော သစ္စာလေးပါးတရားတော်များမှာ တရား ခွေများဖြင့် ပုဒ်ရေတစ်ထောင်ကျော် ကျန်ရှိနေ၍ နာကြားနေရစဲဖြစ်သည့်အပြင် အသံတော်မှ စာအုပ်အဖြစ် ပုဒ်ရေ ငါးရာကျော် ရိုက်နှိပ်ထုတ်ဝေပြီးဖြစ်၍ ဖတ်ရှုနိုင်ကြပါသည်. ။

သို့ဖြစ်၍ ဝိပဿနာကျင့်ကြံအားထုတ်လျက်ရှိကြသော ယောဂီပုဂ္ဂိုလ်သူတော်စင် များအတွက် ဤတရားခွေ အသံတော်များနှင့် ဤစာအုပ်များသည်ပင်လျှင် ကလျာဏမိတ္တ၊ ဆရာကောင်းဆရာမြတ်များဖြစ်ပါတော့သည်။

မိုးကုတ်ဝိပဿနာတရားစဉ်နှင့် လုပ်ငန်းစဉ်ပြန့်ပွားရေးအဖွဲ့ စတင်ဖွဲ့စည်းစဉ်က ဆရာတော်ဘုရား၏ တရားတော်များကို လူတိုင်းနာကြားကြစေလို၍ အမှုဆောင်လူကြီးများ ကိုယ်တိုင် အကျွေးအမွေးဖြင့် ဧည့်ခံလျက် ကိုယ်တိုင်စက်ကိုထမ်း၍ တရားတော်ကို ဖွင့်ပြခဲ့ကြရပါသည်။ ရှေးဦးစွာ တရားတော်ကို နာကြားနိုင်ကြပါစေဟူသော စေတနာသက်သက်ဖြင့် ဆောင်ရွက်ခဲ့ကြပြီး တစတစ တည်ထောင်လာခဲ့သော ဤအသင်းကြီးသည် ယခုအခါ မြန်မာပြည်အနှံ့ အဖွဲ့ခွဲပေါင်း (၂၆၉) ဖွဲ့ရှိနေပြီဖြစ်ပါသည်။ အဖွဲ့စိတ်ပေါင်းမှာ သုံးထောင်ကျော်ခန့်ရှိပါသည်။

ထို့အတူ မိုးကုတ်ဝိပဿနာဓမ္မရိပ်သာအဖွဲ့ချုပ်၏ အသိအမှတ်ပြုဓမ္မကထိကဆရာတော်ပေါင်းမှာ (၉၈) ပါးရှိပြီး၊ ဓမ္မကထိကလူပုဂ္ဂိုလ်ပေါင်းမှာ (၃၆) ဦးဖြစ်၍ အနယ်နယ်အရပ်ရပ်၌ ဖွင့်လှစ်လျက်ရှိသော မိုးကုတ်ဝိပဿနာတရားစခန်းပွဲများ၌ ဟောကြားပြသလျက်ရှိကြပါသည်။

အဖွဲ့ကြီး၏ ရည်ရွယ်ချက်မှာ မိုးကုတ်ဆရာတော်ဘုရား၏ တရားစဉ်နှင့် လုပ်ငန်းစဉ်ပြန့်ပွားရေးဖြစ်သဖြင့် ဆရာတော်ဘုရား၏ တရားတော်များကို စာအုပ်အဖြစ် ကူးယူဖြန့်ဝေလျက်ရှိရာ စာအုပ်အမှတ်စဉ် - ၃၉ အထိဖြစ်၍ တရားတော်ပုဒ်ရေ (၅၂၀) ကို ရိုက်နှိပ်ဖြန့်ဝေပြီးဖြစ်ပါသည်။ ယင်းစာအုပ်များကို အကြိမ်ကြိမ် ပြန်လည်ရိုက်နှိပ်ရသဖြင့် (၁၉၉၇)ခု ဒီဇင်ဘာလအထိ ထုတ်ဝေပြီးစာအုပ်ပေါင်းမှာ လေးသိန်းကျော်(၄၀၂၈၀၀)ဖြစ်ပါသည်။ ဖော်ပြပါ စာအုပ်များထဲမှ ယောဂီများအတွက် အထူးသင့်တော်သော တရားတော်များကို တစ်ပုဒ်ချင်း ရွေးထုတ်ပြီး၊ စာအုပ်ငယ်များအဖြစ် ပုံနှိပ်ဖြန့်ဝေခဲ့ရာ ၁၉၉၇ ခုနှစ်၊ တစ်နှစ်အတွင်း အုပ်ရေတစ်သိန်း ခြောက်သောင်းကျော် (၁၆၈၀၀၀) ထုတ်ဝေနိုင်ခဲ့ပါသည်။

အဖွဲ့ချုပ်တွင် ဆရာတော်ဘုရား၏ အသံတော်တရားခွေများကို ရနိုင်သမျှ စုဆောင်းလျှက် မူလတရားကြိုးခွေကြီးများကို ရက်စွဲအလိုက် ပြုစုထိန်းသိမ်း၍ ကက်ဆက်အခွေငယ်များအဖြစ် ထပ်မံကူးယူထားပါသည်။ ယောဂီများအတွက်လည်း ဖြန့်ဝေရောင်းချပေးပါသည်။ အများနှစ်သက်သော တရားခွေများကိုလည်း လွယ်လွယ်ကူကူရရှိနိုင်ရန် အဖွဲ့ချုပ်စာအုပ်ဆိုင်တွင် တင်ထားမည်ဖြစ်ပါသည်။

ဤသို့ဖြင့် မြန်မာနိုင်ငံအနှံ့ တရားတော်ပြန့်ပွားအောင် ဆောင်ရွက်နေစဉ်၊ အဖွဲ့ချုပ်တွင် လစဉ်ဝါတွင်း၌ (၁၀) ရက် စခန်းပွဲ ၂ ကြိမ် ဝါပ၌ (၁၀) ရက်စခန်းပွဲ တစ်ကြိမ်နှင့် (၇) ရက်စခန်းပွဲ တစ်ကြိမ် နှစ်ကြိမ် ကျင်းပလျှက် ကမ္မဋ္ဌာနာစရိယဆရာတော်ကြီးများကိုယ်တိုင် ဟောကြားပြသလျှက်ရှိပါသည်။

မိမိကိုယ်တိုင် ဓမ္မစေတီထိုက်အောင် ကျင့်ကြံအားထုတ်နိုင်ကြပါစေ သူတော်ကောင်းရတနာကိန်းနိုင်ကြပါစေ။

၁၅၊ ၁ ၊ ၁၉၉၈။ အမှုဆောင်အဖွဲ့

## သားတော်စေတီ

* မိခင်ပုဏ္ဏားမကြီးက သားကိုနေ့စဉ် သတိရနေ၏၊ တသသနှင့် လွမ်းရသည်မှာလည်း ကြာပြီ၊ ဘစ်ယောက်တည်းသောသားမို့ အရိပ်တကြည့်ကြည့်နှင့် နေခဲ့သည်၊ ကြည့်လို့မဝခဲ့၊ ပညာရေးမို့သာ လွှတ်လိုက်ရသည်၊ လွမ်းရလွန်းလို့ ရင်ထဲမှာနာရ ကျင်ရတဲ့ ဒဏ်ရာဒဏ်ချက်တွေပင် ပြည့်နှက်နေလေပြီ၊ တစ်နေ့ ဘွင်ကား မအောင့်နိုင်၍ ပုဏ္ဏားကြီးအား ပူဆာမိ၏–

"ဘယ့်နှယ်လဲရှင့်၊ ကိုယ့်သားသွားတာ ကြာလှပြီမဟုတ်လား၊ စာလဲမလာ၊ လူလဲမရောက်၊ သတင်းလဲမကြားရ၊ လိုက်ပါဦးမှပေါ့ရှင့်"

ရင်နင့်နင့်ဖြင့် ရန်တွေ့ပြော–ပြောသောအခါ ဖခင် သခ်ပုဏ္ဏားကြီးက သူ့အလုပ်ကို လက်မှချ၍ ခေါင်းထောင်လာ၏၊ မျက်စိမျက်နှာတို့ကို ပွတ်သပ်နေသည်၊ ပြီးမှ–

"အိမ်း... ဟုတ်ပေသားပဲ၊ အတော်တောင် ကြာသွားပြီမှကိုး၊ တို့ သားကြီး"

ဟူ၍ နှုတ်က ရွတ်ဆိုထောက်ခံရင်း နောက် ပြန်စဉ်းစား၍ ငေးမောနေမိ၏၊ ဟုတ်ပါသည်–အခုဆိုရင် (၄)နှစ်လောက်တောင် ကျော်သွားပြီ ထင်သည်။

"သားကြီး"ဆိုသည်မှာ "သုသီမ" ဖြစ်၏၊ အသက် ၁၆နှစ်အရွယ်က မိခင်ဖခင်တို့အား ပန်ကြားပြီး ပညာသင်ကြားရန် ဗာရာဏသီပြည်သို့ ထွက်ခွာသွားခဲ့သည်၊ အချိန်တန်အရွယ်ရောက်လာလျှင် "ပညာသင်ရတယ်"ဆိုတာ ထုံးစံမဟုတ်လား၊ ပညာမတတ်လို့ ဘယ်ဖြစ်ပါ့မလဲ၊ သွားခါနီးမှာ ဖခင်ကြီးက မှာလိုက်သေး၏–

"ဗာရာဏသီမှာ ဖေဖေ့သူငယ်ချင်း ပါမောက္ခ ဆရာကြီး ရှိတာပဲကွ၊ သူ့ဆီသွားသင်"

## အဆုံးဆိုတာကို မမြင်နိုင်သေး

သုသီမသည် ဗာရာဏသီပြည်၊ ပါမောက္ခ ဆရာကြီးထံ ချောမောစွာ ရောက်သွားပါ၏၊ အကျိုးအကြောင်း ပြောပြ၍ ဆရာကြီးက သူငယ်ချင်း၏ သားမှန်း သိလေပြီ၊ သုသီမသည် ဆရာကြီးထံမှာ ပညာတွေ သင်ယူခဲ့၏၊ တစ်နေ့–တစ်နေ့လျှင် အတတ်ပညာတွေ မန္တာန်တွေ များစွာ–များစွာ သင်ယူသည်၊

* ခမ္မပဒ အဋ္ဌကထာ ၊၃၊ ၂၇၈

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

သင်ယူပြီးသမျှကိုလည်း မမေ့မပျောက်အောင် မှတ်သား ထား၏။

ယခုဆိုလျှင် ပညာသင်ခဲ့သည့်နှစ်တွေပင် ကြာညောင်းလာခဲ့ပြီ၊ မန္တာန်တွေလည်း များလှပြီ၊ သို့သော် မန္တာန်တို့၏ အနှစ်သာရကို ရှာဖွေသောအခါ အစနှင့် အလယ်ကိုသာ မြင်ရသည်၊ အဆုံးကို မမြင်နိုင်အောင် ဖြစ်နေတော့၏။

ဆရာကြီးထံ ချဉ်းကပ်၍ "ဆရာကြီး မန္တာန်တွေရဲ့အနှစ်သာရ အစနှင့်အလယ်ကိုသာ မြင်ရပါသည်၊ အဆုံးကို မမြင်ရပါကလား"

ဟု မေးလျှင် ဆရာကြီးက "အိမ်း... ငါလဲ အဆုံးကို မမြင်"ဟု ရိုးရိုးပင် ဝန်ခံလေသည်။

"ဒီလိုဆိုလျှင် အဆုံးကို မည်သည့်ပုဂ္ဂိုလ်တွေ မြင်ပါသလဲ ဆရာကြီး"လို့ ထပ်ဆင့်မေးသောအခါ "ဟိုး... ဣသိပတနမိဂဒါဝုန်တောမှာ ရဟန်းပဉ္စဝဂ္ဂီတွေ ရှိတယ်ကွ၊ သူတို့တော့ မြင်နိုင်ကောင်း မြင်နိုင်မယ်၊ သူတို့ထံ သွားမေးချေ"ဟူ၍ ခွင့်ပြုသည်။

## ပဉ္စဝဂ္ဂီတစ်ပါး ဖြစ်၍သွား

သုသီမသည်ရဟန်းပဉ္စဝဂ္ဂီတို့ထံ ချဉ်းကပ်၍ မေးမြန်း၏၊ "အရှင်မြတ်တို့ဘုရား မန္တာန်ပညာရပ်တို့၏ အဆုံးကို မြင်ကြပါသလား" "မြင်တာပေါ့ကွယ့်" "မြင်ပါလျှင်တပည့်တော်အား သင်ပြပေးပါလားဘုရား" "တို့က ရဟန်းဖြစ်တဲ့သူကိုမှ သင်ပေးကြတာကွယ့်"ဟု မိန့်တော်မူကြ၏၊ သို့နှင့် ပညာလိုချင်၍ ခေါင်းတုံးတုံးလိုက်သည်၊ ပြီးလျှင် ဖန်ရည်စွန်းသောအဝတ်ကို ဝတ်၍ ရဟန်းပြုလိုက်ရတော့သည်။

ရဟန်းပဉ္စဝဂ္ဂီတို့က ဦးစွာပထမ "ဒီလို ဝတ်ရတယ်ကွယ့်၊ ဒီလိုရုံရတယ်ကွယ့်" စသည်ဖြင့် ဝတ်စားဆင်ယင်မှုတို့ကိုသင်ပေးကြ၏၊ ပြီးလျှင် သီလ ပြည့်စုံအောင်ဆုံးမတော်မူကြသည်၊ ထို့နောက် ကျင့်ကြံအားထုတ်ရပုံတွေ၊ အဲဒါတွေပြီးတော့ (ဘင်္ဂ–ဆိုတဲ့) အပျက်၊ အဲဒီအပျက်ရဲ့အဆုံး (ဘင်စွန်း)ကို မြင်နိုင်တဲ့ နည်းတွေ သင်ပေးတော်မူကြသည်။

ထိုနည်းတွေအတိုင်း ကျင့်ကြံအားထုတ်လိုက်ရာ ရှေးပါရမီ ဓာတ်ခံပါသူ ဖြစ်၍ မကြာမီ ပဉ္စဝဂ္ဂီ တစ်ပါး ဖြစ်၍သွားတော့၏၊ "အဆုံး"ကို မြင်၍ သွားလေပြီ။

## ဘယ်မှမကြွပါနဲ့ဘုရား တဲ့

သုသီမသည် ပဉ္စဝဂ္ဂီ ဖြစ်သွားပြီးနောက် ချမ်းမြေ့စွာနေရန် အကျိုးငှာလည်းကောင်း၊ လူသူအများအား ချီးမြှောက်ရန်အကျိုးငှာလည်းကောင်း တစ်ရွာမှ တစ်ရွာ၊ တစ်မြို့မှ တစ်မြို့၊ တစ်နယ်မှ တစ်နယ် လှည့်လည် ပြောင်းရွှေ့ သီတင်းသုံးတော်မူသည်။

တိတ်ဆိတ်အေးချမ်း၍ စိမ်းစို ညို့သန်းသော တောင်တန်းကြီးတစ်ခုသို့ ရောက်လာခဲ့၏၊ ထိုတောင်တန်းကြီးမှ လှမ်း၍ ကြည့်လျှင် ခေါင်မိုးဖွေးဖွေး မြင်နေရသော မြို့ကလေးသို့ ဆွမ်းခံကြွသည်။

ထိုမြို့ကလေးကား တစ်နေ့ တစ်နေ့နှင့် ဆွမ်းခံကြွ၍ သုသီမ ပဉ္စဝဂ္ဂီ၏ ချီးမြှောက်မှုကို များစွာ ခံယူရသော မြို့ကလေးဖြစ်လာ၏၊ အားလုံးက ကြည်ညို

ကြသည်၊ ကြာသော် ရင်းနီးလာ၏၊ တဖြည်းဖြည်းနှင့် မသိသူ မရှိသလောက် ဖြစ်လာသည်။

"ဘယ်မှ မကြွပါနဲ့ဘုရား၊ ဒီတောင်တန်းမှာပဲ အမြဲ သီတင်းသုံးပြီး တပည့်တော်တို့ကို ချီး မြှောက်တော်မူပါ ဘုရား"

ဟူ၍ပင် ဝိုင်း၍ လျှောက်ထားနေကြပြီ၊ ချီးမြှောက်ရန် အကြောင်းရှိ၍ ရွှေ့ပြောင်းလာခဲ့သောနေရာပေါင်းလည်း များခဲ့ပြီ၊ ချီးမြှောက်မှုတွေလည်း ပြုခဲ့ပြီ၊ ဤတောင်တန်း သည်လည်း အေးချမ်းလှပေ၏၊ သင့်လည်း သင့်မြတ် လှပေသည်၊ ဝိုင်း၍လည်း လျှောက်ထားနေကြပြီ။

ဤသို့နှလုံးပိုက်ကာ စကားတုံ့ မပြန်ဘဲ ခပ် မဆိတ်ပင် နေတော်မူလိုက်၏၊ ဤသို့သော လက္ခဏာကို ကြည့်၍ "တို့ လျှောက်ထားချက်ကို လက်ခံပြီ"ဟု သိလိုက်ကြလေသည်။

# သားပျောက် ရှာပုံတော်

ဖခင် သခ်ပုဏ္ဏားကြီးသည် မိခင်ပုဏ္ဏေးမကြီး ၏ မျက်ရည်စမ်းစမ်းဖြင့် အရေးဆိုမှုကြောင့် သားထံကို လိုက်လာခဲ့ရ၏၊ ပထမ ဇာရာဏသီသို့ သွားရသည်၊ သူငယ်ချင်းဆရာကြီးထံ ဝင်သောအခါ သားကို မတွေ့ ရ၊ "ဟိုက်"ခနဲ မောသွားရ၏၊ အကျိုးအကြောင်း မေးသောအခါ ပစ္စေကဗုဒ္ဓါတို့ထံ သွားကြောင်း ပြောပြ သည်။

ဆရာကြီး ညွှန်ကြားလိုက်သော ပစ္စေကဗုဒ္ဓါတို့ ထံ လိုက်၍မေးသောအခါ "နေရာပြောင်းသွားပြီ"ဟု ဆိုကြ၏၊ ထိုပြောင်းသွားသောနေရာကို လိုက်ရပြန် သည်၊ စုံစမ်းမေးမြန်းသောအခါ "နောက်တစ်နေရာ ပြောင်းသွားပြန်ပြီ"ဟု ကြားရပြန်၏၊ သို့နှင့် လိုက်ရပြန် သည်၊ ထိုနေရာကလည်း "ပြောင်းသွားပြန်ပြီ"ဟု ဆို လိုက်ပြန်၏၊ ပုဏ္ဏားကြီးက "အို... တစ်နေ့ တွေ့ရမှာ ပေါ့"ဟု ကိုယ့်ကိုယ်ကို အားပေးပြီး ခရီးဆက်ခဲ့သည်။

သည်လိုနှင့် ဖခင်ပုဏ္ဏားကြီးမှာ တစ်ရွာဝင် တစ်ရွာထွက်၊ လူတွေ့တိုင်း မေးခဲ့ရ၏၊ နယ်ပေါင်းလည်း စုံပြီ၊ မေးခဲ့ရပေါင်းလည်း များပြီ၊ ပင်လည်းပင်ပန်းလှ လေပြီ၊ မောလည်းမောလှပြီ၊ တွေ့ကား မတွေ့ရသေး၊ မတွေ့ရသေးသော်လည်း "သုသီမ"ဆိုတဲ့ နာမည်အစ အနကိုတော့ သတင်းရနေသည်၊ သို့အတွက် အားတက် ရပါ၏၊ အားတက်စွာဖြင့် ဆက်လက်၍ သားပျောက် ရှာပုံတော် ဖွင့်နေရရှာသည်။

ရွာပေါင်းများစွာ၊ နေရာပေါင်းများစွာ ကျော် လွန်၍ တောင်တန်းကြီး တစ်သွယ်နှင့် နီးသော မြို့ ကလေး တစ်မြို့သို့ ရောက်သွားတော့၏၊ မြို့တံခါးဝ အနီးတွင် ထုံးသင်္ကန်းဖြူဖြူဖွေးဖွေးနှင့် အဝေးကပင် မြင်နိုင်သည့် စေတီကြီးတစ်ဆူကို တွေ့လိုက်ရသည်၊ လူတွေကလည်း လှုပ်လှုပ်ရွရွ၊ ကွင်းပြင်ကြီးအပြည့်မှူ စည်ကားလှပါဘိ၊ ဘာတွေများ လုပ်နေကြတာပါလိမ့်။

# သိလိုဇောနှင့် ဟော... တွေ့ပါပြီ

"ထိုလူအုပ်ကြီးဆီသို့ သွားရလျှင် သူ့သား အကြောင်းကို သိသူ တစ်စုံတစ်ယောက် ရှိကောင်း ဘန်ရဲ့"ဟု ပုဏ္ဏားကြီးအတွေးဝင်လာ၏၊ ထိုရည်ရွယ် ချက်ဖြင့် လူအုပ်ကြီးရှိရာသို့ ချဉ်းကပ်သွားသည်၊ အနားသို့ ရောက်သောအခါ သူ သိလိုရာကို စွတ်၍ နီးရာပုဂ္ဂိုလ်အား မေးတော့၏ –

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

"ဒီမယ်ခင်ဗျာ- မိတ်ဆွေတို့ ဒီနယ်မှာ "သုသိမ" ဆိုတဲ့ လူရွယ် တစ်ယောက် ကြားဖူးပါသလား"

"ကြားဖူးတာပေါ့"

"အော... ရင်းရင်းနှီးနှီးကော သိဖူးပါသလား"

"ဟာ... သိဖူးတာပေါ့ဗျ"

"ဒါဖြင့်- သူဘယ်မှာလဲ ဟင်"

ပုဏ္ဏားကြီးက သိလိုဇောဖြင့် အရေးတကြီး အငမ်းမရ ဖြစ်လာ၏၊ ပြူးပြူးပျာပျာ မေးတော့သည်၊ သူက အရေးကြီးသလောက် တစ်ဘက်လူကမူ အေးအေး ဆေးဆေးပင်၊ ဤသို့ဖြစ်နေသည်ကိုပင် ကြာရှည်မဆိုင်း နိုင်၍ တောင်းပန်တိုးလျှိုး၏၊ "ပြောပါဗျ"

"သူဟာ ဒီစေတီပေါ့"

"ဘာ- ဗျ"

ပုဏ္ဏားကြီးက သူနားမလည်နိုင်တဲ့စကားလုံးဖြစ်နေ၍ အံ့အားသင့်မှုကြီးစွာဖြင့် ထပ်မံမေးနေပြန်သည်၊ ပို၍ လည်း မျက်လုံးကျယ်လာတော့၏။

"သူဟာ- ဒီစေတီ"

"ရှင်းအောင်ပြောစမ်းပါဦးဗျ"

"အော်... ဝေါ- သုသိမဆိုတဲ့လူရွယ်ဟာ ကျုပ်တို့ သိရသလောက်ဆိုရင် ဗာရာဏသီမှာ ပညာ သင်၊ ဗေဒင်သုံးပုံ တစ်ဖက်ကမ်းရောက်၊ ပြီးတော့ ပစ္စေကဗုဒ္ဓါတို့ထံသွား၊ အဲဒီမှာ တရားတွေ အားထုတ်၊ ပစ္စေကဗုဒ္ဓါရဟန္တာ ဖြစ်။

တစ်မြို့က တစ်မြို့၊ တစ်နယ်က တစ်နယ်ကို ပြောင်း ပြောင်းပြီးလာရာက ကျုပ်တို့ ဟောဟို တောင်တန်းကြီးမှာ သီတင်းသုံး၊ ဒီမြို့မှာ ဆွမ်းခံကြွလေ့ရှိတယ်ဗျ၊ အားလုံး ကြည်ညိုကြ တယ်။

အခု သူ ပရိနိဗ္ဗာန်ပြုလို့၊ ကျုပ်တို့က မီးသဂြိုဟ်၊ ဓာတ်တော်တွေ ယူပြီး စေတီတည်ထား၊ ဒီကနေ့ ထီးတင်ပွဲ..."

"အံမယ်လေး-ဗျ"

ပုဏ္ဏားကြီးသည် ဖြေကြားသူ၏ စကားအဆုံးတွင် သူ့ခေါင်းထဲ၌ "ဒိုင်း"ခနဲဖြစ်သွားသလို ခံစားလိုက်ရ ၏၊ ပါးစပ်မှလည်း အံ့အားသင့်ကြီးသင့်၍ "အံမယ်လေး ဗျ"ဟူ၍ အော်ဟစ်မိသွား၏၊ ယင်းနောက်တွင် "မိုက်" ခနဲဖြစ်ကာ မြေပြင်ပေါ်သို့ "ဘိုင်း"ခနဲ မှူးမေ့ လဲ ကျသွားတော့သည်။

## ပူပြင်းသောက ရင်ဝလှိုက်ဆူ

အနီးရှိ လူတို့က ကူညီဖေးမ ထူပေးကြ၏၊ သတိရအောင် ပြုစုပေးကြသည်၊ "ဘယ်က ဧည့်သည် လဲ" ဟူ၍လည်း တစ်ဦးကိုတစ်ဦး မျက်ကလူးဆန်ပျာ မေးကြ၏၊ အကဲခတ်ကြသည်။

အတန်ကြာသောအခါမှ ပုဏ္ဏားကြီးသည် အနည်းငယ်သတိရ လူးလွန့်လာရင်း ရှိုက်ကြီးတငင် ဖြစ်လာပြန်၏၊ မြေကြီးကို လက်ဖြင့် ပုတ်ကာ ပုတ် ကာ တအားကုန် အော်ဟစ်၍ အားရပါးရ ငိုကြွေးပြန်လေသည်။

"ဟော... ဘာဖြစ်တာတဲ့လဲ"၊ ပရိသတ် လူအုပ် ကြီးက အံ့အားသင့်နေကြ၏၊ "ဘာ့ကြောင့်များ သည် လူကြီး သည်မျှလောက် ပူပြင်းသောကရင်ဝလှိုက်ဆူ သည်းအူကျွမ်းမျှ ငိုကြွေးရပါလိမ့်မည်နည်း"၊ အကြောင်း ရင်းကို မည်သူမျှ မသိကြ။

နောက်မှ ငိုင်း၍ မေးသောအခါ "သုသိမ" ပစ္စေကဗုဒ္ဓါ၏ ဖခင်ကြီးဖြစ်နေကြောင်း သိကြရတော့ ၏၊ ထိုအခါတွင်မှ "ဟာ"ခနဲ "ဟင်"ခနဲ "အို"ခနဲ အာမေဋိတ်သံများ ဆိုကြပြီးလျှင် ပို၍ ပို၍ ဝိုင်းအုံလာ ကြတော့သည်၊ မိသားစုစိတ်ဓာတ်ဖြင့် အနီးသို့ ကပ်လာ ကြ၏၊ ပြီးမှ ကျွတ်-ကျွတ်ချင်းထပ်အောင် စုတ်တသပ်

သပ်ဖြင့် ကရုဏာသက်ကြလေတော့သည်။

ပုဏ္ဏားကြီးသည် မြေပြင်ပေါ်လဲကျနေရာမှ အားယူ၍ ကြဲထပြီးလျှင် စေတီရှိရာသို့ တအားကုန် တစ်ဟုန်ထိုး အပြေးကလေးသွားလိုက်၏၊ ပြီးမှ စေတီကို တအားသိမ်းကျုံးဖက်ပြီးလျှင် တအီအီနှင့် ငိုနေပြန်ရာသည်၊ လူကြီးဣန္ဒြေကိုပင် မဆည်နိုင်၊ မျက်ရည်တွေ ရွှဲစို၊ အငိုတစ်ဝက် အပြောတစ်ဝက်နှင့်–

"အိမ်ပြန်ရောက်ရင် မင့်အမေကို ငါ ဘယ်လို လုပ် ပြန်ပြောရမလဲ သားရဲ့"

ပါးစပ်က ဗရွတ် ဗဒေါက် ပြောရင်း ငိုကြွေးပြန်လေ၏၊ ဘေးက မြင်ရကြားရသူအပေါင်းမှာ ရင်ထဲမသက်သာ၊ မချိအောင် နာကျင်လာကြရတော့သည်။

သခ်ပုဏ္ဏားကြီးသည် ရင်ထဲရှိသမျှ ဖွင့်ဟပြောဆိုအားရအောင်ငိုပြီးမှ မျက်ရည်စမ်းစမ်းဖြင့် စေတီတော်ကို လက်ယာရစ် လှည့်ပတ်နေ၏၊ သုံးပတ်ပြည့်အောင် လေးလေးမြတ်မြတ် လှည့်ပတ်နေသည်။

## မမှိတ်သောမျက်စိ မဝသောအကြည့်ဖြင့်

ထို့နောက်တွင်မှ မျက်ရည်စမ်းစမ်းဖြင့် စေတီရင်ပြင်ပေါ် တံမြက်လှည်းခြင်း၊ အဝတ်ဖြင့် သဲများသယ်၍ သဲဖြူခင်းခြင်း၊ ပါလာသော ရေတံခေါင်းမှ ရေတို့ဖြင့် ဖျန်းခြင်း၊ တောပန်းကလေးများကို ရှာ၍ ဆွတ်ခူးပူဇော်ခြင်းများ ပြုလုပ်နေ၏၊ ပြီးလျှင် အပေါ်ခြုံအဝတ်ကို တိုင်ဖျားတွင် တံခွန်ထူလျက် တလူလူ နေအောင် လှူဒါန်းလိုက်လေသည်။

ထို့နောက် ပုဏ္ဏားကြီးသည် စေတီတော်ကို အားရပါးရ ဝအောင် အကြိမ်ကြိမ် ဦးချနေပြန်၏၊ သို့သော် မဝ၊ မျက်ရည်တွေသာ "ဖျော"ခနဲ ကျလာပြန်သည်၊ နှုတ်ကလည်း ပြောချင်တဲ့ စကားလုံးတွေ ကုန်သေးဟန်မတူ၊ ပြောဖို့ရန် ဟန်ပြင်နေပြန်၏၊ ပြီးမှ မျက်နှာကို မော့၍ မမှိတ်သောမျက်စိဖြင့် စေတီတော်ကို စူးစူးစိုက်စိုက် ကြည့်နေရှာပြန်သည်၊ သို့သော် အားမရနိုင် မဝနိုင်၊ မည်သူတွေ ကယ်နိုင်ကြမည်နည်း၊ "ကယ်ကြပါအုံး"

မျက်လုံးအစုံတို့မှ မျက်ရည်တွေက တဖြိုင်ဖြိုင်၊ လွမ်းစကိုလည်း မသိမ်းနိုင်၊ ဒယိမ်းဒယိုင်အားယူထပြီးမှ နှုတ်ကလည်း ရွရွ–ရွရွနှင့် သူများ မကြားနိုင်သော စကားလုံးတို့ကို ရွတ်ဆိုကာ မသဲကွဲသော ငိုသံတို့ဖြင့် ပြန်ဖို့ရန် ဟန်ပြင်ရတော့သည်။ ပြန်ကား မပြန်ချင်သေး။

မျက်စိသူငယ်ဖြင့် ဋ္ဌေသည် ခမျာ သခ်ပုဏ္ဏားကြီးသည် ယခုတစ်ဦးတည်း ပြန်ရပါတော့မည်၊ သို့ဖြစ်၍ လာခဲ့သော လမ်းဘက်ကို မျက်နှာမူလိုက်ရတော့၏၊ ပြီးမှ နောက်သို့ ပြန်ကြည့် ပြန်ကြည့်နှင့် ဇာတိဌာနေသို့ မျက်နှာအိုအိုဖြင့် ပြန်သွားရှာလေသည်။

သားတော်စေတီကား ပြန်တော့မည့် ဖခင်ကြီးကို နှုတ်ဆက်သလိုလို၊ မိခင်ကြီးအတွက် ဩဝါဒစကားများ မှာကြားနေသလိုလို၊ အားလုံးအတွက် ခြုံ၍ "ရတက်မအေး ပူဆွေးသောက မရောက်ကြနှင့်၊ ဖြစ်သမျှ ပျက်ဖို့ချည်းပဲ၊ အပျက်၏အဆုံး (ဘင်စွန်း)ကိုသာ မြင်အောင် ကြည့်ကြ"လို့ ဩဝါဒပေးသလိုလိုဟန်ဖြင့် ကျန်ရစ်တော့သတည်း။

ယခုအခါတွင်မူ "သားတော်စေတီ"မှာ မြို့တံခါးဝတွင် ကိုယ်လုံးတော်မှ ထုံးဖြူရောင်က တလွင်လွင်၊ ထိပ်ဖူးထီးတော်မှ နေရောင်တွင် ရွှေရောင်တို့က အမျှင်–အမျှင်၊ ဆည်းလည်းသံတို့ကလည်း လေပင့်တိုင်း တချွင်ချွင်ဖြင့် နေ့စဉ်ပင် တရားဓမ္မ ဟောပြနေသလို ဖြစ်တော့သည်။ အင်း… အနိစ္စ ဒုက္ခ အနတ္တ။

X

[မြတ်စွာဘုရားက ဤဇာတ်တော်ကို ပေါင်းပြ သောအခါ "ဟို… အဲဒီတုန်းက သခ်ပုဏ္ဏားကြီးဆိုတာ တခြားသူများ မှတ်မနေကြနဲ့၊ ငါ ဘုရားပဲ"ဟု ကြေကွဲဖွယ်ရာဇာတ်ကြောင်းကို ပြန်ပြောင်း၍ ဟောပြတော်မူပါသည်။]

## မင်္ဂလာ ဓာတု ဓမ္မ စေတီတော်

ယခုအခါတွင်လည်း အမရပူရမြို့တံခါး၀တွင် အလားတူပင် စေတီတော်ငယ်တစ်ဆူကို ဖူးတွေ့နေကြရပြန်၏၊ မန္တလေးမြို့တော်ကြီး၏ မူလမြို့တော်ဟောင်းဖြစ်သော အမရပူရမြို့ (တောင်မြို့)၊ ယင်းမြို့တော်၏ တောင်ဘက်အထွက် မြို့တံခါး၀အနီးတွင် ပြိုးပြိုးပြက်ပြက် မှန်ရောင်တွေ တလက်လက်ဖြင့် နှစ်သက်ကြည်ညိုဖွယ် စေတီငယ်တစ်ဆူကို ဖူးတွေ့နိုင်ကြပါသည်။

စေတီတော်ကား ထူးခြားလှပါ၏၊ အခြားသော စေတီတော်တို့နှင့် မတူပါ၊ များစွာသော စေတီတော်တို့မှာ မြေကြီးပေါ်မှ ပေါ်ထွက်လာကြ၍ "မြေပေါက်စေတီများ"ဟု ခေါ်ကြပါ၏၊ ယခု စေတီတော်ကား ထိုသို့ မဟုတ်ချေ။

မြိုးကြွသော ကွန်ကရစ်ထောက်တိုင်ကြီးများ၏ ထိပ်ဖျားဗွေပေါ်တွင် ကျောက်ပြားအပြင်ကြီးတင်၊ ထိုကျောက်ပြားပြင်အမြင့်ပေါ်တွင်မှ တစ်ဖန် တစ်ဆင့်တက်၍ ကောင်းကင်တွင် တည်ထားသော စေတီတော်မြတ် ဖြစ်ပါသည်၊ ဘွဲ့တော်ကား "မင်္ဂလာ ဓာတု ဓမ္မ စေတီ"တဲ့။

## အတိတ်သမိုင်းက ဘယ်လိုလဲ

ဤစေတီတော်၏ လက္ခဏာသွင်ပြင်က ထူးခြားနေ၍ မြင်သူအပေါင်းက အကြောင်းအရာများကို သိချင်ကြ၏၊ မေးကြ၏၊ စူးစမ်းကြ၏၊ လေ့လာကြ၏၊ သို့ဖြစ်၍ ဖြေပြရပါမည်၊ ဘွဲ့တော်က "မင်္ဂလာ ဓာတု ဓမ္မ စေတီ"တဲ့။

"မင်္ဂလာ"ဆိုတာက "ကျက်သရေမင်္ဂလာ ရှိသော၊ "ဓာတု"ဆိုတာက "ဓာတ်တော်တွေ"၊ "ဓမ္မ" ဆိုတာက "တရားဓမ္မတွေ"၊ "စေတီ"ဆိုတာက "လေးစားအပ်တဲ့ အရာဌာန"လို့ အဓိပ္ပာယ်ရတယ်၊ အားလုံးပေါင်းလိုက်ရင် "မင်္ဂလာရှိသော ဓာတ်တော်တွေနှင့် တရားဓမ္မတွေ ဌာပနာထားလို့ လေးစားအပ်တဲ့နေရာဌာန"လို့ ဆိုရမှာပေါ့။

"ဟုတ်ပြီ၊ ဘယ်က ဓာတ်တော်တွေလဲ၊ ဘယ်သူ့ဓာတ်တော်တွေလဲ၊ ဘယ်က ရတာလဲ၊ ဓမ္မတွေကရော ဘာဓမ္မတွေလဲ၊ ဘာအတွက် ဤစေတီကို တည်ထားရတာလဲ" စသည်ဖြင့် တသီတန်းကြီး မေးမြန်းတတ်ကြသည်။

မေးမြန်းဖို့လည်း ကောင်းပါ၏၊ မေးမြန်းဖို့ကောင်းသလို ဖြေဆိုဖို့လည်း ကောင်းလှပါသည်၊ ဤစေတီငယ်မြတ်၏ ဖြစ်ရပ် အတိတ်သမိုင်းကြောင်းတို့ကား စိတ်ဝင်စားဖွယ်ကောင်းသလောက် အများအတွက်လည်း အကျိုးတရား ဖြစ်ပွားစေနိုင်ပါသည်။

သို့အတွက် ဤစေတီငယ်မြတ်၏ ဖြစ်ရပ်အတိတ် သမိုင်းကြောင်း စာမျက်နှာတို့ကို ပြန်၍ တစ်ရွက်ချင်း–တစ်ရွက်ချင်း လှန်ပြီး ကြည့်မည် ဆိုပါလျှင် တွေ့ကြရမည့် အချက်အလက် အကြောင်းအရာတို့မှာ ဤသို့–ဤသို့–ဤသို့...။

x x

## တစ်ဘဝသာသနာ

# အတိတ်ကို ပြန်၍ကြည့်သော်

မဟာသီရိနန္ဒဝန်ဉယျာဉ်တော်။ ။မြန်မာပြည် အထက်ပိုင်း မန္တလေးတိုင်း (မန္တလေးမြို့တော်ကြီး၏ တောင်ဘက်)တွင် အမရပူရမြို့တော်ဟောင်းရှိသည်၊ ထိုမြို့တော်ဟောင်း၏ အရှေ့တောင် ခပ်ယွန်းယွန်း၌ မြစ်ငယ်မြို့ကလေး တည်ရှိ၏၊ ယင်းမြို့နယ်အတွင်း အရှေ့မှအနောက်သို့ ဖြတ်သန်းစီးဆင်းသော မြစ်ငယ်တစ်ခုရှိသည်၊ ရှမ်းကုန်းပြင်မြင့် မြောက်ပိုင်း သီပေါမြို့မှ စတင်စီးဆင်းလာ၏၊ တောတောင်လျှိုမြောင် အထပ်ထပ်ကို ကျော်ဖြတ်စီးဆင်းလာသည်။

ယင်းမြစ်အထက်ပိုင်းကို "ဒုဋ္ဌဝတီမြစ်"ဟု ခေါ်ကြ၍၊ အောက်ပိုင်းကို "မြစ်ငယ်မြစ်"ဟု ခေါ်ကြသည်၊ ယင်းဒုဋ္ဌဝတီ မြစ်ငယ်မြစ်သည်လည်း (လင်းမြွေကြီးသွားသလို) ကွေ့ကောက်သွားနေ၏၊ တစ်နေရာ မြစ်ကမ်းဘေးတွင် "ဘုရင့်ဉယျာဉ်တော်ကြီး"တစ်ခု တည်ရှိခဲ့သည်၊ "မဟာသီရိနန္ဒဝန်ဉယျာဉ်တော်"ဟု အမည်တွင်ခဲ့၏။

"ဉယျာဉ်"ဆိုသည့်အတိုင်း ဉယျာဉ်နယ်နိမိတ်အတွင်း၌ မန်ကျည်း ကုက္ကို ထနောင်း အရိပ် ကောင်းသော သစ်ပင်ကြီးများ၊ သရက် ပိန္နဲ ငှက်ပျော ဆီးစသော သီးပင် စားပင်များ၊ ရာသီအလိုက် ဖူးကြပွင့်ကြ၍ ကြည်နူး ရှုမောဖွယ်ကောင်းသော ပန်းမန်သစ်ပင်များဖြင့် တန်ဆာဆင်လျက်ရှိကြ၏။

အမြဲတမ်း လန်းဆန်းစိမ်းစို ရွှန်းအိ၍ နုပျိုနေတော့သည်၊ နဂိုကလည်း မြစ်ကမ်းဘေး၊ လေနုအေးကတဖြူးဖြူး၊ ကြည်နူးဖွယ်တွေ အပြည့်အဝ၊ သက္ကရာဇ် ၁၁၄၄– ခုနှစ်က အမရပူရမြို့တည် နန်းတည် ဘုရင်မင်းမြတ် ဘိုးတော်ဦးဝိုင်း၏ ဉယျာဉ်တော်ပင်ဖြစ်တော့သည်။

# ဉယျာဉ်တော်ရွာ ဖြစ်၍လာ

ခေတ်ကာလတို့သည် တရွေ့ရွေ့ ဟောင်း၍ပြောင်းခဲ့ကြ၏၊ တိုင်းပြည် အုပ်ချုပ်သော ဘုရင်တို့သည်လည်း တစ်ဦးပြီး တစ်ဦး အသစ်လဲခဲ့ကြသည်၊ ဤနည်းအားဖြင့် မင်းတုန်းမင်းကြီး လက်ထက်သို့ ရောက်လာသောအခါ အမရပူရမှာ မနေတော့ဘဲ မန္တလေးအရပ်သို့ ပြောင်း၍ နန်းစံလေတော့၏။

ထိုအခါ မဟာသီရိနန္ဒဝန်ဉယျာဉ်တော်ကြီးကို ဘုရင်မင်းများ အသုံးမပြုကြတော့တဲ့အတွက် နီးစပ်ရာအရပ်သားများ ဝင်ရောက်လာကြသည်၊ အိမ်ရာများ စတင်ဆောက်လုပ်နေထိုင်ကြတော့၏၊ တဖြည်းဖြည်းများ၍ များ၍ လာကာ "ရွာကြီးတစ်ခု"အဖြစ် ရောက်သွားလေတော့သည်၊ ရွာ၏အမည်မှာလည်း "ဉယျာဉ်တော်ရွာ"ဟု ခေါ်တွင်လာတော့၏။

ဒုဋ္ဌဝတီမြစ်ငယ်မြစ် သွားရာလမ်းတစ်လျှောက်တွင် မြစ်ကို အမှီပြု မေးတင်၍ တည်ဆောက်ထားကြသော ကျေးရွာများ အစီအရီ တည်ရှိကြသည်၊ ဉယျာဉ်တော် ရွာ၏ အထက်ပိုင်းတွင် မြို့ပြင်ကြီး၊ စာတိုး၊ တောင်ကိုင်း၊ ရောက်တောဝ စသော ရွာများရှိကြ၏၊ အောက်ပိုင်းတွင်မူ ကမ်းပဲ့၊ ရေကြည်ပေါက်၊ မြောက်ကိုင်း၊ လိပ်ဆံခွန်၊ ပလိပ်၊ စိတ္တရ၊ ဖရဲကျွန်းမှ စ၍ အင်းဝမြို့ဟောင်း ဧရာဝတီမြစ်သို့ ပေါင်းသည်အထိဖြစ်သည်။

ဤကဲ့သို့ ဒုဋ္ဌဝတီမြစ်ငယ်မြစ်ကို အမှီပြု၍ တည်ရှိကြသော ရွာပေါင်း များစွာ ရှိသည် အနက် "ဉယျာဉ်တော်ရွာ"သည်လည်း တစ်ခုအပါအဝင်ဖြစ်၏၊ ဤ "ဉယျာဉ်တော်ရွာ"သည် တစ်ချိန်က တိုင်းပြည်

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဥကင် ဘုရင်မင်းမြတ်များ အသုံးတော်ခံ၊ ဘုရင်များ နားနေ အပန်းဖြေရာဌာနကြီးတစ်ခု ဖြစ်ခဲ့သည်။

ခေတ်ကာလကြာညောင်း၍ ယခုနောက်နှောင်း အခါတွင်မှ "ကျေးရွာကြီး တစ်ခု" ဖြစ်လာခဲ့သည်၊ ယခုအခါ အိမ်ခြေ (၃၀၀)သုံးရာကျော်ပင် ရှိလာ၍၊ သစ်ပင်ကြီးငယ်တို့ဖြင့် အုပ်ဆိုင်းထားသည်၊ စိမ်းစို ညို့မှိုင်းနေကြ၏။

## အဝေးကပင် လှမ်း၍မြင်

မန္တလေး–ရန်ကုန်သွား ကားလမ်းမ၊ ရထား လမ်းမကြီးများ ဖောက်လုပ်ကြသောအခါ ဒုဋ္ဌဝတီ မြစ်ငယ်မြစ်ကို တောင်–မြောက်တံတား ထိုး၍ ဖြတ်ကျော်ကြရသည်၊ တံတားကြီးမှနေပြီး အနောက်ဘက်ကို လှမ်း၍ကြည့်လျှင် (၄)ဖာလုံခန့်အကွာအဝေးတွင် ဥယျာဉ်တော်ရွာကို တွေ့မြင်နိုင်ကြ၏၊ အရှေ့အနောက် စီးနေသောမြစ်၏ မြောက်ဘက်ကမ်းတွင် ဖြစ်သည်။

ယခုနောက်ပိုင်းတွင် ထိုမြစ်ငယ်မြစ်တံတားကြီး၏ မြောက်ဘက်မှနေ၍ အနောက်ဘက်စစ်ကိုင်းတံတားကြီးဆီသို့ ဦးတည်လျက် ကားလမ်းမကြီးတစ်ခု ဖောက်လုပ်ကြ၏။ သို့ဖြစ်၍ ယင်းကားလမ်းမကြီးနှင့် မြစ်ငယ်မြစ်ကြားတွင် ဥယျာဉ်တော်ရွာကြီးကို ထီးတည်းကြီး မြင်နိုင်ကြတော့သည်။

ရွာဦးထိပ်တွင် ညောင်ညိုပင်ကြီး ရှိ၏၊ အရိပ်ကောင်းလှသည်၊ ရွာဦးကျောင်းလည်း ရှေးဟောင်းမပျက် တည်ငြိမ်လျက်–။ ကုလားတက် အုန်းမောင်း၊ ချက်ပေါင်း များစွာ၊ အသံမာ၍၊ သာယာတိုးကျယ်–။ ထုံးဖြူ ဖွေးဖွေး၊ စေတီကလေးကား၊ အေးဆေးငြိမ်သက်၊ တရားမြွက်သို့ -။

ဤသို့လျှင် စဉ်လာမပျက်၊ ကျေးလက်တောရွာတို့၏ သဘာဝ၊ ချမ်းမြရိပ်မြုံ၊ ဘာသာရေး အဆောက်အအုံတို့ဖြင့်လည်း စုံစုံလင်လင် ရှိပါ၏၊ အဝေးကပင် မြင်နိုင်ပါသည်။

ထုံးဖြူဖွေးဖွေး စေတီကလေး၊
အဝေးကပင် ဖူးလို့မြင်။
ညောင်ညိုပင်နှင့် ပန်းတင့်၊
ရွာဦးကျောင်းထိပ် မြေအမြင့်။



## တစ်ဘဝသာသနာ

# သာစွ ဝန်းကျင် ရှုမျှော်ခင်း

ဥယျာဉ်တော် ရွာခြေသို့ကပ်၍ စေ့စေ့စပ်စပ် ရှု၍ ရှေ့နောက်–တောင်မြောက်ဝဲယာပတ်ချာဝန်းကျင် တလွင်တပြင်ကြီးကို မျက်စိတစ်ဆုံး မျှော်၍ မော်၍ ဝေ့၍ ကြည့်နိုင်ပါ၏၊ ယင်းသို့ ကြည့်မည်ဆိုလျှင် မဆုံးနိုင်သော လယ်ကွင်းပြင်ကြီးများကို အားရပါးရ တွေ့ရှိနိုင်သည်။

ထိုအတွင်းမှ စိမ်းလဲ့လဲ့ အကန့်အတန့်၊ ဝါဖန့်ဖန့် တစ်ထွေ၊ ရွှေရောင်တောက် မှည့်ဝင်းနေသော စပါးခင်းတို့ကိုလည်း ရာသီအလိုက် တွေ့မြင်နိုင်ကြပြန်၏။

ရွာအနီးမှ ဖြတ်စီးသွားသော ဒုဋ္ဌဝတီမြစ်ငယ်မြစ်ကလည်း (လင်းမြွေကြီးသဖွယ်) ကွေ့ကောက်၍ သွားနေ၏၊ တသွင်သွင် တငြိမ့်ငြိမ့်ဖြင့် ဧရာဝတီမိခင်ကြီးဆီသို့ လိုမ့်၍ လိုမ့်၍ ဦးတည်စီးဆင်းသွားနေသည်။

သူသွားသလောက် ဝဲဘက်–ယာဘက်ကမ်း တစ်လျှောက်တွင်ကား ဘူးဖရုံပြေပြစ်သခွား၊ အာလူးများနှင့် စားပင်သောက်ပင် လန်းရွှင်စိမ်းစိုသော ကိုင်းကျွန်းတို့ကို သူကိုယ်တိုင် စိုက်ပျိုး၍ သွားဘိသကဲ့သို့ ဖြစ်တော့သည်။

# ကဗျာဆရာတို့၏ မြင်ကွင်း

သူတို့၏ ကိုင်းခြံများသို့ အနီးကပ်သွား၍ လေ့လာမည်ဆိုလျှင် ပို၍ပင် စိတ်ဝင်စားဖွယ်တို့ များပြားစွာ တွေ့နိုင်ပေသေး၏၊ ဘူးဖရုံပြေပြစ်သခွားအပြင်–စားစရာမနည်း၊ ခဝဲ–ပဲလင်းမြွေ၊ ရုံးပတီ–မိုးမျှော်ငရုတ်၊ ဂေါ်ဖီထုပ်–ပန်းမုန်လာ၊ ပဒတ်စာ–ကင်းပုံရှက်၊ ချက်ချင်တာ ချက်ပေရော့...။

ဆူးပုပ်ရွက်–ကင်ပွန်းချဉ်၊ နံနံပင်–ကြက်သွန်မိတ်၊ စမြိတ်–ကျီးအာ၊ ဇရစ်လည်းပါသည်မို့ "ကဗျာဆရာတို့၏ မြင်ကွင်း"သာ ဖြစ်တော့သည်။

၁။ တွယ်မိုးကာ ခင်းချဲ့ထက်မှာလ၊ နွယ်ကျီးအာ ကင်းပုံယှက်တဲ့ပြင်၊ ဟင်းဂုံရွက် ပေါလိုက်လေ...။

၂။ ဘူးခရမ်းတွေကလဲ၊ အထူးတန်းပမာ အသီး ညှာတို့ ပြွတ်တဲ့အပြင်၊ ကူးသန်းကာ ခရီးလာတို့ ဆွတ်ကြရော့ထင့် ကိုင်းညွတ်လို့နေ...။

၃။ တစ်မျိုးနော်–မိုးမျှော်ငရုတ်သာပ၊ အခြေစုံ ရွှေဖရုံကလဲ ရှုပ်ပါဘိသနဲ့၊ ငရုတ်သခွား သလဲ လုံးအရေ၊ ခဝဲ ရုံးပတီတို့က လွန်စွာသီး။

၄။ သန်သန်ငယ်လွင်၊ နံနံပင်–ကြက်သွန်မိတ်တွေနဲ့၊ စမြိတ်ပါ စီစဉ်လို့ နှောတဲ့အပြင်၊ ကစွန်းနွယ်–ကျွန်းလယ်ကြောမှာဖြင့်၊ မလပ်မကွာ–ပဒတ်စာတို့ကလဲ ပေါပါဘိသနဲ့၊ တောတလျှောက်– တောတလျှောက်မှာလ၊ ဟောတစ်ခေါက်၊ ဟော– တစ်ခေါက်ရယ်နဲ့၊ စခန်းကြုံရာ အဟုတ်မြည်းရအောင်၊ (ရော့ ယူတော့လို့) စကောလောက်– စကောလောက်ရှိပါတဲ့–ပန်းမုန်လာအထုပ်ကြီး။ ။

ရှေးက ကဗျာဆရာတစ်ဦး ရေးဖွဲ့သီကုံးထားခဲ့ခြင်း ဖြစ်၏၊ အမည်မသိပါ၊ မိမိမှာလည်း ထိုမြင်ကွင်းကြောင့် ရင်တွင်း၌ ရွှန်းစိုလာပြီးလျှင် ထိုကဗျာကို နှုတ်မှ ပွင့်ရုံ တိုးတိုးရွတ်ဆိုနေမိပါတော့သည်။

ဤသို့လျှင် ထိုနယ်တစ်ခွင်မှ ကျေးရွာများသည် ရိုးသားစွာ သမ္မာအာဇီဝဖြင့် လယ်ယာကိုင်းကျွန်းတို့ကို အမှီပြု လုပ်ကိုင်စားသောက်နေကြသူများဖြစ်ကြသည်။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဇာတိဌာနေ ဖွားရာမြေ

ဤသို့ အေးချမ်းစွာ သမ္မာအာဇီဝဖြင့် လုပ်ကိုင်စားသောက်နေထိုင်ကြသော ကျေးရွာများတွင် "ဥယျာဉ်တော်ရွာကြီး" သည်လည်း တစ်ခုအပါအဝင် ဖြစ်၏၊ ယင်းဥယျာဉ်တော်ရွာကြီးတွင် အဘ– ဦးအောင်ထွန်း၊ အမိ– ဒေါ်ရွှေအိပ်တို့မှ (မိုးကုတ် ဆရာတော် လောင်းလျာ) သားမြတ် ရတနာကို ဖွားမြင်တော်မူခဲ့သည်။

သို့ဖြစ်၍ ဤဥယျာဉ်တော်ရွာကြီးကား မိုးကုတ်ဆရာတော်လောင်းလျာ၏ ဇာတိဌာနေဖွားရာမြေမြတ် အထူးမှတ်အပ်လေတော့၏။

ကောဇာသက္ကရာဇ် ၁၂၆၁–ခု နတ်တော်လပြည့်ကျော် ၁၁–ရက် (ခရစ်–၁၈၉၉ခု၊ ဒီဇင်ဘာလ ၂၇–ရက်) ဗုဒ္ဓဟူးနေ့၊ မွန်းလွဲ ၂–နာရီ ၃၀–မိနစ်အချိန်တွင် ဖွားမြင်တော်မူသည်။

ဗုဒ္ဓဟူးနေ့သားဖြစ်၍ နေ့သင့်နံလိုက်ဖြစ်အောင် သားကလေးကို "မောင်လှဘော်"ဟု နာမည် ကင်ပွန်းတပ်လိုက်ကြ၏၊ အမှန်မှာ သူ့အစ်ကို "မောင်လှဒင်"မှ ဆက်စပ်လာသော "လှ"ကို ယူပြီးလျှင် နံနှင့်လည်း လိုက်အောင် မှည့်ခြင်းဖြစ်သည်။



## တစ်ဘဝသာသနာ

# ညီအစ်ကို မောင်နှစ်မများ

"မောင်လှဘော်"ကလေးသည် အဘ– ဦးအောင်ထွန်း၊ အမိ– ဒေါ်ရွှေအိပ်တို့၏ ပဌမမြောက်သားရတနာ ဖြစ်၏၊ ထို့နောက်တွင် (၃) ယောက်ဖွားမြောက် ပြန်သေးသည်၊ ထို့ကြောင့် မောင်လှဘော်မှာ ညီအစ်ကို မောင်နှမ မွေးချင်း (၈) ယောက် ရှိ၏၊ ယင်းတို့မှာ ကြီးစဉ်ငယ်လိုက် အောက်ပါအတိုင်း ဖြစ်ကြသည်။

၁။ မတင် [အစ်မ အကြီးဆုံး။]
၂။ မလုံး [အစ်မ အလတ်။]
၃။ မရွှေပင် [အစ်မလေး၊ နောင်တွင် သီလရှင်ဖြစ်။]
၄။ မောင်လှဒင် [အစ်ကို။]
၅။ မောင်လှဘော် [ဆရာတော့်လောင်းလျာ]
၆။ မလှရှင်
၇။ မလှခင်
၈။ မောင်သောင်း–တို့ ဖြစ်ကြ၏။

မောင်လှဘော်တို့မိဘများသည် သားသမီးများ သလောက် စီးပွားဥစ္စာလည်း ပြည့်စုံကြွယ်ဝသူများ ဖြစ်ကြ၏၊ လယ်ယာလုပ်ငန်းအပြင်– ရက်ကန်းလုပ်ငန်း ပိုင်ရှင်လည်း ဖြစ်ကြ၏၊ သူတို့ရွာတွင် တင့်တောင့်တင့်တယ် နေနိုင်ကြသော မိသားစုများ ဖြစ်ကြသည်၊ စီးပွားပြည့်စုံ၍ သီလလုံကြသောကြောင့် အများ၏ လေးစားမှုကိုလည်း ရရှိကြသည်။

## ဥယျာဉ်တော်ရွာကြီး

မောင်လှဘော်တို့၏ "ဥယျာဉ်တော်ရွာ" အကြောင်းကို ကွင်းဆင်းလေ့လာဖို့အတွက် ခရီးထွက်ခဲ့ကြ၏၊ မန္တလေးမြို့တော်ကြီး၏ တောင်ဘက်တွင် အမရပူရမြို့တော်ဟောင်း၊ ထိုမြို့တော်ဟောင်း၏ အရှေ့တောင်ဘက် ခပ်ယွန်းယွန်း (၄)မိုင်ခန့်အကွာတွင် တည်ရှိသည်။

ဥယျာဉ်တော်ရွာက အတိတ်သမိုင်းကြောင်းနှင့် ဖြစ်၍ စိတ်ဝင်စားဖွယ် ကောင်းလှပါ၏၊ ရှေးမီနောက်မီ ဗဟုသုတ ကြွယ်ဝသော အဘိုးတစ်ဦးနှင့် တွေ့ခဲ့ရ၍ များစွာ ကျေးဇူးဖြစ်ခဲ့ကြသည်၊ ဥယျာဉ်တော်ရွာမှ အဘိုးတစ်ဦးဖြစ်သူ "အဘိုးမြစ်"က မိမိတို့ လေ့လာရေးအဖွဲ့အား ဤသို့ ပြောပြပါသည်။



# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# အတိတ်သမိုင်းကြောင်းရှိခဲ့

"ဒီရွာက မခေဘူးဗျ၊ အတိတ် သမိုင်းကြောင်းနဲ့ လာခဲ့တာ၊ ဟို...တစ်ချိန်တုန်းက အမတ်ကြီး ဦးပေါ်ဦးနဲ့ ရှင်ဘုရင်ကြီး ဘိုးတော် ဦးဝိုင်း ဆိုတာ ရှိခဲ့ကြတယ်၊ သူတို့ကို အခုထိအောင် လူသိများကြပါတယ်လေ"

"ဟုတ်ကဲ့၊ လူသိများကြပါတယ်၊ ဘိုးတော် ဦးဝိုင်းကလဲ သဘောကောင်း၊ အမတ်ကြီး ဦးပေါ်ဦးကလဲ ခပ်ရွှင်ရွှင်၊ ပျော်တော်ဆက် အမတ်၊ တွဲမိနေတာပဲ"

"ဟုတ်ပါတယ်၊ အဲဒီဘိုးတော်ဦးဝိုင်းဟာ အမရပူရမြို့ကို စတင်တည်ထောင်ပြီး နန်းစံတုန်းက သူ့အတွက် အပန်းဖြေစရာ ဥယျာဉ်မြေရှာဖွေတော့ ဒီနေရာကို သဘောကျသွားတာပဲ"
"ဟုတ်ကဲ့၊ အမိန့်ရှိပါ"

"ဒီနေရာဟာ ရေမြေက ကောင်း၊ သီးပင်ပန်းပင်တွေ စိုက်ပျိုးလို့လဲ သန်ထွား၊ အမရပူရမြို့နဲ့လဲ မနီးမဝေး၊ မလှမ်းမကမ်း မဟုတ်လား၊ အပန်းဖြေလာလို့ ကောင်းတာပေါ့"
"ဟုတ်ကဲ့– ကောင်းပုံပါပဲ"

"ဟိုတုန်းကတော့ ဒီနေရာကို (မဟာသီရိ နန္ဒဝန်)လို့တောင် နာမည်ပေးခဲ့တာပဲ၊ တာဝတိံသာက နန္ဒဝန်ဥယျာဉ်လို သာယာဖွယ် ကြည်နူးဖွယ် ရှိတယ်ပေါ့လေ"
"ဟုတ်ကဲ့၊ သာယာအောင်လဲ ဖန်တီးပါလိမ့်မယ်"
"ဖန်တီးတာပေါ့၊ အဲဒီတုန်းက ဥယျာဉ်မှူးကိုလဲ သီးသန့်ခန့်ထားတာတဲ့"
"ဟုတ်ကဲ့၊ အမိန့်ရှိပါ"
"ဒီတုန်းက ဥယျာဉ်မှူးက "ရွှေတောင် အမတ်ကြီး" ဆိုပဲ၊ နောက်တော့ "မင်းကြီးရွှေတောင်" လို့ ထပ်ဆင့်တိုးပြီး ချီးမြှင့်ပါသတဲ့"
"ဟုတ်ကဲ့၊ စီမံပုံကောင်းလို့ နေမှာပေါ့"
"အေးလေ ကောင်းလို့ပေါ့၊ သစ်ပင်ပန်းမန်တွေ၊ စားပင်သောက်ပင်တွေ၊ အရိပ်ကောင်းတဲ့ သစ်ပင်တွေ ဝေဆာလာအောင် ဖန်တီးထားပါသတဲ့၊ အဲဒီထဲမှာ ထူးထူး ခြားခြား ပါလာတဲ့ သရက်ပင် တစ်ပင်ဟာ ဆိုရင် အင်မတန်မှ "ချိုလှ" ဆိုပဲ..."
"အော..."
"ဘုရင်ကြီးကို ဆက်သတော့ သဘောတော်ကျလွန်းလို့တဲ့၊ အဲဒီ အပင်ကို "ရာဇမတ်တွေ ကာကြဟ၊ အထူးအစောင့်အရှောက်တွေ ထားကြဟ" လို့ အမိန့်ထုတ်သတဲ့၊ ပြီးတော့ "ပင်တော်ကြီး" လို့လဲ သတ်မှတ်တော်မူသတဲ့"

"အင်း... ဘုရင့်စားတော်ပင် ဖြစ်သွားတာကိုး"

"ဟုတ်တယ်၊ အဲဒါကြောင့် အမိန့်တော်အရ ရာဇမတ်တွေ ကာကြရသတဲ့၊ အသီးတွေက ချိုမြိန်လှတာဆိုတော့ ကာကြရတဲ့အထိ ဖြစ်သွားတာပေါ့"
"ဟုတ်ကဲ့၊ ဒီလို ဖြစ်ပေါ်လာတာဟာ ဘုရင့်ဘုန်းကံလို့ ဆိုစရာပဲနော်"
"အင်း... ဆိုလောက်ပါတယ်၊ အဲလိုနဲ့ ကာလတွေ ဟောင်း၊ ခေတ်တွေ ပြောင်းလာခဲ့ပါတယ်၊ နောက်နှောင်းကာလကျတော့ အဲဒီ ဘိုးတော် ဦးဝိုင်းရဲ့ မြေးတော်ပေါ့ "မင်းတုန်းမင်း" ဆိုတာ"
"ဟုတ်တယ်၊ မြေးတော် ဖြစ်ပါတယ်"
"အဲဒီမင်းတုန်းမင်းလက်ထက်ရောက်လာတော့ အမရပူရမှာ မနေတော့ဘူး၊ မန္တလေးတောင်ခြေ အရပ်ကို ပြောင်းပြီး မြို့တည် နန်းတည် လုပ်

တယ်လေ"

"ဟုတ်ကဲ့၊ ထီးပြောင်းနန်းပြောင်း၊ မြို့သစ်တွေလဲ ပြောင်းပြီး တည်ခဲ့ကြပါတယ်"

"အဲဒီတုန်းက တဘောင်တွေကလဲ ပေါ်တာကိုး၊ ဘာတဲ့- အင်း...

"အသက်ကလေးရယ်တဲ့ ရှည်စေလို့၊ မြနန္ဒာ ရေညိုသန်း ရွှေမန်းတောင်ရိပ်ခို"တဲ့၊

"ဟုတ်ကဲ့၊ အဘိုးက ဗဟုသုတစုံတယ်"

"ဟဲ ဟဲ... အဲလိုဆိုကြတော့ အမရပူရမြို့ရဲ့ မြောက်ဘက်က မန္တလေးတောင်တော်ရိပ်ကို သွားပြီး ခိုကြတော့တာပေါ့၊ အသက်ရှည်အောင် လို့လေ၊ ပြီးတော့ မြနန္ဒာချောင်းကလဲ ရေညိုတွေ သန်းပြီး တသွင်သွင် စီးနေတယ် မဟုတ်လား"

"ဟုတ်ကဲ့၊ စီးနေပါတယ်"

"အဲဒီအချိန်ကစပြီးတော့ ဒီဥယျာဉ်ခြံမြေကြီးကို ဘုရင်မင်းမြတ်များ အသုံးမပြုကြတော့ပါဘူး၊ အဲဒါနဲ့ တဖြည်းဖြည်း အရပ်သားတွေ ဝင်လာ၊ အိမ်ရာတွေ ဆောက်ကြရာက ရွာကြီးဖြစ်လာ တော့တာပေါ့ဗျာ..."

"အော... ဒီလိုကိုး"

"ဟုတ်တယ်၊ အခုဆိုရင် အိမ်ခြေက (၃၀၀) သုံးရာတောင် ကျော်နေပြီ၊ တဖြည်းဖြည်းနဲ့ များလာလိုက်တာ။

အဲ... မောင်လှဘော်တို့ မိသားစု နေကြတဲ့ ရပ်ကွက် ဆိုရင် ရာဇမတ်တွေ ကာရတဲ့ သရက်ပင်ရှိတဲ့ အရပ်နဲ့ ကပ်နေတယ်၊ အဲဒါကြောင့် "ရာဇမတ်ရပ်"လို့ အခုအထိ ခေါ်နေကြတာပဲ"

"အော်... သမိုင်းကြောင်းနဲ့ကိုး"

"ဟုတ်တယ်လေ- ဒီရွာဟာ အတိတ် သမိုင်းကြောင်းနဲ့၊ ဗျူဟတ်နဲ့လာခဲ့တာလို့ ပြောခဲ့ပကော"

"ဟုတ်ကဲ့၊ ပြောခဲ့ပါတယ်"

"ပြီးတော့ ဒီရွာဟာ ပညာရှိတွေလဲ ထွက်ပေါ်ကြပါတယ်၊ ရှေးခေတ်က ကျမ်းပြု အကျော် ဆရာတော် ဦးစန္ဒတို့၊ ဒီဘက်ခေတ် ဝတ်လုံတော်ရ မင်းကြီးဦးသာကြွယ်တို့ဆိုတာ ဒီဥယျာဉ်တော် ရွာသားတွေကပဲ၊ အဲ... အခု နာမည်ကြီး တစ်နိုင်ငံလုံး ဟည်းနေတဲ့ မိုးကုတ်ဆရာတော် ဦးဝိမလ ဆိုတာကတော့ မပြောနဲ့တော့...၊ ဒါကြောင့် ဒီရွာက "မခေဘူး"လို့ ပြောခဲ့တာ"

"ဟုတ်ကဲ့ဗျာ... ဒီလိုပြောပြတဲ့အတွက် အဘိုးကို ကျေးဇူး အများကြီး တင်ပါတယ်"

"အေးကွယ်... သာဓု-သာဓု"

ဤသို့လျှင် "အဘိုးမြစ်"က စိတ်ဝင်စားဖွယ် ပြောပြပါသည်၊ ဤအကြောင်းအရာများမှာ ရှေးကပင် ရာဇဝင်မှတ်တမ်း အခိုင်အမာ တင်ထားပြီးများ ရှိသည်ဟု ဆိုပါသည်။

# အမရပူရမြို့တော်

တောင်သမန်ရေချိုတွင်း။ ။မြန်မာရာဇဝင်၌ "ရွှေဘို- ဦးအောင်ဇေယျ"ဆိုလျှင် မသိသူ မရှိသလောက် ရှား၏၊ "အလောင်းမင်းတရား"ဟူ၍လည်း ခေါ်ကြသည်၊ ယင်းအလောင်းမင်းတရားကြီး၏ စတုတ္ထမြောက် သားတော် ပဒုံမင်းသားသည် နောက်ပိုင်းတွင် "ဘိုးတော်ဦးဝိုင်း"ဟူ၍ ထင်ရှားလာ၏။

ဘိုးတော်ဦးဝိုင်း အထွတ်အထိပ်သို့ ရောက်သောအခါ ဦးစွာပထမ အင်းဝမြို့၌ နန်းစံရသည်၊ သို့သော် ထိုမြို့တော်၌ နှစ်သက်ကျေနပ်မှုအပြည့်အဝ မရခဲ့ချေ။

အကြောင်းကား အင်းဝနေပြည်တော်သည် မြေ

နိမ့်ပိုင်း ဖြစ်နေ၏၊ မိုးအခါတွင် ဧရာဝတီမြစ်နှင့် ဒုဋ္ဌဝတီ မြစ်ငယ်မြစ်တို့ ပေါင်းဆုံပြီး ရေအားကောင်းကာ မြေပြင်ပေါ်သို့ လျှံတက်လာတတ်သည်၊ ထိုအခါမျိုးတွင် သောက်ရေ သုံးရေများလည်း မသန့်မရှင်းဖြစ်ကုန်တော့၏၊ နှစ်စဉ်လိုပင် ရေလွှမ်းမိုးမှုဒဏ် ခံနေရသည်၊ ထို့ကြောင့် မနှစ်သက်ချေ။

သို့ဖြစ်၍ ကုန်းမြေမြင့်နေရာမျိုးကို ရွေးချယ်ပြီး မြို့သစ်-နန်းသစ် တည်ထောင်ရန် စိတ်ကူးနေခဲ့သည်၊ ထိုအချိန်တွင်-

"အင်းဝက ရေငံ၊
တွင်းချေးစော်နံ။
တောင်သမန် ရေချိုတွင်း၊
သောက်ပါလေ ကိုရန်ရှင်း၊
ဘေးရန်မှ ကင်း"

ဟူ၍ အတိတ်တဘောင် ပေါ်လာလေသည်၊ ဘိုးတော် ဦးဝိုင်းက ဗုဒ္ဓဟူးသားဖြစ်၍ "ကိုရန်ရှင်း"ဟု တင်စားဆိုပါသတတ်၊ "တောင်သမန်ရေချိုတွင်း"ဆိုတာ ဘယ်နေရာမှာ ရှိပါလိမ့်မည်နည်း။

ထို့ကြောင့် အမတ်ကြီးဦးပေါ်ဦးကို ခေါင်းဆောင်စေ၍၊ မတ်ပေါင်းများစွာ ခြံရံလျက်၊ နောက်လိုက် နောက်ပါ မြင်းသည်တော်များနှင့်တကွ ဗိသုကာများပါ ရွေးချယ်ပြီး မြို့သစ်-နန်းသစ်တည်ဖို့ မြေနေရာရှာဖွေရန် ဘုရင်က စေလွှတ်လိုက်လေသည်။

## မြေနေရာရှာရန် ထွက်ကြခြင်း

အမတ်ကြီး ဦးပေါ်ဦးတို့အဖွဲ့သည် အင်းဝမြို့တော်မှ အရှေ့ဘက်ကမ်းကို ကူး၍၊ စိုင်တမော့ လယ်ပြင်ကြီးကို ဖြတ်ကျော်ပြီး လာခဲ့ကြသည်၊ အခြွေအရံပရိသတ်- ထမင်းအိုးထမ်း ဟင်းအိုးထမ်းတို့နှင့်တကွ မနည်းလှချေ၊ မြင်းသည်တော်တပ်တို့လည်း ပါသေး၏။

မြင်းခွာသံ တခွပ်-ခွပ်ဖြင့် တစိုက် မတ်မတ် လာခဲ့ကြ၏၊ ဟိုမျှော်-သည်ကြည့် မလစ်သော သတိတို့ဖြင့် ပတ်ဝန်းကျင်ကို အကဲခတ်ရင်း လာခဲ့ကြရာ "ကြက်သွန်ခင်းဆရာတော်"၏ တောရကျောင်းနေရာ (ယခုအခါ အမရပူရမြို့၊ မင်္ဂလာတိုက်ဟောင်းနေရာ)သို့ ရောက်လာခဲ့ကြတော့သည်။

ဆရာတော်ဘုရားထံ ခွင့်ပန်လျှောက်ထားကြပြီးလျှင် ကျောင်းဝင်းအတွင်းမှ အရိပ်ကောင်းသော ညောင်ပင်ကြီးအောက်တွင် တည်းခို စခန်း ချကြလေ၏၊ ထိုနေရာမှနေ၍ နား-မျက်စိတို့ကို ဖွင့်လျက် ပတ်ဝန်းကျင်တခွင်လုံးကို အမြဲမပြတ် အကဲခတ်ရင်း မင်္ဂလာနိမိတ်များ ယူနေကြလေသည်။

ထိုသို့ မင်္ဂလာနိမိတ်များ ယူနေကြစဉ်ပင် ထိုတောရကျောင်းခြံဝင်းအတွင်းမှ ရွှေရောင်အဆင်းရှိသော လိပ်ပြာကောင်ကလေးများ (၅၀၀) ငါးရာခန့်တို့သည် တစ်ပြိုင်နက် "ဝုန်း"ခနဲ ထပျံကြကုန်၏၊ ပြီးလျှင် (အမရပူရ နန်းသစ်တည်မည့်နေရာအရပ်)သို့ သွား၍ ချုံကြီးတစ်ခုကို ဝိုင်းအုံစုပြုံနားနေကြလေသည်။

## တစ်ဘဝသာသနာ

# အင်းအိုင်ဝိုင်းလည်၊ မြို့ကြီးတည်

လိပ်ပြာကောင်ကလေးများ တစ်ပြိုင်နက် ထပြီး ပျံကြပုံ ထူးဆန်းလှသဖြင့် လိုက်၍ ကြည့်ကြရာ ချုံကြီး တစ်ခုလုံး ရွှေရောင်လိပ်ပြာတို့ဖြင့် ဖုံးနေသည်ကို တွေ့ကြရလေတော့၏၊ ရွှေတောင်ကြီးသဖွယ် ဖြစ်တော့သည်၊ ထိုအရပ်သည် ကုန်းမြင့်လည်း ဖြစ်၏၊ အေး ပတ်ဝန်းကျင်ကို လှည့်လည် သုံးသပ်ကြည့်ရှုကြရာ–

၁။ တောင်သမန်အင်း

၂။ တောင်မြင့်အင်း

၃။ တောင်ကြီးအင်း

၄။ တောင်တော်အင်း

ဟူသော အင်းရေပြင်ကြီးများ ဝိုင်းရံပတ်ဝိုက်၍ နေသည်ကို တွေ့ကြရ၏၊ သို့ဖြစ်၍ "ဤနေရာသည် ဘူမိနက်သန် မြေမျိုးမှန်သော အရပ်ပေတည်း၊ (တောင်သမန်ရေချိုတွင်း)ဟူသော အတိတ်တဘောင်နှင့်လည်း ကိုက်ညီနေပြန်၏"၊ ဤသို့ ညှိနှိုင်းကြပြီးလျှင် နန်းမြို့နေရာ သတ်မှတ်ကာ ဗိသုကာတို့ဖြင့် ပန္နက်ရိုက်စေလေတော့သည်။

ယင်းခုနှစ်သက္ကရာဇ်ကား (၁၁၄၄)ခုနှစ် ဖြစ်၏၊ ထိုနှစ်တွင် မြို့တော်နှင့် နန်းသစ်ကို စတင်တည်ထောင်သည်၊ မြို့အမည်ကိုလည်း ရွေးချယ်ကြ၍ "အမရပူရ" ဟူ၍ မှည့်ကြ၏၊ ထို့ကြောင့် မြို့တည်ခုနှစ်ကို မှတ်မိလွယ်အောင် နေ့နံနှင့်လည်းကိုက်၊ ဝန်းကျင်ဗျူပွတ်နှင့်လည်း လိုက်အောင်–

"အင်းအိုင် ဝိုင်းလည်၊
မြို့ကြီးတည်၊
မြို့မည် အမရ"

ဟူ၍ မော်ကွန်းထိုးခဲ့ကြလေသည်။

နောင်သောအခါတွင် ကြက်သွန်ခင်းဆရာတော်ဘုရား၏ တောရကျောင်းတိုက်နေရာကို (အမရပူရမြို့အတွက် စခန်းချ၍ မင်္ဂလာယူရာအရပ်ဖြစ်သောကြောင့်) "မင်္ဂလာကျောင်းတိုက်"ဟူ၍ ပြောင်းလွဲခေါ်တွင်လာကြတော့သည်။ [ယခု အမရပူရမြို့၊ မင်္ဂလာတိုက်ဟောင်း နေရာပင် ဖြစ်တော့၏။]

ဤသို့လျှင် တစ်ချိန်က "အမရပူရမြို့သစ်"ဟူ၍ ပေါ်ပေါက်ခဲ့ဖူးသလို၊ ဤ"ဥယျာဉ်တော်ရွာ"နေရာသည်လည်း ထိုအမရပူရမြို့သစ်ကို စတင်တည်ထောင်သော ဘိုးတော်ဦးဝိုင်း၏ အပန်းဖြေရာ "မင်းဥယျာဉ်တော်သာ" ဖြစ်ခဲ့ဖူးလေသည်။

## အေးချမ်းတဲ့ တောရွာခလေး

ကလေးငယ်တို့ ဘာသာဘာဝ။ ။ မောင်လှဘော် ကလေး ပြေးနိုင် လွှားနိုင် ကစားနိုင်သော အရွယ်သို့ ရောက်လာသောအခါ သွက်လက်ချက်ချာနေ၏၊ တီတီတာတာလည်း ပြောတတ်လာသည်၊ ရုပ်ရည်သန့်ပြန့်၏၊ အသားက မဖြူမညို၊ အသားဝါ၊ မျက်လုံးမျက်ခုံး နှာတံ ပါးစပ်ပေါ် လွင်သည်၊ ယောကျ်ားပီသ၏၊ စူးရှသောမျက်လုံးဖြင့် ဇလေးနက်စွာ ကြည့်တတ်သည်။

အုပ်ထိန်းသူများက သင်ပေးလျှင် မှတ်မိလွယ်တတ်၏၊ ဆုံးမသည်ကို နာခံတတ်သည်၊ ဤအချက်မျှနှင့်ပင် အစ်မတွေ အစ်ကိုတွေက ကျေနပ်နေကြပြီး၊ ကြင်နာယုယ ချစ်ခင်ကြ၏။

မောင်လှဘော်ကလေး (၂)နှစ်သားအရွယ် ကျော်လွန်လာလျှင်ပင် ကိုယ့်အိမ်တွင်းမိသားစုနှင့်မျှမက ပတ်ဝန်းကျင် အိမ်နီးချင်းများသို့ပါ ခြေဆန့်လာတော့သည်။

အင်း=၁၊ အိုင်=၁၊ ဝိုင်း=၄၊ လည်=၄ "အမရပူရ"ဆိုသည်မှာ "မသေရတဲ့မြို့"၊ သို့မဟုတ် "နိဗ္ဗာန်မြို့"ဟု အဓိပ္ပာယ်ရသည်။

ဝန်းကျင်ကလေးငယ်တို့နှင့် အဖော်လုပ်တတ်လာတော့၏၊ လူ့သဘာဝအလေ့သည် အပေါင်းအစု အသိုက်အဝန်းနှင့် မွေ့ပျော်တတ်သည် မဟုတ်ပါလော။

ကလေးငယ်တို့ဘာသာဘာဝ စုမိကြလျှင် ပျော်တတ်ကြ၏၊ သူတို့ကား အပူအပင်မရှိ၊ ပူပင်ရမှန်းလည်း မသိကြ၊ အမြဲတမ်း လန်းဆန်း၍သာ နေတတ်ကြသည်၊ စိတ်ထား ဖြူစင်ကြ၏၊ ရိုးသား ဖြောင့်စင်းကြသည်၊ အပြစ်မရှိသော အရွယ်များပေတကား။

## အပူပင်ကင်း ပျော်ရွှင်ခြင်း

မောင်လှဘော်ကလေး (၃)နှစ်သားအရွယ် ရှိလာသောအခါ အပေါင်းအဖော်တွေ ပို၍ များလာသည်၊ ကစားဖော်တို့ဖြင့် မွေ့နေတတ်၏၊ နေ့အခါတွင် ရွာတွင်းမှ အရိပ်ကောင်းသော သစ်ပင်ကြီးများ အောက်တွင်လည်းကောင်း၊ ညအခါ လသာသာ ရွာလယ်လမ်းမပေါ် ထွက်၍လည်းကောင်း စုပေါင်း၍ ကစားတတ်ကြသည်။

တွတ်ထိုး၊ ကြိုးခုန်၊ ကြက်ခွပ်၊ စွန်ဖမ်း၊ ခွေးရူး လိုက်၊ ဘုတ်တလုပ်၊ အာလူးကောက်၊ ဖန်ခုန် မျိုးစုံအောင် ကစားတတ်ကြ၏၊ ပျော်လိုက်ရသည့် ဘဝ၊ ဖော်မပြနိုင်အောင် ဖြစ်ကြသည်။

ထိုအထဲတွင် တစ်ရံတစ်ခါ သား ရှင်ပြုပွဲကျင်းပ၍လည်း ကစားကြသောဟူ၏၊ အချို့က ပါးကွက်တွေ ကွက်၍ ရှင်လောင်း လုပ်ကြရသည်၊ အချို့က အလှူ့ ဒကာနှင့် အချို့မိန်းကလေးက အလှူ့အမ၊ သူတို့တွေက အပိုပါသော အဝတ်တို့ကို ခွေခေါက် သင်္ကန်းပရိက္ခရာ လုပ်၊ အိုးတိုခွက်စကို သပိတ်ပမာထားပြီး ခေါင်းပေါ် ရွက်၍ ခပ်တည်တည်နှင့် ရှင်လောင်းလှည့်လာကြ၏။

နောက်ပိုင်းက အိုးစည်ဒိုးပတ်အဖွဲ့သားတို့ကလည်း ပါးစပ်ဆိုင်းတီး၍ အမြိုင်အဆိုင် လိုက်လာကြသည်၊ ထိုအခါမျိုးတွင် မောင်လှဘော်ကလေးက (သူများမလုပ်ချင်သည့် နေရာ) ဘုန်းကြီး လုပ်သည့် ဘက်ကတာဝန်ယူရလေသော ဟူ၏၊ အလှူ့ဒကာ မလုပ်ရပေ၊ ရွာဦးကျောင်းဘုန်းကြီး လုပ်ကာ အကန့်တော့ခံရလေသည်။

ဤသို့လျှင် အတိတ်နှင့် နိမိတ်နှင့် လာခဲ့ရခြင်းဖြစ်၏၊ ကလေးတို့ဘဝကား အပူပင်ကင်း ပျော်ရွှင်ခြင်း အပြည့် ဖြစ်တော့သည်၊ အေးချမ်းတဲ့ တောရွာဓလေ့ ပျော်မွေ့ဖွယ် ကောင်းလှဘိခြင်း။

## အရွယ်ရောက်လျှင် ပညာသင်

မောင်လှဘော်ကလေးသည် ယခုအခါ (၄)နှစ်သား အရွယ်သို့တိုင် ရောက်လာလေပြီ၊ ပညာသင်ကြားရမည့် အရွယ် ဖြစ်၏၊ သို့ဖြစ်၍ သူ့ထက် ကြီးသော အစ်ကို အစ်မတို့နှင့်အတူ ကျောင်းသို့လိုက်ရန် မိဘများက စီမံကြတော့သည်၊ ဘယ်ကျောင်းသို့ လိုက်ရမည်နည်း၊ ဥယျာဉ်တော်ရွာထိပ်က အစိုးရ မူလတန်းကျောင်း ဖြစ်၏၊ မိဘများ ကိုယ်တိုင် ကျောင်းအုပ်ဆရာကြီး (ဦးစံရ)ထံ လာရောက်အပ်နှံကြလေသည်။

မူလတန်းကျောင်းသားကြီးအဖြစ်နှင့် လွယ်အိတ်

ကြီး လွယ်ပြီး ကျောင်းကပြန်လာသည်ကို သူ့မိဘများက ကြည့်၍ ပီတိဖြစ်နေကြသော ဟူ၏၊ ဤသို့လျှင် ကျောင်းသို့ လိုက်၍ စာသင်ရသောအခါ သူ့ဘဝမှာ ကစားရုံသာမက တာဝန်တစ်ခု ပိုလာသည်ဟု သိလိုက်ရတော့သည်။

ထိုတာဝန်ကလေးများကို ဆောင်ရွက်ရ ကြိုးစားရမည်ဟု သိလာ၏၊ သိသည်နှင့်အမျှ ဆောင်ရွက်တတ် လုပ်ကိုင်တတ်လာသည်၊ အသိဉာဏ်တို့လည်း ပို၍ ကျယ်ဝန်းလာ၏၊ မိတ်ဆွေသူငယ်ချင်းတို့လည်း ပို၍ များလာသည်၊ အထူးအားဖြင့် မောင်တင်၊ မောင်ညွန့်စိန်၊ မောင်ထွန်းလှနှင့် မောင်စိန်တို့သည် အရင်းနှီးဆုံး အခင်မင်ဆုံး သူငယ်ချင်းများ ဖြစ်ကြ၏။

မောင်လုဘော်ကလေးသည် စာကြိုးစားသူ ဖြစ်သည်၊ သူတို့အတန်းတွင် ဆရာကြီး ဦးစံရ၏ ချီးမွမ်းခံရသူ ဖြစ်သည်၊ ပေးလိုက်သော တာဝန်ကို ကျေပွန်အောင် ဆောင်ရွက်တတ်၏၊ ကျက်စရာ တွက်စရာတို့ကို အကြွေး မချန်ခဲ့ပေ၊ ထို့ကြောင့် တစ်နှစ် တစ်တန်း မှန်မှန် အောင်လာခဲ့သည်။

ဤနည်းအားဖြင့် တရွေ့ရွေ့ လာခဲ့ရာ သက္ကရာဇ် ၁၂၇၀-ခုနှစ် ကဆုန်လ (မေလ)သို့ ရောက်လာခဲ့၏၊ ထိုအချိန်မှာ အသက်က (၈)နှစ် ပြည့်၍ (၉)နှစ်တွင်းသို့ ရောက်နေချေပြီ၊ အတန်းအား ဖြင့်လည်း ၄-တန်း အောင်ပြီးလေပြီ၊ ကျောင်းတွေ ပြန်ဖွင့်လို့ ကျောင်း ပြန်တက်ရလျှင် ပဥ္စမတန်း ကျောင်းသားကြီး ဖြစ်တော့မည်။

# ရှင်ပြုမင်္ဂလာ ချိန်ရောက်လာ

အရွယ်အားဖြင့် ရှင်ပြုချိန်လည်း ရောက်လာပြီ၊ သို့ဖြစ်၍ မိဘတို့က ရှင်ပြုဖို့ရန် စီမံကြရတော့သည်၊ ဘယ်မှာ ရှင်ပြုကြမည်နည်း၊ မိမိတို့ ကိုးကွယ်နေကျ ထွေးပင်တောရကျောင်း ဆရာတော်ကြီးထံမှာ ပြုကြမည်။

"ထွေးပင်တောရကျောင်း"ဆိုသည်မှာ ဥယျာဉ်တော်ရွာ၏ အနောက်မြောက်ဘက်တွင် ရှိ၏၊ မောင်လုဘော်ကလေးတို့ မိဘများ ဘိုးစဉ်ဘောင်ဆက်က ကိုးကွယ်လာခဲ့သော တောရကျောင်း ဖြစ်သည်၊ ဆရာတော် ဘုရားကြီး ဘွဲ့တော်မှာ "ဦးဇာဂရ" ဖြစ်၏၊ သက်တော် ရင့်ညောင်းတော်မူလာပြီ၊ တောရကျောင်းသည်လည်း ရွာနှင့် ခပ်လှမ်းလှမ်း ဖြစ်၍ အေးချမ်းတိတ်ဆိတ်လှပါဘိ-။

နွေကျောင်းပိတ်ချိန်တွင် ဦးအောင်ထွန်း+ဒေါ်ရွှေအိပ်တို့၏ ဝင်းခြံကြီးအတွင်းမှာ မဏ္ဍပ်ကြီး ထိုး၍ ဟိုးလေးတကျော် သားရှင်ပြုပွဲ အလှူကြီး ပေးသည်၊ အညာဒေသဓလေ့ထုံးစံအတိုင်း တစ်ရွာလုံး "ဖျိုး"ဟစ် ဖိတ်မံပြီး မီးခိုးတိတ် ကျွေးမွေးကြလေ၏၊ ထို့ပြင် ရွာအတွင်းမှာ အိုးစည်ဗုံမောင်းတို့ဖြင့် ရှင်လောင်းကိုလည်း လှည့်ခဲ့သည်၊ ဒိုးပတ်သံတို့လည်း လိုင်ခဲ့ပြီ၊ "ရွှဲ"လိုက်သံတို့လည်း မြိုင်ခဲ့ပြီ။ ပဲ့တင်ထပ်ချင်းပါ ဆိုင်ခဲ့ပြီ။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ရှင်လောင်း ကျောင်းတော်သို့ပို့

ထိုမှနောက်၌ မိတ် သင်္ဂဟ အပေါင်းတို့က သောင်းသောင်းဖြဖြ အိုးစည်ဗုံမောင်းတို့ဖြင့် လိုက်ပါကြပြီးလျှင် ဝွေးပင်တောရကျောင်းသို့ ရှင်လောင်းကို ပို့ဆောင်ကြလေ၏၊ ဆရာတော်ကြီးအား ကန်တော့၍ အပ်နှံကြလေသည်။

ဆရာတော်ကြီးက မောင်လှဘော်ကလေးကို ဆံချ–ခေါင်းတုံးဖို့ရန် ခွင့်ပြုတော်မူ၏၊ ထိုအခါ ဆရာတော်ကြီး၏ စီစဉ်ပေးချက်အရ "တစပဉ္စက ကမ္မဋ္ဌာန်း" ကို ရွတ်ဆိုနှလုံးသွင်းရင်း ခေါင်းရိတ်ခံရလေသည်၊ ရှေးက အစဉ်အလာ တစ်ရပ်ပင် ဖြစ်၏၊ ထိုအချိန်တွင် မိဘများ၊ အစ်ကို အစ်မများက ပိတ်ဖြူပိုင်းဖြင့် အမြတ်တနိုး ဆံခံကြလေသည်။

ထို့နောက် ဆရာတော်ကြီးက "သကလ ဝဋ္ဋ" ဆိုစေကာ သင်္ကန်းဝတ်ပေး၊ သရဏဂုံ သီလ ပေး၍ ရှင်သာမဏေကလေး ပြုပေးလိုက်တော့၏၊ ဘဝ တစ်ကွေ့ ပြောင်းလွဲသွားတော့သည်။



## ဝိမလ၏ အဓိပ္ပာယ် ရှင်းပြခြင်း

ရှင်သာမဏေ ပြုပြီးနောက် ခေါ်ဝေါ်ရာ၌ လွယ်ကူဖို့ရာ ဘွဲ့အမည်ကိုပါ ဆရာတော်ဘုရားကြီးက မှည့်ပေးတော်မူ၏၊ ဗုဒ္ဓဟူးသားဖြစ်၍ နေ့သင့် နံလိုက်ဖြစ်အောင်ရယ်၊ ဘွဲ့အမည်၏ အဓိပ္ပာယ်ရှိအောင်ရယ် ရွေး၍ (ဝိမလ)ဟူ၍ အမည်ပေးတော်မူလိုက်သည်၊ ပြီးလျှင် ကိုရင်သစ်ကလေးနှင့် နံဘေးမှ ဝိုင်းအုံကြည့်နေကြသော ပရိသတ်တို့အား ဆရာတော်ဘုရားကြီးက ဝိမလ၏ အဓိပ္ပာယ်ကိုပါ ရှင်းပြနေတော်မူပြန်၏–

> "ဝိ"ဆိုတာက "မရှိ"လို့ အဓိပ္ပာယ်ရတယ်ကွယ့် "မလ" ဆိုတာက "အညစ်အကြေး"၊ အဲဒီ ၂–ပုဒ်ပေါင်းလိုက်တော့ "မရှိ+အညစ်အကြေး" "အညစ်အကြေး+မရှိ"လို့ အဓိပ္ပာယ် ထွက်တာပေါ့ကွယ်၊ "အကုသိုလ်အညစ်အကြေး မရှိ" လို့ ဆိုလိုတယ်၊ "အညစ်အကြေးမရှိ"ဆိုတော့ အဖြောင့်ပြောရရင် "ဖြူစင်သန့်ရှင်းတာပေါ့ကွယ်"

ဟူ၍ ဆရာတော်ဘုရားကြီးက စကားကို အဆုံးသတ်တော်မူလိုက်သည်၊ စောစောပိုင်းက သင်္ကန်းဝတ်ပေး၊ သရဏဂုံ သီလပေးရခြင်းနှင့် ယခုလည်း အဓိပ္ပာယ်ရှင်းပြပေးရခြင်းတို့အတွက် အနည်းငယ် ပင်ပန်းနွမ်းနယ် သွားတော်မူဟန် ရှိ၏၊ သို့ဖြစ်၍ အနီးရှိ သောက်ရေတံခါင်းမှ ငုံ့ကာ ရေအေးအေးတစ်ခွက် ဘုဉ်းပေးတော်မူလိုက်သည်။

## ဝရှိလို့ ဝိလုပ်တော့မယ် ထင်တယ်

ဆရာတော်ဘုရားကြီးက အထက်ပါအတိုင်း (ဝိမလ)၏ အဓိပ္ပာယ်ကို ထုတ်ဖော်ရှင်းလင်းပေးလိုက်သော်လည်း အခြားသော ကိုရင်ကလေးတို့က တစ်မျိုး အဓိပ္ပာယ် ပေါက်ကြ၏၊ မိမိတို့ နေရာသို့ ပြန်ရောက်ကြသောအခါ ကိုရင် ဝိမလကလေးကို ဝိုင်း၍ စကားပြောကြသည်၊ ကိုရင်အသစ်ကလေး ဖြစ်၍ ချစ်စနိုးစကြ၏၊ သူတို့စကြ ပြောကြပုံမှာ–

> "ဟေ့… အရပ်ထဲမှာ ပြောကြတာက ဝမရှိဘဲနဲ့ ဝိမလုပ်နဲ့တဲ့၊ ဟော… အခု ကိုရင်ဝိမလတို့ ကတော့ ဝရှိနေပြီ၊ ဝိလုပ်တော့မယ် ထင်တယ်"

ဟူ၍ ဖြစ်သတည်း၊ ကိုရင်ကလေးများ ကျောင်းသားကလေးများသည် ယနေ့အထူးပျော်နေကြ၏၊ အဘယ့်ကြောင့်ဆိုသော် ကိုရင်အသစ်တစ်ပါး တိုးလာသောကြောင့် ဖြစ်သည်။

ဤသို့လျှင် အခြားသော ကိုရင် ကျောင်းသားတို့က ကိုရင် ဝိမလကလေး၏ (ဝိမလ) အဓိပ္ပာယ်ကို ပုံဖော်ကြသော်လည်း လေးလေး နက်နက် သိ၍ကား မဟုတ်ချေ၊ သူတို့ သဘောဉာဏ်သက်သလို ကြားဖူးနားဝ ရှိသလို (ဝိမလ)ကလေး၏အဓိပ္ပာယ်ကို ဆိုနေကြခြင်း ဖြစ်လေသည်။

သူတို့ အဓိပ္ပာယ် ဖော်ကြသလို ကိုရင် ဝိမလကလေးကို အတိုကောက်အနေဖြင့် "ကိုရင် ဝိ"လို့ ဝိုင်း၍ ခေါ်ကြ၏၊ သူတို့ ခေါ်ကြသလိုပင် ကိုရင်ဝိမလကလေးသည်လည်း အကယ်ပင် နောင်တစ်ချိန်တွင် လောကတစ်ခွင်ဝယ် ထင်ထင်ပေါ်ပေါ် "ဝိ"လုပ်လေမည်လော မပြောတတ်သေးချေ။

## ရှင်ပြုရာ၌ စဉ်လာရေးထုံး

"ရှင်သာမဏေ ပြုရတော့မည်" ဆိုကတည်းက ကြိုတင် ကျက်မှတ်ရမည့် စာတို့ကို ဝွေးပင်တောရ ဆရာတော်ကြီးက စီစဉ်ပေးခဲ့၏၊ ခေါင်းရိတ်ဆံချရင်း နှလုံးသွင်းရန် "တစပဉ္စက ကမ္မဋ္ဌာန်း"ဟု ခေါ်ရသော ၃၂–ကောဋ္ဌာသ၏ ရှေ့ပိုင်း(၅)ခုကို ကျက်ရသည်၊ ပါဠိလိုတော့–

"အတ္ထိ ဣမသ္မိံ ကာယေ ကေသာ–
လောမာ–နခါ–ဒန္တာ–တစော"

"ငါ၏ကိုယ်မှာ ဆံပင်၊ မွေးညင်း၊ ခြေသည်း လက်သည်း၊ သွား၊ အရေတို့သာ ရှိကြပါသည် တကား..."

ပါဠိလိုသက်သက်ဖြစ်စေ၊ မြန်မာလိုသက်သက်ဖြစ်စေ၊ ပါဠိရော မြန်မာပါ (၂)မျိုးရောရှ၍ဖြစ်စေ ရွတ်ဆို နှလုံးသွင်းနိုင်၏၊ ခေါင်းရိတ်ဆံချခံရင်း နှလုံးသွင်းရသည်။

ရှေးကောင်းမှု ပါရမီဓာတ်ခံရင့်သန်သူတို့ဆိုလျှင် ဤသို့ဆင်ခြင်၍ ခေါင်းရိတ်ဆံချခံအပြီးမှာ တရားထူးများ ရ– ရသွားတတ်ကြသည်ဟူ၏၊ ဤနည်းအားဖြင့် တရားထူးရသူဦးရေ မနည်းတော့ချေ၊ သို့ဖြစ်၍ ဤသို့ စီစဉ်ပေးရခြင်း ဖြစ်သည်ဟု အဋ္ဌကထာများ၌ ဆိုသည်။

## ဘဝအတွက် ရည်မှန်းချက်

ထို့ပြင်လည်း သာမဏေလောင်းသည် သင်္ကန်း ကပ်၊ သင်္ကန်းတောင်းကိစ္စများ ပြုလုပ်သောအခါတွင် ပါဠိဖြင့် ဆိုဖို့ရာ–

"သကလ ဝဋ္ဋ ဒုက္ခ နိဿရဏ နိဗ္ဗာနဿ သစ္ဆိ ကရဏတ္ထာယ = အလုံးစုံသော သံသရာ ဝဋ် ဆင်းရဲမှ ထွက်မြောက်ရာဖြစ်သော နိဗ္ဗာန်ကို မျက်မှောက် ပြုပါရခြင်း အကျိုးငှာ"

စသော စာတို့ကိုလည်း ကျက်ခဲ့ရ၏၊ မောင်လှဘော် ကလေးက စာကျက်ရင်း "ဒါတွေက ဘာအဓိပ္ပာယ်တွေ လဲ"ဟု စဉ်းစားနေမိပါသတတ်။

အမှန်မှာ ရှေးဆရာတော်ကြီးတွေက သာသနာ ထဲ ဝင်လာသူတိုင်းအတွက် ဘဝရည်မှန်းချက် ပျောက် ပျက် မသွားစေရန် စီမံထားကြခြင်း ဖြစ်လေသည်။

ထို့နောက် သာမဏေဘဝမှာ အမြဲတမ်း ဆင်ခြင် ရမည့် ပစ္စဝေက္ခဏာ ၄–ပုဒ် (ပုတီးစိပ် ၄–ပုဒ်)နှင့် ကျင့်ကြံလိုက်နာရမည့် သာမဏေကျင့်ဝတ်(၁၀)ပါးကို လည်း သင်ကြားရသည်။

အစိုးရမူလတန်းကျောင်းမှာ နေခဲ့ရ သင်ခဲ့ရတုန်း က ပါဠိစာတွေကို မတွေ့ခဲ့ရဖူးချေ၊ ယခုမှ တွေ့ရသည် ဖြစ်၍ ရှေ့က တိုင်ပေးသည်ကို ခပ်စမ်းစမ်း လိုက်ဆိုနေ ရသည်။

### တစ်ဘဝသာသနာ

## ပဋိသန္ဓေနေခြင်း တစ်မျိုးဖြစ်

ယခုအခါတွင်ကား (မောင်လှဘော်ကလေး တစ်ဖြစ်လဲ) ကိုရင် ဝိမလကလေးသည် ဝွေးပင်တောရ ဆရာတော်ကြီး၏ ထံပါးမှာ နီးနီးကပ်ကပ် နေခွင့်ရ၍ ဆရာတော်ကြီး သင်ပေးသမျှကိုလည်း ကျက်မှတ်နေရ လေပြီ။

ဆရာတော်ကြီးက အမိန့်ရှိ၏ -

"သာမဏေ ဖြစ်လာပြီဆိုမှဖြင့် မသင်မနေရ၊ မကျင့် မနေရတဲ့ ကျင့်ဝတ်တွေဆိုတာ ရှိတယ်ကွယ့်၊ အဲဒါတွေ က–

| | | |
|---|---|---|
| (က) | သာမဏေသီလ | ၁၀ ပါး |
| (ခ) | လိင် | ၁၀ ပါး |
| (ဂ) | ဒဏ် | ၁၀ ပါး |
| (ဃ) | သေခိယကျင့်ဝတ် | ၇၅ ပါး |
| (င) | စုဒ္ဒသ ခန္ဓကဝတ် | ၁၄ ပါး |
| | စုစုပေါင်း = | ၁၁၉ ပါးတဲ့ |

အဲဒါတွေက သင်လဲ သင်ရမှာ၊ ကျင့်လဲကျင့်ရမှာ၊ ကိုရင်ဘဝဆိုတာ လိုက်ကို လိုက်နာရမှာ..."

ဆရာတော်ကြီး သင်ပြပေးသမျှ ကျက်မှတ်ရ၏၊ လိုက်နာရ၏၊ အစတွင် ခက်သလိုလို ရှိသော်လည်း အရှိန်ရလာသောအခါ မခက်ပါတော့ချေ၊ အနေအထား တို့သည် အကုန်ပြောင်းလွဲခဲ့လေပြီ၊ ဝတ်ရသောအဝတ်၊ သင်ရသောစာ၊ စိတ်နေသဘောထားတို့ပါ အကုန်လုံး ပြောင်းလဲခဲ့ပြီကော–၊ ထို့ကြောင့် အဋ္ဌကထာဆရာက ဆိုခြင်း ဖြစ်ပေလိမ့်မည်။

*"ပဗ္ဗဇ္ဇာ ဟောသာ ပဋိသန္ဓိဂ္ဂဟဏ သဒိသာ = ရှင်သာမဏေ ပြုတယ်–ဆိုတာ သူတော်ကောင်းတို့ အိမ်၌ ပဋိသန္ဓေနေရသည်နှင့် တူပါ သတဲ့"

## ဗုဒ္ဓဘာသာယဉ်ကျေးမှု အခြေခံ

ထို့နောက် ဆရာတော်ကြီးက ဗုဒ္ဓဘာသာဝင် သားသမီးတို့အတွက် လိမ္မာရေးခြားဖြစ်ဖို့ရာ မင်္ဂလသုတ်ကို သင်ပေးပါလေသည်။ ထိုအခါ ပါဠိရွတ်ဖတ်မှုတွင် ပို၍ ရဲလာ၏၊ ဆရာတော်ကြီးက အနက်အဓိပ္ပာယ်ပါ ရှင်းပြပေးတော်မူသည်၊ ပါဠိအရွတ်အဖတ် အဖြတ်အရပ် မှန်ကန်အောင် ဆရာတော်ကြီး ကိုယ်တိုင် ကြောင့်ကြစိုက်တော်မူ၏။

ရှေးခေတ် အစဉ်အလာကပင် ဘုန်းတော်ကြီးကျောင်းများ၌ ကလေးသူငယ်တိုင်း မင်္ဂလသုတ်ကို သင်ကြားကြရ၏၊ မင်္ဂလာတရားတွေကို သိရအောင်ရယ်၊ သိပြီးလျှင် မင်္ဂလာတရားအတိုင်း ကျင့်ကြံကြအောင်ရယ် ရှေးဆရာတော်ကြီး များက ရည်ရွယ်တော်မူကြခြင်း ဖြစ်သည်။

ဗုဒ္ဓစာပေတို့၌ ယဉ်ကျေးမှုတွေ အပြည့်ပါ၏၊ သူငယ်တန်းအဆင့်မှစ၍ အထက်ဆုံး "မြင့်ပေ့"ဆိုတဲ့ အတန်းအထိ (လူငယ်– လူလတ်– လူကြီးတို့အတွက်) အပြည့်အစုံ ရှိသည်၊ ရှေးခေတ်က ယင်းဗုဒ္ဓစာပေယဉ်ကျေးမှုတို့ဖြင့်ပင် တိုင်းပြည်ကို အုပ်ချုပ်နိုင်ခဲ့ကြ၏၊ အုပ်ချုပ်လာခဲ့ကြသည်။

ယင်းတို့ အနက်မှ သူငယ်တန်းများအတွက် ဘာသာပြန်၍ လင်္ကာဖြင့် သီကုံးထားသော ဗုဒ္ဓယဉ်ကျေးမှု စာပေတွေ များစွာ ရှိခဲ့ကြ၏။

ပျ ပျ ငှါငှါ၊ လူတကာကို၊

သာသာချိုချို၊ ချစ်ဖွယ်ဆို၍၊

* သဠာယတနသံ ၊ ၄၊ ၇၉

**မိုးကုတ်ဆရာတော်ဘုရားကြီး၏**

စိစိပြည်ပြည်၊ ကျင့်မှုနည်ဖြင့်၊
လည်လည်ပတ်ပတ်၊ လောကဝတ်၌၊
ပြတ်ပြတ်သားသား၊ အပြားပြားလျှင်၊
မှုများခပ်သိမ်း၊ ဆောင်တိုင်းငြိမ်းလိမ့်။
(လောကသာရပျို့)

ဤသို့သော ကဗျာမျိုးကိုလည်း ဝွေးပင်တောရ ဆရာတော်ကြီးက ယူ၍ ကိုရင်ငယ်တို့အား သင်ကြားပေးပါသတတ်၊ အဓိပ္ပာယ်လည်း ပေါ်လွင်–လိုက်နာချင်ဖွယ်လည်း ကောင်းလှပါသည်။

## နှလုံးသားကို နူးညံ့စေနိုင်

ဗုဒ္ဓစာပေတို့ကား လူသားတိုင်းကိုပင် သိမ်မွေ့စေ၏၊ နူးညံ့စေ၏၊ ယဉ်ကျေးစေ၏၊ လိမ္မာစေ၏၊ အသိဉာဏ် ပွင့်လင်းစေ၏၊ လူ့လောကတစ်ခွင်ကို ဤပညာရပ်ဖြင့်ပင် အဆင့်မီမီ ထိန်းသိမ်းနိုင်သည်။

ရှေးမြန်မာမင်းများလက်ထက်က သာမန် ဆင်းရဲသားမှစ၍ ကုန်သည် ပွဲစား တရားသူကြီး အမတ်ကလေး အမတ်ကြီး၊ အပြင်ဝန် အတွင်းဝန်၊ မင်းညီမင်းသား၊ ရှင်ဘုရင်အထိ ဘုန်းကြီးကျောင်းသားများချည်း၊ ဘုန်းကြီးကျောင်းထွက်တွေချည်းသာ ဖြစ်ကြသည် မဟုတ်ပါလော–။

ပါဠိဖတ်ကြားမှု အရှိန်ရလာသောအခါ ပရိတ်ကြီးကိုပါ တစ်ဆင့်တက်၍ သင်ပေးပြန်၏၊ အဖြတ်–အရပ် မှန်ကန်ဖို့၊ ဌာန်ကရိုဏ်းကျကျ ရွတ်တတ်ဖို့ သင်ပေးတော်မူသည်၊ ထို့နောက် နမက္ကာရ၊ ရတနာရွှေချိုင့်၊ အတွင်း အောင်ခြင်း၊ အပြင် အောင်ခြင်း၊ လောကနီတိတို့ကိုကား ဖတ်စာအဖြစ် သဘောထား၍ အဖတ်ခိုင်းသည်။

ယင်းတို့ကား လွယ်လည်းလွယ်ကူ၏၊ အဓိပ္ပာယ်လည်း ပေါ်လွင်လှပါသည်၊ ဤဗုဒ္ဓစာပေတို့ကို သင်ကြားပေးခြင်းအားဖြင့် နေ့စဉ် ဆုံးမနေသလိုလည်း ဖြစ်သည်–ဟု ဆရာတော်ကြီးက ယုံကြည်ထား၏။

## ပိဋကတ် အခြေခံ သင်ရိုးစာ

ကိုရင် ဝိမလကလေး၏ ဉာဏ်ရည်ဉာဏ်စကို ဆရာတော်ကြီးက အကဲခတ်မိနေလေပြီ၊ စနစ်တကျသာ သင်ပြပေးရလျှင် "သာသနာတော်မှာ အကျိုးများမည့် သူငယ်ပဲ"ဟု တစ်ထစ်ချ သိနေလေပြီ။

သို့ဖြစ်၍ သာသနာ့ဘောင်မှာ နေသူတို့၏ "အခြေခံ သင်ရိုးစာ"ဟု ခေါ်ရသော သဒ္ဒါနှင့် သင်္ဂြိုဟ်ကို သင်ဖို့ လိုအပ်ပြီ၊ ဤသို့ ချိန်ဆ၍ ပါဠိသက်သက်မျှကို စတင် သင်ပြပေးတော်မူတော့သည်။

ကိုရင် ဝိမလကလေး၏ မိဘတို့ကား ထုံးစံအတိုင်း "တစ်ဝါတွင်းမျှလောက်သာ ဝတ်စေမည်"ဟု ရည်မှန်းထားကြ၏၊ သို့သော် ဝွေးပင်တောရ ဆရာတော်ကြီးကမူ တစ်သက်လုံးအတွက် ပညာရေး(မှု) ချ၍ သင်ပြနေလေပြီ။

ကိုရင်ဝိမလ ကလေးကလည်း ဝွေးပင်တောရကျောင်း၌ အခြားသော ကိုရင်အဖော်အပေါင်းတို့နှင့် အတူ စာကျက်ရသည်မှာ ပျော်မွေ့နေလေပြီ၊ သူတို့အသံကလေးများသည် တောကျောင်းတစ်ခုလုံး ဖုံးနေတတ်၏၊ ဆူညံနေတတ်၏၊ တစ်ခါတစ်ရံတွင်–

"အတ္တော အက္ခရသညာတော၊
အက္ခရာပါဒယော ဧကစတ္တာလီသံ"

စသည်ဖြင့် စာစာသံနေတတ်သည်၊ တစ်ပါးနှင့် တစ်ပါး အပြိုင်အဆိုင် ကျက်နေကြ၏၊ "သူ့ထက် ကိုယ်က ဦးစွာ ရအောင် ကျက်မည်" ဟူသော စိတ်ဓာတ်ဖြင့် လန်းဆတ်နေကြသည်၊ ဆရာတော်ကြီးက သူတို့လေး တွေရဲ့အသံတို့ကို ကြားရတိုင်း ပီတိလှိုင်းထနေဟန် ရှိ၏၊ တစ်ခါတစ်ရံတွင်မူ–

"သမ္မာ သမ္ဗုဒ္ဓ မတုလံ၊
သ သဒ္ဓမ္မ ဂဏုတ္တမံ။
အဘိဝါဒိယ ဘာသိဿံ၊
အဘိဓမ္မတ္ထ သင်္ဂဟံ"

ဟူ၍ ဆူညံစွာ အော်ဟစ်ကျက်မှတ်နေကြပြန်၏၊ ဤ အရွယ်တို့ကား ဘာမျှ အပို မစဉ်းစားကြ၊ ဆရာသမား ခိုင်းသည့်အတိုင်း ကျက်ဆိုလျှင် ကျက်၊ တွက်ဆိုလျှင် တွက်၊ အံဆိုလျှင် အံ၊ ပြန်ဆိုလျှင် ဒိုးဒိုးဒေါက်ဒေါက် ရွတ်အံပြလိုက်ရုံသာ ဖြစ်သည်၊ အပူအပင် မရှိ၊ ပရိယာယ် မာယာလည်း မထား။

## ဓာတ်တူချင်းသာ ပေါင်းဖွဲ့တတ်

ယခုအခါ သီတင်းကျွတ်၍ ကိုရင်ဝိမလ (၁)ဝါ ရလေပြီ၊ သို့သော်လည်း လူဝတ်လဲဖို့ ကိုရင် စိတ်မကူး၊ သာသနာမှာ ပျော်ပိုက်နေလေပြီ၊ မိဘတို့ကလည်း "ကိုရင် လူထွက်ခဲ့ပါ၊ ရှေ့ဆက်အတန်းတွေ တက်ရ အောင်"ဟု မြှူဆွယ်မှု မပြုရက်၊ သူ၏ မွန်မြတ်သော ဘဝကလေးကို မဖျက်ဆီးလိုကြပါ။

ယခုအခါ ကိုရင်ဝိမလကလေးကလည်း ဝွေးပင် တောရ ဆရာတော်ကြီးကိုပင် ဖခင်ကြီးသဖွယ် သမုဒယ တွယ်၍ နေလေပြီ။

ယခု သင်္ဂြိုဟ်ပါဠိတွေကိုလည်း တော်တော် များများ ရနေပြီ၊ ကုန်ခါနီးနေပြီ၊ သဒ္ဒါကြီးသုတ်စဉ်တွေ ကိုလည်း တစ်ဝက်ကျော်ကျော် ကျက်မိနေပြီ၊ "မကြာမီ အနက်ပါ တက်ပေးမည်"ဟု ဆရာတော်ကြီးက အမိန့် ရှိ၍ ကြိုတင်မျှော်မှန်း ဝမ်းသာနေကြရသည်။

ဆရာတော်ကြီးက ကိုရင်ကလေးကို သာသနာ့ တော်ထဲ ဆွဲမှန်းမသိ ဆွဲသွင်းနေ၏၊ ကိုရင်ကလေးက လည်း လိုက်မှန်းမသိ လိုက်ပါနေမိချေပြီ၊ အမှန်ကတော့ ဓာတ်ချင်းတူ၍သာ ကပ်လိုက်လာနေခြင်း ဖြစ်တော့ သည်။

ဤသဘောကို ရည်ရွယ်တော်မူ၍ ဘုရားရှင် ကိုယ်တော်မြတ်ကြီးက ဟောတော်မူသည်–

*"ဓာတုသော ဘိက္ခဝေ သတ္တာ သံသန္ဒန္တိ
သမေန္တိ = လောကကြီးအတွင်းမှာ ပုဂ္ဂိုလ်
သတ္တဝါဟူသမျှတို့သည် ဓာတ်တူချင်းသာ
ပေါင်းဖွဲ့တတ်ကြကုန်၏"

အဆင့်အတန်းနိမ့်တဲ့သူက နိမ့်တဲ့သူချင်း ပေါင်း သင်းတတ်ကြ၏၊ စီးပွား ဥစ္စာ ပညာ အမျိုးအနွယ် အဆင့်အတန်းမြင့်တဲ့သူတို့ကလည်း မြင့်တဲ့သူချင်းပင် ပေါင်းသင်းတတ်ကြလေသည်။

ယခုလည်း သူတော်ကောင်းကိုရင်ကလေးက သူတော်ကောင်း မထေရ်ကြီးကို ဆည်းကပ်ပေါင်းဖွဲ့မိ လေပြီ။

---

* နိဒါနဝဂ္ဂသံယုတ်ပါဠိ–၃၇၅

## ဝတ်ကြီး ဝတ်ငယ် အသွယ်သွယ်

ကိုရင်ဝိမလကလေးမှာ ယခု(၉)နှစ်သားအရွယ် ငယ်လှသေးသဖြင့် အနာဂတ်အတွက် သူ့ဘာသာသူ မဝေဖန်တတ်သေးပါ၊ သို့ရာတွင် ဆရာတော်ကြီး၏ စီမံချက်အရ သာသနာတော်၌ ဘဝအမြစ်တွယ်စပြုနေချေပြီ–၊ သဒ္ဓါတရားတွေလည်း တက်နေပြီ၊ သာမဏေတို့ ကျင့်ဝတ်ကိုလည်း ပြည့်စုံအောင် ကျင့်တတ်နေလေပြီ။

"ညီညာထကြွ၊ ဆုံးမနာယူ၊
လာမှုကြိုဆီး၊ ထံနီးလုပ်ကျွေး၊
သင်တွေးအံရွတ်၊ တပည့်ဝတ်၊
မချွတ်ငါးခုသာ"

ဟူသော ဝတ်ကြီး ဝတ်ငယ်တို့ကိုလည်း ပြုတတ်နေလေပြီ၊ သင်ပြပို့ချပေးသောစာတို့ကိုလည်း တာဝန် ကျေအောင် ဆောင်နိုင်နေ၏၊ ဆရာ့ဝတ်တို့ကိုလည်း မချွတ်အောင် နေ့စဉ် ဖြည့်တတ်နေလေပြီ။

မနက်ပိုင်းနှင့် နေ့လယ်ပိုင်းတို့တွင် ဆရာတော်ကြီးထံမှာ စာတက်၊ ညနေပိုင်းတွင် နှုတ်ငုံ ရအောင် စာကျက်၊ ထို့နောက်ပိုင်းတွင် ဘုရားပန်းကပ်၊ ရေကပ်၊ ကျောင်းတလင်းပြင် တံမြက်လှည်း၊ အဖော်တွေနဲ့ အမှိုက်ကျုံး၊ နေ့စဉ်နေ့တိုင်း တပြုံးပြုံး–။

နောက်ဆုံးတွင် တစ်နေ့လုံး တမြို့မြို့ ဝါး၍ ထွေးထားသော ဆရာတော်ကြီး၏ ကွမ်းထွေးခံ၊ မြေဖြင့် ပြုလုပ်ထားသော လည်ပင်းရှည် ကွမ်းထွေးခံကြီးကို နေ့စဉ် မှန်မှန် ဆေးပေးသည်။

"ကွမ်းနံ့ကလေးက တသင်းသင်း၊
သူ့တာ– ငါ့တာ ခုံမငြင်း၊
ဆေးရသည်မှာလည်း ပျော်ဘိခြင်း"

## အဘိဓမ္မာနယ်ပယ်သို့ ခြေချခြင်း

ယခုနှစ် ဆောင်းတွင်း ဒီဇင်ဘာလ အကုန်တွင် ကိုရင်ဝိမလကလေးမှာ (၉)နှစ်ပြည့်၍ (၁၀)နှစ်တွင်းသို့ ဝင်လာသည်၊ သင်္ဂြိုဟ်ပါဠိ ၉–ပိုင်းလည်း ဒိုင်းဒိုင်းပြေး ကြေညက်အောင် ရရှိနေပြီ၊ သို့ဖြစ်၍ ဆရာတော်ကြီးက အခြားသော ကိုရင်အဖော်တို့နှင့်အတူ တစ်ဆင့်တက်၍ အနက်ပါ ချပို့ပေးလိုက်ပြီ၊ ကိုရင်ဝိမလကလေး စိတ်ထဲမှာ–

"ဩော်... အနက်ပါ တက်လိုက်မှ အဓိပ္ပာယ်က ပေါ်လာတော့တာကိုး၊ ပရမတ္ထတရား ၄–ပါး တဲ့၊ စိတ်– စေတသိက်– ရုပ်– နိဗ္ဗာန်ဆိုပါ့လား၊ တို့ဘွားဘွားကြီး ည ဘုရားဝတ်တက်ပြီးတိုင်း တောင်းတဲ့ နိဗ္ဗာန်ဟာ ဒါ ဖြစ်မှာပဲ..."

ဟူ၍ တွေးနေမိပါသတတ်၊ ဤသို့ အဓိပ္ပာယ် ကလေးတွေ သိရသောအခါ ပို၍ ပျော်စရာ ကောင်းလာတော့သည် ဟူ၏၊ နောက်နေ့ နောက်နေ့များတွင် စိတ်ဝင်စား စရာတွေ ထပ်မံ၍ ပါလာပြန်သည်၊ ဆရာတော်ကြီးက ရှင်းပြ၏–

## တစ်ဘဝသာသနာ

## ပရမတ္ထ သဘောတရားများ

၁။ “စိတ်”ဆိုတာ အာရုံကို သိခြင်းသဘောပဲကွယ့်၊ “သိခြင်း”ဆိုတာကလဲ အာရုံကို ရအောင် ယူနိုင်တာကို ပြောတာပါပဲ။

၂။ “စေတသိက်”ဆိုတာကတော့ စိတ်၌ မှီတဲ့သဘော၊ “မှီ”ဆိုတာကလဲ နံရံကို မှီသလို၊ တိုင်ကြီးတွေကို မှီသလိုမျိုး မဟုတ်ပါဘူး–တဲ့။

စိတ်ရှိမှ စေတသိက် ဖြစ်ရတာ၊ စိတ်မရှိရင် စေတသိက် မဖြစ်နိုင်ဘူး၊ မိဘ အမိ ရှိမှ– မိဘအရှိန်အဝါ ရှိမှ သားသမီးများ ကြီးပွားရသလိုပေါ့–တဲ့။

ဆရာတော်ကြီးက ပရမတ္ထသဘောတရားတို့ကို ကိုရင်ကလေးများ နားလည်လောက်ရုံ ပြောပြနေခြင်း ဖြစ်၏၊ ကလေးငယ်များဖြစ်၍ ကလေးငယ်များ နားလည်နိုင်မည့် စကားလုံးတို့ကို သုံးပြီး ရှင်းပြနေခြင်း ဖြစ်သည်။

၃။ “ရုပ်” ဆိုတာက အအေး အပူ စတဲ့ ဆန့်ကျင်ဘက် အကြောင်းများကြောင့် ဖောက်ပြန်တတ်တဲ့သဘောပဲ။

မင်းတို့ မယုံရင် နေပူထဲ ထွက် ရပ် ကြည့်စမ်းပါလား၊ အသားတွေ နီမြန်းလာမယ် ဒါဟာ ဖောက်ပြန်တာ ပေါ့ကွဲ့၊ ပြီးတော့–

၄။ “နိဗ္ဗာန်”ဆိုတာက ဒုက္ခခပ်သိမ်းတို့၏ အေးငြိမ်းရာ ဖြစ်တဲ့ သဘော၊ ဒါကို အားလုံးပဲ စိတ်ဝင်စားနေကြတယ်၊ လို ချင်နေကြတယ်။

## စိတ်ပေါင်း တစ်ခုယုတ် ကိုးဆယ်

ကိုရင်ဝိမလကလေးတို့အဖို့ တစ်နေ့ပြီးတစ်နေ့ စိတ်ဝင်စားစရာတွေကို ရ–ရနေကြတော့သည်ဟူ၏၊ ဟော... ယနေ့လည်း ဆရာတော်ကြီးက ရှင်းပြ နေပြန်ပြီ၊ သရုပ်တွေလည်း ကောက်ပြတော်မူ၏။

“ဒါက အကုသိုလ်စိတ်တွေ၊ ဒါက ကုသိုလ်စိတ်တွေ၊ ဒါက ဝိပါက်စိတ်တွေ၊ ဒါက ကြိယာစိတ်တွေ၊ စိတ်ပေါင်းက တစ်ခုယုတ် ကိုးဆယ်တောင် ရှိတာ”တဲ့။

ဆရာတော်ကြီးက သရုပ်တွေ ကောက်ပြ၊ အဓိပ္ပာယ်တွေ ...ပြောပြရုံသာမကသေး၊ မလင်းမည့်အချက်တို့ကိုလည်း ဆက်လက်ပြီး ရှင်းပြတော်မူ၏။

“တစ်ခုယုတ် ကိုးဆယ်” ဆိုတာ “တစ်ခု လျော့ ကိုးဆယ်”ကို ပြောတာကွယ့်၊ “ကိုးဆယ်မှာ တစ်ခုပဲ လျော့တော့တယ်”လို့ ဆိုလိုတာ၊ ယုတ်တာနဲ့ လျော့တာ အတူတူပဲပေါ့၊ အဖြောင့် ပြောရရင်တော့ (၈၉) ပါးပေါ့ဟယ်...။

အဲဒါကို တချို့ ပုဂ္ဂိုလ်တွေက အသံထွက်ကို ဖမ်းပြီး “စိတ်တစ်ခု ယုတ်ကိုးဆယ်” ဆိုတာ စိတ်က တစ်ခု၊ ရုပ်က ကိုးဆယ်–တဲ့၊ ပြောနေကြတယ်၊ ဘယ်ကလာ–ဟုတ်ရမှာလဲ၊ စိတ်ပေါင်း ရှစ်ဆယ့်ကိုးခု ရှိတယ်–လို့ ပြောတာ၊ ရုပ်ဆိုတာက အမျိုးအစား (၂၈) ပါး ရှိတာပဲ”

ဤသို့လျှင် ဆရာတော်ကြီးက ပြည့်စုံအောင် ရှင်းပြတော်မူသည်၊ သိစရာတွေက တစ်နေ့လျှင် တစ်မျိုး နှစ်မျိုး ပါပါလာတတ်၏၊ ကိုရင် ဝိမလကလေးတို့အဖို့ အားရကျေနပ်မှု အပြည့်အဝ ဖြစ်ရတော့သည်။

ဘာလိုလိုနှင့် ကိုရင်ဝိမလကလေးတို့မှာ အဘိဓမ္မာနယ်ပယ်၌ ကျယ်ကျယ် ပြန့်ပြန့် ဖြစ်လာဖို့ရာ စတင်၍ ခြေချနေခြင်း ဖြစ်တော့သည်။

## စိတ်တွေက ဘယ်က ပေါ်လာတာလဲ

"စိတ်တွေက လိုအပ်တဲ့အခါ ပေါ်လာဖို့ရာ လူတစ်ယောက်၏ဗိုက်ထဲမှာ အပြည့်အသိပ် အောင်းခိုနေသလား" မေးလျှင် မဟုတ်ပါ၊ အောင်းခိုနေတဲ့ စိတ်ရယ်လို့ မရှိပါ။

"ဒါမှမဟုတ် အပြင်ဘက်မှာ တစ်နေရာရာ၌ ဖြစ်ပေါ်လာဖို့ရာ အသင့် အနေအထား စုပုံပြီးသား ရှိသလား" ဤသို့လည်း မရှိပါ၊ ဆိုင်ရာအကြောင်းတွေ ညီညွတ်တဲ့အခါ ပေါ်ပေါက်လာတဲ့ သဘောသာ ဖြစ်သည်။

ဥပမာ– နေအရှိန် ကျရောက်ပါက မီး ထ၍ တောက်တတ်သော ကျောက်တစ်မျိုးရှိ၏၊ ထိုကျောက်ကို နေပူခိုက်တွင် နေရောင်ထဲချထားပါ၊ ခဏကြာလျှင် ကျောက်နှင့် နေပူရှိန်တွေ့ကြသဖြင့် မီးဖြစ်လာသည်၊ ထိုအခါ အောက်ခံဖြစ်သော အဝတ်စ ဝွမ်းစ အမှိုက်စတို့ကို လောင်တော့၏။

ဤသို့ မီးဖြစ်လာရာ၌ ကျောက်ထဲမှာလည်း မီး–မပါ၊ နေရောင်ထဲမှာလည်း မီး–မပါ၊ သို့ရာတွင် ကျောက်နှင့် နေရောင် ပေါင်းစုံမိသောအခါတွင်ကား မီးဖြစ်ပေါ်လာတော့သည်။

ဤသဘော အတိုင်းပင် ခန္ဓာကိုယ်ထဲမှာလည်း ခိုအောင်းနေတဲ့ စိတ်တွေ အစက မရှိပါ၊ အပြင်ဘက်တွင်လည်း ဖြစ်ပေါ်လာဖို့ အသင့် အနေအထား စုပုံပြီးသား မရှိပါ၊

အာရုံနှင့် ဒွါရ ဆုံကြ၍သာ "စိတ်"ဟူသော သဘောတရားတွေ ပေါ်ပေါက်၍ လာရခြင်း ဖြစ်လေသည်။

## သောမနဿ သဟဂုတ်

သင်္ဂြိုဟ်ကို အနက်ပါချပေးပြီး ဆရာတော်ကြီးက အဓိပ္ပာယ်ပါ ပြောပြပေး၏၊ နေ့လယ်ပိုင်းက ချပို့ပြီးသမျှကိုလည်း ညပိုင်းတွင် (စာအုပ်မပါဘဲ အလွတ်) အဓိပ္ပာယ် ပြောပြပေးသည်၊ သရုပ်လည်း ခွဲပြ၏။

ထို့နောက် ကိုရင်ကလေးတို့အားလည်း တစ်ပါးချင်း ကိုယ်တိုင် သရုပ်ကောက်ပြစေသည်၊ ဥပမာ– "ကဲ... ကိုရင်ဝိမလက အကုသိုလ်စိတ်(၁၂)ပါးသရုပ်ကို ကောက်ပြစမ်း–ဟုဆိုလျှင်–

၁။ သောမနဿ သဟဂုတ်၊ ဒိဋ္ဌိဂတ သမ္ပယုတ်၊ အသင်္ခါရိကစိတ်တစ်ခု။

၂။ သောမနဿ သဟဂုတ်၊ ဒိဋ္ဌိဂတ သမ္ပယုတ်၊ သသင်္ခါရိကစိတ်တစ်ခု။

စသည်မျိုး ရေတွက်ပြရ၏၊ ဤသို့လျှင် မျက်စိဖြင့် မမြင်ရသော သဘောသဘာဝတို့ကို ကောက်ပြရေတွက်

ရသည်မှာ စိတ်ဝင်စားစရာ တစ်မျိုး ဖြစ်တော့သည်၊ ကျောက်သင်ပုန်းပေါ်တို့ စာအုပ်ထဲမှာတို့ မရေးရဘဲ စိတ်ကူးနဲ့ ဈေးစာရင်းတွက်ရသလို ဖြစ်သည်ဆို၏။

ကိုရင်ဝိမလ သရုပ်ကောက်ပြနေစဉ်တွင် အမြဲ တမ်းလို အရှုံင်တတ်သော– အမြဲတမ်း နောက်တတ် ပြောင်တတ်သော ကိုရင်ဇနိန္ဒက–

"သောမနဿ သဟဂုတ်–။
လက်ဖက်က သုံးလေးလုတ်၊
ကြက်သွန်ဖြူ များများနှင့်၊
ဗိုက်ကားအောင် တုပ်ပြီးလျှင်၊
သရုပ်များ ကွဲလေဟန်၊
လေသံက ခပ်ထွားထွား..."

စသော စလေ ဦးပုည၏ စာပြောင်တို့ကို ခပ်တိုးတိုး ရွတ်ဆိုပြီးလျှင် နောက်ပြောင်နေတတ်သည်၊ မနောက် ပြောင်ဖို့ ခဏ ခဏ သတိပေးရသော ဟူ၏။

ရှေးခေတ်က သင်္ဂြိုဟ်တတ်သူလည်း ပေါများ ဟန် တူသည်၊ ထင်ပေါ်ချင်သော သူတို့က တတ်ယောင် ဟန်ပြုလျက် အလှူမင်္ဂလာမဏ္ဍပ်များ၌ သံဃာစင် အမြင့်ပေါ်တွင် စုအုံဝိုင်းဖွဲ့ကာ သင်္ဂြိုဟ် ငြင်းတတ်ကြ၏၊ ဤသည်ကို အမြင်ကတ်၍ ဦးပုည စပ်ထားခြင်း ဖြစ် လေသည်။

# သဒ္ဒါတတ်မှ စာတတ်သည်တဲ့

ထို့နောက်ပိုင်းတွင် သဒ္ဒါဘက်ကလည်း သုတ် စဉ်ပါဠိတွေ အတော်များများ ရလာသောအခါ အနက် ပါ တွဲဖက်၍ တက်ပေးလိုက်ပြန်ပြီ၊ ဆရာတော်ကြီးက အမိန့်ရှိ၏–

"သဒတ်မတာ စတ်မတာ၊
သဒတ်တာမှ စတ်တာသည်"တဲ့၊
ဆိုလိုတာကတော့– "သဒ္ဒါမတတ်ရင်
စာမတတ်ဘူးတဲ့ကွယ့်၊ သဒ္ဒါတတ်မှ
စာတတ်သည်"တဲ့၊ အဲဒါကြောင့်–
မင်းတို့... သင်္ဂြိုဟ်ချည်း မပြီးသေးဘူး၊
သဒ္ဒါလဲ သင်ရအုံးမယ်"

ဟော... ဆရာတော်ကြီးက မိန့်နေပြီ၊ သဒ္ဒါလဲ သင်ရဦးမယ်–တဲ့၊ ကိုရင်ဝိမလကလေးတို့ တစ်သိုက်မှာ သဒ္ဒါတက်လိုက်– သင်္ဂြိုဟ်တက်လိုက်နှင့် အလုပ်တွေ များလာကြ၏၊ များလာသော်လည်း အဖော်သဟာ အပေါင်းနှင့်ဆိုတော့ ပျော်စရာကောင်းလှပါသည်– ဟူသတတ်။

သဒ္ဒါတက်လာရပြန်တော့ သန္ဓိပုဒ်ဖြတ်– ပုဒ်စပ် တွေ ဆိုတာကို သိလာရ၏၊ နောက်တော့ ဆရာတော် ကြီးက စပ်ပုံ– ဖြတ်ပုံ ဆက်စပ်ပုံတို့ကို ရုပ်တွက်ပြ တော်မူပါသတဲ့။

"သင်္ဂြိုဟ်နှင့် သဒ္ဒါ ဘယ်ဟာ ခက်သလဲ"ဟု မေးလျှင် ကိုရင်ဝိမလကလေးက "ဘယ်ဟာမှ သိပ်ပြီး ခက်လှတယ်လို့ မထင်ပါဘူး၊ ဒါပေမယ့် သဒ္ဒါထက် သင်္ဂြိုဟ်ကို ပိုပြီး စိတ်ဝင်စားတယ်"ဟု ဖြေပါသတတ်။

## သဂြိုဟ်ကို ပိုင်၍စိတ်ဝင်စား

ထိုသို့ သဒ္ဓါနှင့် သဂြိုဟ်ကို သင်ယူကြရာတွင် ကိုရင်ဝိမလက လေးနက်သော အဓိပ္ပာယ်တို့ကို ကြံဆယူရသော သဂြိုဟ်ကို ပိုပြီး စိတ်ဝင်စားသည်–ဟု ဆိုနေ၏၊ သူ့ဉာဏ်သည် အများနှင့် မတူ၊ လွယ်ကူသော အရာတို့ထက် ခက်ခဲသောအရာ– နက်နဲသောအရာတို့ကို တူးဖြိုဖောက်ခွဲ၍ ကြည့်လိုဟန် ရှိသည်။

ဟုတ်ပါသည်၊ "သဒ္ဓါ"ဆိုသည်ကတော့ ပါဠိပိဋကတ်တွေကို အနက်အဓိပ္ပာယ်ဖော်တဲ့အခါ မှန်မှန်ကန်ကန် ဖြစ်ဖို့ရာ စည်းကမ်းစနစ် လုပ်ပေးခြင်းမျှသာ ဖြစ်၏။

ထို့ကြောင့် ပြော–ပြောတဲ့အတိုင်း၊ ဆို–ဆိုတဲ့အတိုင်း မှတ်ထားလိုက်လျှင် ပြီးသွားသည်သာ၊ သိပ်ပြီး နက်နက်နဲနဲ တွေးခေါ်စဉ်းစားနေစရာ မလိုပေ။

"သဂြိုဟ်"ဆိုသည်ကား ကျမ်းကလေးက ငယ်လှ၏။ အဓိပ္ပာယ်တွေက ကောင်းကင်ပမာ ကျယ်ဝန်းလှပါဘိခြင်း၊ တစ်နည်း– သမုဒ္ဒရာ ပင်လယ်သဖွယ် ကျယ်ဝန်းနက်ရှိုင်းလှပါဘိခြင်း။

ယင်းသို့ ကျယ်ဝန်းနက်ရှိုင်းလှသော အဘိဓမ္မာ (၇)ကျမ်း၏ အဆီအနှစ်တွေကို ညှစ်ယူပြီး ခြုံမိ ငုံမိအောင် အကျဉ်းချုပ်၍ စီစဉ် တင်ပြထားသော ကျမ်းကလေး ဖြစ်လေသည်။

## စူးရှသောဉာဏ်၏ ကျက်စားရာ

အဘိဓမ္မာ သဘောသဘာဝတို့ကား ပကတိမျက်စိဖြင့် မြင်ရစကောင်းသောတရားများ မဟုတ်ကြချေ၊ ဉာဏ်ဖြင့်သာ မြင်ရကောင်းသော တရားများ ဖြစ်ကြ၏၊ ပကတိမျက်စိဖြင့် မမြင်ရသော်လည်း မြင်ရသလို ထင်ရှားအောင် ဘုရားရှင်ကိုယ်တော်မြတ်ကြီးက ဟောပြထားတော်မူသည်–

"ဤကား ကုသိုလ်၊ ဤကား အကုသိုလ်၊
ဤကား လောဘ၊ ဤကား ဒေါသ၊
ဤကား ဣဿာ၊ ဤကား မစ္ဆရိယ၊
ဤကား သဒ္ဓါ၊ ဤကား ပညာ"

စသည်ဖြင့် ခွဲခြားဟောပြထားတော်မူ၏၊ ဤအဘိဓမ္မာတရားတော်တို့ကား သမုဒ္ဒရာပင်လယ်ကြီး သဖွယ် နက်ရှိုင်း ကျယ်ဝန်းလှပါဘိခြင်း–။

ဤမျှလေးနက်သော ခဲခက်သောတရားတော်တို့ကား လေးနက်စွာ တွေးတောတတ်သူ၊ စူးရှစွာ ဉာဏ်ဖြင့် ကြည့်တတ်သူတို့အဖို့ စိတ်ဝင်စားဖွယ် အကောင်းဆုံး ဖြစ်၏။

ဤသို့ လေးနက်သော "အဘိဓမ္မာ သဘောတရား"ဆိုတာ အရှင် သာရိပုတ္တရာနှင့် အရှင် သာရိပုတ္တရာ၏ တပည့်အဆက်ဆက်တို့သာ ကျက်စားသော အရာ မဟုတ်ပါလော–။

## တစ်ဘဝသာသနာ

# သာသနာခိုင်မြဲလျှင် ဘာသာမယိုင်လဲ

ငွေးပင်တောရကျောင်းသည် ဥယျာဉ်တော်ရွာနှင့် ခပ်လှမ်းလှမ်းတွင် ဖြစ်၍ လူတို့နှင့် မရောပြွမ်းလှပါ၊ တောစခန်း တောတန်း တောမြိုင် တောရိပ်တို့ဖြင့် တိတ်ဆိတ်တည်ငြိမ်လျက်သာ ရှိပါသည်၊ နံနက်စော ၄–နာရီတွင် တောကျောင်းမှ ခေါက်လိုက်သော အုံးမောင်းသံ သဲ့သဲ့ကိုသာ ရွာက ကြားနိုင်ရပါသည်။

ထိုအုံးမောင်းသံကို ဗဟိုနာရီပြုကြ၍ တောရွာ ခလေ့အရအရဏ်ဆွမ်းချက်ကြခြင်း၊ လယ်ယာ ကိုင်းကျွန်းသို့သွားဖို့ ပြင်ဆင်ကြခြင်း၊ အဘိုးအို အဘွားအိုတို့က ဘုရားဝတ်တက် မေတ္တာပို့သခြင်းများ ပြုလုပ်ကြသည်။

နေထွက်စသာသာ သက်န်းရုံ– သပိတ် ကိုယ်စီ ပိုက်လျက် စီတန်း၍ တောကျောင်းမှ သာမဏေငယ် (၈)ပါး ကြွလာကြသည်၊ ရွာသူ ရွာသား ဒကာ–ဒကာမ များက ကြည်ညိုကြ၏၊ မြတ်နိုးကြ၏၊ တန်ဖိုးထားကြ၏၊ အသင့်ချက်ပြုတ်ထားသော ဆွမ်း–ဆွမ်းဟင်းတို့ကို လောင်းလှူကြလေသည်။

ဘုရားလက်ထက်တော်မှစ၍ ယနေ့တိုင်ရောက် သာသနာတော်ကြီး မပျောက်သည်မှာ ဤကဲ့သို့သော သာမဏေငယ်များ အဆက်–အဆက် ရှိနေကြသော ကြောင့်ဟု နားလည်ထားကြ၏၊ သာသနာစောင့် မထေရ်ကြီးများကလည်း မျိုးဆက်မပြတ်အောင် ထိန်းကွပ်လျက် ပခုံးချင်းပြောင်း– လက်ဆင့်ကမ်း သယ်ဆောင်လာခဲ့ကြသောကြောင့် ဖြစ်သည်။

ဤနည်းအားဖြင့် သာသနာတော် မပျောက်လျှင် ဘာသာလည်း မပျောက်နိုင်၊ ဘာသာ မပျောက်လျှင် ယဉ်ကျေးမှုလည်း မပျောက်နိုင်– လူမျိုးလည်း မပျောက်နိုင်ဖြစ်မည် မဟုတ်လော–။

ထို့ကြောင့် သာမဏေငယ်တို့သည် သာသနာတော်ကြီးအတွက် မျိုးဆက် မျိုးစေ့တို့သာ ဖြစ်ကြပေကုန်၏။

"အစို့အညှောက်ကလေးသည်
အပင်ကြီး ဖြစ်လာနိုင်၏၊"
"အပင်ကြီးသည်လည်း အစို့
အညှောက်ကလေးမှ စတင်
ရသည် မဟုတ်ပါလော..."၊ ဤသို့လျှင်

အမြော်အမြင် ကြီးစွာ အစဉ်အလာကပင် ကျင့်သုံးလာခဲ့ကြသည်။

# သင်္ဂြိုဟ်ထဲမှာ သိစရာတွေပေါ

ဆရာတော်ကြီးထံမှာ မနက်ပိုင်းတွင် သင်္ဂြိုဟ်၊ ...ယ်ပိုင်းတွင် သဒ္ဒါ၊ တစ်နေ့လျှင် စာ(၂)ဝါ ...ကြရသည်၊ နေ့စဉ်နှင့်အမျှ သိစရာတွေက ပါ–...၏၊ ရက်တွေလည်း များလာ၏၊ သင်္ဂြိုဟ်စိတ်ပိုင်း...၍ စေတသိက်ပိုင်းသို့ ရောက်သောအခါ ဆရာ...ကြီးက ရှင်းပြပြန်သည်–

"စေတသိက်"ဆိုတာ စိတ်၌ မှီ၍ ဖြစ်တဲ့သဘော ပြောပြီးပြီ၊ မှီတဲ့အတွက် စိတ်နဲ့ဖြစ်လဲ အတူတူ၊ ပျက်လဲ အတူတူပဲ၊ ခွဲမရဘူး။

ဥပမာ "သောက်ရေတစ်ခွက် ပေးပါ" ဆိုရင် ခွက်နဲ့ခပ်ယူလာမယ်၊ အဲဒီမှာ "ခွက်ကို သောက်ချင်တာလား၊ ရေကို သောက်ချင်တာ

လား"မေးလို့ ရှိရင် ရေကို သောက်ချင်တာ ပါပဲ။

ဒါပေမယ့် ခွက်ကို ထားခဲ့လို့ မရဘူး၊ ရေကို ယူတာ ခွက်လဲပါလာတာပဲ၊ ရေနဲ့ခွက် ခွဲထားခဲ့လို့ မရဘူး၊ အဲဒီပုံအတိုင်းပဲ စိတ်နဲ့ စေတသိက်ဆိုတာလဲ ခွဲလို့ မရဘူး"တဲ့။

ဆရာတော်ကြီးက သဘောပေါက်လွယ်အောင် ဥပမာနဲ့ဆောင်၍ ရှင်းပြတော်မူ၏၊ မမြင်ရတဲ့သဘော တွေကို မြင်ရသလို နေအောင် ရှင်းပြတော်မူသည်။

"စိတ်တွေက (၈၉)ပါး ရှိပေမယ့် "သိ တတ်ခြင်း" သဘောတွေချည်းပဲ၊ အဲဒါကြောင့်မို့ ပေါင်းပြီးတော့ တစ်စုတည်း တစ်ပုံတည်း ထားလို့ ရတယ်"

"စေတသိက်တွေကျတော့ အဲလို ပေါင်း လို့မရဘူး၊ ကိုယ့်သဘောနဲ့ကိုယ်၊ သူ့သဘော နဲ့သူ၊ တစ်ခုစီ တစ်မျိုးစီပဲ၊ အဲဒီ စေတသိက် တွေက (၅၂) ပါးရှိတာ၊ သဘောကလဲ (၅၂) မျိုးပဲ" တဲ့။

## ဆိုးဆီထုပ်ပေါင်း ၅၂–ထုပ်

ထို့ပြင် ဆရာတော်ကြီးက ဆက်၍ ပြောပြန် သည်၊ တပည့်ကလေးများကို အလွန် နားလည်စေချင် ဟန် တူ၏၊ စိတ်ဝင်စားအောင်လည်း မိန့်တော်မူနေ သည်–

"အဲဒီစေတသိက်တွေက စိတ်ကို လာ–လာပြီး ချယ်လှယ်ကြတာကွယ့်၊ သူတို့ချယ်လှယ်တိုင်း ချယ်လှယ်တိုင်း စိတ်တွေဟာ တစ်မျိုး တစ်မျိုး ပြောင်းရတယ်။

စိတ်ချည်းထဲဆိုရင် ဘာအပြစ်မှ မရှိပါ ဘူး၊ စေတသိက်တွေ လာ–လာရောကြလို့သာ ပြောင်းလွဲရတာပါ၊ အဲ... စိတ်ဟာ ဘာနဲ့ တူ သလဲဆိုတော့ ရေကြည်ကြည် သန့်သန့်နဲ့ တူ သတဲ့၊ စေတသိက်တွေကတော့ ဆိုးဆီထုပ်တွေနဲ့ တူသတဲ့။

ရေကြည်ကြည် တစ်ခွက်ထဲ မဲနယ် အပြာထုပ်ကို ဖြည်ချလျှင် ရေပြာဖြစ်သွားမယ်၊ အစိမ်းထုပ်ကလေး ဖြည်ချလျှင် ရေစိမ်း၊ အနီ ထုပ်ကလေး ဖြည်ချလျှင် ရေနီတွေ ဖြစ်သွား မယ်၊ အဲဒီလို အရောင်မတူတဲ့ ဆိုးဆီထုပ်ပေါင်း ၅၂–ထုပ် ရှိတယ် ဆိုပါစို့–။

## စေတသိက်များလည်း ၅၂–ပါးရှိ

ဆရာတော်ကြီးက စေတသိက် ၅၂–ပါးဟာ တစ်ပါးနှင့် တစ်ပါး မတူကြကြောင်း၊ တစ်မျိုးစီ ဖြစ် ကြကြောင်းကို ပေါ်လွင်စေလို၍ ဆိုးဆီ၅၂–ထုပ်ကို ဥပမာပြပြီး ပြောနေခြင်း ဖြစ်သည်။

"အဲဒီဆိုးဆီ ၅၂–မျိုးက ရေကို လာပြီး ချယ် လှယ်တိုင်း–ချယ်လှယ်တိုင်း ရေဟာ ၅၂–မျိုး အရောင် ပြောင်းရသလို၊ စိတ်ဟာလဲ ၅၂–မျိုး ပြောင်းရတော့တာပေါ့။

ဥပမာ · လောဘဆိုတဲ့ စေတသိက်က စိတ်ထဲလာရောရင် အဲဒီစိတ်ဟာ လောဘစိတ် ဖြစ်သွားရော၊ လိုချင်မက်မောတဲ့စိတ် ဖြစ်သွား ရော။

ဒေါသစေတသိက်လာရောရင် ဒေါသစိတ်၊ မောဟ စေတသိက်လာရောရင် မောဟ စိတ် ဖြစ်သွားရော။

အဲဒီအတိုင်းပါပဲ၊ ကောင်းတဲ့ စေတသိက်တွေ လာရောရင်လဲ ကောင်းတဲ့စိတ်တွေ ဖြစ်တာပါပဲ။

ဥပမာ– အဒေါသ စေတသိက်လာရောရင် အဒေါသစိတ် (မေတ္တာစိတ်) ဖြစ်တယ်၊ သဒ္ဓါစေတသိက်လာရောရင် သဒ္ဓါစိတ်၊ ဝီရိယ စေတသိက်လာရောရင် ဝီရိယစိတ်တွေ ဖြစ်ကုန်တယ်။

စေတသိက်မရောဘဲ စိတ်ချည်းသန့်သန့် နေလို့လဲ မရဘူး၊ တစ်မျိုးမျိုးတော့ ရောရတာပဲ၊ ရောရမှာ အတူတူ မကောင်းတဲ့ စေတသိက်တွေ အရောမခံကြနဲ့၊ ကောင်းတဲ့ စေတသိက်တွေပဲ လာပြီး ရောပစေ–။

အဲဒီကောင်း–မကောင်း သောင်းပြောင်းရောနေတဲ့ စေတသိက်တွေက မင်းတို့ ကျက်ထားတဲ့အတိုင်းပဲ–

| | |
|---|---|
| သဗ္ဗစိတ္တသာဓာရဏ | ၇–ပါး |
| ပကိဏ်းစေတသိက် | ၆–ပါး |
| အကုသိုလ်စေတသိက် | ၁၄–ပါး |
| သောဘနသာဓါရဏ | ၁၉–ပါး |
| ဝိရတီစေတသိက် | ၃–ပါး |
| အပ္ပမညာစေတသိက် | ၂–ပါး |
| ပညိန္ဒြေစေတသိက် | ၁–ပါး |
| စုစုပေါင်း = | ၅၂–ပါး |

"အေး… ခုတော့ ဒီလောက်ပဲ မှတ်ထားကြအုံး၊ နောက်တော့ တစ်ခုချင်းရဲ့ အဓိပ္ပာယ် အသေးစိတ် ပြောပြပေးမှာပေါ့"

## စေတသိက်ကြောင့် စိတ်တွေ ပြောင်းလွဲရ

* ပဘဿရမိဒံ ဘိက္ခဝေ စိတ္တံ၊ တဉ္စ ခေါ အာဂန္တုကေဟိ ဥပက္ကိလေသေဟိ ဥပက္ကိလိဋ္ဌံ။ ။

အဓိပ္ပာယ်မှာ– "ရဟန်းတို့… ဤစိတ်သည် ပြိုးပြက်ပြက် အရောင်ထွက်သလို ဖြူစင်သန့်ရှင်းနေ၏၊ ထိုစိတ်သည် အာဂန္တုသဖွယ် နောက်မှ ပေါ်ပေါက်လာသော ညစ်နွမ်းကြောင်း ဥပက္ကိလေသတို့ကြောင့် ညစ်နွမ်းပြောင်းလွဲသွားရ၏"။

အဖြောင့်ပြောရလျှင် "ညစ်နွမ်းစေတတ်သော စေတသိက်တို့ကြောင့် စိတ်လည်း ညစ်နွမ်းသွားရ၏" ...ပြီ၊ ထို့ပြင်– "ဖြူစင်စေတတ်သော စေတသိက်တို့ ...ကြောင့် စိတ်လည်း ဖြူစင်သော စိတ် ဖြစ်သွားရလေ ...သည်"။

စိတ်သက်သက်ကား စိတ်ကောင်း–စိတ်ဆိုးဟူ၍ ...ခြား မကွဲပြားပေ၊ အာရုံကို ရယူရုံမျှသာ ဖြစ်၏၊ စေတသိက်တွေကြောင့်သာ အရောင်အမျိုးမျိုး ပြောင်း၍ ကောင်းတဲ့စိတ်–မကောင်းတဲ့စိတ်ဟု ကွဲပြားသွားကြရလေသည်။

[ဆောင်]

"စိတ်၏တံထွာ၊ ဓမ္မတာကား၊
ကြံရာအာရုံ၊ ရမိရုံသာ၊
ဖုံဖုံကောင်းဆိုး၊ မကွဲရိုးတည့်။
တစ်မျိုးတွဲဖက်၊ စေတသိက်တွက်ကြောင့်၊
သက်သက် ဆိုးကောင်း၊
အရောင် ပြောင်း၍၊ မကောင်းတဲ့စိတ်၊
ကောင်းတဲ့စိတ်ဟု၊ ခွဲကြိတ်စမြဲ၊
ဥဒါန်းကဲသည်… စိတ်လဲ
စေတသိက် ကြောင့်သာကို။ ။
(အခြေပြုသင်္ဂြိုဟ်)

• အင်္ဂုတ္တိုရ်ပါဠိတော်၊ ဧက၊ ၉

## ပင်လယ်ကူးတဲ့ သင်္ဘောပမာ

"သဒ္ဓါ"ဆိုတာ မပါ၍လည်း မပြီး၊ ပိဋကတ်ပင်လယ်ကြီးက ကျယ်ဝန်းလှပါဘိ၊ ဖြတ်သန်း ကူးမြောက်နိုင်ရန် အမှန်ပင် သင်္ဘောကြီးကြီးလိုအပ်သည်သာ၊ သို့ဖြစ်၍ ဆရာတော်ကြီးက မိန့်သည်–

ကိုရင်တို့... ဟောဟိုနားက ဒုဋ္ဌဝတီမြစ်ရဲ့ဟိုဘက်ကမ်းကို ကူးချင်ရင် လှေ မပါဘဲနဲ့၊ ဖောင်မပါဘဲနဲ့ ကူးလို့ဖြစ်ပါ့မလား၊ (မဖြစ်ပါဘုရား)

အေး... အဲဒီပုံအတိုင်းပဲကွယ့်–၊ ဘုရားဟော ပိဋကတ်တွေက အများကြီး၊ ခက်လဲခက်၊ နက်လဲနက်၊ ကျယ်လဲကျယ်ပ၊ ပင်လယ်သမုဒ္ဒရာကြီးလိုပဲ။

အဲဒီပိဋကတ်ပင်လယ်ကြီးကို ကူးနိုင်ဖို့ "သဒ္ဓါ"ဆိုတဲ့ သင်္ဘောကြီးကြီး လိုအပ်တယ်ကွယ့်၊ အဲဒါကိုလဲ တတ်မြောက်အောင် ကြိုးစားကြရမယ်၊ (မှန်ပါဘုရား)

ဤသို့ သဘောပေါက်လောက်အောင် မိန့်တော်မူပြီးလျှင် သဒ္ဓါဘက်ဆိုင်ရာကိုလည်း မပေါ့ကြရန် သတိပေးတော်မူ၏။

သဒ္ဓိပိုင်းဆိုင်ရာ ပုဒ်စပ်–ပုဒ်ဖြတ်တို့ကို ကြေညက်အောင် လေ့လာစေပြီးတဲ့နောက် ယခုအခါ နာမ်ပိုင်းသို့ ရောက်လာချေပြီ၊ နာမ်ရုပ်တွေ ကြေညက်ဖို့ "နာမ်ဂိုဏ်းစဉ်"တွေပါ သင်ပေးနေလေပြီ။

ကိုရင်ဝိမလကလေးတို့မှာ ညပိုင်း၌ သင်္ဂြိုဟ်သရုပ်ခွဲအပြင် ယခုနာမ်ဂိုဏ်းစဉ်၊ နာမ်ဂိုဏ်းပြေးအလုပ်တို့ပါ တိုးလာကြတော့သည်။ နေ့မှာရော ညမှာရော၊ နေ့ဝါ ညဝါဆိုတော့ မအားနိုင်အောင် ဖြစ်တော့၏။

ဆယ်နှစ်ရွယ်၊ ငယ်ပါလှသေး။
နေ့ဝါ– ညဝါနှင့်၊
သူ့ခမျာ အလုပ်များရှာလို့၊
အားနိုင်ဘူ့လေး။ ။

x



## ပစ္စုပ္ပန်ကံတွေသာ ကောင်းနေခဲ့လျှင်

ကိုရင်ဝိမလ ကလေးမှာ သီတင်း ၂-ခါကျွတ်၍ သိက္ခာလည်း ၂-ဝါရလေပြီ၊ ပရိယတ်စာပေအခြေခံတို့ လည်း အရွယ်အလိုက် ထိုက်သင့်သမျှ ရရှိသိမ်းပိုက်မိ လေပြီ၊ သက်ရွယ်တူကိုရင်အဖော်တို့နှင့် ပျော်မွေ့လုပါ ၏၊ ဆရာတော်ကြီးကလည်း ဖခင်ကြီးသဖွယ် ငယ်ရွယ်သူ ကိုရင်ကလေးများကို မေတ္တာရိပ်ဖြင့် မိုးထားပါသည်။

နေ့စဉ်မှန်မှန် စာအံ စာတက် ဝတ်မပျက်ကြ၊ တပည့်ဘက် ဆရာ့ဘက် ၂-ဘက် စုံညီ ဖွဲ့မာန်တင်း၍ ဝီရိယဖြင့် ချီလာခဲ့ကြသည်၊ ယခုအခါ ဒီဇင်ဘာလပင် ကုန်ပြန်ချေပြီ၊ သို့ဖြစ်၍ ကိုရင်ဝိမလကလေးမှာ (၁၀) နှစ်ပြည့်တင်း၍ (၁၁)နှစ်တွင်းသို့ ဝင်လာချေပြီ။

အမိအဘတို့က အရိပ်အခြည်ကို ကြည့်နေကြ၏၊ ကိုရင်က "လူထွက်ချင်ပြီ"ဟု ပြောမည်လားလို့၊ မပြောပေ၊ ပျော်နေပုံကိုသာ တွေ့ရသည်။

ဤပုံအတိုင်းသာဆိုလျှင် "ကိုရင်ဝိမလလေး၏ ဘဝသည် ကျဆင်းသွားမည်လော၊ တိုးတက်လာမည်လော"ဟု စောကြောဖွယ်ပင် မရှိချေ၊ ကေန်မုချ တိုးတက်လာရမည်သာ ဖြစ်၏။

အဘယ့်ကြောင့်ဆိုသော် နေ့စဉ်နှင့်အမျှ ပြုလုပ်နေကြသော ပစ္စုပ္ပန်ကံတွေက ကောင်းနေကြသော ကြောင့်ပင် ဖြစ်၏၊ ပစ္စုပ္ပန်ကံတွေသာ ကောင်းနေပါစေ၊ မလွဲမသွေ တိုးတက်လာရမည်သာတည်း။

၁။ ပစ္စုပ္ပန်မှာ၊ ကောင်းအောင်သာ၊ သုံးဖြာကံ ပြုလုပ်။

၂။ မတိုးတက်လော၊ တိုးတက်လော၊ စောကြောနေဖွယ် မဟုတ်။

၃။ မျက်မြင်ဒိဋ္ဌ၊ ခုဘဝ၊ ဖလ ကျိုးမယုတ်။

၄။ ပထမဇော၊ ဒလဟော၊ သဘော သူ ဖွင့်ထုတ်။

## သမ္ပတ္တိစက် ၄-ချက် ပြည့်စုံဖို့

"ပုဂ္ဂိုလ်တစ်ဦးတစ်ယောက် ထွန်းတောက် ကြီး ...တယ်" ဆိုတာ အကြောင်းမဲ့ ကြီးပွားလာသည် ...တ်၊ အကြောင်းအထောက်အပံ့ အမှီသဟဲဟု ခေါ် ...သည့် "သမ္ပတ္တိစက်လေးပါး" ပြည့်စုံ၍သာ ကြီးပွား ...ခြင်း ဖြစ်သည်။

၁။ အတ္တသမ္မာပဏိဓိစက်

၂။ ပဋိရူပဒေသဝါသစက်

၃။ သပ္ပုရိသူပနိဿယစက်

၄။ သဒ္ဓမ္မဿဝနစက်

ဟူ၍ "သမ္ပတ္တိစက်လေးပါး"ရှိကြောင်း ကျမ်းဂန်တို့၌ မိန့်ဆိုတော် မူကြ၏၊ စက်ကဲ့သို့ (စက်ယန္တရား၏ ဘီးကဲ့သို့) လည်ပတ်နေသည်။

အကြောင်းကြောင့် + အကျိုးဖြစ်၊ အကြောင်းကြောင့် + အကျိုးဖြစ်၊ ဆက်စပ် လည်ပတ်နေသော ကြောင့် ဤလေးပါးကို "စက်"ဟု ခေါ်ထားသည်၊ ဤလေးချက် ပြည့်စုံဖို့ အရေးကြီး၏၊ သူတို့၏ သဘောများမှာ-

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

၁။ အတ္တသမ္မာပဏိဓိ = မိမိစိတ်ကို ကောင်းစွာ ထားခြင်း၊ စိတ်ကောင်း နှလုံးကောင်း ဖြောင့်ဖြောင့် ထားခြင်း။
၂။ ပဋိရူပဒေသဝါသ = သင့်တော်ရာအမိဝမ်း၊ သင့်တော်ရာ အရပ်၌ ဖြစ်ခွင့် နေခွင့်ရခြင်း။
၃။ သပ္ပုရိသူပနိဿယ = သူတော်ကောင်း (ဆရာသမားကောင်း)တို့ကို နီးနီးကပ်ကပ် မှီခိုခွင့်ရခြင်း။
၄။ သဒ္ဓမ္မဿဝန = သူတော်ကောင်းစကား၊ သူတော်ကောင်းတို့၏ အဆုံးအမကို ကြားနာခံယူရခြင်းတို့ဖြစ်သည်။

## စက်လေးပါး ပြည့်စုံပါလျှင်

ယခု ကိုရင်ဝိမလကလေးတို့မှာ အမှတ်(၁) အတ္တသမ္မာပဏိဓိ စိတ်ကောင်းရှိခဲ့၍ အမှတ်(၂) ပဋိရူပဒေသဝါသဆိုတဲ့ သင့်တော်ရာ ဥယျာဉ်တော်ရွာကြီးမှာ **လာ၍** ဖြစ်ရသည်။

ထို့ကြောင့် အမှတ်(၃) သပ္ပုရိသူပနိဿယ **ဆရာသမားကောင်း** (တောရကျောင်းဆရာတော်ကြီး)နဲ့ **လာတွေ့ရသည်၊ သို့ဖြစ်၍လည်း** အမှတ်(၄) သဒ္ဓမ္မဿဝနဆိုတဲ့ ဆုံးမဩဝါဒကောင်းတွေကို ယခု ရနေကြရပြီ။

ဤသို့ သမ္ပတ္တိစက်ကောင်းလေးပါး ပြည့်စုံသည့်အတွက် ဘယ်နည်းနှင့်မဆို ကြီးပွားရတော့မှာ အမှန်ပဲ။

တစ်ဖန်–ယခုဘဝ၌ ဆုံးမဩဝါဒကောင်းတွေကို ရတဲ့အတွက် နောင်ဘဝတွေ အကျိုးဌာ အတ္တသမ္မာပဏိဓိဆိုတဲ့ စက်ဘီးရဲ့ ပထမခွေးသွားစိပ် ဖြစ်ပြန်ရော။

ပထမခွေးသွားစိပ်ဖြစ်ရင် ဒုတိယ၊ တတိယ၊ စတုတ္ထခွေးသွားစိပ်တွေအတိုင်း ကောင်းတဲ့ဘက်မှာ လည်တဲ့ သမ္ပတ္တိစက် ဖြစ်မယ်။

အဲလိုဖြစ်ရင် ဘဝသံသရာမှာ မျက်နှာ မညှိုးရဘဲ ဖွံ့ဖြိုးတိုးတက် အကောင်းဆုံးဘက်သို့ ရောက်သွားရတော့မှာ အမှန်ပဲ။

အဲ… အတ္တသမ္မာပဏိဓိဆိုတဲ့ ကောင်းတဲ့ ပထမခွေးသွားစိပ် မဖြစ်ရင်တော့ ဤ ၄–ချက်၏ ပြောင်းပြန် မကောင်းတဲ့ဘက်မှာ လည်တဲ့ ဝိပ္ပတ္တိစက် ဖြစ်သွားရော–။

ဝိပ္ပတ္တိစက် အတိုင်းသာ လည်ရရင် ဘဝသံသရာမှာ မျက်နှာညှိုးနွမ်း ပင်ပန်းကြီးစွာ ခရီးဆက်ရ ရှာရော–။

## စိတ်သက်တမ်းနှင့် ရုပ်သက်တမ်း

စာတက်ရတဲ့အခါ ကိုရင်ဝိမလကလေး စိတ်အဝင်စားဆုံးကတော့ သင်္ဂြိုဟ်ပါပဲ၊ သင်္ဂြိုဟ်ကို တစ်ခန်းပြီး တစ်ခန်း တရိပ်ရိပ်နဲ့ တက်လာခဲ့ရာ ယခုအခါ ဝီထိပိုင်းသို့ပင် ရောက်နေချေပြီ၊ ဝီထိပိုင်း၌ ဆရာတော်ကြီးက စိတ်၏သက်တမ်းကာလကို အသေးစိတ်ရှင်းပြနေသည်၊ ကိုရင်တို့ ကျက်ထားတဲ့အတိုင်းပဲ–

"ဥပ္ပါဒ ဋ္ဌိတိ ဘင်္ဂဝသေန ခဏတ္တယံ
ဧကစိတ္တက္ခဏံ နာမ"တဲ့။

၁။ ဥပ္ပါဒ = ဥပါဒ် (ဖြစ်ပေါ်လာမှု)
၂။ ဋ္ဌိတိ = ဋ္ဌီ (ဖြစ်ပြီးနောက် တည်နေမှု)
၃။ ဘင်္ဂ = ဘင် (တည်ပြီးနောက် ပျက်စီး ချုပ်ကွယ်သွားမှု)

အဲသည်လို စိတ်တစ်ခုတစ်ခု၌ ဥပါဒ်–ဋ္ဌီ–ဘင် (ဖြစ်–တည်–ပျက်)လို့ အခိုက်အတန့်အချိန်ကာလ ၃–မျိုးစီ ၃–မျိုးစီ ရှိကြတယ်ကွယ့်၊ စိတ်တိုင်းမှာပဲ (ဖြစ်–တည်–ပျက်) အချိန်ကာလ ၃–မျိုးစီပါကြတယ်။

အဲဒီအချိန်ကာလ ၃–မျိုးဟာ စိတ်တစ်လုံး တစ်လုံး၏ သက်တမ်းရှည်ရာကာလပဲ၊ "စိတ္တက္ခဏ"လို့ ခေါ်တာပေါ့။ "စိတ်တစ်လုံး၏ သက်တမ်း"လို့ ပြောနိုင်တာပေါ့။

ကိုရင် ဝိမလကလေးတို့က အံ့အားကြီးသင့်စွာနှင့် ဆရာတော်ကြီး၏ စကားကို မော့၍ နားထောင်နေကြ၏၊ ဆက်လက်၍ ရှင်းပြတော်မူပြန်သည်။

## စိတ်တစ်ခုရဲ့ သက်တမ်းကာလ

"အတိုဆုံးအချိန်ကလေးကို "ခဏ"လို့ ခေါ်တယ်ကွယ့်၊ စိတ်တစ်ခု တစ်ခုမှာ "ဥပါဒ်"လို့ ဆိုတဲ့ ဖြစ်ပေါ်ချိန်ခဏကလေး၊ "ဋ္ဌီ"လို့ ခေါ်တဲ့ တည်နေချိန် ခဏကလေး၊ "ဘင်"လို့ ဆိုရတဲ့ ချုပ်ပျက်ချိန် ခဏကလေး၊ အဲဒီခဏကလေး ၃–မျိုးစီရှိကြတယ်၊ အတိုကောက် ပြောရရင် (ဖြစ်–တည်–ပျက်)ပေါ့၊ အဲဒီ ခဏကလေး ၃–မျိုးစီ ရှိကြတယ်ကွယ့်။

အဲဒီခဏကလေးတွေဟာ တစ်ခုစီ တစ်ခုစီ ဘာလောက်မှ မကြာပါဘူး၊ အင်မတန် တိုတောင်းသော အချိန်ကာလ ကလေးတွေပါ။

အဲဒီခဏကလေး ၃–မျိုးပေါင်းကို "ခဏကြီး" လို့ ခေါ်တယ်ကွယ့်၊ စိတ်တစ်ခုရဲ့သက်တမ်းပေါ့၊ အရေးကြီးတယ်၊ မှတ်ကြကွယ့်။

အဲ... ဥပါဒ်တစ်ခု၊ ဋ္ဌီတစ်ခု၊ ဘင်တစ်ခုစီ အသီးသီးကိုကျတော့ "ခဏငယ်"လို့ ခေါ်တယ်။

အဲသည်တော့ စိတ်တစ်ခု တစ်ခုရဲ့ သက်တမ်းဟာ ခဏကြီးတစ်ခု၊ (သို့မဟုတ်) ခဏငယ်နဲ့ ပြောရင် ခဏငယ်၃–ခု အသက်ရှည်တယ်–လို့ ဆိုရတာပေါ့။"

ကိုရင်ဝိမလကလေးအဖို့ ကြားရသမျှ အဆန်းချည်း အသစ်ချည်း ဖြစ်နေတော့၏၊ မသိဖူးသေးတာတွေ သိရ၍လည်း ဝမ်းသာနေတော့သည်။

## တစ်မှိတ်အတွင်း ကုဋေတစ်သိန်းမျှ

သင်္ဂြိုဟ်ထဲက သိစရာတွေကတော့ ဆန်းပြီးရင်း ဆန်းရင်း ဖြစ်နေတော့၏၊ ယနေ့ အသစ်တိုး၍ တစ်မျိုး ကြားရပြန်ပြီ၊ ဆရာတော်ကြီးက မနေ့တုန်းက အချက်ကိုပင် ဒီကနေ့ ဆက်လက်မိန့်ပြန်သည်–

"မနေ့တုန်းက စိတ်တစ်ခု တစ်ခုမှာ ဥပါဒ်–ဋ္ဌီ–ဘင် (ဖြစ်–တည်–ပျက်) ခဏငယ် ၃–ချက်စီ ရှိကြတယ်လို့ ပြောခဲ့တယ်။

*"ဖျတ်"ခနဲ လက်ဖျောက်တစ်ချက် တီးချိန်၊ "ဖတ်"ခနဲ မျက်စိတစ်မှိတ်ကာလ၊ "လက်"

* ကောဋ္ဌိသတသဟဿာနိ ဥပ္ပဇ္ဇန္တိ။ (ခန္ဓဝဂ္ဂသံယုတ် ၊၄၊ ၊၁၊ ၂၉၅)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ခနဲ လျှပ်စီးပြက်ချိန် ခဏကလေးအတွင်းမှာ အဲဒီ ဥပါဒ်–ဌီ–ဘင် (ဖြစ်–တည်–ပျက်) ခဏ ငယ် ၃–ချက်စီ ရှိကြတဲ့ စိတ်ပေါင်း ကုဋေ တစ်သိန်းခန့်မျှ ရှေ့နောက်ဆက်၍ ဖြစ်ပျက်နိုင်သတဲ့။

ယနေ့ ဆရာတော်ကြီး၏ ချုပ်ချက် ရှင်းပြချက်တို့မှာ ယခင်နေ့တွေကထက် ပို၍ ပို၍ အံ့သြနေရတော့၏၊ စိတ်–စေတသိက်ဟူသော သဘောတရားတို့ကို မြတ်စွာဘုရား ဟောပြ၍သာ သိကြရသည်၊ မျက်စိဖြင့် မြင်ရကောင်းသောအရာများလည်း မဟုတ်ကြ။

ထိုစိတ်–စေတသိက်တို့သည် အလွန်လျင်မြန်စွာ ဖြစ်ကြ–ပျက်ကြသည်ဟု မြတ်စွာဘုရားက ဟောမိန့်ထား၏၊ ဥပမာပင် ပြဖို့မလွယ်ဟု ဆိုထားသည်။

*"နာဟံ ဘိက္ခဝေ အညံ ဧကဓမ္မမ္ပိ သမနုပဿာမိ၊ ယံ ဧဝံ လဟုပရိဝတ္တံ၊ ယထယိဒံ စိတ္တံ၊ ယာဝဉ္စိဒံ ဘိက္ခဝေ ဥပမာပိ နသုကရာ ယာဝ လဟုပရိဝတ္တံ စိတ္တံ"

စိတ်သည် အလွန့်အလွန် လျင်မြန်သောနှုန်းဖြင့် ဖြစ်ပျက်နေ၏၊ စိတ်ထက်လျင်မြန်သော အခြားတရားကို ငါဘုရား မမြင်ပေ၊ စိတ်၏ လျင်မြန်နှုန်းကို ဥပမာပင် ပြဖို့ မလွယ်။

ဤသို့ဟောပြချက်တို့ကို သိရသဖြင့် ဝမ်းသာရလေသည်၊ "သြော်… မိမိတို့သန္တာန်မှာ ဖြစ်–ပျက်နေကြတဲ့စိတ်တွေဟာ ဤမျှလောက်ပင် မြန်ဆန်ကြတာပါကလား…။

## သိပ္ပံပညာက လိုက်၍မမီသေး

**ယခု သိပ္ပံခေတ်တွင် သိပ္ပံပညာရှင်တို့က ခေတ်မီသောနည်းတို့ဖြင့် တိုင်းတာကြည့်ကြရာ အသံက တစ်စက္ကန့်လျှင် ၀.၂၁မိုင်နှုန်းသွားသည်၊ အလင်းရောင်က တစ်စက္ကန့်လျှင် (၁၈၆,၀၀၀) တစ်သိန်းရှစ်သောင်းခြောက်ထောင်မိုင်နှုန်းသွားသည်ဟု သိကြရ၏။

ဤသို့လျှင် ခေတ်မီကိရိယာတို့ဖြင့် တိုင်းတာချက်အရ အမြန်ဆုံးနှုန်းကို တွေ့သိကြရခြင်း ဖြစ်သည်၊ ထို့ထက်မြန်သော လျင်မြန်နှုန်းကို မတွေ့ရှိကြသေး။

ယခု စိတ်တို့ကတော့ သဗ္ဗညုတဉာဏ်ပိုင်ရှင် ဘုရားသခင်ကိုယ်တော်မြတ်ကြီး ဟောပြချက်အရ တစ်စက္ကန့်လျှင် ကမ္ဘာကြီး၏ ဒီဘက်အစွန်းနှင့် ဟိုဘက်အစွန်းကို အခေါက်ခေါက် ပေါက်အောင် သွားနိုင်၏–ဟု သိရသည်။

ကမ္ဘာကြီးကိုလည်း တစ်စက္ကန့်အတွင်း အပတ်ပေါင်းများစွာ ပတ်နိုင်၏–ဟု သိကြရသည်၊ မိမိကိုယ်တိုင် စိတ်ကူးဖြင့် စမ်းသပ်ပတ်ကြည့်ပါ။

---

* အင်္ဂုတ္တရပါဠိ ၊ဧက၊ နှာ–၉

** သိပ္ပံပညာ၏ အဆိုအမိန့်များကို ဆရာမကြီး ဒေါ်တင်နွဲ့အေး BAEd, BEd, BA, MEd (အငြိမ်းစား ကထိက) (ရန်ကုန်ပညာရေးတက္ကသိုလ်ကထိက) က ရှာဖွေပေးပါသည်။

## တစ်ဘဝသာသနာ

# ရုပ်တစ်ခုရဲ့ သက်တမ်းကာလ

ပွေးပင်တောရ ဆရာတော်ကြီးက စိတ်၏ သက်တမ်းကာလကို ပြောပြပြီးနောက် ရုပ်၏ သက်တမ်းကာလကို ဆက်လက်ပြောပြပြန်သည်၊ အလွန် အရေးကြီးသော အခန်းများ ဖြစ်သောကြောင့်လည်း ဂရုတစိုက် ပြောပြတော်မူနေခြင်း ဖြစ်၏။

"ရုပ်ကတော့ စိတ်လောက် မမြန်ဘူးကွယ့်၊
ရုပ်သက်က နှေးတယ်"

"သတ္တရသ **စိတ္တက္ခဏာနိ**
ရူပဓမ္မာန မာယု"တဲ့။

သတ္တရသ–တစ်ဆယ့်ခုနစ်ပါးကုန်သော၊ စိတ္တက္ခဏာနိ–စိတ္တက္ခဏတို့သည်၊ ရူပဓမ္မာနံ–ရုပ်တရားတို့၏၊ အာယု–အသက်ရှည်ရာကာလတည်း–တဲ့။

"စိတ္တက္ခဏ ၁၇–ချက်ဟာ ရုပ်တရားတို့ရဲ့ အသက်"တဲ့၊ ဆိုလိုတာက **စိတ်ပေါင်း(၁၇)လုံး** ဖြစ်–ပျက်ပြီးတဲ့အချိန်နဲ့ ရုပ်တစ်ခု ဖြစ်–ပျက်ပြီးတဲ့အချိန် အတူတူပဲလို့ ဆိုလိုတယ်"

"**စိတ္တက္ခဏ**" တစ်ခု– တစ်ခုမှာ ဥပါဒ်–ဋ္ဌီ–ဘင် (ဖြစ်–တည်–ပျက်)ကာလ ၃မျိုး၊ ခဏငယ် ၃ ... ပါတဲ့ အကြောင်းကို ပြောပြီးပြီ၊ အဲဒါကြောင့် ...တ္တက္ခဏ ၁၇–ခု (စိတ်၁၇–လုံး)မှာ ဆိုလျှင် (ဖြစ်–တည်–ပျက်) ခဏငယ်ပေါင်း (၁၇x၃) = ၅၁မျိုး ပါတာပေါ့။

(က) ဒီတော့ ခဏကြီးဖြင့် ပြောလျှင် စိတ် ၁၇–လုံး ဖြစ်–ပျက်ချိန်နှင့် ရုပ်တစ်လုံး ဖြစ်–ပျက်ချိန် တူကြတယ်။

(ခ) ခဏငယ်ဖြင့် ပြောလျှင်တော့ စိတ်ဘက်က (ဖြစ်–တည်–ပျက်) ခဏငယ် ၅၁ ချက် ရှိတဲ့အချိန်မှာ ရုပ်ဘက်က (ဖြစ်–တည်–ပျက်) ခဏငယ် ၃–ချက် သက်တမ်းရှိတဲ့ ရုပ်တစ်ခုပဲ ရှိသေးတယ်–လို့ ဆိုလိုတယ်၊ ရုပ်သက်က နှေးတာပေါ့ကွယ်။

"နှေးတယ်"ဆိုပေမယ့်လဲ စိတ်တွေက လက်ဖျောက်တစ်ချက်တီး၊ မျက်စိတစ်မှိတ်၊ လျှပ်တစ်ပြက် အတွင်းမှာ ကုဋေတစ်သိန်းခန့်မျှ ရှေ့နောက်ဆက်၍ ဖြစ်–ပျက်နိုင်တယ်–ဆိုတော့ စိတ် ၁၇–ချက်ရှိတိုင်း ရုပ်က တစ်ချက်လိုက်နေရတဲ့အတွက် သူလဲ "ဖြစ်–ပျက်နှုန်း" မနည်းလှဘူးပေါ့။

အဲဒီမှာ စိတ်၏ဖြစ်ချိန်နှင့် ရုပ်၏ဖြစ်ချိန် တူတယ်၊ စိတ်၏ချုပ်ချိန်နှင့် ရုပ်၏ချုပ်ချိန်လဲ တူကြတယ်။

ကြာတာက ရုပ်ဖြစ်ပြီးနောက် မချုပ်သေးဘဲ တည်တံ့နေတဲ့အချိန် (ဋ္ဌီခဏ)သာ ကြာနေခြင်း ဖြစ်တာတဲ့၊ အဲဒါကြောင့် ရုပ်၏ ဋ္ဌီခဏဟာ စိတ်၏ခဏငယ်ပေါင်း ၄၉–ချက်ခန့် ကြာတယ်လို့ ဆိုရမယ်–တဲ့။

ကိုရင်ဝိမလကလေး အဖို့ စိတ်ဝင်စားဖွယ် ကောင်းသော အကြောင်းအရာတို့ချည်း ဖြစ်နေကြ၏။

# * ဇဝနဟံသ (လျင်မြန်သော ဟင်္သာမင်း)

ဤသို့ နာမ်တရား ရုပ်တရားတို့၏ ဖြစ်–ပျက် လျင်မြန်ပုံကို သာမဏေကလေးများ နားလည်လွယ်အောင်ရယ်၊ စိတ်ဝင်စားအောင်ရယ် ရည်ရွယ်၍ ...ရာတော်ကြီးက ဇဝနဟံသဇာတ်ကို ထုတ်ဆောင်ရှင်းပြတော်မူပါသတဲ့။

"တောကျောင်း၊ တောရကျောင်း"ဆိုသည်မှာ လောကီအနေဖြင့် အာရုံခံစားစရာ ဘာမျှမရှိ၊ သဘာဝ

* ဇာတ်အဋ္ဌကထာ၊ တေရသက၊ နှာ–၂၁၂။

ကျေးငှက်ကလေးတို့၏ သာယာသောအသံ၊ လေညင်းရိုက်ခတ်၍ သစ်ရွက်ချင်းဆတ်သံ၊ ပုရစ်–ပုစဉ်းကလေးတို့၏ တိုးတိုးသက်သာ ကျိုးကျိုးကျစ်ကျစ်မြည်သံတို့မျှသာ သဲ့သဲ့ကြားကြရသည်။

မြို့ရွာအုသံ ဆူညံမှုလည်း မရှိကြဘဲ၊ တိတ်ဆိတ်ငြိမ်သက်နေမှု အေးချမ်းနေမှုအရသာတို့မျှသာ ရှိကြ၏၊ ဤကဲ့သို့သော အခြေအနေမျိုးတွင် ဆရာတော်ကြီးက သူ့တပည့်ကလေးတို့အား ပုံပြောသလို ပြောပြ၍ ရှင်းပြနေတော်မူသည်။

"ငါးရာ့ငါးဆယ် ဇာတ်တော်ထဲမှာ "ဇဝနဟံသဇာတ်" ဆိုတာ ပါတယ်ကွယ့်၊ ဘုရားလောင်း ဟင်္သာမင်းကြီးပေါ့၊ အလွန် လျင်မြန်စွာ ပျံသန်းနိုင်တယ်တဲ့၊ သူ့မှာ ညီငယ် (၂)ကောင်လဲ ရှိတယ်၊ သူတို့လဲ ပျံအားကောင်းကြတာပဲတဲ့"

## နေမင်းနှင့် အပြေးပြိုင်တဲ့ ပွဲကြီး

တစ်နေ့တော့ ညီငယ်၂–ကောင်က "နေမင်းကြီးနဲ့ ပြိုင်ချင်တယ်၊ အပြေးပြိုင်မယ်"လို့ အစ်ကိုကြီးကို လာပြောကြသတဲ့၊ ဒီတော့ အစ်ကိုကြီးက "ဟဲ့–မလုပ်ကြနဲ့"လို့ တားတယ်၊ တားပေမယ့် သူတို့က "ပြိုင်မယ်"ပဲ စိတ်သန်သန်နဲ့ ပြောနေကြသတဲ့။

အဲလိုနဲ့ အကြိမ်ကြိမ် တားမြစ်နေတဲ့ ကြားထဲက ညီငယ် ၂–ကောင်ဟာ ပြောမရဘူး၊ မနက်စောစောထ၊ စားစရာသောက်စရာတွေကို ဗိုက်ပြည့်အောင် စားထားပြီးတော့ နေမင်းကြီးထွက်အလာကို စောင့်နေကြသတဲ့။

နေမင်းကြီးက မနက်၆–နာရီလောက်မှာ အရှေ့လောကဓာတ်မှ လှည်းဘီးကြီးလို ကြွတက်၊ ဝင်းဝင်းကြီးနဲ့ ထွက်လဲလာရော သူတို့(၂)ကောင်လဲ ကောင်းကင်မှာ အနောက်ဂေါယာကျွန်းဘက်ကို ဦးတည်ပျံသန်းနေကြသတဲ့။

ညီငယ် ၂–ကောင်ရဲ့အသံကို မကြားလို့ ရှာတော့မှ သူတို့ ၂–ကောင် ကောင်းကင် ရောက်နေတာကို တွေ့ရသတဲ့၊ ဒီတွင် အစ်ကိုကြီးလဲ မနေနိုင်ဘူး၊ စိတ်မချလို့ သူတို့နောက် လိုက်ရတော့တာပေါ့၊ "လက်တွေ့ပြမှ သည်ကလေးတွေ ယုံမှာပဲ"ဆိုပြီး နောက်က ခပ်လှမ်းလှမ်းက အကဲခတ်ရင်း လိုက်နေရသတဲ့။

အဲလိုနဲ့ ပျံသန်းလာလိုက်ကြတာ တော်တော်နေမြင့်လို့ မနက်(၁၀)နာရီလောက်ကျတော့ ငယ်တဲ့အကောင်က မပဟန်နိုင်တော့ဘူး၊ တောင်ပံတွေ ခတ်ရလွန်းလို့ ပူလှပြီ၊ အတောင်တွေကြားက မီးခိုးတွေ ထွက်လာကုန်ပြီ၊ ကြာလျှင် မီးတောက်ပြီး လေထဲတွင် သေပွဲဝင်ရတော့မယ်။

အဲဒီအခြေအနေမှာ အစ်ကိုကြီး ဟင်္သာမင်းက အပြေးလိုက်လာတဲ့ပြီး သူ့ရဲ့ 'အတောင်ပံ(၂)ဘက်နဲ့ ပွေ့ပိုက်ယူလာ၊ စိတ္တကူဋတောင်ထိပ်ပေါ်ကို သွားပြီး အနားယူဖို့ ထားလိုက်ရသတဲ့။

အဲဒီအချိန်မှာ ညီလတ်က ခွဲမလျှော့သေးဘူး၊ ဆက်လက်ပြီး အနောက်ဘက်ကို ပျံသန်းနေတုန်းပဲ၊ နေမင်းကြီး အနောက်ဂေါယာကျွန်းကို ဝင်ရင် သူတို့လဲ အဲဒီကို ဆိုက်ရမယ်ပေါ့၊ နေမင်းကြီးရဲ့ ရှေ့က ရောက်ရမယ်ပေါ့။

ဒါပေမယ့် သူလဲ နံနက်(၁၂)နာရီလောက်ကျတော့ မတတ်နိုင်တော့ဘူး၊ အတောင်ပံတွေ ခတ်ရလွန်းလို့ ပူလောင်နေပြီ၊ တောင်ပံတွေကြားက မီးထတောက်ခမန်းဖြစ်နေပြီ၊ အခိုးတွေ ထွက်လာကုန်ပြီ။

ဒီတွင် အစ်ကိုကြီး ဟင်္သာမင်းက ပြေးလိုက်လာတဲ့ ပြီး သူ့ရဲ့အတောင်ပံ(၂)ဘက်တို့ဖြင့် ပွေ့ပိုက်ယူလိုက်ရတော့သတဲ့၊ သေလုမျောမျော ကျန်တော့တာပေါ့၊ သူ့ကိုလဲ စိတ္တကူဋတောင်ထိပ်ပေါ်ကိုပဲ ယူလာ အနားပေးထားလိုက်ရသတဲ့။

## တစ်ဘဝသာသနာ

# နေမင်းနှင့် ပြိုင်တဲ့နှုန်းဆိုတာ

ပြီးတော့ "အချက် ပေးလိုက်တဲ့အခါမှာ ကိုယ့်မျက်နှာတူရူဘက်သို့ တစ်ပြိုင်နက် တစ်ချိန်တည်း မြားတစ်စင်းစီ ပစ်လွှတ်ရမယ်"လို့လဲပြောထားသတဲ့။

အားလုံး ပြင်ဆင်ပြီးကြလို့ ငွေမောင်းကြီးကို "ဒူ"ခနဲထုပြီး အချက်ပေးလိုက်တာနဲ့ တစ်ပြိုင်နက် "ဒင်း"ခနဲ နေအောင် ကိုယ့်မြား ကိုယ်ပစ်လိုက်ကြတာ လေးဘက်လေးတန်ကို "ဖြာ"ခနဲ လွင့်ထွက်ကုန်တာ အားလုံးပဲ မြင်လိုက်ကြရသတဲ့။

အဲဒီမြားတွေကို ဟသ်ာမင်းကြီးက လျှပ်တစ်ပြက်အတွင်း ဖတ်ဖတ်–ဖတ်ဖတ်နဲ့ လိုက်ဖမ်းပြီးတော့ မြား(၄)စင်းလုံးကို တစ်စုတစ်စည်းထည်း နှုတ်သီးဖြင့် ကိုက်ချီပြီး တိုင်ထိပ်ဖျားပေါ်မှာပဲ နေလျက် ပြသတဲ့။

ဟသ်ာမင်းကြီးကို ကြည့်တော့လဲ တိုင်ထိပ်ဖျားပေါ်က ဘယ်မှမသွားဘူးလို့ ထင်ရသတဲ့၊ မြား(၄)စင်းလုံး လေးဘက်လေးတန် ဖြာထွက်ပြေးလွှားကုန်တာလဲ အားလုံး အမြင်ပဲ။

ဒါပေမယ့် မြား(၄)စင်းလုံးဟာ ယခု သူ့ပါးစပ်ထဲ တစ်စုတစ်စည်းထည်း ကိုက်ချီပြီးသား ဖြစ်နေတာကိုလဲ တွေ့နေရပြန်သတဲ့။

အေး... နေမင်းကြီးနဲ့ ပြိုင်တဲ့နှုန်းဆိုတာ အဲလောက်ကိုပဲ မြန်ရတယ်လို့ ပြောလိုက် ပြလိုက်တာပဲ။

အဲဒီနောက် ဟသ်ာမင်းကြီးက "ဆက်ပြိုင်နေလို့ အကျိုး မရှိပါဘူးလေ" ဆိုပြီးတော့ ဗာရာဏသီပြည်၊ ဗာရာဏသီမင်းကြီးရဲ့ နန်းတော်သို့ လာခဲ့ပါသတဲ့။

အဲဒီတွင် ဗာရာဏသီမင်းကြီးက ဝမ်းမြောက်ဝမ်းသာနဲ့ ဆီးကြို၊ စားဖွယ်သောက်ဖွယ် တို့ဖြင့် ဧည့်ခံပြီးတော့ "ဘယ်ကကြွလာပါသလဲ"လို့ မေးသတဲ့၊ ဒီတော့ "နေမင်းကြီးနဲ့ အပြေးပြိုင်ရာက လာခဲ့ပါတယ်" လို့ ဖြေတာကိုး။

ဒီတွင် ဗာရာဏသီမင်းကြီးက အံ့အားသင့်ပြီးတော့ "နေမင်းကြီးနဲ့ ပြိုင်ရတဲ့အရှိန်အဟုန် လျင်မြန်နှုန်းဆိုတာ မလွယ်ဘူးနော၊ သိပ်ပြီး မြန်ရမှာပဲ၊ အဲဒီ လျင်မြန်နှုန်းမျိုးကို ကြည့်စမ်းချင်ပါဘိ၊ ဝန်မလေးပါလျှင် ပြစမ်းပါ အရှင်ဟသ်ာမင်း"လို့ တောင်းပန်သတဲ့။

ဒီတော့ ဟသ်ာမင်းကြီးက "လေးသမားကျော်(၄)ယောက် ဆင့်ခေါ်ပါ"လို့ ဆိုတယ်၊ ဘုရင့်အမိန့်နဲ့ ဆင့်ခေါ်လို့ ရောက်လာကြတယ်ဆိုရင်ပဲ ဟသ်ာမင်းကြီးက နန်းရင်ပြင်ရှေ့က တံခွန်တိုင်ထိပ်ဖျားပေါ်မှာ သွားပြီး နားနေသတဲ့။

လေးသမားကျော်(၄)ယောက်ကိုလဲ တံခွန်တိုင်ရဲ့ အောက်ခြေ ၄–ဘက်မှာ အရပ် ၄–မျက်နှာ တစ်ဘက်စီကို မျက်နှာမူပြီး ရပ်နေစေသတဲ့။

# ရုပ်နာမ်ဓမ္မတို့က ပို၍လျင်မြန်

ဒီတွင် ရှင်ဘုရင်ကြီးက အံ့သြ၍မဆုံး၊ သဘောကျလွန်းလို့ ချီးကျူး၍မဆုံး တပြုံးပြုံးနှင့်၊ လာရောက် ကြည့်ရှုကြတဲ့ ပရိသတ်ကြီးကလည်း အံ့သြဘနန်း လက်ပန်းပေါက်ခတ်၊ ကြွက်ကြွက်ညံအောင် ထူးဆန်းမှုကြီးတစ်ရပ် ဖြစ်နေတော့သည်၊ ဤအချိန်တွင် ရှင်ဘုရင်ကြီးက မေးသတဲ့–

"အရှင်ဟသ်ာမင်း... ဤမျှလောက် လျင်မြန်သော နှုန်းကို ရှေးက ကျွန်ုပ်တို့ မမြင်စဖူးပါ၊

---

မှတ်ချက်။ ။ဤအကြောင်းအရာများကို ထိုစဉ်က ကိုရင်ကလေးဘဝဖြင့် နာယူမှတ်သားခဲ့ရကြောင်း– ယခု ၁၃၅၂–ခု တန်ဆောင်မုန်းလတွင် တွေ့ရစဉ် ဦးဘရင် (အသက် ၈၄–နှစ်)က ပြန်လည် ပြောပြပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ယခုမှသာ မြင်ရ တွေ့ရပါတယ်၊ လောကကြီး အတွင်းမှာ ဤနှုန်းဟာ အမြန်ဆုံးဖြစ်လိမ့်မည် ထင်ပါတယ်"

"မဟုတ်ဘူး အရှင်မင်းကြီး၊ ဒါ့ထက် မြန်တာ ရှိသေးတယ်"

"သြော်... ရှိပါသေးသလား အရှင်ဟသာမင်း၊ ဘယ်ဟာပါလဲ"

"အို... အရှင်မင်းကြီး၊ သတ္တဝါတိုင်း– သတ္တဝါ တိုင်း၏ အာယုသင်္ခါရတို့သည် ယခုအကျွန်ုပ် ၏ အရှိန်အဟုန်ထက် အဆပေါင်း များစွာ ရာ–ထောင်–သိန်း–သန်းမက ဖြစ်–ပျက် မြန် ဆန်လွန်းလှပါတယ် အရှင်မင်းကြီး"

အဲသလို ဟသာမင်းကြီးက ပြောပြသတဲ့၊ ဆိုလိုရင်း အဓိပ္ပာယ်ကတော့ "သတ္တဝါတိုင်းမှာ ရှိတဲ့ ရုပ်နာမ် တရားတို့ရဲ့ ဖြစ်–ပျက်မှုဟာ ဘယ်အရာနှင့်မှ နှိုင်းစာ လို့ မရအောင် လျင်မြန်လွန်းလှတယ်၊ သူတို့ဟာ အမြန်ဆုံး–လို့ ဆိုလိုတယ်"

"ယခု ကိုရင်တို့ကို ပြောပြနေတဲ့ ရုပ်တရား နာမ်တရားတို့ရဲ့ ဖြစ်–ပျက်မှုဟာ အမြန်ဆုံးတဲ့ကွ"

ဤသို့လျှင် ဝွေးပင်တောရ ဆရာတော်ဘုရား ကြီးက သူ့တပည့်ကလေးတို့အား နားလည်နိုင်မည့် ဥပမာဖြင့် ရှင်းပြနေခြင်း ဖြစ်သည်။

## ယဉ်ကျေးမှု ပြည့်ဝစေလို၍

ဆရာတော်ကြီးက မိမိ၏ကိုရင်ကလေးများအား စာပေချပို့ပေးရုံတစ်မျိုးသာ မဟုတ်သေး၊ နားမျက်စိ တို့ကို အစွမ်းကုန် ဖွင့်၍ အသင့်အနေအထားဖြင့် ကိုရင်ကလေးတို့၏ နောင်ရေးကိုပါ တွေးတောစဉ်းစား ထားတော်မူဟန် ရှိသည်။

"သာသနာတော်မှာ နေမည့် သူများ" ဆိုတာ စိတ်ကောင်းရှိဖို့၊ နှလုံးသား ဖြောင့်မတ်ဖို့၊ ကိုယ်ကျင့် ကောင်းဖို့၊ ဝိနည်းလေးစားတတ်ဖို့၊ တစ်ဘက်သားအား ငဲ့ညှာတတ်ဖို့ စတဲ့ ဂုဏ်ပုဒ်များ ရှိဖို့ လိုအပ်သည်၊ ဤသို့တွေး၍ မိန့်တော်မူ၏–

"ကိုရင်တို့ စာပေသင်ကြားတယ်ဆိုတာ ကိုယ့် ဘဝ အဆင့် မြင့်တက်လာဖို့ သင်တာ၊ အသိ ဉာဏ် ကြွယ်ကြွယ်နှင့် လောကအလယ်မှာ ကိုယ့်ဘဝကိုယ် ပြုပြင်နိုင်ဖို့ သင်ရတာ။

ဂုဏ်ရှိဖို့ မဟုတ်ဘူး၊ ကျော်ကြားဖို့ အတွက် သင်ရတာလဲ မဟုတ်ဘူး၊ ဒါ သတိ ရှိကြပါ။

ပညာမသင်လို့ ပညာမဲ့ပြန်တော့လဲ လောကအလယ်မှာ မျက်နှာငယ်ရတယ်၊ လူ မလေးစားဘူး၊ အထင်သေး ခံရတယ်၊ ကဲ့ရဲ့ ခံရမယ်။

"ပညာချို့တဲ့၊ လုံ့လမဲ့မှု
ကဲ့ရဲ့သင်္ဂြိုဟ်၊ သူများဆိုလိမ့်..."တဲ့။

## တစ်ဘဝသာသနာ

# ကျင့်ဝတ်ဂုဏ်အင် စုံလင်ပါမှ

တစ်ခါတစ်ရံတွင်လည်း ဆရာတော်ကြီးက ၊လိင်(၁၀)ပါး၊ ဒဏ်(၁၀)ပါးတို့၏ အဓိပ္ပာယ်တို့ကို ပြန်လည် ရှင်းပြနေတတ်၏၊ ကိုရင်တို့ မချွတ်မယွင်း လိုက်နာရမည့် ကျင့်ဝတ်များဖြစ်သောကြောင့်ဟု ဆိုသည်။

ထိုမျှမကသေး၊ သေခိယတွင် ပါဝင်သော ကျင့်ဝတ်များ၊ သက်န်းဝတ်ပုံ၊ ယမ်းပုံများ၊ သွားပုံလာပုံ၊ နေပုံထိုင်ပုံ၊ စားပုံသောက်ပုံတို့ကို ပြန်လည် ပြောပြနေတတ်၏၊ အသေးစိတ်လှသည်၊ ဟုတ်ပါသည်၊ သေခိယတွင် မြတ်စွာဘုရားက–

"သင်းပိုင်ကို ဝတ်တဲ့အခါ အောက်ပိုင်းမှာ အနားစများ ညီနေစေရတယ်၊ ကေသီကို အပေါ်က လွှမ်းတဲ့အခါမှာလဲ အဝန်းညီအောင် ယမ်းရ လွှမ်းရတယ်။

သွားတဲ့လာတဲ့အခါ ခန္ဓာကိုယ်ကို ဣန္ဒြေရစေရတယ်၊ ငြိမ်သက်စေရတယ်၊ ယိုင်ထိုး ယိုင်ထိုးနဲ့ မသွားရဘူး။ နေတဲ့ထိုင်တဲ့အခါမှာလဲ အင်္ကါ ခြေလက် လှုပ်လှုပ်ခါခါ မရှိစေနဲ့–တဲ့၊ စားတဲ့ သောက်တဲ့အခါမှာလဲ ပလုတ်ပလောင်း မစားရဘူး၊ ရှူးရှူးရှဲရှဲ မြည်အောင်လဲ ဟင်းရည် မသောက်ရဘူး"

စသည်ဖြင့် အပြည့်အစုံ ဟောထားပါသည်၊ တံထွေးထွေး၊ နှပ်ညှစ်၊ အောက်ထစ်ဆုံး ကျင်ကြီး ကျင်ငယ် စွန့်ပုံကအစ ပါသည်၊ ယဉ်ကျေးစေလို၍ ဘုရားရှင်ကိုယ်တော်မြတ်ကြီးက ဟောထားတော်မူခြင်း ဖြစ်၏။

"ကိုရင်တို့... သပိတ်ကို ပြောင်အောင် ဆေးကြနော်၊ ပြောင်အောင် မဆေးရင် နေရာတိုင်းမှာ ညစ်တီးညစ်ပတ်လုပ်ရင် ခေါင်းမှာ "ဒက်" ပေါက်တတ်တယ်"

ဟူ၍လည်း ဆရာတော်ကြီးက တစ်ခါတလေ မိန့်တတ်သည်၊ သူ့တပည့်ကိုရင်ကလေးများအပေါ် အနာဂတ်ကာလအတွက် တိုးတက်ဖို့ရာ မည်မျှမျှော်မှန်းထားသည် မသိနိုင်–။

"လိမ္မာစေကြောင်း၊ ကောင်းပါစေလို၊
ဆိုမှာသမျှ၊ ဩဝါဒ များဖြင့်"

တရရ–တဖွဖွ၊ အမြဲတမ်းလို ဆုံးမဩဝါဒပေးနေတော်မူတတ်သည်။

# ကိုရင့်သက်န်း ပျားစွဲခြင်း

သင်ကြားပေးသမျှ စာပေထဲမှာချည်း စိတ်ဝင်စားရင်း လာခဲ့ကြသူများဖြစ်၍ တစ်နှစ်တာကာလသည် ဘာလောက်မျှ မကြာဟု ထင်ရ၏၊ ယခုအခါ သီတင်းသုံးခါ ကျွတ်၍ ကိုရင်ဝိမလကလေးသည် (၃)ဝါရချေပြီ၊ ဒီဇင်ဘာလကုန်လွန်ပြီးနောက် (၁၂)နှစ်အတွင်းသို့လည်း ဝင်ရောက်လာတော့သည်။

သာသနာ့ဘောင်မှာ (၃)ဝါရသူဖြစ်ခြင်း၊ စိတ်ဓာတ် တည်ငြိမ်လာသူဖြစ်ခြင်း၊ သာမဏေတို့ ကျင့်ဝတ်သိက္ခာလည်း မညှိုးနွမ်းခြင်း၊ ဖြူစင်သန့်ရှင်းခြင်းဟူသော ဂုဏ်တို့ကြောင့် တစ်နေ့တွင် ထူးခြားမှုတစ်ခု ဖြစ်လာတော့သည်။

များပြားစွာသော ပျားကောင်တို့သည် မည်သည့်

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

နေရာက လာကြသည်မသိ၊ အုပ်ဖွဲ့ဖြင့် ပျံသန်းလာကြပြီးလျှင် တန်းပေါ်၌ ခေါက်၍တင်ထားသော ကိုရင်ဝိမလကလေး၏ သင်္ကန်းကို ဝိုင်းအုံသိုက်ဖွဲ့၍ စွဲကြလေတော့သည်။

ထူးဆန်းသော ထိုအရာကို ကျောင်းသား ကိုရင်တို့က ဝိုင်းအုံကြည့်ရှုကြလျက် အမျိုးမျိုး ဝေဖန်ပြောဆိုနေကြ၏၊ ထင်မြင်ချက်ပေးနေကြသည်–

"ပျားစွဲတာ မကောင်းဘူး၊ ခိုက်တတ်တယ်၊ ရှေးလူကြီးသူမတွေ ပြောလေ့ပြောထ ရှိကြတာကတော့ အိမ်ခေါင်မိုးပေါ် ရေနဲ့ပက်တင်၊ ကျလာတဲ့ တံစက်ရေကို ခွက်နဲ့ ခံ၊ ပျားအုံကို လက်ပြန်ပက်ရသတဲ့၊ အဲဒီနည်းနဲ့ နှင်ထုတ်ပစ်ရမယ်–ဆိုပဲ"

## ဆရာတော်ကြီး အဆုံးအဖြတ်

ဤသို့လျှင် ကြွက်ကြွက်ညံအောင် သူတစ်မျိုးငါတစ်ဖုံ ဝေဖန်နေကြသည်၊ ကိုရင်ဝိမလကလေးကား ဘာမျှ ဝင်၍မပြော၊ ကြောက်ရွံ့ဟန်လည်းမပြ၊ ပြုံးစစမျက်နှာကလေးဖြင့်သာ ကြည့်နေသောဟူ၏၊ ထို့နောက် ဆရာတော်ကြီး ဦးဇာဂရအား သွား၍ လျှောက်ကြသည်၊ ထိုအခါ ဆရာတော်ကြီးက–

"အေး... မောင်ဝိမလကလေးဟာ မခေဘူးကွယ့်၊ ဘုန်းကံကြီးမားလိမ့်မယ်၊ ယခု ပျားတွေဝိုင်းအုံ ကြသလို– သူ့ကို ပရိသတ်တွေက ဝိုင်းအုံမှီခို ကြမယ့် နိမိတ်တွေပဲကွယ့်"

ဤသို့ မိန့်ပါသတတ်၊ ထိုအခါမှပင် ဆူညံနေသော ဝေဖန်သံများ တိတ်ဆိတ်ကုန်ကြတော့သည်၊ မီးကို ရေနှင့်သတ်သလို ငြိမ်ဝပ်သွားကြတော့သတတ်၊ အမျိုးမျိုး ဝေဖန်ကြသော သူတို့လည်း ရပ်၍သွားကြသောဟူ၏။

## ပျားနှင့်စပ်သော ဟောကိန်းများ

ပျားစွဲမှုနှင့်ပတ်သက်၍ အချို့သော လောကီကျမ်းတို့က "အကောင်း"ဟု မဆိုချင်ကြ၊ အချို့သော ကျမ်းတို့ကမူ အကောင်း အဆိုး(၂)မျိုးရော၍ ပြကြသည်၊ "လောကီသိပ္ပဒ္ဒန့်ပေါင်းကျမ်း"တွင် ဤသို့ ဆိုထား၏ –

"ပျားသည် အိမ်ရှေ့စွန်း၌ စွဲသော် မကောင်း၊ ပူပင်သောကရောက်ရ၏၊ အနောက်ခေါင်တိုင်မှာ စွဲသော် ဥစ္စာရအံ့၊ အိမ်တောင်ဘက်အစွန်တွင် စွဲသော် နာဖျားတတ်၏၊ မြောက်ဘက်က စွဲသော် ဆွေမျိုးတို့က ဥစ္စာလာ၍ပေးအံ့"

စသည်ဖြင့် စွဲသောနေရာဌာနတို့ကို စုံလင်စွာ ပြထားသည်၊ ထို့နောက်တွင် ဟောကိန်းများ ထုတ်ထားပြန်၏၊–

"ဝတ်သောပုဆိုးတွင် လာ၍စွဲမူ သူတကာတို့ထက် မြတ်သူဖြစ်အံ့၊ အိပ်ရာကပ်အောက်တွင် လာ၍စွဲပြန်သော် ကြွယ်ဝအံ့"

ဤသို့လျှင် ကောင်း– မကောင်း (၂)မျိုး ရောလျက် ဟောကိန်းထွက်ထားကြသည်၊ ဤကား လောကီကျမ်းများ၏ အဆိုအမိန့်မျှသာတည်း။

## အကောင်းလွန်သည်လည်းရှိ

အိမ်ခန်းထဲမှာရှိသော ဘူးသီးအခြောက် တစ်ခြမ်းပဲ့ အတွင်းသို့ ဝင်၍ ပျားတွေ စွဲကြ၏၊ ထိုအချိန်မှစ၍ စီးပွားတွေ တရိပ်ရိပ် တိုးတက်လာတော့သည်။

သုံးမကုန် စွဲမကုန်အောင် စီးပွားတွေ တက်နေ၏၊ မစိုးရိမ်ကျောင်းတိုက် ဆရာတော်ကြီးနှင့် ဆက်စပ်နေသည်၊ သို့ဖြစ်၍ ရာပေါင်းများစွာ သံဃာတော်တွေ နေထိုင်သော "မစိုးရိမ်ကျောင်းတိုက်ကြီး တစ်ခုလုံး အတွက် တာဝန်ယူမယ် ဘုရား"ဟု လျှောက်နိုင်သည် အထိ ဖြစ်လာတော့သည်။

"ပျား"ဆိုသည်မှာ ချိုမြိန်သော ဝတ်ရည်တို့ကို ဟိုမှ-သည်မှ သယ်ယူလာပြီး ပျားလပို့လုပ်ကာ သိမ်းဆည်းတတ်သော သတ္တဝါမျိုးဖြစ်၏၊ "ပျားရည်" ဆိုသည်မှာ ဆေးပေါင်းခသော ဝတ်ရည်တစ်မျိုး ဖြစ်သည်။

သို့ဖြစ်၍ ပျားစွဲတိုင်း မကောင်း မဟုတ်ပါ၊ အကောင်းလွန်သော အရာများကိုပင် တွေ့ရသေး၏၊ မန္တလေးမြို့ အနောက်ပြင်၊ မစိုးရိမ်ကျောင်းတိုက်ကြီး၏ ဒါယကာကြီး (တရုတ်လူမျိုး) အိမ်မှာ ပျားစွဲဖူးသည်။

## ဓမ္မနိယာမအရ ဖြစ်ပျက်နေကြခြင်း

ကိုရင်ဝိမလကလေးတို့တစ်သိုက်မှာ သင်္ကြိုဟ် ဝီထိပိုင်းကို တက်ရင်း နောက်ပိုင်းသို့ ရောက်လာလေ ထူးဆန်းပုံတွေ များစွာ တွေ့ရလေဖြစ်၏၊ အံ့သြဖွယ် အကောင်းဆုံးကတော့ ဝီထိစိတ်အစဉ်အတန်းတွေပါပဲ။

ပုဂ္ဂိုလ်တိုင်း- ပုဂ္ဂိုလ်တိုင်းမှာ စိတ်အစဉ်တွေ (တစ်သုတ်ပြီး- တစ်သုတ်၊ တစ်သုတ်ပြီး- တစ်သုတ်) ဆက်ကာ ဆက်ကာ ဖြစ်နေတယ်၊ တစ်ဘဝလုံး ဖြစ်နေတယ်ဆိုပဲ။

အိပ်ပျော်နေတဲ့အခိုက်မှာလဲ ဘဝင်စိတ် (မသိစိတ်)တွေ၊ နိုးနေတဲ့အခိုက်မှာလဲ ဝီထိစိတ် (သိစိတ်)တွေ ဆက်ကာ ဆက်ကာ ဖြစ်နေတယ်-တဲ့၊ ဒါဟာ ဘဝစကတည်းက သေသည်အထိ တစ်ဘဝလုံး ဖြစ်ပျက်နေတာတဲ့၊ စိတ်တွေသာမက ရုပ်တွေလဲ ဒီလိုပဲတဲ့။

ဘယ်သူကလာ၍ ဒီလိုဖြစ်အောင် စီစဉ်ပေးနေတာပါလိမ့်၊ ဘယ်သူကမှ လာပြီး စီစဉ်ပေးနေတာ မဟုတ်၊ ဒွါရနှင့် အာရုံတွေ့ဆုံကြလို့ ဓမ္မနိယာမသဘော တရားအရ နာမ်သဘောတရားတွေ ဖြစ်ပေါ်- ပျောက်ကွယ်နေကြခြင်းပဲ၊ ရုပ်သဘောတရားတွေလဲ (ကံ-စိတ်-ဥတု-အာဟာရ) ဆိုတဲ့ အကြောင်းတရားတွေကြောင့် ဖြစ်ပေါ်- ပျောက်ကွယ်နေရတာပဲတဲ့။

## မမြင်ရဘဲ ဖြစ်–ပျက်နေသော အရာများ

မျက်စိအကြည်ရုပ်နဲ့ ရူပါရုံအဆင်းရုပ်တို့ တွေ့ဆုံကြလို့ ဖြစ်ပေါ်လာတဲ့ စိတ်အစဉ်အတန်းကလေး တစ်သုတ်မှာ–

"အတီတဘဝင်၊ ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ၊ ပဉ္စဒွါရာဝဇ္ဇန်း၊ စက္ခုဝိညာဏ်၊ သမ္ပဋိစ္ဆိုန်း၊ သန္တီရဏ၊ ဝုဋ္ဌော၊ ဇော ခုနစ်ကြိမ်၊ တဒါရုံနှစ်ကြိမ်"တဲ့။

ဤသို့လျှင် ဖြစ်ပုံအစဉ်ကို ပြထား၏၊ ယင်းစိတ်အစဉ်အတန်းကို အတိုကောက်အားဖြင့်–

"တီ–န–ဒ–ပ–စ–သံ–ဏ–ဝု–
ဇ–ဇ–ဇ–ဇ–ဇ–ဇ–ဇ–ရုံ–ရုံ"

ဟူ၍ ပြထား၏၊ ဘုရားရှင်ကိုယ်တော်မြတ်ကြီးက ဟောပြထား၍သာ သိရခြင်းဖြစ်သည်၊ သို့မဟုတ်လျှင် မသိနိုင်ပါ၊ ပကတိမျက်စိဖြင့် မြင်ရစကောင်းသော အရာများလည်း မဟုတ်ကြ၊ ထူးဆန်းအံ့သြဖွယ်ပေတကား။

## ခက်ဆစ် အဓိပ္ပာယ်များ

တီ = အတီတဘဝင် = လွန်လေပြီးသော အတိတ်ကာလ၌ ဖြစ်ပျက်နေသော ဘဝင်စိတ်။

န = ဘဝင်္ဂစလန = ဘဝင်စိတ်အလျင်ကို လှုပ်ခါသွားစေသောစိတ်။

ဒ = ဘဝင်္ဂုပစ္ဆေဒ = ဘဝင်စိတ်အလျင်ကို ဖြတ်တောက်လိုက်သောစိတ်။

ပ = ပဉ္စဒွါရာဝဇ္ဇန်း = (စက္ခု၊ သောတ၊ ဃာန၊ ဇိဝှါ၊ ကာယ) ငါးဒွါရ၌ ဆင်ခြင်သော စိတ်။

စ = စက္ခုဝိညာဏ် = မြင်စိတ်။

သံ = သမ္ပဋိစ္ဆိုန်း = အာရုံကို လက်ခံသောစိတ်။

ဏ = သန္တီရဏ = ဘာလဲလို့ စုံစမ်းသော စိတ်။

ဝု = ဝုဋ္ဌော = ကောင်း–မကောင်း ဆုံးဖြတ်တဲ့ စိတ်။

ဇ = (ဇဝန)ဇော = ဇော စိတ်များ ဖြစ်ကြ၏၊ အဟုန် လျင်မြန်စွာ (၇)ကြိမ် ဇောစိတ်များ ဖြစ်ကြခြင်း။

ရုံ = တဒါရုံ = ထိုဝီထိစိတ်၏ အာရုံကိုပင် လိုက်၍ယူသောစိတ်။

ဤသို့လျှင် သင်္ဂြိုဟ်ထဲမှာ စိတ်ဝင်စားစရာတွေ ပြည့်သိပ်နေအောင် ပေါ်များလှသည်၊ သင်္ဂြိုဟ်က အဘိဓမ္မာ၏ အဓိပ္ပာယ် သဘောတို့ကို ပြောပြ၏၊ သဒ္ဒါကတော့ ပိဋကတ်ပင်လယ်ကို ကူးရာတွင် မပါမဖြစ်သော စနစ်တို့ကို သင်ပြသည်၊ (၂) မျိုးလုံး အရေးကြီးကြသည်ချည်းပင် ဖြစ်၏။

## တစ်ဘဝသာသနာ

# ပျား၏ထုံးနှင့် ခြပုန်းလို

ဆရာတော်ကြီးက ကိုရင်ကလေးတို့အား စာပေသင်ကြား ပို့ချပေးရာ၌ တစိုက်မတ်မတ် ရိုးရိုးကြီး ပြောဆိုသင်ပြနေသည် မဟုတ်၊ အားတက်ဖွယ်ကလေးများ ပြောဆိုကာ ကြားဖောက်–ကြားဖောက်တွင် ဗဟုသုတ ကလေးများ သွင်း၍ အားတင်းပေးတတ်၏၊ "စာသင်တယ်"ဆိုတာ–

"စေ့စေ့မြဲ့သိပ်သည်း၊ ရွေ့ရွေ့ဆည်းလော့၊
စရည်းအိုးခွက်၊ ကြီးစွာလျက်လျှင်၊
စဉ်ဆက်ကျများ၊ ပြည့်သောလားသို့"တဲ့၊

အဲသည်လို ကန်တော်မင်းကျောင်းဆရာတော်က (လောက သာရပျို့) ရေးပြီးတော့ အဲဒီမှာ ဆိုထားတယ်ကွယ့်၊ ဘဖြည်းဖြည်း သင်ရတာပဲ၊ တံစက်မြိတ်အောက်မှာ ခံထားတဲ့အိုးစရည်းကြီးဟာ ကြီးမားသော်လဲ မိုးရေပေါက်တွေ ကျဖန်များသော် ပြည့်သွားတာပဲ–တဲ့။

ပညာသင်ရာမှာလဲ ဒီအတိုင်းပဲကွယ့်၊ နည်းနည်းနည်းနည်းစုသွား၊ ကြာတော့ ပြည့်သွားမှာပဲတဲ့၊ ပြီးတော့ဆိုသေးတယ်–

"ပျား၏ နည်းထုံး၊ မှတ်ကျင့်သုံး၍၊
ခြပုန်းတောင်ပို့၊ ဖို့သည့်ခြင်းရာ"တဲ့။

ပျားကောင်များဟာ ဝတ်ရည်အချိုကလေးတွေကို နည်းနည်းချင်း စုရာက များလာတာပဲ၊ နောက်တော့ "ပျားလဘို့ကြီး" ဖြစ်လာတာပဲကွဲ့။

ခြကောင်များလဲ ထို့အတူပဲ နည်းနည်းချင်း၊ သဲတစ်ပွင့်ချင်း (တစ်ခေါက်မှ သဲတပွင့်) ယူ၍–ယူ၍ ဖို့ရာက တောင်ပို့ကြီး ဖြစ်လာတာပဲတဲ့။ ပညာသင်ရာမှာလဲ ဒီအတိုင်းပဲ"ဟူ၍ မိန့်တော်မူတတ်သည်။

ဤသို့လျှင် နေ့စဉ်မပြတ် စာချပေးရင်း သြဝါဒကလေးများလည်း ညှပ်၍–ညှပ်၍ သွားတတ်၏။

# ခေတ်မီသော သင်နည်းစနစ်တွင်

သဒ္ဒါဆိုင်ရာတွင် နာမ်ပိုင်း ကုန်သလောက် နာမ်ဂိုဏ်းက နောက်ကလိုက်၍ ကျေညက်အောင် ဂိုဏ်းပြေးခဲ့၏၊ ပဒမာလာစဉ်ခဲ့သည်၊ ယခုအခါ နာမ်ပိုင်းရော နာမ်ဂိုဏ်းပါ ကုန်သွားပြီဖြစ်၍ ရှေ့သို့ ဘစ်ဆင့် တက်နေပြီ။

ကြိယာပုဒ်များကို မြန်မြန်သိရအောင်နှင့် ပါဠိ ဒါကျ မြန်မြန် သိကုံးနိုင်အောင် ရည်ရွယ်ပြီးလျှင် ယခုအခါ (အာချာတ်)ပိုင်းသို့ ကူးပြောင်း သင်ယူနေရချေပြီ။

ရှေးခေတ်က အဆိုရှိခဲ့သည်မှာ "သဒ္ဒါကိုးခေါက် ဘပြိုးပြောက်"တဲ့၊ ဆိုလိုတဲ့ အဓိပ္ပာယ်ကတော့ သဒ္ဒါကခက်လွန်းလို့ ကိုးခေါက်လောက် ထပ်ကာ– ထပ်ကာ သင်ယူနိုင်ပါမှ ပြိုးပြိုးပြောက်ပြောက်လောက်ပဲ နားလည်နိုင်သတဲ့။

သို့သော်လည်း ယခု ဝွေးပင်တောရကျောင်းဆရာတော်ကြီး (ဦးဇာဂရ) စီစဉ်ချပို့သော နည်းမှာမူ ခေတ်မီနေ၍လော မပြောတတ်၊ တစ်ခေါက်တည်းဖြင့် ပင် အတော် နားလည်နေကြ– သဘောပေါက်နေကြပါသည်–တဲ့။

ဘုရားဟော တရားတော်တွေက မြန်မာဘာသာဖြင့် တည်ရှိနေကြသည် မဟုတ်၊ ပါဠိဘာသာဖြင့် တည်ရှိနေကြခြင်း ဖြစ်သည်၊ သို့ဖြစ်၍ တရားတော်၏ အနှစ်သာရကို သိလိုတဲ့အတွက် ပါဠိဘာသာကို သင်ယူနေရခြင်း ဖြစ်သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ပါဏာတိပါတ် မသတ်သူ့သက်

ဘုရားရှင် ကိုယ်တော်မြတ်ကြီးက သားတော် ကိုရင်ရာဟုလာ ကလေးအား သူ့အရွယ်အလိုက် ထိုက်သင့်သော စကားလုံးကလေးများဖြင့် နားလည်ရုံ ပြောပြ ဆုံးမတော်မူ၏၊ ငယ်ရွယ်သူများဆိုတာ (မုသား စကား) မဟုတ်မမှန် လိမ်လည်သောစကားကို ပြော တတ်ကြသည်၊ ထို့ကြောင့် ရေခွက်ကို လှန်ထား၍ တစ်မျိုး၊ မှောက်ထား၍ တစ်မျိုး ပြကာ ဆုံးမတော်မူပေ ၏။

ထို့အတူယခုအခါ ဝွေးပင်တောရကျောင်း ဆရာ တော်ကြီးသည်လည်း ကိုရင်ကလေးများကို သားငယ် များပမာ၊ မြေးကလေးများပမာ နေ့ တတွတ်တွတ်– ည တတွတ်တွတ် ဆုံးမတော်မူရှာသည်။

ငယ်ရွယ်သူများဖြစ်တတ်သည့် ပါဏာတိပါတ အမှု၊ အဒိန္နာဒါန အမှု၊ မုသာဝါဒ အမှု ကလေးများ မဖြစ်ပွားရအောင် လင်္ကာကလေးများဖြင့် ဆုံးမတော်မူ တတ်သည်။

"ပါဏာတိပါတ်၊ မသတ်သူ့သက်၊
ခိုးဝှက်မမှု၊ မယူသေစာ၊
အိမ်ယာမမှား၊ မုသားမဆို..."

ကန်တော်မင်းကျောင်းဆရာတော်၏ (လောကသာရပျို့) လာ လင်္ကာကလေးများဖြင့် နှုတ်တက်ရအောင် ရွတ် စေကာ ဆုံးမတော်မူပါသတတ်။

# တိုးတက်ဖို့ အခွင့်အလမ်းတွေ

ဒုဋ္ဌဝတီမြစ်ငယ်မြစ် ကမ်းဘေးတစ်လျှောက် စားပင်သောက်ပင်ဥယျာဉ်ခြံရှင်တို့က သူတို့၏ အသီး အပင် ကလေးများကို ကြည့်၍ ပီတိဖြစ်နေကြသလို၊ ဝွေးပင် တောရ ဆရာတော်ကြီး (ဦးဇာဂရ)ကလည်း သူ့ကျောင်း ဥယျာဉ်ထဲက သာသနာ့ပျိုးပင် သာမဏေ ငယ် ကလေးများကို ကြည့်၍ ပီတိဖြစ်နေဟန် ရှိတော်မူ သည်။

"ကိုရင်တို့... ဟောဟိုနားက ဒုဋ္ဌဝတီမြစ်ငယ် မြစ်ဟာ လွန်ခဲ့တဲ့နှစ်ပေါင်းများစွာကစပြီး ရေ တွေ စီးဆင်းလာနေခဲ့တာပဲ၊ ဒါပေမယ့် ရေတွေ ကုန်ပလား၊ (မကုန်သေးပါ ဘုရား) ဒီကနေ့ အထိ စီးဆင်းနေတုန်းပဲနော်၊ (မှန်ပါဘုရား)

အဲဒီအတိုင်းပဲကွယ့်၊ လူတိုင်း– လူတိုင်း အတွက်လဲ တိုးတက်ဖို့ အခွင့်အလမ်းတွေဟာ အမြဲတမ်း စီးဆင်းနေတာပဲ၊ ကုန်တယ်လို့ မရှိဘူး (မှန်ပါဘုရား)

အဲဒီ တိုးတက်ဖို့ အခွင့်အလမ်းတွေကို မလွတ်တမ်းမိအောင် ဖမ်းပြီး အသုံးချတတ်ကြ ရမယ်၊ လွတ်မကုန်စေနဲ့ (မှန်ပါဘုရား)

ဆရာတော်ကြီး၏ ဤဆုံးမစကားကို ကိုရင် ဝိမလကလေးက အတော်သဘောကျသွား၏၊ ရင်ထဲ နှလုံးထဲ စူးစိုက်သက်ဝင်သွားတော့သည်။

"ဟုတ်တယ်၊ လူတိုင်းအတွက် တိုးတက်ဖို့ အခွင့်အလမ်းတွေဟာ အမြဲတမ်း စီးဆင်းနေ တာပဲ၊ မဖမ်းတတ်ကြလို့– မယူတတ်ကြလို့သာ လွတ်လွတ်ကုန်ရတာ"

ဤသို့ သဘောပေါက်သွားလေသည်၊ အားတွေလည်း တစ်ဟုန်ထိုးတက်သွားသည်၊ သင်မယ်–ကြားမယ်၊ ကျက်မယ်–အံမယ်ဆိုတဲ့စိတ်တွေ လန်းဆန်း သွား တော့၏။

## တစ်ဘဝသာသနာ

# နတ်ရွာလူ့ပြည် လှည့်လည်အတူ

သာမဏေတို့သည် ဆရာတော်ကြီး၏ ခြေရင်းတွင် ပညာသင်ကြားလာခဲ့ကြသည်မှာ ရက်–လ–နှစ်တို့ပင် တရွေ့ရွေ့ပြောင်း၍ ကြာညောင်းလာခဲ့ကြပြီ၊ အရွယ်အားဖြင့်လည်း ၁၃–နှစ်၊ ၁၄–နှစ်၊ ၁၅–နှစ် အရွယ်များ ဖြစ်လာကြပြီ၊ ကိုရင်ဝိမလကလေးသည်ပင် ၁၄–နှစ်တွင်းသို့ ချဉ်းနင်းဝင်ရောက်လာလေပြီ။

သဘာဝအားဖြင့် စိတ်ကစားသောအရွယ်များ၊ လွန့်လူးချင်သောအရွယ်များ ဖြစ်ကြ၏။ ထို့ကြောင့် အာရုံတစ်ပါးသို့ စိတ်ပြန့် လွင့်ပါးခြင်း မရှိအောင်၊ စာထဲမှာသာ နစ်နေအောင် ဆရာတော်ကြီးက စီစဉ်တော့၏၊ စာဝါတွေ တိုးပေးနေသည်၊ ကျက်စာတွေ များများ အကျက်ခိုင်းတော့၏၊ နေ့တိုင်းလိုလို ဆုံးမဩဝါဒတွေ ပေးနေတော့သည်။

လှည်းဘီးပြင်က၊ နားစောင့်ချသို့၊
မိဘနှင့်သား၊ မယားနှင့်လင်၊ အရှင်နှင့်ကျွန်၊
ထေရ်မွန်ဒကာ၊ မိတ်သဟာနှင့်၊ ဆရာတပည့်၊
တည့်တည့်မချွတ်၊ ကျင့်ဝတ်စုံလင်၊ ဖြူ
သန့်စင်မူ၊ ရှင်လည်းမကွဲ၊ သေလည်း
မကွာ၊ နတ်ရွာလူ့ပြည်၊ လှည့်လည်အတူ၊
စံစားမှု၍၊ နိဗ္ဗူရွှေပြည်၊ ဝင်အံ့သည်
တည့်...”

ဘုရားဟော သုတ္တန်ပိဋကတ်၊ သုတ်ပါထေယျပါဠိတော်၊ သိင်္ဂါလောဝါဒသုတ်မှာ လာသည့် တရားတော် ဖြစ်၏၊ မြတ်စွာဘုရားက သိင်္ဂါလသတို့သားအား “အရပ်၆–ပါးဆိုတာ ဒါကို ပြောတာ”ဟူ၍ ရှင်းပြသော တရားတော်ဖြစ်သည်၊ ယင်းကို ရှေးဆရာတို့က ကဗျာသီကုံးထားခြင်း ဖြစ်၏။

# ကျင့်ဝတ်စုံလင် ဖြူသန့်စင်မူ

ဝွေးပင်တောရ ဆရာတော်ကြီးက ကိုရင်ကလေးများကို ပျက်ပြားမကုန်စေချင်၊ သို့ဖြစ်၍ နည်းပရိယာယ်တွေလည်း ဆင်ရ၏၊ သာသနာ့ဘောင်သို့လည်း ဝင်ရ၏၊ သဘောတရားရေးရာကို ပြောပြ၍လည်း သွန်သင်ရသည်။

“အခုတွင်က တုန်းက ဆုံးမစာဟာဆိုရင် ပါဠိဘာသာမှ မြန်မာဘာသာပြန်ပြီး ကဗျာလင်္ကာနဲ့ ရေးထားတာ၊ မူရင်းက ဘုရားဟောအစစ်ပဲကွယ့်၊ သိင်္ဂါလသတို့သားကို ဟောပြထားတာ၊ အဲဒီမှာ–

၁။ မိဘနဲ့ သားသမီးက တစ်စုံ၊
၂။ မယားနဲ့ ခင်ပွန်းက တစ်စုံ၊
၃။ အရှင်သခင်နဲ့ အိမ်ဖော်က တစ်စုံ၊
၄။ မထေရ်မြတ်နဲ့ ဒါယကာက တစ်စုံ၊
၅။ မိတ်ဆွေတစ်ဦးနဲ့ တစ်ဦးက တစ်စုံ၊
၆။ ဆရာသမားနဲ့ တပည့်က တစ်စုံ။

အားလုံး ခြောက်စုံပေါ့ကွယ်၊ ကိုယ့်ဆိုင်ရာ ဆိုင်ရာ ကျင့်ဝတ်ကလေးတွေ ရှိကြတယ်ကွယ့်၊ အဲဒီကျင့်ဝတ်ကလေးတွေဟာ ဘာနဲ့တူသလဲဆိုရင် လှည်းဘီးပြင်ဘက်က အနားစောင့်ငုတ်ကလေးတွေနဲ့ တူတယ်။

လှည်းဘီးကို ဝင်ရိုးတပ်ပြီးသောအခါ ပုံတောင်းပြင်ဘက်က အစွန်းတွင် ငုတ်ကလေး ရိုက်ထားတတ်ကြ၏၊ လှည်းဘီးကြီး ပြင်ဘက် ထွက်မသွားအောင် တား–ထားခြင်း ဖြစ်သည်။

“စည်းကမ်း”ဆိုသည်မှာလည်း ဤသဘောပင်

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဖြစ်၏၊ ဘောင်လွန်မသွားအောင် ဆီးကာထားတဲ့ သဘော ဖြစ်သည်။

"အဲလို ကိုယ့်စည်းကမ်း– ကိုယ့်ကျင့်ဝတ်နဲ့ ကိုယ်စီကိုယ်င ညီကြပြီ ပြည့်စုံကြပြီ ဆိုလို့ ရှိရင်–တဲ့၊ သေအတူ–ရှင်မကွဲ တတွဲတွဲနဲ့ စိတ်ချမ်းသာ ကိုယ်ချမ်းသာ၊ လူ့ရွာနတ်ပြည် အတူတူ လှည့်လည်ကြရသတဲ့၊ အဲဒီနောက် နိဗ္ဗာန်ဝင်တော့လဲ အတူတူပဲ ဝင်နိုင်ကြရသတဲ့"

ဝွေးပင်တောရဆရာတော်ကြီး၏ တတွတ်တွတ် ဆုံးမသော ဩဝါဒများမှ တစ်ပုဒ်ဖြစ်သည်။

---

မှတ်ချက်။ ။တစ်ချိန်တုန်းက ကိုရင်ကလေး ဘဝဖြင့် (အခြားကိုရင်များနှင့်အတူ) အထက်ပါ ဩဝါဒများကို ခံယူခဲ့ရကြောင်း ယခုအခါတွင် ဦးဘရင်က ပြန်လည် ပြောပြပါသည်။

## ရေလယ်အတွင်းက လှေငယ်တစ်စင်း

တစ်နေ့တွင် အသက်(၇)နှစ်မျှသာ ရှိသေးသော ညီဝမ်းကွဲတော်သူ ညီကလေး မောင်ဘရင်က "ပြောင်းဖူး စားချင်လိုက်တာ"ဟု ပြောလာ၏၊ ကိုရင်ဝိမလက "ပြောင်းဖူး ဘယ်က ရမလဲကွာ"ဟု ဆိုသောအခါ "ဟို... တောင်ဘက်ကမ်းမှာ ရှိတယ်၊ အဘွားတုပ်တို့ အခင်းပဲ၊ အခုလေ... ပြောင်းဖူးတွေ မှည့်ကုန်ပြီ"တဲ့။

"မှည့်ကုန်တော့ကော သူတို့အခင်းပဲကွ၊ သွားချိုးလို့ ဘယ်ဖြစ်ပါ့မလဲ"ဟု ကိုရင်ဝိမလက ပြောရာ "ဖြစ်ပါတယ်၊ အမျိုးတွေပဲ"ဟု ကဲနေသည်၊ "မတော်ဘူး ထင်တယ်ကွ"ဟု တားမြစ်ရာ "ရပါတယ်၊ သူတို့ကလဲ စားချင်လာချိုးလှည့်လို့ ပြောသားပဲ" ဤသို့ ဇွတ်ပူဆာနေ၏။

သို့ဖြစ်၍ ညီအစ်ကို ၂–ယောက် လှေကလေး တစ်စင်းဖြင့် ဒုဋ္ဌဝတီမြစ်ငယ်မြစ်ကို မြောက်ဘက်မှနေ၍ တောင်ဘက်သို့ ဖြတ်ကူးကြတော့သည်၊ ကျောင်းသားငယ်က ရှေ့က လှော်၍ ကိုရင်က နောက်ကနေ ပဲ့ကိုင်ပေး၏။

ဥယျာဉ်တော်ရွာနှင့် တည့်တည့် တောင်ဘက်ကမ်းတွင် ရွှေဘုံသာ ဘုရားစေတီ ရှိသည်၊ ထိုဘုရားအနီးမှ ပြောင်းဖူးခင်းသို့ သွားရန် ဖြစ်၏။

ဖြတ်ကူးသော ရေခရီးလမ်း၏ အောက်နားတွင် စုပ်ဝဲကြီးတစ်ခု ရှိသည်၊ ကြမ်းတမ်းလှ၏၊ အနားသို့ ကပ်လာတဲ့ အရာခပ်သိမ်းကို စုပ်ယူလှည့်ပတ်နှစ်မြှုပ်ပစ်တတ်သည်၊ အားလုံး ရွံ့ကြရ– လန့်ကြရ၏၊ သို့သော် ကိုရင်ဝိမလတို့ ညီအစ်ကို ၂–ဦးကား ထိုဝဲကြီးကို အမှုမထားမိ၊ ပြောင်းဖူးစားရဖို့ပင် အာရုံရှိနေကြသည်။

## ဝဲအတွင်း ရဲတင်းလှချည့်လား

ရေဝဲကြီးသည် ကတော့ကြီးလို အလယ်ကောင်၌ ခွက်နေပြီး လှည့်ပတ်ဝိုင်းခွေ စီးဆင်းနေ၏၊ သူ၏ နယ်နိမိတ်အတွင်းသို့ ရောက်လာသော အရာတို့သည်လည်း သူ့ရေစီးကြောင်းအတိုင်း သူကဲ့သို့ လှည့်ပတ်နေကြရသည်၊ တဖြည်းဖြည်းအတွင်းသို့ ဝင်၍ လှည့်ရ၏၊ မူးလောက်အောင် လှည့်ပတ်ခံရပြီးလျှင် နောက်ဆုံး၌

## တစ်ဘဝသာသနာ

အောက်သို့ နှစ်မြုပ်ပစ်ခြင်း ခံရမြဲဖြစ်သည်။

ကိုရင်နှင့် ကျောင်းသားကလေးတို့၏ လှေသည် ရေစီးအားကြောင့် တရွေ့–တရွေ့နှင့် ဝဲကြီး၏နယ်နိမိတ် အတွင်းသို့ ဝင်မှန်းမသိ ချဉ်းနင်းဝင်ရောက်သွားလေပြီ၊ မြစ်ကမ်းဝဲယာတို့မှ မြင်ကြရသူတို့က မျက်လုံးပြူး မျက်ဆန်ပြူး ဖြစ်ကုန်ကြရတော့၏၊ စိတ်အရေးကြီး ကုန်ကြရတော့သည်။

"ကိုရင်– ကိုရင်– ကိုရင်တို့...
ဝဲထဲရောက်တော့မယ်– ဝဲထဲ
ရောက်တော့မယ်၊ ပြန်ထွက်–ပြန်ထွက်"

တအား ဟစ်အော်၍ လှမ်းပြောကြ၏၊ အော်၍ ပြောရုံမျှမက– ရရာတက်– နီးရာလှေတို့ဖြင့် ကယ်တင်ရန် ကိုရင်တို့ဆီသို့ ဝိုင်းအုံ လှော်ခတ်သွားကြတော့၏၊ ရုတ်ရုတ်သဲသဲ ဖြစ်ကုန်ကြသည်။

## အံ့အားသင့်ဖွယ် အဖြစ်အပျက်

"ကိုရင်တို့၏ လှေသည် ရေဝဲကတော့ကြီး နယ်နိမိတ်အတွင်း ချာချာလည်စပြုနေပြီ"ဟု ဘေးမှ မြင်ရသူတို့၏ မြင်ကွင်းတွင် အရှင်းသား တွေ့နေရသည်၊ ရင်တမမဖြင့် အသက်ရှူ၍မရအောင် ဖြစ်ကုန်ကြရပြီ။

သို့သော် အနားသို့ ရောက်သွားသောအခါ ကိုရင်တို့လှေမှာ အေးအေးဆေးဆေးပင် လှော်ခတ်နေသည်ကို တွေ့နေကြရပြန်၏၊ ကျောင်းသားငယ်က ရှေ့မှ အေးဆေးစွာလှော်၍၊ ကိုရင်က နောက်မှ ပဲ့ကိုင်ပေးနေသည်ကို တွေ့နေကြရပြန်သည်။

ရေဝဲကတော့ကြီး၏ နယ်နိမိတ်အတွင်းသို့ လှေကလေး ဝင်နေသည်မှာ အမှန်ပင် ဖြစ်၏၊ သို့သော် သူတို့မှာ ရိုးရိုးငြိမ်သက်သော ရေပြင်ပေါ်၌ လှော်ခတ်နေရသလိုပင် ဖြစ်သည်–ဟု ဆိုကြ၏။

ကိုရင်တို့အနေနှင့်ကား ဝဲထဲသို့ ရောက်နေမှန်းပင် မသိချေ၊ ရေငြိမ်မှာ လှော်ခတ်နေရသကဲ့သို့ ထင်မှတ်နေကြရပါသတတ်၊ အံ့ဖွယ်တစ်ရပ်ပင် ဖြစ်တော့သည်၊ "ဒါဟာ– ဘာလဲ၊ ဘာ့ကြောင့်လဲ"

**မှတ်ချက်။** ။ဤအကြောင်းအရာတို့ကို ၁၃၅၂–ခုနှစ် တွင် အသက်(၈၄) နှစ် ရှိနေပြီဖြစ်သော (တစ်ချိန်တုန်းက ကျောင်းသားကလေးအဖြစ် ပါဝင်ခဲ့သော) ဦးဘရင် ကိုယ်တိုင်က ပြန်လည်ပြောပြခြင်း ဖြစ်ပါသည်။

## ပစ္ဆိမ ဘဝိကသား လေလော

*သာဝတ္ထိမြို့မှာ ကိုယ်ဝန် အရင့်အမာ ဖြင့် အမျိုးသမီးတစ်ဦး သေဆုံးဖူး၏၊ သုသာန်တွင် မီးသင်္ဂြိုဟ်သောအခါ တစ်ကိုယ်လုံး လောင်သွားသော်လည်း ကိုယ်ဝန်အသားအိတ်ကြီးကား မလောင်ဘဲ ဖြစ်နေသည်။

ယင်းကို တံစူးဝါးဖြင့် ၂–ချက် ၃–ချက် ထိုးဆွပြီးလျှင် မီးကျီးခဲစုအတွင်း ပြန်ထည့်ဖုံးအုပ် ရှို့မြှိုက်၍ အိမ်ပြန်ကုန်ကြသည်၊ နောက်တစ်နေ့ အခြေအနေကို ကြည့်ရန်လာသောအခါ မီးငြိမ်းလျက်နေသော မီးသွေးခဲများပေါ်တွင် အသက်ရှင်လှုက်ရှိသောကလေးသူငယ်ကို ထူးဆန်းစွာ တွေ့မြင်ကြရလေတော့၏။

• ဓမ္မပဒအဋ္ဌကထာ ၊ဝ၊ ၄၂၆။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ထိုသူငယ်အရွယ်ရောက်သောအခါ ရဟန်းပြု၍ တရားအားထုတ်ရာ ရဟန္တာကြီးအထိ ဖြစ်သွားလေ၏၊ ဩော်... ပစ္ဆိမဘဝိကသားကြီးပေကိုး။ ဒါ့ကြောင့် မသေရဘဲ အန္တရာယ်တွင်းမှ လွတ်ကင်းရတာကိုး။

*ပစ္ဆိမဘဝိကဿ သတ္တဿ ဟိ
သိနေရုနာ ဩတ္ထရိယ မာနဿါပိ
အရဟတ္တံ အပ္ပတွာ ဇီဝိတက္ခယော
နာမ နတ္ထိ။

[ပဋိသမ္ဘိဒါမဂ်၊ဋ္ဌ၊၂၈၀]

"ပစ္ဆိမဘဝိကသား" ဆိုတာ မြင်းမိုတောင်နဲ့ ဖိ သတ်တောင် အရဟတ္တဖိုလ်မရသေးသမျှ မသေနိုင်သေး"

ဤသို့ ကျမ်းဂန်တို့၌ အဆိုရှိ၏၊ နောင်ကျမှ ရမယ့် အရဟတ္တမဂ်-အရဟတ္တဖိုလ်က ယခုကြုံတွေ့နေရသော ဘေးအန္တရာယ်ကို ကြို၍ လှမ်း၍ ကာကွယ်ဆီးတားသည် ဟူ၏၊ ယခုလည်း ဤသို့များ ဖြစ်နေကြလေမည်လော။

## စာမေးပွဲဝင်ရန် ပြင်ဆင်နေခြင်း

ဓွေးပင်တောရ ဆရာတော်ကြီးက ညပိုင်းတွင် သာမဏေငယ်တို့၏ ဝတ်ပြုမှုကို ခံယူတော်မူ၏၊ ဩောင်းညာမှုကို ပြေစေရန် နင်းနှိပ်ပေးခြင်း၊ တံတောင်ဖြင့် ထောက်ပေးခြင်း စသော ဝတ်ဖြည့်သည်ကို ခံယူတော်မူ၏၊ ထိုသို့ ခံယူရင်း စာအဓိပ္ပာယ်တို့ကို ပြောပြသည်၊ သင်္ဂြိုဟ်သရုပ်တွေကိုလည်း ထပ်မံခြေပေးနေသည်။

ရည်ရွယ်ချက်မှာ အပြင်ဘက်လောကတွင် စာမေးပွဲများ ခေတ်စားနေကြပြီ၊ ပထမငယ်- ပထမလတ်- ပထမကြီး- ပထမကျော်ဟူသော အသံများ လွှင့်ပျံနေကြ၏၊ ဆရာတော်ကြီးက သူ့တပည့်တွေကို အများနည်းတူ စာမေးပွဲများ ဝင်စေဖို့ စိတ်ကူးထားခဲ့သည်၊ ထို့ကြောင့် စာမေးပွဲဆိုင်ရာစာတို့ကို ပြင်ဆင်နေခြင်း ဖြစ်၏။

သင်္ဂြိုဟ်သရုပ်များ ကျေညက်သောအခါ တပည့်တို့အား ညဝါဘက်က (မာတိကာ- ဓာတုကထာ)ကိုပင် စတင်၍ နည်းနည်းချင်း ပို့ချပေးနေပြီ၊ ကိုရင်တို့လည်း စာဝါအသစ်တစ်မျိုး တိုးလာ၍ ဝမ်းသာနေကြရသည်။

အခြားတစ်ဘက်တွင်ကား ဝိနည်းဆိုင်ရာ ပါတိမောက်ကို အစပျိုးနေပြီ၊ သဒ္ဒါလည်း ကုန်ပြီဖြစ်၍ အခြားတစ်ချိန်တွင် ပုဒ်စစ်ကိုပင် တိုးချဲ့သင်ပေးနေပြန်ပြီ။

"ပုဒ်စစ်ကုန်လျှင် ရူပသိဒ္ဓိပါ ချပေးဦးမပဲ"ဟု ဆရာတော်ကြီးက စိတ်ကူးထားကြောင်း မိန့်ပါသတဲ့၊ ဆရာ့ဘက်- တပည့်ဘက် စိတ်အားတက်ကြွစွာဖြင့် ကြိုးစားနေကြ၏။

သို့သော် ဆရာတော်ကြီး၏ ကျန်းမာရေးက ကိုရင်တို့ စာမေးပွဲတွေ အောင်မြင်ပြီးစီးသည့်တိုင် ခိုင်ပါမည်လော၊ တရွေ့ရွေ့အိုမင်းလျက် ယိုယွင်းလာပြီကိုလည်း ထည့်၍ တွက်ရပေဦးမည်။

---

* ပစ္ဆိမ ဘဝိက = ဤယခုဘဝသည် နောက်ဆုံး ဘဝဖြစ်သူ။ ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန်စံမည့်သူ ဖြစ်သောကြောင့် နောက်ထပ်ဘဝ မရှိတော့ပြီဟူလို။

## တစ်ဘဝသာသနာ

# နေ့ညအစဉ် သွန်သင်ဆုံးမ

ငယ်ရွယ်သူတို့ကို အုပ်ထိန်းရသောဆရာတော်ရားကြီးမှာ စာဝါတစ်မျိုးထည်း ချပို့ပေးရုံမျှဖြင့်ပြီးသေး၊ (သားသမီးများသော မိဘတို့ကဲ့သို့) ဆုံးမဝါဒများလည်း ပေးရသေး၏၊ ရံဖန်ရံခါ ညပိုင်း၌ဘ်ပြုခံရာတွင် ဆုံးမစာကလေးများကို နှုတ်တိုက်ပေးတတ်သည်–

> "တစ်ယောက်စကား၊ တစ်ယောက်နားမှာ၊
> မခါးရအောင်၊ သတိဆောင်၍၊ မောင်
> တို့ဆိုလေ၊ ပျားသကာသို့ ချိုလှစေ"

တစ်ဦးနဲ့ တစ်ဦး ဆက်ဆံပြောဆိုကြရာ၌ ကြမ်းကြမ်းတမ်းတမ်း မဖြစ်စေဖို့၊ သာယာချောညက်ဖြစ်စေဖို့၊ းဝင်ချိုအောင် ပြောတတ်ဖို့အတွက် ရည်ရွယ်ပြီး ဆုံးမတော်မူခြင်း ဖြစ်ပေသည်၊ အရှင်မဟာရဋ္ဌသာရ၏ ဆုံးမစာသည် ပေါ်လွင်လှပါ၏။

သာမဏေငယ်များသည် လူငယ်တို့ သဘာဝ ခိုက်ရန်ဒေါသ ဖြစ်တတ်ကြ၏၊ အမျက်မာန် ရှတတ်ကြ၏၊ တက်ကြွသောအရွယ်တွေ မဟုတ်ပါလော၊ (ယောဗ္ဗနမာန်) အရွယ်မာန် တက်တတ်ကြသည်၊ ထို့ကြောင့်–

> "မတွေ့ခိုက်ရန်၊ မကျူးလွန်နှင့်၊
> မျက်မာန်ဒေါသ၊ မထွက်ရအောင်၊
> မာန်မာနကို ချုပ်ကြလေ"

ဟူ၍ ဆရာတော်ကြီးက သင်ပေး၏၊ ပြီးလျှင် အရှင် မဟာရဋ္ဌသာရ၏ အထက်ပါကဗျာ အဓိပ္ပာယ်အတိုင်း "ကိုရင်တို့ ရန်မဖြစ်ကြနဲ့၊ အမျက်ဒေါသမကြီးကြနဲ့၊ မာန်မာနကို ချုပ်တည်းထားကြ"ဟူ၍ ဩဝါဒပေးတတ်သည်။

# သင့်ရာအပ်နဲ့ ဆရာ့ထံတွင်

ဝေးပင်တောရ ဆရာတော်ကြီးသည် တစ်နေ့ စ်နေ့ တရွေ့ရွေ့ဖြင့် သက်ရွယ်တော်ရင့်ညောင်း၍ ာချေပြီ၊ သာမဏေငယ်တို့အား စာဝါချပို့ပြီးလျှင် ခင်ကလို မဟုတ်တော့ချေ၊ မောဟိုက်၍ နေတတ်၏၊ ာက စကားပြော၍ လာချေပြီကော–။

မောဟိုက်၍ နေတတ်သည်မှာ တစ်ကြိမ်မက၊ စ်ကြိမ်မက၊ သုံးကြိမ်မက၊ အကြိမ်ပေါင်းများလှချေပြီ၊ ၏အတိုင်းသာဆိုလျှင် ကိုရင်ကလေးတို့အား ကြာရှည် ာ စာပေချပို့နိုင်ဦးမည်လော၊ စဉ်းစား၍လာရချေပြီ။

> "အတတ်လည်းသင်၊ ပဲ့ပြင်ဆုံးမ
> သိပ္ပမချန်၊ ဘေးရန်ဆီးကာ
> သင့်ရာအပ်ပို့၊ ဆရာတို့
> ကျင့်ဖို့ ဝတ်ငါးဖြာ"

ဆိုတဲ့ ဆရာ့ကျင့်ဝတ်ငါးပါး ရှိသည် မဟုတ်တုံလော၊ မိမိ မတတ်နိုင်လျှင် (သင့်ရာ အပ်ပို့) သင့်တော်ရာ ဆရာသမားထံမှာ အပ်ရ– ပို့ရပေမည်၊ ဤသို့ စဉ်းစား ပြီးလျှင် တစ်နေ့သောညမှာ ဘုရားဝတ်တက်အပြီးတွင် ဆရာတော်ကြီးက အမိန့်ရှိတော့၏–

> "ကဲ... ကိုရင်တို့ ဆရာဘုန်းကြီးက မင်းတို့ အပေါ်မှာ ဘယ်လောက် အကျိုးလိုလားတယ် ဆိုတာ မင်းတို့အသိပဲ။
> စာပေတွေ ချပို့ပေးလို့ မင်းတို့လဲ အထိုက် အလျောက် ပရိယတ်အခြေခံတွေ ရရှိနေကြပြီ၊ ရှေ့မှာ ဆက်လက်ပြီး နည်းနည်းကလေး ကြိုးစားလိုက်ရုံနဲ့ တက်သွားကြဖို့ပဲ။
> ဆရာဘုန်းကြီးမှာ အခု ကျန်းမာရေး နည်းပါး

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

လာပြီ၊ ဒါကြောင့် မင်းတို့ကို သင့်တော်ရာ ဆရာသမားများထံ အပ်နှံမယ်-လို့ စိတ်ကူးထားတယ်၊ မင်းတို့လဲ စဉ်းစားထားကြ"

ဤသို့ မိန့်တော်မူတော့၏၊ ဆရာတော်ကြီးက ဤသို့ မိန့်တော်မူလိုက်လျှင်ပင် ကိုရင်ကလေးတို့သည် မိမိတို့နှင့် နီးရာ စပ်ရာ နွယ်ရာကို စဉ်းစားကြရတော့သည်။

## အမရပူရ ဘယ်လောက်ဝေးလဲ

ကိုရင်ဝိမလ ကလေးက အစ်မလေး သီလရှင် မသုစာရီကို "ကွက်"ကနဲ အာရုံထဲ မြင်လိုက်၏၊ သတိရလာသည်၊ အစ်မလေး (မရွှေပင်)က သီလရှင်ဝတ်နေခဲ့၏၊ နှစ်စဉ်နှစ်တိုင်း စပါးပေါ်ချိန်မှာ ရွာကို ပြန်- ပြန်လာတတ်သည်၊ ဆွေမျိုးသားချင်း များက စပေါင်း၍ တစ်နှစ်စာလုံလောက်အောင် ဆွမ်းဆန်များ လှူနေကြဖြစ်သည်။

ထိုသို့ ရွာကို ပြန်လာလျှင် သီလရှင်အနားသို့ ညီအစ်ကို မောင်နှမတစ်တွေ ဝိုင်းအုံစုရုံးလာတတ်ကြ၏၊ ဟိုစကား- ဒီစကားတွေနဲ့ စုံအောင် ဖောင်ဖွဲ့ပြောတတ်ကြသည်၊ တစ်ခါတွင်မူ ကိုရင်ဝိမလကလေးက မေးဖူး၏-

"အစ်မလေးက တစ်ခါ-တစ်ခါမှ ပြန်လာတယ်၊ ဘယ်မှာ နေတာလဲ-ဟင်"

"ဟိုး... အမရပူရမြို့ဟောင်းမှာ မောင်လေးရဲ့"

"အား... အဲဒီမြို့ဟောင်းက ဘယ်လောက်ဝေးလဲ-"

"မဝေးပါဘူး မောင်လေးရယ်"

"ဘယ်ဆီမှာလဲ-ဟင်"

## ဘိုးတော့်မြို့ဟောင်း နေဖို့ကောင်း

ဤသို့လျှင် ကိုရင်ဝိမလလေးက ဆက်လက်မေးနေသောကြောင့် သီလရှင် (မသုစာရီ)မှာ ဖြေဆိုရမည့် တာဝန်ရှိနေပါတော့သည်၊ သို့ဖြစ်၍ မသုစာရီက သူတို့ရွာရဲ့ အနောက်မြောက်ဆီသို့ လက်ညှိုးကို ဦးခေါင်းထက် မြင့်အောင် မြှင့်၍ ထိုးပြီးလျှင်-

"ဟောက် ဟိုး... ဆီမှာ ညို့ညို့မှိုင်းမှိုင်း၊ အုံ့အုံ့ဆိုင်းဆိုင်း သစ်ပင်ကြီးတွေ တွေ့လား"

"တွေ့တယ် အစ်မလေး"

"အဲဒါ အစ်မလေးတို့နေတဲ့ အမရပူရမြို့ဟောင်း ဆိုတာပေါ့ မောင်လေးရဲ့-၊ "ဘိုးတော့် မြို့ဟောင်း- နေဖို့ ကောင်း"တဲ့။

အဲဒီမှာ မင်္ဂလာကျောင်းတိုက်ကြီး ဆိုတာလဲ ရှိတယ်၊ အစ်မလေးတို့က အဲဒီမှာ နေကြတာ"

"အော..."

ဤသို့လျှင် တစ်ချိန်တုန်းက အစ်မလေး သီလရှင် (မသုစာရီ)က ပြောဖူးသည်၊ ပြီးတော့ နောက်တစ်ခု ပြောပြန်သေး၏-

"အစ်မလေးတို့ဆီမှာ အဘိဓမ္မာညဝါ ကောင်းကောင်းချပို့ပေးနိုင်တဲ့ ဆရာကြီးတစ်ဦးရှိတယ်၊ တစ်ချိန်မှာ မောင်လေးတို့လဲ လာပြီးသင်ရင် ကောင်းမယ်"တဲ့။

ထိုစကားသံကို နားထဲမှာ ကြားယောင်နေသလို ဖြစ်နေပြီး အစ်မလေးတို့ဆီကိုပင် ကိုရင်ဝိမလရဲ့စိတ်အစဉ်တွေ ရောက်နေမိတော့သည် ဆို၏။

## တစ်ဘဝသာသနာ

# ကြိမ်ဖန်များစွာ တားသော်လည်း

ဤသို့ ကျေးဇူးတော်ရှင် ဝွေးပင်တောရ ဆရာတော်ဘုရားကြီးထံမှ ခွင့်ပြုမိန့် ရကြလျှင်ပင် အသီးအသီး ကိုယ်နှင့်ဆက်စပ်ရာ မြို့ရွာ–ကိုယ်နှင့် ဆက်စပ်ရာ ဆရာတို့ကို စဉ်းစားကြရတော့၏၊ ရွေးချယ်ကြရတော့၏။

ကိုရင်ဝိမလကား အစ်မလေး သီလရှင် ရှိရာ အမရပူရကိုပင် သွားလိုစိတ် ပြင်းပြနေခဲ့သည်၊ "တစ်ချိန်မှာ မောင်လေးတို့လဲ အဘိဓမ္မာညဝါကို လာပြီးသင်ရင် ကောင်းမယ်"တဲ့၊ အဲဒီအသံကိုလည်း နားထဲမှာ ကြားယောင်နေမိသည်ဆို၏။

သို့ဖြစ်၍ "အမရပူရကို သွားမည်"ဟု စိတ်ကို ဆုံးဖြတ်လိုက်၏၊ ထိုသို့ တိတိကျကျ ဆုံးဖြတ်ပြီးမှ မိဘတို့ထံ ခွင့်ပန်လိုက်သည်၊ ထိုအခါ မိဘတို့က–

"ကိုရင်က ငယ်ပါသေးတယ်၊ အခုမှ ၁၄–နှစ်ပဲ ရှိသေးတာ၊ နောက်တော့ သွားတာပေါ့"

ဟူ၍ တားမြစ်ကြသည်၊ သို့နှင့် စောင့်ဆိုင်းနေရ၏၊ တစ်လခန့်ကြာသောအခါ မိဘတို့အား ခွင့်ပန်ပြန်၏၊ ရှေးနည်းအတိုင်း တားပြန်သည်၊ နေလိုက်ရပြန်၏။

ထို့နောက် ရက်အတန်ကြာသောအခါ ခွင့်ပန်ပြန်သည်၊ "လိုက်ပို့ပေးပါမည်"ဟု ပြော၍ ရက်ဆွဲထားကြပြန်၏၊ ကိုရင့်ဒကာကြီးထက် ဒကာမကြီးက ပို၍ မခွဲနိုင်ဘဲ ဖြစ်နေသည်၊ ကိုရင်ကား နေ့ညမဆိုင်း သွားလိုစိတ် ပြင်းပြနေခဲ့၏။

"ကိုရင်ဇနိန္ဒတို့ဆိုရင် မန္တလေးမှာ ရှိတဲ့ သူတို့ဦးလေး ဘုန်းကြီးထံ သွားဖို့ စီစဉ်ပြီးကြပြီ၊ ကိုရင်ဝါယာမကလဲ တခြားတစ်နေရာကို သွားမှာပဲ၊ ငါ့မှာသာ ဘာတစ်ခုမှ ရေရေရာရာ မရှိတာ" ဤသို့တွေး၍ စိတ်အရေးကြီးနေခဲ့ပါသတတ်။

# အမရပူရမြို့သို့ ဆိုက်ရောက်သွားခြင်း

တစ်နေ့–တစ်နေ့နှင့် ရက်တွေသာ ကြာလာခဲ့သည်၊ ဘာမျှ မထူးခြား၊ မိဘတို့က "လိုက်ပို့ပေးမယ်" ဆိုတာ ဟုတ်ပုံမပေါ်၊ ခက်လိုက်တာ၊ အဝေးသို့ ခရီးမထွက်ဖူးသဖြင့် ကိုယ့်ချည်းထဲလည်း မသွားရဲ။

"အစ်မလေးသီလရှင် အခုအချိန်များ ပြန်လာရင် ကောင်းမှာပဲ၊ သူကလဲစောစောပိုင်း စပါးပေါ်တုန်းက လာသွားပြီးပြီ၊ ဒီနှစ် နောက်တစ်ခေါက်များ ပြန်လာရင် ဘယ်လောက်များ ကောင်းလိုက်မလဲ–လို့"

အာသာဆန္ဒလွန်ကဲနေ၏၊ သွားလည်း မသွားရဲ၊ သွားလည်း သွားချင်နေသည်၊ အပြင်ဘက်ကို ခြေဆန့်၍ ကြည့်ချင်၏၊ သို့နှင့် ကိုရင်ဝိမလသည် အမရပူရမြို့ဆီကို မှန်း၍ တစ်ပါးတည်း စွန့်စားခန်းလုပ်တော့သည်၊ သုံးစွဲနေကျ စာအုပ်တချို့နှင့် သင်္ကန်းအပို(၂)စုံ လောက်ကို ယူလာပြီး သပိတ်လွယ်၍ ထွက်ခဲ့တော့သည်။

တစ်ခါတစ်ခေါက်မျှ မရောက်ဖူးသော အမရပူရမြို့ကို မေးမြန်း စုံစမ်း၍ လာခဲ့၏၊ "မေးပါများစကားရ" ဆိုတာ ရှိသားပဲ၊ လမ်းမှာ တစ်ယောက်စ နှစ်ယောက်စတို့ကို တွေ့၍ မေးမြန်းခဲ့သေးသည်၊ စိတ်ကိုတင်း၍ ရိုးဖြတ်လယ်ကွင်းပြင်တို့ကို တစ်ခုပြီး တစ်ခု ဖြတ်သန်းခဲ့၏၊ အမရပူရဆီကို မှန်းပြီးလျှင် တစ်လှမ်းချင်း– တစ်လှမ်းချင်း လျှောက်ခဲ့သည်၊ (၄)မိုင်ခန့်မျှဝေးသော အမရပူရမြို့ကို ဆိုက်ဆိုက်မြိုက်မြိုက် ချောချောမောမော ရောက်သွားတော့၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

အမရပူရကို ရောက်သောအခါ တစ်ဖန် ဟိုမေး သည့်မေးနှင့် မင်္ဂလာတိုက်သို့ ရောက်ဖို့အရေး ကြိုးစား ရပြန်သေး၏၊ ညွှန်ပြပေးသူရှိသလို လမ်းလိုက်ပြသူကို လည်း တွေ့ရ၍ မင်္ဂလာတိုက်မသို့ ချောချောမောမော ရောက်သွားရပြန်တော့သည်။

အစ်မလေးသီလရှင်(မသုစာရီ)နှင့် တွေ့ရသော အခါ ပို၍ပင် အားတက်ရွှင်လန်းဝမ်းသာသွားရတော့၏၊ အစ်မလေးကလည်း အံ့အားကြီးသင့်၍ ဝမ်းတွေလည်း သာ–ဖော်မပြနိုင်အောင် ပီတိတွေလည်း ဖြာရတော့သည် ဆို၏။

## ဆရာတော်ဘုရားထံ အပ်နှံ

မောင်နှမ ၂–ဦး တွေ့ကြရ၍ ကြည်နူးမှုတွေ အပြည့်အဝတို့ဖြင့် စကားတွေမျိုးစုံအောင် ပြောဆိုနေ မိကြတော့သည်၊ ထိုသို့ ပြောဆို အနားယူကြပြီးမှ အစ်မလေးသီလရှင်၏အကူအညီဖြင့် မင်္ဂလာကျောင်း တိုက်–တိုက်အုပ်ဆရာတော်ကြီး (ဦးသုဇာတ)ထံ သွား ကြ၏၊ အစ်မလေးသီလရှင်က–

> "ဆရာတော်ဘုရား... ဟောဒီကိုရင်ဟာ တပည့် တော်မရဲ့ မောင်ကလေးအရင်းပါ ဘုရား၊ စာ သင်ချင်လို့ စွန့်စွန့်စားစား တစ်ပါးတည်း ထွက်လာတာပါ ဘုရား၊ ဆရာတော်ဘုရားအား အပ်နှင်းပါတယ်၊ ဒီကျောင်းတိုက်မှာလဲ နေခွင့် ပြုပါရန် လျှောက်ထားပါတယ်ဘုရား..."

ဤသို့ အစ်မလေးသီလရှင်၏ လျှောက်ထားအပ်နှံပေး ချက်အရ ဆရာတော်ဘုရားကြီး ဦးသုဇာတက လက်ခံ တော်မူ၏၊ "အိမ်း... မကုဋကျောင်းမှာနေ" ဟူ၍လည်း ခွင့်ပြုတော်မူလိုက်သည်။

ဤသို့ လက်ခံမှု ခွင့်ပြုမှုရခြင်းမှာလည်း အင် မတန့် အင်မတန် ခဲတောင့်ခဲယဉ်း ဒုလ္လဘရခြင်းတစ်မျိုး ဖြစ်တော့၏၊ အဘယ့်ကြောင့်ဆိုသော် ထိုအချိန် ထိုအခါ တွင် မင်္ဂလာကျောင်းတိုက်ထဲ၌ သံဃာတွေ များပြား ပြည့်ကျပ်ကာ နေရာအခက်အခဲရှိနေသောကြောင့် ဖြစ် သည်။

ဤသို့ သံဃာတွေ များနေရခြင်းမှာလည်း ထို အခါက အမရပူရ (တောင်မြို့)သည် ညဝါအကျော် အမော်ဖြစ်နေ၍ မြန်မာပြည် အနှံ့အပြား အထက် အောက် ရပ်တကာ နယ်တကာမှ သံဃာတော်များ ရောက်လာကြ၏၊ ညဝါဆိုကြ၏၊ ထို့ကြောင့်ပင် သံဃာတွေ များနေရခြင်း ဖြစ်လေသည်။

---

**မှတ်ချက်။** ။"မကုဋ" ဆိုတာ "အထွတ်အထိပ်" ဟု အဓိပ္ပာယ်ရ၏၊ အဲဒီ "မကုဋကျောင်း"ဟာ ယခု စကြံကျောင်း၏ မြောက်ဘက်က ယခု ဘုံကျောင်း နေရာတွင် ရှေးတုန်းက ရှိခဲ့ ဖူးသည်။

## တစ်ဘဝသာသနာ

# လက်ခတ်သံ ကျွန်းဖိုသားရယ်နဲ့

ကိုရင် ဝိမလကလေးသည် အလွန့် အလွန် ဆောက်ချင်လှပါသည်–ဆိုသော အမရပူရကို ရောက်ရပြီ၊ နေရခဲ့သော မင်္ဂလာကျောင်းတိုက်ထဲတွင်လည်း ယခု အခါနေ–နေရပြီ၊ မြို့ကိုမရောက်ဖူးသော ကိုရင်ဝိမလ သည် ယခုအခါမြို့မှာပင် နေ–နေရလေပြီ၊ ကိုရင် ဝိမလက စဉ်းစားနေမိပါသတတ်–

"မြို့–မြို့နဲ့ ဘယ်လိုပါလိမ့်–လို့ ဟိုတုန်းက အောက်မေ့မိခဲ့တယ်၊ ပြီးတော့လဲ တို့ရွာကြီးလို ပါပဲလား။

မြို့ကလူတွေက ပိုက်ဆံပေါလို့ အလုပ်မလုပ်ဘဲ အငြိမ့်သား ထိုင်စားနေကြသလား အောက်မေ့ တယ်၊ ဘယ် ဟုတ်လို့လဲ၊ တို့ရွာကလူတွေလိုပဲ ရက်ကန်းစင်တွေနဲ့ ရက်ကန်းခတ်နေကြတာပဲ၊ တချွင်ချွင်နဲ့။

အဲ . . . တစ်ခုတော့ထူးတယ်၊ တို့ဆီမှာ ရက်ကန်း ရက်ကြတယ်ဆိုတာ မိန်းမတွေသာ ရက်ကြတာ၊ ဒါက မိန်းမတွေအလုပ်၊ အခု ဒီမြို့မှာတော့ တစ်မျိုးပဲ၊ ယောကျ်ားတွေပါ ရက်ကန်းရက်နေ ကြတာ တွေ့ရတယ်"

ဤသို့ သုံးသပ်မိသည်ဆို၏၊ ဟုတ်ပါသည်၊ "အမရ ပူရမြို့" ဆိုတာ ကုန်သည်ပွဲစားမြို့လည်း မဟုတ်၊ အစိုးရအမှုထမ်းသားမြို့လည်း မဟုတ်၊ လယ်ယာကိုင်း ကျွန်း အားကိုးရသောမြို့လည်းမဟုတ်၊ ရှေးအစဉ်အလာ ကပင် ရက်ကန်းဘက်က စံတင်ရသော (နန်းတွင်းသူ နန်းတွင်းသား၊ ရှင်ဘုရင် မိဖုရားတို့အတွက်ပါ ရက်၍ ဆက်သရသော) "ရက်ကန်းမြို့တော်ကလေး"မျှသာ ဖြစ်လေသည်။

ရက်ကန်းမြို့တော် ဖြစ်သည်အားလျော်စွာ ရပ် ကွက်တိုင်း၊ လမ်းတိုင်း၊ အိမ်တိုင်းပင် ရက်ကန်းစင်တွေ ရှိကြ၏၊ ရက်ကန်းသည် အဓိကလုပ်ငန်းဖြစ်၏၊ သို့ဖြစ် ၍ ယောကျ်ားရော မိန်းမပါ ရက်ကန်းခတ်ကြရသည်၊ အမရပူရမြို့ထဲသို့ လှည့်လည်သွားပါက "လက်ခတ်သံ ကျွန်းဖိုသား"နဲ့ တချွင်ချွင် ကြားနေကြရပါမည်။

# မိဘများက လိုက်လာပြန်ပင့်

ကိုရင်ဝိမလကလေး ပျောက်သွား၍ မိဘများ လည်း ယောက်ယက်ခတ် သွားကြ၏၊ မျက်ကလူး ဆန်ပျာ ဖြစ်ကြရတော့သည်၊ ဟိုမေး– သည်မေးနှင့် နောက်မှ အမရပူရသို့ ရောက်သွားကြောင်း သတင်း ရကြ၏။

သို့ဖြစ်၍ မယ်တော်ကြီး၏ အရေးတကြီး စေခိုင်းချက်အရ ခမည်းတော်ကြီးနှင့် အစ်ကိုကြီးတို့ လိုက်လာကြသည်၊ "ကိုရင်က ငယ်ပါသေးတယ်၊ ရွာကို ပြန်နေပါအုံး"ဟု ပြန်လည်ပင့်ကြ၏၊ မရ၊ အတန်တန် လျှောက်ထားသော်လည်း ပြန်၍မလိုက်၊ ခမည်းတော်ကြီးတို့ လက်လျှော့ပြန်သွားကြရလေသည်။

ကိုရင့်မယ်တော် ဒေါ်ရွှေအိပ်က "ဒီကိစ္စဟာ မိရွှေပင်ရဲ့ လက်ချက်ဖြစ်ရမယ်၊ မိရွှေပင်က တစ်ဘက် လှည့်နဲ့ ခေါ်လို့ ကိုရင်ဟာ အခုလို အမရပူရကို ရောက်သွားတာဖြစ်ရမယ်"ဟု စွပ်စွဲပြီးလျှင် အခဲမကျေ ဖြစ် တော့သတတ်။

ကိုရင်ဝိမလမှာ ယခုအခါ အမရပူရတွင် မိမိတို့ ဥယျာဉ်တော်ရွာသား ဦးအေးမောင်+ဒေါ်ကျော့တို့ မိသားစုနှင့်လည်း တွေ့နေရပြီ၊ တရွေ့– တရွေ့နှင့် နေထားတကျ ဖြစ်လာသောအခါ ပညာသင်ကြားရေး ဘက်ကို အာရုံစိုက်လာရတော့သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ကိုရင်ဝိမလသည် မိမိ၏ ဇာတိ ဥယျာဉ်တော်ရွာ ဝွေးပင်တောရ ဆရာတော်ကြီးထံမှပင် ပရိယတ်အခြေခံ အတော် ရင့်သန်အောင် ရခဲ့၏၊ သဒ္ဒါဘက်တွင် သဒ္ဒါကြီးသာမက ပုဒ်စစ်–သုတ်စစ်–သဒ္ဒါစစ် နည်း လေးဆယ်တို့အပြင် ပဒမာလာတို့လည်း ကုန်ခဲ့၏။

သင်္ဂြိုဟ်ဘက်တွင်လည်း ပါဠိ–အနက်၊ သရုပ်ခွဲ အပြင် ဝိထိလက်ရိုး ဆိုရိုးစဉ်တို့ကိုပါ ခိုင်ခိုင်မာမာ ရခဲ့သည်၊ ညဝါ အခြေခံ မာတိကာ ဓာတုကထာပင် အနည်းငယ် ရခဲ့သေး၏။

ထိုတွင် ကိုရင်ဝိမလက သင်္ဂြိုဟ်ဘက်ကို ပို၍ အားသန်သည့်အားလျော်စွာ ယခုအခါ အဘိဓမ္မာတွေကို အားရ– ပါးရ သင်ရပေတော့မည်။

## ကိုရင်ဝိမလ၏ ပညာရေးခရီး

ယခုအခါ ကိုရင်ဝိမလအနေဖြင့် တောမှာ သင်ကြားခဲ့ရသော ပညာရေးခရီးကို မြို့မှာ ဆက်လက်၍ လျှောက်လှမ်းနေရပြီ၊ မင်္ဂလာကျောင်းတိုက်ထဲတွင် ဆရာတော်ကြီး ဦးသုဇာတ ကိုယ်တိုင် သဒ္ဒါဘက်ဆိုင်ရာ ရူပသိဒ္ဓိကို ချပို့ပေးနေ၏၊ ယင်းစာဝါကို အခြားသော သာမဏေများ–ရဟန်းငယ်များနှင့်အတူ လိုက်နေရလေ၏။

နောက်ပိုင်းတွင် ဆရာတော်ကြီး ဦးသုဇာတက ကိုရင်ဝိမလကို ဆရာကြီး ဦးအုန်းထံ အပ်နှံရန် ညွှန်ကြားသည်၊ အဘိဓမ္မာညဝါ သင်ကြားရန်အတွက် ဖြစ်၏၊ ထိုအခါ သီလရှင် မသုစာရီက ပို၍ သဘောကျနှစ်သက်သွားရတော့၏။

> "ဤအဘိဓမ္မာ ညဝါသင်တန်းကိုလာ၍ သင်ယူဖို့ရန် တစ်ချိန်တုန်းက သည့်မောင်ကလေးကို မိမိသည်ပင် ဖိတ်မံခဲ့ဖူး၏၊ ယခုအခါ အချိန်ရောက်လာခဲ့ပြီကော..."

တစိမ့်စိမ့် နောက်ပြန်တွေးရင်း ကြည်နူးနေမိသည် ဆို၏၊ သီလရှင် မသုစာရီက မောင်ကလေး ကိုရင်ဝိမလကို ခေါ်ကာ ဆရာကြီး ဦးအုန်းထံသို့ လာခဲ့သည်။

## ဆရာကြီး ဦးအုန်းနှင့် စတင်တွေ့ရ

ဆရာကြီး ဦးအုန်းထံသို့ ရောက်သောအခါ သီလရှင် မသုစာရီက "သည်ကိုရင်လေးဟာ မောင်ကလေး အရင်းပါ၊ စာသင်ချင်လို့ ဒီမင်္ဂလာတိုက်ကို ရောက်လာပါတယ်"စသည်ဖြင့် ရှင်းပြပြီး ဆရာကြီးထံ အပ်နှံလိုက်၏၊ ဆရာကြီးက–

> "အေး... အတော်ပဲ၊ မကြာခင် အဘိဓမ္မာ ညဝါရဲ့ အစဖြစ်တဲ့ မာတိကာကို ချပို့ပေးတော့မှာ၊ အဲဒါ လိုက်ရမယ်"

ဤသို့ ဆရာကြီးက အမိန့်ရှိသည်၊ ဆရာကြီး ဦးအုန်းသည် အဓိကအားဖြင့် ညဝါများကိုသာ ဆက်ကာဆက်ကာ ချပို့ပေးလေ့ရှိ၏၊ နေ့ဝါကိုမူ အနည်းငယ်မျှသာ မကင်းရုံကလေး ချပို့ပေးတတ်သည်။

---

**မှတ်ချက်။** ။"ညဝါ"ဆိုသည်မှာ ညပိုင်း ကာလကျမှ စာမကြည့်ဘဲ အလွတ်ဆိုရသော စာဝါဖြစ်သည်၊ ထို့ကြောင့် "ညဝါ"ဟု ခေါ်ကြ၏၊ အဘိဓမ္မာ သဘောသဘာဝများ ဖြစ်သည်။

ညပိုင်း၌ ဆိုနိုင်ဖို့ရာ နေ့လယ်ပိုင်းကပင် ဆိုရိုးစာတို့ကို အလွတ် နှုတ်တက်ရအောင် ကျက်ထားရ၏၊ အဓိပ္ပာယ်ကိုမူ

ညကျမှ ဆရာသမားက ပြောပြပေးသည်။

မျက်စိဖြင့် မမြင်ရသော အဘိဓမ္မာသဘော တို့ကို ဉာဏ်ဖြင့် မြင်ရအောင် ပြောပေးခြင်းမျိုး ဖြစ်၍၊ ဤသည်ကို"ညဝါ" ဟု ခေါ်သည်၊

ယခုနောက်ပိုင်းတွင်ကား အခြားကျောင်းတိုက်များ မှလည်း လာ၍လိုက်နိုင်အောင် နေ့အခါ၌ပါ ချပို့ပေးတော်မူကြ၍၊ သို့သော်လည်း ခေါ်မြဲ နာမည်အတိုင်း "ညဝါ"ဟုပင် ခေါ်တွင်နေကြလေသည်။

# စာကျက်သံတို့ဖြင့် လွှမ်းဖုံးနေ

အခြေခံသင်္ဂြိုဟ် သရုပ်ကွဲမှ ပိုင်မှ နိုင်မှ အဘိဓမ္မာ ညဝါကို နားလည်နိုင်– ကောင်းကောင်း သဘောပေါက်နိုင်သည်၊ ယခု ကိုရင်ဝိမလကား ဇာတိရပ်ရွာ ဝွေးပင်တောရ ကျောင်းကပင် အဘိဓမ္မာ၏ အခြေခံ သင်္ဂြိုဟ်ကို ကောင်းကောင်းပိုင်နိုင် တတ်မြောက်ခဲ့သူ ဖြစ်၏။

ထို့ကြောင့် ယခု ဆရာကြီး ဦးအုန်းထံ ညဝါကို သင်ယူရသောအခါ အလွန်အမင်း ခက်ခဲခြင်း မရှိတော့ပါ၊ ကိုယ့်ထက် အသက်ကြီးသော ရဟန်းတော်များ နှင့်ပါ တွဲဖက်၍ လိုက်နိုင်ခဲ့ခြင်း ဖြစ်လေသည်။

အမရပူရ မင်္ဂလာကျောင်းတိုက်အနီး ဝန်းကျင်များသို့ သွား၍ ကြည့်ပါက နေ့လယ်ပိုင်းအခါများတွင် စာကျက်သံတို့ဖြင့် လွှမ်းဖုံးနေသည်ကို တွေ့ကြရမည် ဖြစ်၏၊ ညပိုင်းတွင် အလွတ်ဆိုနိုင်ဖို့ရန် ကျက်အံနေကြခြင်း ဖြစ်လေသည်။

နမူနာအားဖြင့် ဖော်ပြရပါမူ–

"အဘိဓမ္မာ ဒေသနာတော်သည် ပကရဏာ ပရိစ္ဆေဒအားဖြင့် ဓမ္မသင်္ဂဏီ၊ ဝိဘင်း၊ ဓာတုကထာ၊ ပုဂ္ဂလပညတ်၊ ကထာဝတ္ထု၊ ယမိုက်၊ ပဋ္ဌာန်း ဟူ၍ (၇)ပါး အပြားရှိ၏။

ထို(၇)ပါးတို့တွင် ဓမ္မသင်္ဂဏီကျမ်းကို ရှေးဦးစွာ ဟောတော်မူ၏၊ ထိုကျမ်း၌လည်း ကဏ္ဍအားဖြင့် စိတ္တုပ္ပါဒ၊ ရူပ၊ နိက္ခေပ၊ အဋ္ဌကထာ ဟူ၍ (၄)ပါးအပြားရှိ၏။ ပေ။ ဟောဟန်ကား– ကုသလာ ဓမ္မာ ဟူသည်တည်း"

ဤသို့လျှင် ဆိုရိုးစာတို့ကို ဆိုရ၏၊ ပြီးလျှင် အနက်ပေးရ၏၊ ထို့နောက် အရကောက်ရ၏၊ ထို့နောက် ခန္ဓာ–အာယတန–ဓာတ်–သစ္စာ ဖွဲ့၍ ပြရ၏၊ အပုဒ်တိုင်း– အပုဒ်တိုင်း၌ ဤသို့ချည်း ဖြစ်သည်။

ဤသို့သော စာတို့ကို ကျက်အံနေကြသည်မှာ မင်္ဂလာကျောင်းတိုက် ဝန်းကျင်တစ်ခုလုံး ဖုံးလွှမ်းနေတော့သတတ်။ ။

# ဓာတ်ချင်းတူရာ ပေါင်းစည်းမိ

ကိုရင်ဝိမလတို့ မင်္ဂလာတိုက်သို့ ရောက်လာချိန်တွင် ဆရာကြီး၏ အဘိဓမ္မာချပို့မှုလုပ်ငန်းမှာ အတော်အသားကျနေပြီ၊ အရှိန်လည်း ကောင်းကောင်းရနေပြီ၊ သံဃာ့ပရိသတ်–သီလရှင်ပရိသတ်–လူပရိသတ်တို့ပင် အတော်များနေချေပြီ။

ကိုရင်ဝိမလက သက္ကရာဇ် ၁၂၇၅–ခုနှစ်တွင်မှ မင်္ဂလာတိုက်သို့ ရောက်လာ၏၊ ဆရာကြီးက ၁၂၆၇–ခုနှစ်ကပင် မင်္ဂလာတိုက်ထဲသို့ ရောက်နှင့်နေပြီဖြစ်၍

တိုက်တွင်းမှာ အဘိဓမ္မာ ချပို့မှု သက်တမ်း(၈)နှစ်ပင် ရချေပြီ။

အဘိဓမ္မာ ဝါသနာ ပါသော ကိုရင်ဝိမလသည် ယခုအခါ အဘိဓမ္မာဆရာကြီး ထိပ်ထိပ်ကြဲအထံသို့ ဆိုက်ဆိုက်မြိုက်မြိုက်ကြီး ရောက်၍သွားရပြီ၊ ကံတရားတို့သည် ဆန်းကြယ်ကြကုန်၏။

ဓာတ်တူရာ–တူရာ ပို့၍ပေးသလို၊ ပေါင်းစည်း၍ ပေးသလို ဖြစ်သည်၊ ယခု ကိုရင်ဝိမလ၏ ရှေးဘဝ ပါရမီကံတို့က ပို့ဆောင်၍ ပေးလိုက်လေပြီလော၊ ဤသဘောမျိုးကို ဘုရားရှင်ကိုယ်တော်မြတ်ကြီးက–

*–"အညံ့စားဓာတ်စုတို့သည် အညံ့စားချင်း ပေါင်းဖွဲ့ကြကုန်၏။

– အလတ်စားဓာတ်စုတို့သည် အလတ်စားချင်း ပေါင်းဖွဲ့ကြကုန်၏။

– အမြတ်စားဓာတ်စုတို့သည် အမြတ်စားချင်း ပေါင်းဖွဲ့ကြကုန်၏"

ဟု ဟောတော်မူထားသည်။

## ပထမကျော် အဘိဓမ္မာညဝါ–ဆရာကြီးဦးအုန်း



ပထမကျော်ဆရာကြီးဦးအုန်း

ဤနေရာတွင် ဆရာကြီးဦးအုန်း၏ အကြောင်းကိုလည်း ဖော်ပြရပါဦးမည်၊ ဆရာကြီး ဦးအုန်းသည် အဘိဓမ္မာ ညဝါဘက်တွင် ဇမ္ဗူတစ်လွှား တစ်ချိန်က တံခွန်ထူခဲ့သူဖြစ်၏၊ ထို့ကြောင့် မှတ်တမ်းတင်ထိုက်သူ ဖြစ်သည်၊ သို့ဖြစ်၍ ဤနေရာ၌ အကျဉ်းချုံးဖော်ပြလျက် မှတ်တမ်းတင်ပါမည်။

ဆရာကြီး ဦးအုန်းသည် ရမည်းသင်းမြို့နယ်သား ဖြစ်၏၊ မန္တလေးတိုင်း၊ မန္တလေးမြို့ကြီး၏ တောင်ဘက် မိုင်(၁၅၀)ခန့်အကွာတွင် ရမည်းသင်းမြို့ တည်ရှိသည်၊ မန္တလေး–ရန်ကုန်သွား မီးရထားသံလမ်း–မော်တော်ကားလမ်းမကြီးများက ထိုမြို့ကို ဖြတ်သန်းသွားကြ၏။

ယင်းမြို့၏တောင်ဘက် ၆–မိုင်အကွာ (တောင်–မြောက် မီးရထားသံလမ်း၏ အနောက်ဘက်) တွင် "အလည်ကုန်းကျေးရွာ" တည်ရှိ၏၊ ယင်း "အလည်ကုန်းကျေးရွာ"မှ အဘ–ဦးတုပ်ပေါ၊ အမိ–ဒေါ်ကူးတို့၏ ရင်နှစ်သည်းချာသားရတနာဖြစ်သည်၊ သက္ကရာဇ် ၁၂၀၈ ခု၊ တော်သလင်းလဆန်း (၈)ရက်၊ တနင်္ဂနွေနေ့ တွင် ဖွားမြင်သူဖြစ်၏။

ကောဇာသက္ကရာဇ် ၁၂၂၃–ခုနှစ်တွင် သာမဏေ ဝတ်၍ "ရှင်အာဒိစ္စ"အမည်တွင်သည်၊ သက္ကရာဇ် ၁၂၂၇ ခုနှစ်တွင်မန္တလေးသို့တက်၍ မင်္ဂလာရာမတိုက်၊ ပြည်ဆရာတော်ကြီးထံတွင်ပညာသင်၏၊ ပြည် ဆရာတော်ကြီးကား အဘိဓမ္မာ ညဝါဘက်တွင် အထူး နိုင်နင်းကျော်ကြားသော ဆရာတော်ကြီးတစ်ပါး ဖြစ်သည်။

**မှတ်ချက်။** ။ "ပြည် ဆရာတော်"ဟူ၍ နာမည်တွင်ခြင်းမှာ အမရပူရမြို့ဟောင်း၊ တံခွန်တိုင် အရပ်တွင် ပြည်မင်းသား တည်ဆောက်လှူဒါန်းသော ကျောင်းတိုက်ကြီး တစ်ခု ယခုတိုင်တည်ရှိ၏၊ ယင်း ကျောင်းတိုက်ကြီး၏ ဆရာတော် ဖြစ်သောကြောင့် "ပြည်ဆရာတော်"ဟု တွင်သည်။

နောက်ပိုင်း၌ မင်းတုန်းမင်းကြီးခေတ်တွင် မန္တလေးသို့ ပြောင်းရွှေ့လိုက်ပါသွားပြီးလျှင် "မင်္ဂလာရာမတိုက်" တည် ထောင်၍ စာပေချပို့နေတော်မူ၏၊ သို့သော်လည်း ရှေ့က တွင်ခဲ့ပြီးနာမည်အတိုင်း "ပြည်ဆရာတော်"ဟူ၍ပင် အမည် တွင်လေသည်။

* နိဒါနဝဂ္ဂသံယုတ်ပါဠိ–၃၇၅

## တစ်ဘဝသာသနာ

# ပထမစာချကြီး ဖြစ်ဖူးခဲ့

သက္ကရာဇ် ၁၂၂၈–ခုနှစ် နယုန်လတွင် ကျင်းပသော ပထမပြန်စာမေးပွဲတွင် ရှင်အာဒိစ္စသည် သဒ္ဒါ–သင်္ဂြိုဟ်မှစ၍၊ မာတိကာ–ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်း(၆)တိုက်ကုန်အောင် ပြန်ဆိုနိုင်ခဲ့၏၊ ထို့ကြောင့် ပထမကျော် အကြီးတန်းကို အောင်မြင်ခဲ့သည်။

ယင်းသက္ကရာဇ် ၁၂၂၈–ခုနှစ်တွင်ပင် (အသက် ၂၀–ပြည့်လာသဖြင့်) ပြည်ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြုလျက် ရဟန်းအဖြစ်သို့ ရောက်ခဲ့၏၊ အရွယ်ကောင်းချိန်တွင် ရတတ်သမျှ ပညာရှာခဲ့သည်၊ အခြား ထင်ပေါ်ကျော်ကြားသည့် ဆရာတော်ဘုရားကြီးများထံတွင်လည်း ဆည်းကပ် သင်ယူခဲ့ဖူး၏၊ မန္တလေးမြို့ကြီးတွင် လိုရာပညာရနိုင်သည်။

ရဟန်းတော် ဦးအာဒိစ္စသည် အဘိဓမ္မာ ညဝါဘက်တွင် ပို၍ စိတ်ဝင်စား၏၊ သို့ဖြစ်၍ အထူးအလေးပေး သင်ကြားခဲ့သည်၊ ထို့ကြောင့်လည်း ပို၍ နိုင်နင်းနေလေ၏၊ သက္ကရာဇ် ၁၂၃၅–ခုနှစ် ရဟန်း(၇)ဝါအရတွင် မင်းတုန်းမင်းကြီး၏ ဆွမ်းဆန်တော်ကို "ပထမစာချကြီး"အဖြစ်ဖြင့် ခံယူတော်မူရသည်။

# လူဝတ်ဖြင့်ပင် သာသနာပြုခဲ့

သက္ကရာဇ် ၁၂၄၀–ခုနှစ်တွင် မင်းတုန်းမင်းကြီး နတ်ရွာစံသည်၊ သီပေါမင်းနန်းတက်လာ၏၊ သက္ကရာဇ် ၁၂၄၇–ခုနှစ်သို့ ရောက်သောအခါ သီပေါမင်းနန်းကျ၍ အိန္ဒိယသို့ ပါသွားသည်၊ တိုင်းပြည်နိုင်ငံလည်း ပျက်တော့၏၊ ဘုရင်ကို အားကိုးအားထားပြုခဲ့သော မြန်မာပြည် သာသနာ့ရေးရာကိစ္စများလည်း မှေးမှိန်ကုန်ရတော့သည်။

ထိုအခါ သာသနာ့ဝန်ထမ်းသားအများပင် စိတ်အားလျော့ကြ၏၊ အချို့က လူ့ဘောင်သို့ ပြောင်းကြသည်၊ ထိုအထဲတွင် ဦးအာဒိစ္စလည်း အပါအဝင်ဖြစ်၏၊ သက္ကရာဇ် ၁၂၄၈–ခုနှစ် အသက်(၄၀)အရွယ်တွင် လူထွက်ခဲ့သည်။ လူနာမည် "ဦးအုန်း"ဟူ၍ ခေါ်တွင်၏။

လူထွက်ပြီးနောက် အမရပူရမြို့၊ ပန်းဘဲတန်းရပ်ကွက်တွင် နေထိုင်စဉ် အိမ်ထောင်ကျခဲ့သည်၊ သမီးတစ်ယောက် ထွန်းကားခဲ့၏။

အိမ်ထောင်ကျပြီးလျှင် သားမယားရှိလာပြီဖြစ်၍ စီးပွားရေးလုပ်ကြည့်၏၊ မဟန်၊ ၄–၅နှစ်ခန့် ဇွဲဖြင့်ကြိုးစားကြည့်၏၊ ကံမလိုက်၊ လုပ်တိုင်းလွဲနေသည်၊ ရဟန်းလူထွက်သည် စီးပွားရေးဘက်တွင် မကျွမ်းကျင်ပါ၊ သူ ကျွမ်းကျင်သည်ကား အဘိဓမ္မာဒေသနာညဝါ။

သို့ဖြစ်၍ ညဝါတတ်မြောက်ချင်သော ရဟန်းတော်တို့ကို လိုက်လံစုစည်းပြီးလျှင် သူ့နေအိမ်၌ ချပို့ပေးတော့၏၊ ပိုက်ဆံကြေးငွေကားမရ၊ ကုသိုလ်ရရုံမျှသာ ဖြစ်သည်။

ဟိုကျောင်း– သည်ကျောင်းမှ အဘိဓမ္မာညဝါ တတ်မြောက်ချင်သော ရဟန်းတော်များနှင့် အဘိဓမ္မာ လိုက်စားလိုကြသော လူပုဂ္ဂိုလ်အချို့တို့သည် ဆရာကြီးအိမ်သို့ သွား၍ စာလိုက်နေကြ၏၊ ဤနည်းအားဖြင့် ဆရာကြီးက လူဝတ်ဖြင့်ပင် စွမ်းရာဘက်က တာဝန်ယူ၍ သာသနာပြုခဲ့လေသည်။

# ကြုံသမျှအခြေတွင် ဖြစ်သလိုလုပ်ခဲ့

တိုင်းပြည်၏ဥကင် ဘုရင်သီပေါ ပါသွား၍ တိုင်းပြည်ရော သာသနာရေးပါ စိတ်ဓာတ်တွေ ကျဆင်းကုန်ကြ၏၊ လူတွေလည်း ချောက်ချားကုန်ကြသည်၊ မြို့ပေါ်ရှိ စာသင်တိုက်ကြီးများလည်း မတည်မငြိမ် ဖြစ်လာကုန်ကြ၏၊ စာပေချပို့မှုလည်း လျော့ရဲလာကြတော့သည်။

မြို့ပေါ်ရှိ စာသင်တိုက်ကြီးများမှ သံဃာတော်အမြောက်အမြားသည် ဇာတိရပ်ရွာများသို့ ပြန်ကုန်ကြသဖြင့် မြို့ပေါ်တွင် ကျဲတောက်တောက် ဖြစ်ကုန်ကြ၏၊ ထိုသို့ဖြစ်ရာတွင် အမရပူရမြို့၊ မင်္ဂလာကျောင်းတိုက်သည်လည်း အပါအဝင်ဖြစ်သည်။

ထိုအချိန်မျိုးတွင်မှ ဆရာကြီး ဦးအုန်းက သူ၏နေအိမ်တွင် စာချ၍ ကောင်းတုန်း ဖြစ်နေ၏၊ သံဃာတော်များလည်း ဆရာကြီး၏ နေအိမ်သို့ ဝင်ထွက်သွားလာနေကြသည်ကို တွေ့နေရ၏၊ ဆရာကြီးက ကြုံသမျှအခြေအနေတွင် လုပ်၍ရသလောက် လုပ်နေခြင်း ဖြစ်တော့သည်။

အမရပူရမြို့၊ မင်္ဂလာကျောင်းတိုက်သည် ယခင်ကမူ စွမ်းအားရှိသလောက် ကိုယ့်ပမာဏနှင့် ကိုယ်ပရိယတ္တိကို ကြိုးစားခဲ့ကြ၏၊ တိုင်းပြည် ပျက်သောအခါ ထိုပမာဏကိုပင် မမီအောင် ဖြစ်ရတော့သည်။

ထိုသို့ဖြစ်သွားရသည်ကို ကိုးကွယ်နေသော ဒကာ ဒကာမများက စိတ်မကောင်း ဖြစ်နေကြရ၏၊ မင်္ဂလာကျောင်းတိုက်ကြီး ပြန်လည် စည်ကားရန် မည်သို့ ဖန်ရမည်နည်း–ဟု စိတ်ကူးနေကြသည်။

သို့ဖြစ်၍ တစ်နေ့တွင် တိုင်ပင်ကြပြီးလျှင် ဆရာကြီး ဦးအုန်းထံသို့ ကျောင်းတိုက် ဒကာများ ရောက်လာကြ၏၊ အုပ်စုဖြင့် သွား၍ တောင်းပန်ကြသည်–

> "ဆရာကြီး... ယခုလို ရပ်ကွက်ထဲမှာ စာပေချပို့နေမည့်အစား မင်္ဂလာကျောင်းတိုက်ထဲသို့ ကြွရောက်နေထိုင်ပါ၊ အဘိဓမ္မာများကိုလဲ ချပို့ပါ၊ စားရေးသောက်တာအတွက် ဝိုင်းဝန်းတာဝန်ယူကြပါမည်"

ထိုအခါမှစ၍ ဆရာကြီး ဦးအုန်းသည် သူ့အိမ်သို့ ကြွ–ကြွလာပြီး စာလိုက်ကြသော သံဃာတော်(၁၀)ပါးနှင့်အတူ သက္ကရာဇ် ၁၂၆၇–ခုနှစ်တွင် မင်္ဂလာ ကျောင်းတိုက်သို့ ပြောင်းရွှေ့လာကြတော့သည်။

---

**မှတ်ချက်။** ။ ထိုသံဃာ(၁၀)ပါးတို့တွင် [နောင်တစ်ချိန်၌ အမရပူရ၊ ဦးပိန်တံတားကြီးအနီး၊ တောင်မင်းကြီးဘုရား၏အနောက်ဘက်က၊ အောင်ခြင်းရှစ်ပါး ကျောင်းတိုက်ကြီး၏ ဦးစီးပဓာန နာယက ဆရာတော်ကြီး ဖြစ်လာမည့်] ဦးနာဂဝံသလည်း ပါ၏။

ဆရာတော် ဦးနာဂဝံသသည် သက္ကရာဇ် ၁၂၄၂ခု ဖွားဖြစ်၍ ထို ရွှေ့ပြောင်းလာချိန်က သိက္ခာ(၅)ဝါ ရသာရှိသေးသည်။

ဤအကြောင်းအရာတို့ကို ထိုဆရာတော်ကြီး ဦးနာဂဝံသ ကိုယ်တော်တိုင် ပြန်လည် ပြောပြခြင်း ဖြစ်ပါသည်။

## လူ့သတင်း လူချင်းဆောင်ကာ

ရှေးအခါက ယခု မင်္ဂလာတိုက်ဟောင်း၏ မြောက်ဘက်တွင် မြေကွက်လပ်ပြင်ကြီးအလွတ်တစ်ခု ရှိ၏၊ ယင်းမြေကွက်ပေါ်၌ ဇရပ်ကြီးတစ်ဆောင်လည်း ရှိသည်၊ ဥပုသ်သီတင်းနေ့များ၌ ရပ်ကွက်အတွင်းမှ စုပေါင်းလာကြပြီးလျှင် သီလဆောက်တည်ရာ တရားနာယူရာဌာနပင် ဖြစ်၏၊ ယင်းဇရပ်ကြီးပေါ်၌ ဆရာကြီး ဦးအုန်းကို နေရာချထားပေးကြသည်။

ပါလာသော သံဃာတော်(၁၀)ပါးကိုမူ မင်္ဂလာကျောင်းတိုက်အတွင်းမှာ နေရာချထားပေးကြ၏၊ စာတက်ချိန်ရောက်သောအခါမှသာ ဆရာကြီးထံသို့သွား၍ ဇရပ်ကြီးပေါ်မှာ အဘိဓမ္မာညဝါဆိုကြရသည်။

ဆရာကြီး၏စာချပုံသည် ရှင်းလင်းပြတ်သား၏၊ နားလည်အောင် ပြောပြနိုင်သည်၊ အများက သဘောကျကြ၏၊ သို့ဖြစ်၍ တဖြည်းဖြည်းနှင့် သံဃာတွေ များ-များလာကြသည်၊ လူ့သတင်း လူချင်းဆောင်ကာ ထက်အောက်အနှံ့ပြန့်သွားတော့၏၊ ထို့နောက် သီလရှင် ပရိသတ်တို့ပါ- ပါလာကြတော့သည်။

---

"အဘိဓမ္မာ ညဝါ" ဆိုသည်မှာ ယခုအခါ ခေတ်စား နေကြသော Philosophy ဟူသကဲ့သို့ ဖြစ်သည်။

## သီလရှင်ကျောင်းတိုက် ပေါ်ပေါက်လာ

သို့သော် သီလရှင်တို့အတွက် နေရာအခက်အခဲ ဖြစ်နေကြရပြန်၏၊ မင်္ဂလာကျောင်းတိုက်ထဲမှာ နေကြရန်လည်း မသင့်တော်၊ သို့အတွက် အရပ်ထဲမှာပင် နီးစပ်ရာအိမ်တို့၌ တည်းခိုနေထိုင်ကြကာ စာလိုက်ကြရလေသည်။

ထိုသို့ သီလရှင်များအတွက် နေရာအခက်အခဲ ဖြစ်လာသောအခါတွင် ဇရပ်ရှင်-မြေကြီးရှင်က ဆရာကြီးအား ဇရပ်ရော မြေကြီးပါ လှူလိုက်ကြတော့၏၊ ပြီးလျှင် ထိုမြေကြီးပေါ်မှာ ဇရပ်ငယ်များ ဆောက်လုပ်၍ "သီလရှင်ကျောင်းတိုက်"အဖြစ်ပါ တည်ထောင်ပြီး ပေးလိုက်တော့သည်။

ထို့နောက်တွင် သီလရှင်များအတွက် နေစရာရှိ၍ လာသောအခါ နောက်ထပ်-နောက်ထပ် သီလရှင်တွေ များ၍ များ၍ လာကြတော့၏၊ အပါး(၅၀)ခန့်မျှဖြစ်၍ လာသည်ဟူ၏။

သံဃာတော်များဘက်တွင်လည်း အမြို့မြို့ အနယ်နယ်မှ ရောက်လာကြသဖြင့် မင်္ဂလာတိုက်ထဲ၌ နေရာမရအောင် ဖြစ်ကြရတော့သည်၊ အချို့ကိုယ်တော်များမှာ အနီးပတ်ဝန်းကျင်ရှိ ဘုရားစေတီများ၊ မုခ်ဝများကို ရှာ၍၊ ထိုမုခ်ဝကလေးများအတွင်း၌ သင်္ကန်းကာပြီးလျှင် ဖြစ်သလို နေကြရ- စာလိုက်ကြရသည် ဟူ၏။

ထို့နောက် တစ်ဖန် ထပ်မံ၍ များပြားလာပြန်သောအခါ အနီးဝန်းကျင်ရှိ ပင်းတလဲတိုက်၊ သထုံကျောင်းတိုက်၊ ဖောင်တော်ဦးကျောင်းတိုက်တို့၌ပါ သံဃာတွေ ပြည့်လာကြတော့သည်။ ဆရာကြီး ဦးအုန်းအတွက် တစ်ခေတ်ဆန်းခြင်းပင် ဖြစ်တော့၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# အဘိဓမ္မာ ညဝါမြို့တော်

ဤသို့လျှင် အနယ်နယ် အရပ်ရပ်မှ ဝိုင်းအုံ ရောက်လာကြ၍ ဆရာကြီးဦးအုန်း၏ သင်ပြချပို့မှုကို နည်းယူမှတ်သားကြရလေသည်၊ ထိုခေတ် ထိုအခါက "ဆရာကြီး၏ နည်းကို မရလျှင် ပြည့်စုံမှုမရှိသေး"ဟုပင် ထင်ကြရ၏။

ဘုရား လက်ထက် တုန်းက အနာဂါမ် စိတ္တ သူကြွယ် ကျောင်းဒကာသည် ပိဋကတ်သုံးပုံဆောင် ပုဂ္ဂိုလ် တစ်ဦးဖြစ်သည်၊ ထို့ကြောင့် ရဟန်းသံဃာတော်တို့က လေးလေးစားစား ဆက်ဆံကြ၏။

ရဟန်းတို့နှင့် မကြာ မကြာ တရား ဆွေးနွေးသည်၊ ပိဋကတ်မှ အခက်အခဲတို့ကို သူကလည်း မေးတတ်၏၊ ရဟန်းတို့က မေးလျှင်လည်း သူက ဖြေလေ့ရှိသည်၊ ဤသို့လျှင် ရဟန်းသံဃာတို့ကပင် လေးစားထိုက်သော ပုဂ္ဂိုလ်တစ်ဦးဖြစ်၏။

ယခုလည်း ဤအမရပူရမြို့ (တောင်မြို့)၌ ဆရာကြီး ဦးအုန်းသည် အဘိဓမ္မာဘက်တွင် လေးစားထိုက်သော ပုဂ္ဂိုလ်ကြီးတစ်ဦး ဖြစ်နေပြန်သည်။ ထို့ကြောင့် ရဟန်းသံဃာတော်များသည်ပင် ဆရာကြီး၏ ထံသို့ ဝိုင်းအုံရောက်လာရခြင်း ဖြစ်လေ၏။

ဤဆရာကြီး ဦးအုန်းကို အကြောင်းပြု၍ပင် အမရပူရ (တောင်မြို့)ဆိုသည်ကိုလည်း ရဟန်းသံဃာ အဘိဓမ္မာလောက၌ မသိသူ မရှိသလောက် ဖြစ်သွားရလေသည်၊ ထိုမှတစ်ပါး "အဘိဓမ္မာ ညဝါမြို့တော်" ဟူ၍လည်း ထင်ထင်ပေါ်ပေါ် အသိအမှတ် ပြုတော်မူကြလေတော့သည်။

# သူ့ခေတ်နှင့်သူ တံခွန်ထူခဲ့

ဤသို့ ဤနယ် ထူးထူးချွန်ချွန် တတ်သိ ကျွမ်းကျင်တော်မူကြသော ဆရာတော်ဘုရားကြီးများ၊ တတ်သိကျွမ်းကျင်သော ပညာရှင် ပုဂ္ဂိုလ်ကြီးများကို အကြောင်း ပြု၍ နယ်မြေဒေသပါ ထင်ရှားကျော်ကြားရသည်မှာ ဓမ္မတာဖြစ်ပါသည်၊ ဥပမာ–

ပခုက္ကူမြို့ဆိုလျှင် ပိဋကတ် ပင်လယ် နိကာယ် သမုဒ္ဒရာကြီးတွေကို တစ်ဖက်ကမ်းရောက် ပေါက်မြောက်အောင် ပို့ဆောင်ကူးခပ်ပေးသောမြို့ဟူ၍လည်းကောင်း။

မန္တလေးမြို့တော်ကြီးကိုမူ ကူးနည်းခပ်နည်း နိဿယည်းမျိုးစုံ ကုံလုံကြွယ်ဝ အတတ်ပညာစုံရသော ဌာနကြီးဟူ၍လည်းကောင်း အသိအမှတ်ပြုကြရသလို–

အမရပူရ (တောင်မြို့)ကိုကား အဘိဓမ္မာ ညဝါဘက်တွင် သူမတူ တတ်မြောက်အောင် ပို့ဆောင်ပေးသော မြို့တော် ဖြစ်သောကြောင့် "အဘိဓမ္မာ ညဝါမြို့တော်"ဟု အသိအမှတ်ပြုခြင်း ခံရလေသည်။

ထို့ကြောင့်လည်း မြန်မာပြည် တစ်နံတစ်လျားမှ သံဃာတော်များအားလုံးလိုလို နည်းစနစ်ကို ရလို၍ ရောက်လာကြရပြီးလျှင် သင်ယူကြရတော့၏၊ ထိုစဉ်က တစ်မြို့လုံး သင်္ကန်းအဝါရောင်တို့ဖြင့် ဖုံးလုမတတ် ဖြစ်ခဲ့ရလေတော့သည်။

ညဝါဆိုပြီး၍ ကိုယ့်ရပ်ကိုယ့်ထံ ပြန်လာကြတဲ့ ရဟန်းတော်အရှင်မြတ်တို့ကလည်း ကျေနပ်ကြပါသတဲ့၊ ထို့ကြောင့် နောက်ထပ်–နောက်ထပ် ညဝါဆိုလိုကြသော ပုဂ္ဂိုလ်တို့အား ဤသို့ ညွှန်ကြားကြပါသတတ်။

* ညဝါ ဆိုဖို့ မောင်တို့၊
တောင်မြို့ကို သွား။

* သူ့စနစ်က၊
ခုခေတ် တံခွန်ထူလို့မို့၊
တလူလူ ဝင့်ကာကြွားတယ်၊
ရှားတဲ့ လူသား။ ။

# ဆရာကြီး ဦးအုန်း၏ စာချဟန်

ထိုစဉ်က ဆရာကြီးဦးအုန်း အဘိဓမ္မာ ညဝါ ချပို့နေပုံကို မီလိုက်သော ရမည်းသင်းမြို့နယ် (ဆရာကြီး ၏ ဇာတိ) အလည်ကုန်း ရွာသား ဦးညီပုက သူ၏ မျက်မြင် သူ၏ မြင်ကွင်းတွင် မြင်နေရပုံတို့ကို ဤသို့ ပြန်လည် ပြောပြပါသည်–

"ဒီလိုဘုရာ့– အမရပူရမင်္ဂလာတိုက်ရဲ့ မြောက်ဘက်မှာ ကပ်လျက် (စည်းရိုးပဲခြားတယ်ဘုရာ့) မြေကွက်ပြင်ကြီး ရှိတယ်၊ အဲဒီ မြေကွက်ပြင်ကြီးပေါ်မှာ (၄)ပင် ပတ်လည် ဇရပ်ကြီး တစ်ဆောင်လဲ ရှိတယ်၊ အဲဒီဇရပ်ကြီးပေါ်မှာ ဆရာကြီးက နေတာ။

အချိန်ကျလို့ တုံးခေါက်လိုက်ပြီဆိုရင်ပဲ သီလရှင်တွေက အရင်လာရတယ်၊ အဲဒီဇရပ်ကြီးပေါ် ထောင့်ခန်းမှာ ကန့်လန့်ကာကြီး ကာထားတယ်၊ အဲဒီထဲမှာ သီလရှင်တွေက ဝင်နှင့် ရတယ်၊ အပါး(၅၀)လောက် ရှိမယ် ထင်တယ်ဘုရာ့။

ဘာလို့ ကန့်လန့်ကာတွင်း ဝင်ရတယ်– ဆိုတာတော့ သိရောပေါ့ ဘုရား။

အဲဒီနောက်မှ သံဃာတွေက ကြွလာကြရတယ်၊ လူပုဂ္ဂိုလ်တွေလဲ ပါတယ်၊ လူပုဂ္ဂိုလ်တွေက(၂၅)ဦးထက် မနည်းဘူး၊ သံဃာတော်တွေ ကတော့ (၂၀၀) နှစ်ရာခန့်လောက်ရှိမယ် ထင်တယ် ဘုရာ့၊ ကြမ်းပြင်ပေါ်မှာ ဒီလိုပဲ ပြားပြီး တပြင်တည်း ထိုင်ကြတာပါပဲ။

အဲဒီနောက်မှ ဆရာကြီးက အလယ်ကောင် မကျတကျ နေရာကို ဝင်ပြီး ကုလားထိုင်ကြီးနဲ့ ထိုင်တာပဲ၊ ရှေးကုလားထိုင်ကြီးဆိုတော့ လက်တင်ကြီးတွေနဲ့ပေါ့ ဘုရား။

အားလုံးစုံပြီဆိုတာနဲ့ ကျက်ထားတဲ့ဆိုရိုးကို ပြိုင်တူညီညီ– ဖြည်းဖြည်း ဆိုကြရတယ်၊ သံဃာတွေရော လူတွေရော သီလရှင်တွေရော ပေါ့၊ အဲဒီမှာ တစ်ပုဒ်ပြီးရင် ဆရာကြီးက အဓိပ္ပာယ်ပြောပြပေးတယ်။

ပြီးရင်– နောက်တစ်ပုဒ် ဆက်ဆိုကြပြန်ရော၊ တစ်ခါ– ဆရာကြီးက အဓိပ္ပာယ်တွေ ရှင်းပြပြန်တယ်၊ အဲဒီလိုနဲ့ တစ်နာရီ၊ တစ်နာရီ ကျော်ကျော်လောက်ကြာမှ စာတစ်ဝါပြီးတယ်။

တစ်ခါတလေကျပြန်တော့လဲ ဆရာကြီးက သင်ဖျာကလေးနဲ့ သံဃာတွေအလယ်ကို ဝင်၊ ကြမ်းပြင်ပေါ်ထိုင်ပြီး တင်ပျင်ခွေလျက်က အဓိပ္ပာယ်ပြောတာလဲ တွေ့ရရဲ့။

အဲသည်လို (ရဟန်း– သီလရှင်– အမျိုးသား) ပရိသတ်သုံးမျိုးကို တစ်ပြိုင်နက်စာချတာ ဒီဆရာကြီးတစ်ဦးပဲ တွေ့ဖူးသေးတယ်ဘုရား" တဲ့။

---

**မှတ်ချက်။** ။ဤသို့လျှင် သက္ကရာဇ် ၁၃၅၁ ခုနှစ်တွင် အသက်(၇၈)နှစ်ရှိပြီ ဖြစ်သော ဦးညီပုက သူ၏မျက်မြင်ကို ပြန်လည်ပြောပြပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အဘိဓမ္မာ ဘာဏကအသင်း

အဘိဓမ္မာ ညဝါကို သံဃာတော်များနှင့် သီလရှင်များက ဤမျှလောက်ပင် အမြတ်တနိုးထား၍ ဟိုကသည်က လာရောက်ကြပြီးလျှင် သင်ယူကြသောအခါ အရပ်ထဲမှ အချို့သောပုဂ္ဂိုလ်တို့က စဉ်းစားမိလာကြပါသတတ်။

> "ဘယ့်နှယ်... သည်ကိစ္စဟာ ရဟန်း သံဃာတော်တွေနှင့် သီလရှင်တွေသာ သင်ယူလို့ ရသလား၊ လူပုဂ္ဂိုလ်တွေရော မသင်ယူကောင်းဘူးလား၊ သင်ယူလို့ မရနိုင်ဘူးလား"

ဤသို့ စဉ်းစားကြပြီးလျှင် ဆရာကြီးကို သွားပြီးမေးကြပါသတတ်၊ ဆရာကြီးက "ရတာပေါ့"ဟု အဖြေပေးချက်အရ လူပုဂ္ဂိုလ်တွေပါ-ပါလာခြင်း ဖြစ်သည် ဟူ၏၊ ဆရာကြီးက အဘိဓမ္မာအခြေခံသင်္ဂြိုဟ်သဘောကို ဦးစွာပထမ ပြောပေးပြီးမှ သင်ကြားပေးပါသတတ်။

ထိုစဉ်က အဘိဓမ္မာညဝါ လိုက်ကြသော လူပုဂ္ဂိုလ်တို့ထဲမှ မှတ်မိသမျှ အချို့ပုဂ္ဂိုလ်တို့၏ နာမည်ကိုလည်း ပြောပြပါသေး၏၊ ထိုပုဂ္ဂိုလ်တို့မှာ ဦးတာရာ၊ ဦးဘရှင်၊ ဦးဆိုင်၊ ဦးရွှေ စသည်တို့ဖြစ်ပါသည်-တဲ့။

အားလုံး လူပုဂ္ဂိုလ်(၂၅)ဦးထက် မနည်း အမြဲစာလိုက်ကြပါသည်-တဲ့၊ သူတို့လည်း ရဟန်းတော်တို့နှင့်အတူ ပြိုင်တူစာဆိုကြပါသတဲ့၊ အဲဒီလို အဘိဓမ္မာတွေကို ရွတ်ဆိုကြတဲ့အတွက် "အဘိဓမ္မာ ဘာဏကအသင်း"ဟူ၍ပင် နာမည်ယူထားကြပါသတဲ့။

---

**မှတ်ချက်။** ။ ယခုကဲ့သို့ ရဟန်း သာမဏေ သီလရှင် လူပုဂ္ဂိုလ်များ ဆရာကြီးထံမှာ စာသင်ရခြင်း အတွက် ပိုက်ဆံပေးရသည် မဟုတ်ချေ၊ ဆရာကြီးက အခမဲ့ သင်ပေး၍ တပည့်တို့ဘက်ကလည်း အခမဲ့ရခြင်းသာ ဖြစ်၏။

သာသနာတော်မှာ မြတ်စွာဘုရားကစ၍ တရားတော်တွေကို အခမဲ့ ဟောပေးတော်မူ၏၊ အရှင် သာရိပုတ္တရာ-အရှင်မောဂ္ဂလာန်စသည်တို့ကလည်း တပည့် တို့အား အခမဲ့ပင် အဆင့်ဆင့် သင်ပေးတော်မူခဲ့မြဲ ဖြစ်ကြလေသည်။

## ရောက်တဲ့နေရာ စာပွဲသဘင် နေ့တိုင်းယင်

တစ်ခါသော် မန္တလေးမြို့ကြီးတွင် ကြွက်ရောဂါတွေ ကျလေ၏၊ မြို့လူထုရော- မြို့နေသံဃာတွေပါ လှုပ်လှုပ်ရွရွ ဖြစ်ကုန်ကြရသည်၊ အချို့သံဃာတော်များ တောရပ်တောရွာများသို့ ပြန်ကြ ပုန်းရှောင်ကြရ၏။

ထိုအခါ အမရပူရတွင် ချပို့နေသော အဘိဓမ္မာ ညဝါကိုလည်း "ခေတ္တရပ်ထားကြဦးစို့"ဟု ဆရာကြီးက ဆိုရသည်၊ အဘယ့်ကြောင့်ဆိုသော် အမရပူရနှင့် မန္တလေးသည် တစ်စပ်တည်းလို ဖြစ်နေသဖြင့် ကူးစက်လာနိုင်သောကြောင့် ဖြစ်၏၊ သို့ဖြစ်၍ အဝေးကလာပြီး စာလိုက်ကြသော ကိုယ်တော်များ ပြန်ကြရသည်။

ဆရာကြီးကမူ မိမိဇာတိ ရမည်းသင်းမြို့နယ်က "အလည်ကုန်းရွာသို့ ခေတ္တပြန်မည်၊ လိုက်လိုသူများ လိုက်နိုင်သည်"ဟု ဆိုသဖြင့် အချို့က လိုက်လာကြသည်။

ရဟန်းသံဃာများထဲမှ ဦးနာဂဝံသ၊ ဦးကောသလ္လ၊ ဦးဉာဏိန္ဒ၊ ဦးအာစယ၊ ကိုရင် မေဓာသာမိ၊

ရင် ဝိမလတို့ ဖြစ်ကြ၏။ ဆရာကြီးနှင့်အတူ ကပ်ပါလာကြသည်။

မှတ်ချက်။ ။ ကိုရင် ဓမ္မသာမိသည် ကိုရင် လထက် (၂)နှစ်ကြီး၏၊ အလည်ကုန်းရွာနှင့်ကပ် က် အရှေ့ဘက်က "ဆေးပလဲကုန်းရွာ"ဇာတိသား ၏၊ ဆရာကြီးနှင့် ဆွေမကင်း မျိုးမကင်းလည်း စ်သည်။

ဤခရီးတွင် သီလရှင်များလည်း (၂၀)ကျော်ခန့် ပါလာကြ၏၊ အလည်ကုန်းရွာကျောင်းဝင်းကြီးအတွင်းမှ ဇရပ်တန်းလျားကြီးများပေါ်တွင် နေရာချထားပေးသည်။

လိုက်ပါလာကြသော ရဟန်းသံဃာပရိသတ် သီလရှင်ပရိသတ်တို့အား ဆရာကြီးက နေ့စဉ်မပျက် အဘိဓမ္မာ ညဝါများကို ချပို့ပေးလျက် နေသည် ဟူ သတတ်။

## အဘိဓမ္မာနယ်ထဲ ရစ်ဝဲနစ်မြုပ်နေ

ထိုစဉ်က ကိုရင်ဝိမလမှာ အသက်(၁၆)နှစ်ခန့် ဆို၏၊ ဟိုဟို သည်သည် မလည်တတ်၊ ကျောင်းဝင်း အတွင်းက ရောမကျွန်းတုံးကြီးပေါ် ထိုင်ရင်း စာပြန်နေ ဘတ်သည်၊ တစ်ယောက်ထည်း စာတွေကို ကြံတွေးနေ ဘတ်၏။

ညနေရောက်လျှင် ဆရာကြီး ဦးအုန်းက "လာ ိုရင်ဝိမလ၊ လမ်းလျှောက်သွားကြမယ်"ဟု ဆိုလေ့ သည်၊ တစ်မိုင်ခန့်နီးပါးဝေးသော မန်ကျည်းပင်ကြီး အထိ လျှောက်တတ်ကြ၏၊ လမ်းတွင်လည်း စာသဘော တွေကိုပင် ပြောပြ–ပြောပြသွားတတ်သည်ဟု ဆိုသည်။

ဤသို့ခေါ်၍ ခေါ်၍သွားသည်ကို ကိုရင်ဓမ္မသာမိ က မနာလို၊ သို့ဖြစ်၍ ကွယ်ရာတွင် စကားစပ်မိပါက ဤသို့ ပြောလေ့ရှိပါသတတ်–

"ကိုရင်ဝိမလက ဉာဏ်ထိုင်းတယ်ကွ၊ အများ နဲ့ စာတက်တဲ့အခါ အဘိဓမ္မာတွေဆိုတော့ သဘောမပေါက်နိုင်ဘူး၊ အဲဒါအတွက် အပို ပြောရအောင်လို့ ဆရာကြီးက လမ်းလျှောက် ခေါ်– ခေါ်သွားတာ"

မည်သို့ပင်ဆိုစေ– ဆရာကြီးအနေနှင့်မူ အရှည် ကို မြင်ထားဟန်တူ၏၊ "အနာဂတ်ကာလအတွက် အဘိဓမ္မာ ညဝါများကို ဆက်လက်တာဝန်ယူစွမ်းနိုင်မည့် သူ" ဟု မြင်ထားဟန် ရှိသည်၊ သို့ဖြစ်၍ ကိုရင့်ဘဝ ပျက်စီး ယိုယွင်းမသွားနိုင်အောင် အချိန်ပြည့် စာပေအာရုံ ထဲမှာ နစ်မြုပ်စေထားဟန်တူ၏။

မှန်ပါသည်၊ ဤအချိန် ဤအရွယ်တွင် ဤကဲ့သို့ စာပေအာရုံတစ်ခုခုထဲသို့ ရစ်ဝဲနစ်မြုပ်နေသည်မှာ အလွန် ကောင်းလှပါ၏၊ စိတ်မှာ အလုပ်ရနေခြင်းဖြစ်သည်။

ထိုသို့မဟုတ်ပါက စိတ်သည် ပြန့်လွင့်နေတတ် ၏၊ စိတ်ကစားနေတတ်သည်၊ စိတ်၏ နောက်သို့ ကိုယ်ပါ လိုက်ပါသွားပါက ပျက်ပြားတတ်၏၊ ထို့ ကြောင့် စိတ်ကို ထိန်းချုပ်ဆုံးမနေရမည်၊ ဤအချက်ကို မြတ်စွာဘုရားက ဤသို့ ဟောကြားထားတော်မူ၏–

"စိတ္တဿ ဒမထော သာဓု =
စိတ်ကို ဆုံးမနိုင်မှ ကောင်းသည်"တဲ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဒီသာပါမောက္ခဆရာကြီးပမာ

ဆရာကြီးဦးအုန်းသည် မိမိ၏ မွေးဖွားရာဇာတိ အလည်ကုန်းကျေးရွာ၌ ၆–လကျော်ကျော် ၇–လခန့်မျှ နေထိုင်ပြီးသောအခါ နေမြဲ အမရပူရသို့ ပြန်လာခဲ့ကြ၏၊ မြို့ကြီးများ၌ ရောဂါဘယလည်း ကင်းဝေးသွားကြလေပြီ၊ စာသင်သားတို့လည်း ပြန်လည်ရောက်ရှိလာကြပြီ။

ဆရာကြီးက မာတိကာ ဓာတုကထာ–ယမိုက်–ပဋ္ဌာန်းတို့ကို တစ်ကျမ်းပြီး တစ်ကျမ်း လှည့်ပတ်ချပို့ပေးသည်၊ စာသင်သားတို့လည်း ဆူလှယ်လာနေကြ၏၊ နားလည်၍ သဘောပေါက်သွားသောသူတို့က ပြန်ကြသည်၊ နားမလည်သေးလျှင် ဆက်လက်နေကြ၍ နောက်အခေါက်များတွင် ထပ်မံလိုက်ကြပြန်၏။

ဤနည်းအားဖြင့် သံဃာတော်တို့မှာ အမရပူရမြို့ကလေးနှင့် မမျှအောင် ဖြစ်ကြရတော့သတတ်၊ ဤသို့ မမျှ–မတ မြို့ကလေးတစ်ခုလုံး သင်္ကန်းရောင်တို့ဖြင့် ဖုံးလုမတတ်ဖြစ်ရသည်ကိုပင် မြို့သူ မြို့သားတို့က ဂုဏ်ယူကြသည်ဆို၏၊ ငါတို့မြို့က "ညဝါမြို့တော်"၊ ငါတို့ဆရာကြီးက "ဒီသာပါမောက္ခဆရာကြီးနဲ့ တူတယ်"ဟူ၍ ဂုဏ်ယူဝင့်ကြွားကြသောဟူ၏။

## ဟောဟန်ကား လွှမ်းသောမြို့

အမရပူရမြို့ကို ရောက်လျှင် ရောက်ချင်း ရဟန်းသံဃာတော်တို့အတွက် အခက်အခဲတွေ့ရတတ်သည်ကား နေရာထိုင်ခင်းပင် ဖြစ်၏၊ ဆွမ်းထက်ပင်လျှင် နေရာက ခက်နေပြန်သည်၊ မင်္ဂလာတိုက်က လက်မခံ၍ မဟုတ်၊ မင်္ဂလာကျောင်းတိုက်ထဲမှာ ကျောင်းတိုင်းကျောင်းတိုင်း အပြည့်အလျှံ သံဃာတော်တို့ဖြင့် ပြည့်ကျပ်ညပ်နေသောကြောင့် ဖြစ်၏။

မင်္ဂလာတိုက်တွင်း မဆံ့သောအခါ အနီးရှိ ပင်းတလဲတိုက်၊ သထုံတိုက်၊ အေးစေတီကျောင်း၊ ဖောင်တော်ဦးတိုက်နှင့် တူမောင်းတိုက်တို့၌လည်း ဖြန့်၍ နေကြရတော့သည်၊ ထို့ပြင် ရပ်ကွက်ထဲရှိ ဥပုသ်ဇရပ်တို့၌လည်း ဖြစ်သလို သင်္ကန်းကာ၍ နေကြရသောဟူ၏။

ထိုမျှဖြင့်ပင် မလုံလောက်သောအခါ ခပ်လှမ်းလှမ်းတွင် ရှိသော ရွှေခဲရပ်၊ လက်သမားရပ်၊ ဥယျာဉ်ရွာ၊ အောက်ကျဉ်းစသော ကျေးရွာတို့ရှိ ကျောင်းကန်တို့၌လည်း တောင်းပန်၍ နေထိုင်ကြရလေသည်ဟူ၏။

ထိုမျှမက နောက်ထပ်၍ ရောက်လာကြပြန်သောအခါ မင်္ဂလာတိုက်၏ အရှေ့တောင်ဘက်တွင်ရှိသော တောင်သမန်အင်းကြီးနှုတ်ခမ်းပေါ်ရှိ သစ်ပင်ကြီးများ၊ အရိပ်အာဝါသကောင်းလှသည့် "မယ်ဇယ်ပင်" တန်းကြီးများအောက်တွင်လည်း သပိတ်သင်္ကန်းတို့ကို ဖြစ်သလိုထားကာ နေထိုင်ကြရ– စာလိုက်ကြရသည် ဟူသတတ်။

အမရပူရမြို့နှင့် ဝန်းကျင်တစ်ခုလုံး သံဃာတော်တို့ဖြင့် ဖုံးနေသောကြောင့် ဘယ်နေရာ သွားသွား စာကျက်သံတွေ ကြားနေကြရ၏၊ ကြားရငေ ာ်အသံတို့မှာလည်း–

"ကုသလတိက်ကို ဟောတော်မူသည်၏ အခြားမဲ့၌
ဝေဒနာတိက်ကို ဟောတော်မူ၏၊ ဟောဟန်ကား–
ဝေဒနာတိက်ကို ဟောတော်မူသည်၏ အခြားမဲ့၌
ဝိပါကတိက်ကို ဟောတော်မူ၏၊ ဟောဟန်ကား–
တိက်ကို ဟောတော်မူသည်၏ အခြားမဲ့၌
ဒုက်ကို ဟောတော်မူ၏၊ ဟောဟန်ကား–

ဤသို့ စသည်ဖြင့် ကြားရသူတို့၏ နားမှာ "ဟောဟန်ကား"တွေ မိုးမွှန်နေတော့သတတ်၊ ဟိုနားက "ဟောဟန်ကား"၊ သည်နားက "ဟောဟန်ကား"၊ ဟောက်ဟိုဘက်နားကလဲ "ဟောဟန်ကား"တွေ များလှချေ၏။

ဤသို့လျှင် အဘိဓမ္မာသဘောတရား၏ အတွင်းသားကျကျ၊ အတွင်းပိုင်းအနှစ်သာရကိုတော့ အများအားဖြင့် မသိကြပါ၊ သို့ရာတွင် "ဟောဟန်ကား"ကိုတော့ အများ၏ ပါးစပ်ဖျား လူတိုင်းလိုပင် နှုတ်တက်နေကြလေတော့သတတ်။

## တံခါးကြီးတွေကတောင် မြည်သတဲ့

ထို့ကြောင့် ထိုခေတ်က ပြောရိုးဆိုစဉ်တစ်ခုတွင်ခဲ့၏၊ "ဟောဟန်ကား"အသံတွေ ကျောင်းခန်းမှာ ကိန်းဝပ်အောင်းခိုနေလို့ "တောင်မြို့က စာသင်တိုက်ကြီးတွေ့ရဲ့ တံခါးပေါက်ကြီးတွေကို ဖွင့်လိုက်ရင် (ဟောဟန်ကား)လို့တောင် မြည်ပါသတဲ့။ [မန္တလေးမြို့ကြီးက အမရပူရမြို့ကို "တောင်မြို့"ဟူ၍ ခေါ်ကြသည်၊ တောင်အိမ်–မြောက်အိမ်ဆိုသကဲ့သို့ ရင်းနှီးစွာ ခေါ်ခြင်းဖြစ်၏။]

ထိုစကားနှင့်စပ်လျက်ပင် မန္တလေးရွှေမြို့တော်ကြီးကလည်း ပိဋကတ်ပင်လယ်ရေပြင်ကျယ်ကြီးကို ကူးခပ်ရာတွင် အရေးကြီးလှသည့် သဒ္ဒါအရာ၌ (တောင်မြို့က ညဝါလိုပဲ) ကျော်ကြားပါသတဲ့။

သဒ္ဒါဘက် ကျွမ်းကျင်တဲ့ ဆရာတော်တွေက သဒ္ဒါတွေ ချုပ်ပို့မှုများလွန်းလို့ အဲဒီမှာလဲ သဒ္ဒါဓာတ်တွေ ဝင်နေကြတာပဲတဲ့၊ ဘယ်လိုလဲဆိုတော့– အဲဒီစာသင်ဘိုက်ကြီးတွေထဲက ရေတွင်းကြီးတွေဆိုရင် အတောင်အစိတ်၊ သုံးဆယ် နက်တာ။

စက်သီးကြိုးကြီးတွေနဲ့ ရေငင်တဲ့အခါ "ဝုတ္တကတ္တား– ဝုတ္တကတ္တား– ဝုတ္တကတ္တား"လို့ မြည်သတဲ့၊ အဲဒီနောက် တံခါးပေါက်ကြီးတွေကို ဖွင့်လိုက်ပြန်တော့လဲ "တတြိယမာဒိ"လို့ မြည်ပြန်သတဲ့။

ပခုက္ကူကတော့ ပါဠိတော်ကြီးတွေ၊ အဋ္ဌကထာဋီကာကြီးတွေ– ပိဋကတ် သုံးသွယ်၊ နိကာယ်ငါးရပ် တစ်ဘက်ကမ်းရောက် ကျမ်းတွေပေါက်အောင် ချုပ်ပို့ပေးတဲ့ နေရာမှာ အစဉ်အလာကပင် ကျော်ကြားခဲ့ပါ၏၊ ချုပ်ပို့ရင်း ပါဠ်မှား–ပါဠ်မှန်ကိုလည်း ပြင်ဆင်လေ့–ဆုံးဖြတ်လေ့ ရှိပါသတဲ့။

ဆရာတော်ကြီးများသည် ကျမ်းကျင် တတ်မြောက်တော်မူကြသည့်အတိုင်း ပါဠ်မှားတစ်ခုကို တွေ့ပြီဆိုလျှင် ရဲရဲကြီးပင် "ပါဠ်ပျက်"လို့ ဆိုလေ့–ဆုံးဖြတ်လေ့ရှိပါသတဲ့၊ ထို့ကြောင့် ပခုက္ကူကျောင်းတိုက်ကြီးများက တံခါးပေါက်ကြီးတွေကို ဖွင့်လိုက်ပြီဆိုရင်လဲ "ပါဠ်ပျက်" လို့ပဲ မြည်ပါသတဲ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သာသနာနှင့် ဒါယကာ ညီညာပါမှ

မြို့ကလေးနှင့် မလိုက်အောင် သံဃာတွေ စုမိလာကြသောအခါ အမရပူရ မြို့သူ မြို့သား ဒကာဒကာမများက အားရရွှင်လန်း ဝမ်းပန်းတသာ ဖြစ်ကြပါသတဲ့။

"နေဖို့ထိုင်ဖို့ အဆောက်အအုံကို လုံလောက်အောင် မပေးနိုင်သော်လဲ အစားအသောက်ကိုကား ပေးကြမည်–လှူကြမည်၊ ဆွမ်း မလုံလောက်၍ ပြန်သွားရသည်ဆိုတာ မရှိစေရ"

ဤသို့ တိုင်ပင်ကြကာ အားတက်သရော လောင်းကြလှူကြ အားပေးကြပါသတဲ့။

မိမိတို့ စားရတတ်သမျှကို ဦးဦးဖျားဖျား သံဃာတော်တို့အား ဆက်ကပ်ခဲ့ကြပါသတတ်၊ ကောင်းတာမကောင်းတာ အပထား၊ စားရတတ်သမျှကို ခွဲဝေမျှတလှူဒါန်းခဲ့ကြပါသတတ်။

*တစ်ခါသော် ရှင်တော် ဗုဒ္ဓက အနာထပိဏ်သူဌေးကြီးအား မိန့်ကြားခဲ့ဖူးသည်–

"အို... အိမ်ရှင်သူကြွယ်၊ သင့်အိမ်မှာ ဆွမ်းရပ်လာကြတဲ့ သံဃာတော်များအား ဆွမ်းဘောဇဉ်များလောင်းလှူပါ၏လော"

"မှန်ပါ– လောင်းလှူပါသည်ဘုရား၊ သို့ရာတွင် ဟင်းကတော့ သိပ်မကောင်းလှပါ၊ နေ့စဉ် ကိစ္စဖြစ်၍ ပုန်းရည်ကြီး နီကျင်ကျင်ကို ကြက်သွန်နီဖြင့် သုပ်၍ ဟင်းလုပ်ပြီး လောင်းလှူပါသည် ဘုရား"

"အိမ်ရှင်သူကြွယ်... ဆွမ်း ကောင်းဖို့– ဟင်းကောင်းဖို့က ပဓာန မဟုတ်ပေ၊ အရေးကြီးသည်ကား လောင်းလှူသည့်အခါတွင်–

၁။ စေတနာဖြူဖြူသန့်သန့်၊
၂။ လှူဖွယ်က တရားသဖြင့် ရလို့ စင်ကြယ်၊
၃။ ချက်ပြုတ်ရာတွင် သန့်သန့်ရှင်းရှင်း၊
၄။ ချဉ်းကပ်ရာတွင် ရိုရိုသေသေ၊
၅။ လှူဒါန်းရာ၌ လေးလေးစားစား ရှိဖို့သာ အဓိက အရေးကြီးသည်။"

"ယင်းသို့မဟုတ်လျှင် ကုသိုလ်အကျိုးပေးသည့်အခါ မိမိစည်းစိမ်ကို သုံးဆောင် ခံစားလိုစိတ် မရှိဘဲ ဖြစ်နေကတတ်သည်"၊ ဤသို့ ဟောကြားတော်မူခဲ့ဖူး၏။

## တောင်မြို့ဆွမ်းက ကြမ်းပါဘိ

အမရပူရမှ ဒကာ ဒကာမတို့သည် မြတ်စွာဘုရား၏ ဤဒေသနာတော်ကို သဘောကျ၍ မိမိတို့ စားရသရွေ့ကို အားရဝမ်းသာ လှူဒါန်းကြပါသည်၊ သို့သော် လူး၊ ပြောင်း၊ ဂျုံ၊ ဆပ်တို့လည်းပါ၊ ရာကျော် ငစိန်တို့လို မာကျော ကြမ်းတမ်း သွားကျိုးခမန်း ဆန်မျိုးလည်းပါ– ဖြစ်ပါလိမ့်မည်။

ထိုအခါ ကဗျာဝါသနာပါသော ကိုယ်တော်ငယ်အချို့က စာချိုးကြပါသတတ်၊ ထိုစဉ်က သူတို့ ခံစားချက်အရ လက်စွမ်းပြခဲ့သော ကဗျာကလေးတစ်ပုဒ်၏ အပိုင်းအစကို တွေ့ရှိရ၍ ဤနေရာတွင် ဖော်ပြလိုက်ပါသည်။

"တောင်မြို့ဆွမ်းဟာ ကြမ်းတာပြောရရင်၊
လမ်းမှာ ပေါ်တဲ့ ကျောက်ခဲပမာ။
အရမ်းကာရော မြှောက်ကြပါလျှင်၊
"ဒေါက်"ခနဲ "ဖျောက်"ခနဲ မြည်သံကြား။
သုံးဆယ့်နှစ်ချောင်း သွားကျိုးနေတာ၊

---
* အင်္ဂုတ္တရပါဠိ၊ ပဉ္စက၊ ၁၅၂

ဘွားဘိုးတွေသာ ကြည့်ကြပါတော့ဗျား"တဲ့။

ဆိုလိုသည်မှာ တောင်မြို့ဆွမ်းတွေက ကြမ်းလွန်းလို့ လမ်းမှာပေါတဲ့ ကျောက်ခဲတွေလိုပဲ–တဲ့၊ မာလိုက်တာ ဒါးလို့တောင် မရဘူးတဲ့။

အမရပူရမြို့လယ်ကောင်မှ ဖြတ်သန်း၍ သွားသော မီးရထားသံလမ်းကြီးတစ်ခု ရှိသည်၊ သံလမ်းတစ်လျှောက် ကျောက်ခဲကလေးတွေကို မြင်နေမိရာမှ ဥပမာ တင်စားလိုက်ခြင်းဖြစ်ဟန်တူ၏။

ဆွမ်းကို မြှောက်ကြဲကြည့်လျှင် "ဒေါက်"ခနဲ "ဖျောက်"ခနဲလို့တောင် အသံတွေ မြည်သတဲ့၊ ကြမ်းလိုက်ပုံကဖြင့် မပြောနဲ့တော့၊ လွန်ပါရော။

ဒါတွင်မက အမရပူရမြို့ကလူတွေ အစာကြမ်း ဘယ်လောက် စားကြသလဲဆိုရင်တဲ့–အဲဒီမြို့က အဘိုးအဘွားတွေကိုသာ ကြည့်ကြပေတော့၊ သွားတွေ (၃၂) ချောင်းလုံး အကုန်ကျိုးကုန်ပြီ၊ အဲဒါဟာ အစာကြမ်းတွေ စားလို့–တဲ့။

ဤသို့လျှင် ကိုယ်တော်ငယ်တို့က ဆွမ်းရှင်ကွမ်းရှင်တို့ကို ဘာလိုလိုနေအောင် ခနဲ့ထားခြင်း၊ မခံချင်အောင် တို့ဆိတ်ထားခြင်း၊ အနေခက်အောင် ခပ်ထေ့ထေ့ကလေး စ–ထားခြင်း ဖြစ်လေသည်။

စင်စစ်သော်ကား ကိုယ်တော်ငယ်တို့သည်လည်း ဒကာ ဒကာမတို့၏ စေတနာ၊ ဒကာ ဒကာမတို့၏ သဒ္ဓါတရားကို လေးစားလျက်၊ ကျေးဇူးတင်လျက်၊ ဝမ်းမြောက်လျက်ပင် ရှိကြပါလိမ့်မည်။

## ရှိမခိုးဘဲ ဦးမချဘဲ မနေနိုင်

ဤနည်းအားဖြင့် သံဃာတော်တို့သည် ဆရာကြီး ဦးအုန်းထံမှာ အဘိဓမ္မာ ညဝါတို့ကို သင်ကြားကြရသည်မှာ ပျော်ရွှင်ကြပါ၏၊ ဆရာကြီးထံမှာ ဝိုင်းဖွဲ့၍ သင်ယူကြသလို မိမိတို့နေရာ ပြန်ရောက်သောအခါတွင်လည်း ဝိုင်းဖွဲ့၍ သံပြိုင်ရွတ်ဆိုကြပြန်သည်။

ဤမြင်ကွင်းတို့ကို မြင်သူတိုင်း ရှိခိုး၍ ဦးချ၍ လက်အုပ်ချီ၍ သွားကြလေ၏၊ ရှိမခိုးဘဲ ဦးမချဘဲ မနေနိုင် ဟူသတတ်။

နေ့တစာစာ– ညတစာစာ ရွတ်ရအံ့ရ ပြန်ရဖန်များသောအခါ ကိုယ်စီ ကိုယ်ငံ ဝမ်းဟာလာကြ၏၊ နံနက်က တစ်ထပ်ဆွမ်းသည် ညနေချမ်း၌ မရှိတော့ပြီ။

ဝမ်းဟာလျှင် လေထိုးလို့ နေမျိုးတို့ ယိမ်းယိုင်လာကြရတော့၏၊ ဤနည်းအားဖြင့် အဆင်းရဲဒဏ်ကိုယ်စီခံကြကာ သာသနာတော်ကို ဆက်ခဲ့ကြပါသည်။

အဘိဓမ္မာ ညဝါ တစ်ခေါက် ပေါက်မြောက်ဖို့ အရေး တွေးမိသောအခါ (၁)နှစ်လောက်တော့ အောင့်အည်း သည်းခံ အံကြိတ်ကြရဦးမည်ဟု သိလာရ၏၊ ဤအခြေအနေကလေးကို ထိုစဉ်က ဤသို့ ပုံဖော်ခဲ့ကြသည်–

တေးထပ်

တောင်မြို့မှာ ညဝါ ကောင်းတယ်လို့၊
ဆရာ့ဆရာအပေါင်း သင်လာ။
ကြွလာကြောင်း သဃ်ာမှာ၊
ပညာသာ လွန်ကြူး။
ဝိုင်းဖွဲ့၍ သင်ယူဟန်၊
မြင်သူမှန် ဦးချရှိခိုး။
သို့ပေမယ့် ဆွမ်းတွက်တာ၊
ပန်းလျက်သာ ခွေညှိုး။
ဝမ်းထက်မှာ လေထိုးလို့၊
နေမျိုးတို့ ယိမ်းယိုင်။
မသေရုံ တစ်ထပ်ဆွမ်းရယ်နှင့်၊
မပြတ်တမ်း ရွတ်ရသံပြိုင်။
ပိဋကတ် တောဂနိုင်ကို၊
မမောနိုင် နှုတ်ရွရှင်းရပါ၍၊

မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဗုဒ္ဓရင်း သားမြတ်တို့မှာ၊ သည်းခံ၍ စောင့်ရပါလျှင်၊
အားပြတ်လို့ ဆာ။ အောင့်ရတာ တစ်နှစ်ပေါ့လေး...။ ။

## တရားဟော ဝါသနာ ပါလာခဲ့

ကိုရင်ဝိမလသည် ယော်ရွယ်စဉ် ဥယျာဉ်တော်ရွာ ဝွေးပင်တောရကျောင်းမှာ နေစဉ်တုန်းကပင် မကြာ–မကြာ သီလပေးရဖူး၏၊ ဥပုသ်နေ့များ၌ ဆွမ်းခံကြွလာသော ကိုရင့်ထံတွင် အသက်ကြီးသော အဘိုး အဘွား များက သီလယူတတ်ကြသည်၊ ကျောင်းသို့ မသွားနိုင်၍ ယူကြခြင်း ဖြစ်၏၊ ဤနည်းအားဖြင့် ကိုရင် ဝိမလ ကလေး သီလပေးရဲလာသည်။

ထို့နောက် တစ်စ– တစ်စနှင့် သီလပေးရာမှ ရေစက်ချကလေးပါ အပိုပါလာတော့၏၊ အစတွင် ရေစက်မချတတ်ပါ၊ အဘိုးအဘွားများက ကိုရင့်အစွမ်း အစကို စမ်းသပ်ခြင်းများပေလော မပြောတတ်။

"ကိုရင်– ဒီကနေ့ တပည့်တော်ရဲ့မွေးနေ့၊ ဒီ မွေးနေ့ ဆွမ်းပွဲအလှူအတွက် ရေစက်ကလေးပါ ချပေးပါဘုရား"

ဟူ၍ တောင်းဆိုလာသည်၊ ရင်ဖိုသွားရတော့၏၊ နောက်မှ ဆရာတော်ကြီးများ၏ ရေစက်ချဟန် အသံကိုမှန်း၍ ရမ်းတုတ်ခဲ့သည်။

ထို့နောက်ပိုင်းတွင် တဖြည်းဖြည်း တစ်ဆင့် တက်လာကြပြန်သည်– "ကိုရင်... တရားမဟောတတ် ဘူးလား၊ ဟောတတ်ရင် နည်းနည်းဟောခဲ့ပါဦး"၊ ဤသို့ တောင်းဆိုလာကြသောအခါ ကိုယ်သင်ထားတဲ့ စာထဲက အဓိပ္ပာယ်ကို ပြောပြလိုက်တော့၏၊ ပြောစရာတွေ ပေါပါသည်၊ သင်္ဂြိုဟ်ထဲကကိုပဲ ပြော၍ မကုန်နိုင်ပါ။

တစ်ခါတလေ စိတ်တွေအကြောင်းကို ပြောပြလိုက်သည်၊ တစ်ခါတလေ လောဘရဲ့အကြောင်း၊ ဒေါသရဲ့အကြောင်း၊ တစ်ခါတလေ မာနအကြောင်း၊ ဣဿာအကြောင်း ပြောစရာတွေ ပေါလွန်းလို့။

ဤနည်းအားဖြင့် အဓိပ္ပာယ်တွေ ပြောပြရင်း တရားဟောခြင်း ဖြစ်သွားတော့၏၊ ဟုတ်ပါသည်၊ "တရားဟောတယ်"ဆိုတာ အကြောင်းအရာ တစ်ခုခုကို အဓိပ္ပာယ်ပြောပြတာပါပဲ၊ ထိုအချိန်မှစ၍ ကိုရင် ဝိမလကလေး တရားဟောဝါသနာပါလာခဲ့တော့သည်။

## တရားမဟောဖို့ တားမြစ်ခြင်း

ကိုရင်ဝိမလ အမရပူရ မင်္ဂလာကျောင်းတိုက်သို့ ရောက်လာပြီးနောက် အရပ်ထဲ၌ ဆွမ်းခံသွားရင်း သီလပေးသည်၊ သီလပေးရင်း တရားဟောသည်–ဟု အနည်းငယ် သတင်းထွက်လာ၏၊ သို့ဖြစ်၍ စာတက်လာသောအခါ မင်္ဂလာတိုက်ဆရာတော်ကြီး ဦးသုဇာတ က တရား မဟောဖို့ ဟန့်တားသည်–

"ကိုရင်ဝိမလ... မင်း သည်လို တရားတွေ ဟောနေရင် ယခု သင်ကြားနေတဲ့ စာတွေ အပေါ်မှာ သမာဓိတွေ လျော့ကုန်မယ်၊ မဟောနဲ့..."

ဤသို့လျှင် စာပေလိုလားသော ဆရာတော်ကြီးများက ဤသို့ချည်းပင် မိန့်တတ်ကြ၏၊ တရားဟောမှုကို

အားပေးတော် မမူလိုကြ၊ ဤသို့ တားမြစ်သောကြောင့်ပင် သတိထား၍ တရား မဟောကြားမိအောင် ကိုရင်ဝိမလက ရှောင်ကြဉ်ပါသတတ်။

ထို့ပြင် ဆရာကြီး ဦးအုန်းကလည်း ဤသို့ပင်လျှင် ကိုရင်ဝိမလအကြောင်းကို သတင်းကြား၍ တရားမဟောဖို့ရန် ပိတ်ပင်ပြန်သည် ဆို၏၊ ဤသို့ ပိတ်ပင်ထားသည့်ကြားမှပင် လူတွေကလည်း လူတွေပဲ၊ "နည်းနည်း ဟောပါ"ဟု တောင်းပန်တတ်ကြ၏၊ သို့ဖြစ်၍ တစ်ခုသော ဥပုသ်နေ့တွင် သီလပေးရင်း ဝါသနာအရ ဆက်လက်၍ တရားစကား နည်းနည်း ပြောနေမိသည်။

ဆရာကြီးဦးအုန်းက မနက်ပိုင်းမှာ တုတ်ကောက်ကြီး တစ်ချောင်းဖြင့် လမ်းလျှောက်ထွက်လေ့ ရှိ၏၊ ထိုဥပုသ်ဇရပ်အနီးမှ ဖြတ်၍သွားရာ ကိုရင်ဝိမလ တရားဟောနေသည်ကို ပက်ပင်းပါ တွေ့တော့သည်။

"သယ်လေ... သည်ကိုရင်၊ တုတ်နဲ့ဝင်ရိုက်ရ
မကောင်းဘဲ ဖြစ်သွားရော့မယ်..."

ဟု ပြောရင်း နောက်ကနေ တုတ်ကောက်ကြီးနဲ့ ရွယ်သည် ဟူသတတ်၊ ထိုအခါ ကိုရင်ဝိမလသည်လည်း ဆရာကြီးလာ၍ ဆူသံကို ကြားလိုက်ရသဖြင့် ကိုယ်ရှိန်သတ်ပြီး တရားဟောကို ချက်ချင်း ရပ်လိုက်ပါတော့သတတ်။

## ပဲ့ပြင်ထိန်းကျောင်း အကွပ်ကောင်း၍

(က) မကောင်းမှု ရှောင်၊
ကောင်းမှု ဆောင်၊
ဖြူအောင် စိတ်ကိုထား။
(ခ) ဘုရားတိုင်းသာ၊ မိန့်ခဲ့မှာ၊
သုံးဖြာ ဤစကား။

သဗ္ဗပါပဿ အကရဏံ၊
ကုသလဿူပ သမ္ပဒါ။
သစိတ္တ ပရိယောဒါပနံ၊
ဧတံ ဗုဒ္ဓါန သာသနံ။ ။

ကိုရင်ဝိမလက ဝွေးပင်တောရဆရာတော်ကြီး ချပေးခဲ့သော အထက်ပါလင်္ကာကလေးကို ပြန်လည်၍ တိုးတိုး ရွတ်ဆိုနေမိသည်ဆို၏၊ အဓိပ္ပာယ်ကိုလည်း စဉ်းစားနေမိပါသတတ်၊ ပေါ်လွင်လှပါသည်။ ရှင်းပါ၏။

၁။ မကောင်းတာဟူသမျှ မလုပ်ရ။
၂။ ကောင်းတာကိုသာ ရွက်ဆောင်ပါ။
၃။ စိတ်ကို ဖြူဖြူဖြောင့်ဖြောင့်ထား။
ဤသုံးပါး ဘုရားမိန့်ခဲ့မှာ။

ဟူသော ဘုရားရှင် ကိုယ်တော်မြတ်ကြီး၏ ဩဝါဒပါတိမောက်ဒေသနာတော်ကို ဘာသာပြန်ထားခြင်း ဖြစ်သည်၊ အပြည့်အဝ ကောင်းလှပေ၏။

ငယ်ငယ်တုန်းက အလွတ်ရအောင် ချပေးခဲ့သော ကဗျာကလေးသည် ယခုလို ကိုရင်ဝိမလတို့ အသက် ၁၇–နှစ် ၁၈–နှစ်အရွယ်များအတွက် အမြဲဆုံးမနေသလို ဖြစ်တော့သည်။

## တိုးတက်မည့်သူတို့၏ ဘ၀ကား

ကိုရင်ဝိမလကား ကံကောင်းသည်ဟု ဆိုရပါမည်၊ ကလေးငယ်ဘ၀တွင် မိဘများနှင့် အဘိုးအဘွားတို့က အုပ်ထိန်းကြ၍၊ သာမဏေငယ်ဘ၀တွင် ဋွေးပင်တောရ ဆရာတော်ကြီးက အုပ်ထိန်းပေးသည်။

ယခုတစ်ဖန် မင်္ဂလာတိုက်ဆရာတော်ကြီးနှင့် အဘိဓမ္မာဆရာအုန်းကြီးတို့က ဆက်လက် ထိန်းကွပ်ပေးကြပြန်၏၊ ထိုအထဲတွင် အနီးကပ်ဆုံးအနေဖြင့် ဘုန်းကြီးကလေး ဦးနာဂဝံသက (အစ်ကိုကြီးပမာ) တတွတ်တွတ် သတိပေးဆုံးမနေတတ်ပြန်ပါသည်။

ထို့ပြင် တစ်ဝ– သီလရှင်အစ်မလေး မသုစာရီကလည်း ရှိသေးသည် မဟုတ်ပါလော၊ ဝိုင်းဝိုင်းလည်အောင် ထိန်းကွပ်နေကြသလို ဖြစ်တော့၏၊ တိုးတက်မည့်သူငယ်တို့၏ ဘ၀ကား ဤသို့သာလျှင်တည်း။

၁။ ကလေးသူငယ်၊ သူ့အရွယ်၊
နနယ် လှပေတောင်း။
၂။ ဘိုးဘွားမိဘ၊ ဆရာက၊
သင်ပြ အုပ်ထိန်းကျောင်း။
၃။ တစ်စ တစ်စ၊ ကြီးပွားရ၊
ဘ၀ သူ့ဖို့ကောင်း။

## ပင်လယ်ကြီးပမာ တရွေ့ရွေ့ နက်ရှိုင်းလာ

ပြန့်လွင့်တတ်သောစိတ်တို့သည် ပြန့်လွင့်ချိန်မရ၊ စာထဲမှာပင် နစ်နေကြရ၏၊ အချိန်ကာလတို့သည် တရွေ့ရွေ့ကုန်ခဲ့ပြီ၊ ကိုရင်ဝိမလတို့သည် နံနက်ပိုင်း၌ မင်္ဂလာတိုက်ဆရာတော်ကြီး ဦးသုဇာတထံတွင် အခြားသော ရဟန်းသာမဏေတို့နှင့်အတူ သဒ္ဒါဘက်ဆိုင်ရာ ရူပသိဒ္ဓိကို လိုက်နေ၏။

ရူပသိဒ္ဓိအပြီးတွင် ဋီကာကျော်ချပေးသည်၊ ဆရာတော်ကြီးက သဂြိုဟ်လည်း နိုင်နင်းလှ၏၊ တစ်ခါတုန်းက စိတ်ပိုင်းတစ်ပိုင်းတည်းကိုပင် နည်းပေါင်း (၁၀၀၀) တစ်ထောင်တို့ဖြင့် စေ့စေ့စပ်စပ် တစ်ဝါတွင်းလုံး ကြာအောင် ချပို့ပေးဖူးသည် ဆို၏။

ဤသို့လျှင် နံနက်ပိုင်းတွင် ဆရာတော်ကြီးထံ၌ နေ့ဝါဆိုင်ရာနှင့် ညပိုင်းတွင် ဆရာကြီး ဦးအုန်းထံမှာ အဘိဓမ္မာဆိုင်ရာ ညဝါတို့ကို သင်ယူလာခဲ့သည်၊ ယခုဆိုလျှင် အဆင့်တွေ မြင့်လာပြီ၊ ယမိုက် အရကောက်သို့ပင် ရောက်လာခဲ့ချေပြီ။

ယမိုက်က (၁၀)ကျမ်းရှိ၏၊ မူလယမိုက်၊ ခန္ဓယမိုက်၊ အာယတန၊ ဓာတု၊ သစ္စ၊ သင်္ခါရ၊ အနုသယ၊ စိတ္တ၊ ဓမ္မ၊ ဣန္ဒြိယ ယမိုက်အားဖြင့် (၁၀)ကျမ်း ရှိသည်။

အဘိဓမ္မာဒေသနာတော်တို့သည် အထက်ပိုင်းသို့ ရောက်လာလေ နက်ရှိုင်းလေ၊ ခက်ခဲလေ၊ နက်နဲလေ၊ ကျယ်ပြန့်လေ ဖြစ်လာကြ၏၊ ပင်လယ်ရေပြင်ကြီးပမာ ဖြစ်တော့သည်။

## ဝိဘင်းတွေနဲ့ ဝေဖန်ပိုင်းခြားရ

ယမိုက်ကျမ်းတွင်လည်း "ဟောဟန်ကား"တွေ အများကြီးပါ၏၊ ဟိုနားတွင် "ဟောဟန်ကား"၊ သည်နားတွင် "ဟောဟန်ကား" ပေါများပါဘိ၊ ပို၍ ထူးခြားလာသည်ကား ဝိဘင်းထုတ်ရသည့် ကိစ္စပင် ဖြစ်သည်။

တစ်ဘက်ရဝိဘင်း၊ နှစ်ဘက်ရဝိဘင်း၊ အာမန္တာ ဝိဘင်း စသည်ဖြင့် ဝိဘင်းများ ရှိကြ၏၊ [ဝိဘင်း– ဆိုသည်မှာ ဝေဖန်ရာ ဝေဖန်ကြောင်း ဖြစ်လို့မို့ "ဝိဘင်း" ခေါ်ရပါသတဲ့၊ အချုပ်မှာ အဖြေပေးရသော စကားပင် ဖြစ်သည်။]

တစ်ဘက်ရ အဖြေ၊ နှစ်ဘက်ရ အဖြေ၊ အာမန္တာ အဖြေဟု ဆိုလို၏။ ["အာမန္တာ"ဆိုသည်မှာ (အာမဘန္တေ)နှင့် အတူတူပင်ဖြစ်သည်၊ "ဟုတ်ကဲ့"လို့ ဝန်ခံတဲ့ စကား၊ "မှန်ပါ" "တင်ပါ" "အင်း" စသည်ဖြင့် ဝန်ခံတဲ့စကားဖြစ်၏။]

## အာမန္တာ ဝိဘင်းထုတ်မိလို့ ဒဏ်ချခံရ

၁။ ဖြစ်တာကို ဖြစ်သလားလို့ မေးရင် (အာမန္တာ) ဟုတ်ကဲ့။
၂။ မဖြစ်တာကို မဖြစ်ဘူးလား မေးရင်လဲ (အာမန္တာ) ဟုတ်ကဲ့ပဲ။
၃။ ဖြစ်တာကို မဖြစ်ဘူးလား မေးရင် (ဥပ္ပဇ္ဇတိ) ဖြစ်တယ်။
၄။ မဖြစ်တာကို ဖြစ်သလား မေးရင် (နုပ္ပဇ္ဇတိ) မဖြစ်ဘူး။

ဤသဘောမျိုး မေးခွန်းတွေနဲ့ အဘိဓမ္မာတရားတွေ အကုန်လုံးကို စိစစ်မေးမြန်းဖြေကြားဟောထားတော်မူ၏။

ရဟန်းတော်တွေက ဟိုနားက ရွတ်ဆို၊ သည်နားက ရွတ်ဆို၊ ဟိုနားက အာမန္တာ၊ သည်နားက အာမန္တာ၊ ကြာတော့ အရပ်ထဲက လူတွေပါ "အာမန္တာ" အကြောင်းကို သဘောပေါက်နေကြတော့၏။

"အာမန္တာ"ဆိုတာ "ဟုတ်ကဲ့"လို့ ခေါင်းညိတ်ဝန်ခံတဲ့ သဘောကိုး–လို့ လူတွေကပါ သိနေကြတော့သည်၊ နားလည်သဘောပေါက်နေကြတော့၏၊ တစ်ခါဟာတော့ ကြုံဖူးကြရတော့သတဲ့။

"ဟဲ့… ငါ့ပိုက်ဆံ ချေးသွားတာ ကြာလှပြီ၊ ညည်း ပြန်ပေးဖို့ စိတ်မကူးတော့ဘူးလား" ဟု လမ်းကြားတွင် တွေ့၍မေးရာ ဟိုက "အာမန္တာ"လို့ ဖြေသတဲ့၊ ဒါနဲ့သူကြီးအိမ်ကို သွားတိုင်တော့ ဒဏ်ချခံရရောဆိုပဲ။

နောက်တစ်ခုလည်း ရှိပါသေး၏၊ ချစ်သူ ၂ဦး ချိန်း၍ ရည်းစားစကားပြောကြရာတွင် မိန်းကလေးက ခွန်းတုံ့မပြန်ဘဲ ခေါင်းငုံ့နေသတဲ့။

ထိုအခါ လူရွယ်က "ဘယ့်နှယ်… မေးတာလဲ မဖြေ၊ အာမန္တာ ဝိဘင်း မထုတ်သေးပါလား"လို့ အရေးဆိုသတဲ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ကျမ်းကြီးပဋ္ဌာန်း၊ ကျမ်းငယ် ဆန်း

စာသင်သားလောကတွင် ပြောကြဆိုကြသော အစဉ်အလာတစ်ခုရှိသည်၊ ကျမ်းကလေးငယ်ငယ်နှင့် ခက်ခဲသည်မှာ ဆန်းကျမ်း၊ အလတ်စားအနေနှင့် ခက်ခဲသည်မှာ ဓာတုကထာ၊ အကြီးစားကြီးအနေနှင့် ခက်ခဲသည်ကား ပဋ္ဌာန်းကျမ်းဖြစ်သည်၊ ထို့ကြောင့်–

"ကျမ်းကြီး ပဋ္ဌာန်း၊ ကျမ်းငယ် ဆန်း၊
ကျမ်းလတ် ဓာတုကထာ"

ဟူ၍ ပြောရိုးဆိုစဉ် ရှိကြ၏၊ ခက်ခဲ၏၊ နက်နဲ၏၊ သိမ်မွေ့၏၊ သိဖို့မလွယ်၊ မြင်ဖို့ ခဲယဉ်း၏။

ယခုအခါ အဘိဓမ္မာနယ်တွင် အခက်ခဲဆုံး အနက်နဲဆုံးဖြစ်သော ပဋ္ဌာန်းကျမ်းကြီးသို့ပင် ကိုရင် ဝိမလ ရောက်နေရချေပြီ၊ တောင်တက်သော ယောက်ျား ကဲ့သို့ ဖြစ်၏၊ တစ်လှမ်းချင်း တစ်ဆစ်ချင်း တစ်ထစ်ချင်း တက်လာခဲ့ရာ ယခုအခါ တောင်ထိပ်သဖွယ်ဖြစ်သော ခေါင်ထိပ်ပဋ္ဌာန်းကျမ်းကြီးသို့ပင် ရောက်နေရလေပြီ။

## ပိဋကတ်သုံးပုံ ဆိုတာ

"ပိဋကတ် သုံးပုံ" ဟူသည် သုတ်– ဝိနည်း– အဘိဓမ္မာတို့ကို ပြောဆိုခြင်း ဖြစ်၏၊ သုတ္တန်ပိဋက၊ ဝိနည်းပိဋက၊ အဘိဓမ္မာပိဋကဟူ၍ ဆိုလိုသည်။

"ပိဋက"ဟူသော ပါဠိက "တောင်း"ဟူ၍ (တင်းတောင်း)ဟူ၍ အဓိပ္ပာယ်ရ၏၊ တောင်းကြီး ၃ လုံး စဉ်တန်းချထားသလို အောက်မေ့ထားရမည်။

ဘုရားရှိစဉ်တုန်းက တရားတော်တွေကို နေရာ အနှံ့ ဟောခဲ့သည်၊ သို့ဖြစ်၍ ပန်းပွင့်တွေ ပြန့်ကျဲနေ သလို တရားတွေ ပြန့်ကျဲနေကြ၏။

ယင်းတို့ကို ပျောက်ပျက်ကုန်မည်စိုး၍ ဘုရား မရှိသောအခါမှ လိုက်လံစုရုံးကြရသည်၊ စုရုံးပြီးလျှင် စိစစ်၍ သုတ္တန်တရားဖြစ်ပါက သုတ္တန်တောင်းကြီးထဲ ထည့်၊ ဝိနည်းဖြစ်ပါက ဝိနည်းတောင်းကြီးထဲထည့်၊ အဘိဓမ္မာဖြစ်ပါက အဘိဓမ္မာတောင်းကြီးထဲ ထည့်ရ သည်။ [တကယ်ထည့်သည်မဟုတ်။ ဉာဏ်ဖြင့် စုရုံး သည်ကို ဆိုလို၏။]

တောင်းတစ်လုံးစီဆိုလျှင် "ပိဋက"ဟု ခေါ်ရ၏၊ တောင်းသုံးလုံးပေါင်းဆိုလျှင်ကား "ပိဋကတ္တယ = ပိဋကသုံးပုံ"ဟု ခေါ်ရသည်။

### ပါဠိတော်အုပ်ရေ(၂၀)

သုတ္တန်ပိဋက၌ သုတ်၃ကျမ်း၊ စာအုပ်၃အုပ် ရှိ သည်၊ ဝိနည်းပိဋက၌ ဝိနည်း၅ကျမ်း၊ စာအုပ်၅အုပ် ရှိသည်၊ အဘိဓမ္မာပိဋက၌ အဘိဓမ္မာ ၇–ကျမ်း၊ စာ အုပ် ၁၂–အုပ် ရှိကြသည်။

### သုတ် သုံးကျမ်း ဟူသည်

၁။ သုတ် သီလက္ခန်
၂။ သုတ် မဟာဝါ
၃။ သုတ် ပါထေယျတို့ဖြစ်ကြ၏။

### ဝိနည်း ငါးကျမ်း ဟူသည်

၁။ ပါရာဇိကဏ်ပါဠိတော်
၂။ ပါစိတ်ပါဠိတော်
၃။ မဟာဝါပါဠိတော်
၄။ စူဠဝါ ပါဠိတော်
၅။ ပရိဝါ ပါဠိတော်တို့ဖြစ်ကြ၏။

## တစ်ဘဝသာသနာ

### အဘိဓမ္မာခုနစ်ကျမ်းဟူသည်

၁။ ဓမ္မသင်္ဂဏီ
၂။ ဝိဘင်း
၃။ ဓာတုကထာ
၄။ ပုဂ္ဂလပညတ်
၅။ ကထာဝတ္ထု
၆။ ယမိုက်
၇။ ပဋ္ဌာန်း

### စာအုပ်အနေနှင့်မူကား

| | | |
|---|---|---|
| ၁။ | ဓမ္မသင်္ဂဏီပါဠိတော် | ၁ အုပ် |
| ၂။ | ဝိဘင်းပါဠိတော် | ၁ အုပ် |
| ၃။ | ဓာတုကထာနှင့်ပုဂ္ဂလပညတ် | ၁ အုပ် |
| ၄။ | ကထာဝတ္ထုပါဠိတော် | ၁ အုပ် |
| ၅။ | ယမိုက်ပါဠိတော် | ၃ အုပ် |
| ၆။ | ပဋ္ဌာန်းပါဠိတော် | ၅ အုပ် |
| | စုစုပေါင်း = | ၁၂ အုပ် |

### အဘိဓမ္မာဆိုင်ရာ စာမျက်နှာများ

| | | | |
|---|---|---|---|
| ၁။ | ဓမ္မသင်္ဂဏီ၊ စာမျက်နှာပေါင်း | | ၂၉၈ |
| ၂။ | ဝိဘင်း | | ၄၅၃ |
| ၃။ | ဓာတုကထာနှင့် ပုဂ္ဂလပညတ် | | ၁၈၅ |
| ၄။ | ကထာဝတ္ထု | | ၄၅၄ |
| ၅။ | (က) | ယမက ပဌမ | ၂၆၅ |
| | (ခ) | ယမက ဒုတိယ | ၃၁၆ |
| | (ဂ) | ယမက တတိယ | ၃၃၀ |
| ၆။ | (က) | ပဋ္ဌာန်းပဌမ | ၄၆၄ |
| | (ခ) | ပဋ္ဌာန်းဒုတိယ | ၄၉၃ |
| | (ဂ) | ပဋ္ဌာန်းတတိယ | ၆၀၅ |
| | (ဃ) | ပဋ္ဌာန်းစတုတ္ထ | ၆၃၆ |
| | (င) | ပဋ္ဌာန်းပဉ္စမ | ၄၄၂ |
| | | စုစုမျက်နှာပေါင်း = | ၄၉၄၁ |

## ပဋ္ဌာန်း (၂၄) ကျမ်း ဟူသည်

ပဋ္ဌာန်းသည် အနုလောမဥ္စ တိကပဋ္ဌာန်း၊ ဒုက ပဋ္ဌာန်း၊ ဒုကတိကပဋ္ဌာန်း၊ တိကဒုကပဋ္ဌာန်း၊ တိက ိကပဋ္ဌာန်း၊ ဒုကဒုကပဋ္ဌာန်းအားဖြင့် (၆)ကျမ်းရှိသည်၊ ထို့အတူ ပစ္စနိယဥ္စလည်း (၆)ကျမ်း၊ အနုလောမ နိယဥ္စလည်း (၆)ကျမ်း၊ ပစ္စနိယာနုလောမဥ္စလည်း ကျမ်း၊ ဤသို့ အသီးသီး ရှိကြ၏၊ ထို့ကြောင့် ၄=) ၂၄ကျမ်း ရှိလေသည်။

ယခုအခါ ပဋ္ဌာန်းအရကောက် အနေအားဖြင့် ဆိုရိုးပြုပြီးထားသည်မှာ ယင်း(၂၄)ကျမ်းအနက်မှ အဦး ဆုံး ဖြစ်သော တိကပဋ္ဌာန်းတစ်မျိုးမျှသာ ရှိသေး၏၊ နမူနာအမြွက်မျှသာ ဖြစ်လေသည်။

ပဋ္ဌာန်းကျမ်းကြီးကား ကောင်းကင်ကြီးသဖွယ် အပြောကျယ်၍၊ ပင်လယ်သမုဒ္ဒရာကြီးပမာ နက်ရှိုင်း လှပါဘိတောင်း။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ကြောင်ပုစွန်စား ကြွပ်ကြွပ်ဝါးသို့

အသက်အားဖြင့် ၁၉နှစ်ကျော်ကျော်၊ ၂၀တွင်းသို့ ချဉ်းနင်းဝင်ရောက်လာသော ကိုရင်ဝိမလအဖို့ ပဋ္ဌာန်းကျမ်းတော်ကြီးနှင့် လုံးထွေးနေရတော့သည်၊ ခက်လည်း ခက်ပါ၊ နက်လည်း နက်ပါ၊ ကျယ်လည်း ကျယ်ပါ၊ သို့သော် မလျှော့သောဇွဲ၊ ခိုင်မြဲသော စိတ်ဓာတ်၊ တည့်မတ်သော သမာဓိဖြင့်–

"ကြောင်ပုစွန်စား၊ ကြွပ်ကြွပ်ဝါးသို့၊
အံသွားကြိတ်ကြိတ်၊ အားမာန်စိတ်ဖြင့်၊
ဖိတ်ဖိတ်လျှံလျှံ၊ ခြသေ့်ဟန်မျှ..."

လူငယ်တို့၏ သဘာဝအတိုင်း တက်ကြွစွာဖြင့် နောက်မဆုတ်တမ်း ကြိုးစားခဲ့ရသည်၊ ဤသို့ ကြိတ်ကြိတ်နယ်နယ် ခဲခဲခက်ခက်ကိုမှ တူးဖြိုရသည်ကိုလည်း ဂုဏ်ယူနေမိတော့သတတ်။

သမုဒ္ဒရာပင်လယ်တွင်း၌ မလျှော့တမ်း လက်ပစ်ကူးနေသော ဇနကမင်းသားပမာ ကိုရင်ဝိမလသည်လည်း ပဋ္ဌာန်းပင်လယ်ပြင်ကြီးပေါ်၌ "နင်လားဟဲ့–ငါလားဟဲ့" ကျူးလား ကျားလား မလျှော့တမ်း ကူးခပ်နေတော့သည်။

## ခက်လဲခက်၊ နက်လဲနက်၊ ကျယ်လဲကျယ်၊ များလဲများတဲ့ ပဋ္ဌာန်းဒေသနာ

၁။ ပဋ္ဌာန်းဒေသနာတော်ကြီးကား ကျယ်ဝန်း များပြားလှဘိတောင်း၊ မြတ်စွာဘုရားက တာဝတိံသာ၌ ဝါတွင်း(၃)လပတ်လုံး အလွန် လျင်မြန်သော နှုတ်တော်ဖြင့် ပေယျာလမြှုပ်တော်မမူဘဲ အကျယ်ပြန့်ဆုံး ဟောတော်မူခဲ့သည်။

၂။ ထိုမှတစ်ဖန် မြတ်စွာဘုရားက အနောတတ်အိုင်၌ အသင့် စောင့်လျက်နေသော လက်ယာတော်ရံ ပညာဉာဏ် ဧတဒဂ်ရ အရှင်သာရိပုတ္တရာအား အကျဉ်းဆုံး အမြွက်မျှ ဟောပြတော်မူသည်။

၃။ ထိုအရှင်သာရိပုတ္တရာမှတစ်ဖန် သူ့တပည့် ရဟန်းတော် (၅၀၀)ငါးရာတို့အား ပြန်လည်၍ မကျဉ်းမကျယ် အလယ်အလတ် ဟောပြတော်မူခဲ့ပြန်သည်။

**မှတ်ချက်။** ။ ယခုခေတ် စာအုပ်ပေစာတို့၌ မှတ်တမ်းတင်ထားသည်ကား အရှင်သာရိပုတ္တရာက ပြန်လည်၍ မကျဉ်းမကျယ် ဟောပြအပ်သော အလတ်စားမျှသာတည်း။

ဤအလတ်စား ပဋ္ဌာန်းဒေသနာတော်သည်ပင် ယခုခေတ်ဆဋ္ဌမူအနေဖြင့် ပါဠိတော်စာအုပ်ကြီး(၅)အုပ် ရှိလေသည်၊ မျက်နှာပေါင်းမှာ–

| | | |
|---|---|---|
| ပဋ္ဌာန်းပဌမအုပ် | | ၄၆၄ |
| ပဋ္ဌာန်းဒုတိယအုပ် | | ၄၉၃ |
| ပဋ္ဌာန်းတတိယအုပ် | | ၆၀၅ |
| ပဋ္ဌာန်းစတုတ္ထအုပ် | | ၆၃၆ |
| ပဋ္ဌာန်းပဥ္စမအုပ် | | ၄၄၂ |
| စုစုပေါင်း | = | ၂၆၄၀ |

# တစ်ဘဝသာသနာ

ဤအလတ်စားမှဥ္စပင် တူရာ– တူရာတွေကို ခွဲ၍၊ အညွှန်းမျှကိုသာ ဖော်ပြပြီး၊ ပေယျာလမြှုပ်လျက် ဟောပြတော်မူထားသည်။

ဤပဋ္ဌာန်းဒေသနာတော်ကြီးမှာ အမျိုးအစား ခွဲခြားလျှင် (၂၄)ကျမ်းရှိကြောင်း ဖော်ပြခဲ့ပြီးဖြစ်၏၊ ယင်းတို့ကား–

တိကပဋ္ဌာန်း၊ ဒုကပဋ္ဌာန်း၊ ဒုကတိကပဋ္ဌာန်း၊
တိကဒုကပဋ္ဌာန်း၊ တိကတိကပဋ္ဌာန်း၊
ဒုကဒုကပဋ္ဌာန်းဟူ၍ဖြစ်သည်၊ ဇယားကြည့်ပါ။
ပုစ္ဆာပေါင်း = လေးသောင်းလေးရာ, ကိုးဆယ့် လေးကုဋေ၊ ရှစ်သန်းငါးသိန်း, သုံးသောင်း, သုံးထောင်, နှစ်ရာလေးဆယ့်ရှစ် ရှိသည်။

ဤကားအဋ္ဌကထာနည်းအရ ဖြစ်သည်၊ ဋီကာ၌ တစ်မျိုး တွက်ပြထားသေး၏၊ ယခု အရေအတွက်များမှာ မေးခွန်းပုစ္ဆာမျှသာ ဖြစ်သေး၏။

ဤမေးခွန်းပုစ္ဆာအရ ဆန့်၍ဖြန့်၍ ဟောကြား ထားသော ဒေသနာများ မပါသေး၊ ဤမျှပင် များပြား ကျယ်ဝန်းလှလေ၏။

[မန္တလေး၊ မစိုးရိမ်ပဋ္ဌာန်းစာအုပ်မှ]

| | | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|
| ၁။ တိကပဋ္ဌာန်း၌ ပုစ္ဆာပေါင်း – | | | | ၈ | ၃ | ၄ | ၅ | ၂ | ၇ | ၂ | ၃ | ၂ |
| ၂။ ဒုက – – – – – – – – | | | | ၆ | ၉ | ၆ | ၇ | ၂ | ၉ | ၆ | ၀ | ၀ |
| ၃။ ဒုကတိက – – – – – – | | ၄ | ၅ | ၉ | ၈ | ၄ | ၁ | ၅ | ၃ | ၆ | ၀ | ၀ |
| ၄။ တိကဒုက – – – – – – | ၁ | ၆ | ၆ | ၉ | ၀ | ၅ | ၄ | ၄ | ၆ | ၄ | ၀ | ၀ |
| ၅။ တိကတိက – – – – – – | | ၅ | ၂ | ၅ | ၈ | ၅ | ၂ | ၁ | ၅ | ၆ | ၁ | ၆ |
| ၆။ ဒုကဒုက – – – – – – – | ၁ | ၃ | ၇ | ၉ | ၅ | ၂ | ၄ | ၆ | ၀ | ၈ | ၀ | ၀ |
| မေးခွန်းပုစ္ဆာစုစုပေါင်း = | ၄ | ၀ | ၄ | ၉ | ၄ | ၈ | ၅ | ၃ | ၃ | ၂ | ၄ | ၈ |

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ကမ္ဘာမှာ အကြီးဆုံး စာအုပ်ကြီး

တစ်ခါတုန်းက သာသနာတော် ထွန်းကားရာ ပညာတတ်တွေလည်း ပေါများရာ မန္တလေးမြို့တော်ကြီး၌ လေးပြင်လေးရပ် ဆရာတော်ကြီးများ စုံညီစည်းဝေးပွဲ ရှိခဲ့ဖူး၏။ ထိုစည်းဝေးပွဲကြီး၌ ရသေ့ကြီး ဦးခန္တီက လျှောက်သည်–

"ဆရာတော်များဘုရား... ပဋ္ဌာန်း ပါဠိတော် စာအုပ်ကြီးများ၌ ယခု တည်ရှိနေပုံမှာ တူရာ တူရာတွေကို ပေယျာလမြှုပ်ပြီး အညွန်းမျှသာ ဖော်ပြဟောကြားထားသည်ကို တွေ့ရပါသည်။ ယခုလို မမြှုပ်ဘဲနဲ့ ပေယျာလတွေကို အကုန်ဖော်ပြီး ပါဠိတော်တွေရှိသမျှ အကျယ်ဖြန့်၍ စာအုပ်များ ရိုက်ရလျှင် မကောင်းပါလား ဘုရား"

ထိုအခါ ဆရာတော်ကြီးများက ပြန်လည် မိန့်ကြားကြပါသတတ်–

"စာရွက်စက္ကူဖိုးတွေကို ဘယ်သူက တာဝန်ယူလှူကြမလဲ"

"တပည့်တော်က တာဝန်ယူပါ့မယ် ဘုရား၊ ဘယ်လောက်ကုန်ကုန်"

ရသေ့ကြီးက လျှောက်သည်၊ ထိုအခါ ဆရာတော်ကြီးများက မိန့်ကြပြန်၏–

"ကမ္ဘာပေါ်ရှိ နိုင်ငံကြီးတွေက စက္ကူတွေကို ရသမျှ အကုန် ဝယ်ယူ ရိုက်တောင် လောက်မှာ မဟုတ်ဘူး"

သို့ကလောက် များပြားလှတဲ့ ဤပဋ္ဌာန်းဒေသနာတွေကို ဟောသမျှ အကုန်စုပြီး ပေယျာလမမြှုပ်ဘဲ စာအုပ်ရိုက်ရလျှင် ကမ္ဘာပေါ်မှာ "အကြီးဆုံးစာအုပ်ကြီး" ဟု ဆိုရပေလိမ့်မည်–တဲ့၊ ဤမျှလောက်ပင် ကျယ်ဝန်းများပြား ကြီးမားနက်ရှိုင်းလှပါသတတ်။

# ပဋ္ဌာန်းမဟာကြောင့် ရဟန္တာဖြစ်သွား

တစ်ချိန်တုန်းက သီရိလင်္ကာ (သီဟိုဠ်ကျွန်း)မှာ မဟာဂတိ ဂမိယတိဿဒတ္တ–အမည်ရှိတဲ့ မထေရ်ကြီး တစ်ပါး ရှိခဲ့ဖူး၏၊ ထိုမထေရ်ကြီးသည် အဘိဓမ္မာ ကျွမ်းကျင်သည်၊ အထူးအားဖြင့် ပဋ္ဌာန်းဒေသနာတော်ကြီး၌ အမြဲတမ်း အာရုံပြုကျက်စားလေ့ရှိပါသတတ်။

တစ်ခါသော် ထိုမထေရ်ကြီးသည် သီရိလင်္ကာကျွန်းမှနေ၍ မဇ္ဈိမဒေသ အိန္ဒိယသို့ ခရီးကြွ၏၊ မဟာဗောဓိပင်ကို ဖူးမြော်ရန်ဖြစ်သည်၊ သင်္ဘောကြီးဖြင့် ပင်လယ်ပြင်ကြီးကို ဖြတ်ကူးနေခိုက် ဖြစ်၏။

သမုဒ္ဒရာပင်လယ်ရေပြင်ကျယ်ကြီးကား အနိုင်းအဆ မရှိ၊ ကျယ်ပြောလှပါဘိ၊ ကမ်းမမြင်လမ်းမမြင်၊ ဤအသွင်ကို ကြည့်ကာ စဉ်းစားနေမိပါသတတ်–

"ပဋ္ဌာန်းဒေသနာတော်ကြီးနဲ့ သည်ပင်လယ်ကြီးဟာ ဘယ်သူက ပို၍ ကျယ်ဝန်းနက်ရှိုင်းပါလိမ့်..."

ဤသို့ စဉ်းစားဆင်ခြင်သောအခါ–

"ပင်လယ်ပြင်ကြီးဆိုတာ လေးဘက်လေးတန် ကမ်းစပ်တော့ ရှိသေးတာပဲ၊ အောက်မှာဆိုရင်

လဲ အောက်ခံမြေပြင်ကြီးရှိတယ်၊ အထက်ဆိုလဲ မိုးကောင်းကင်ကြီးတော့ ရှိသေးတာပဲ၊ ဤသို့ အပိုင်းအခြား ရှိပါသေးတယ်။

ပဋ္ဌာန်းဒေသနာတော်ကြီးဆိုတာကတော့ အပိုင်းအခြား အဆုံးအစပင် မမြင်နိုင်အောင် ကျယ်ဝန်း နက်ရှိုင်းလှဘိတကား...”

ဤသို့ စဉ်းစားရင်း– စဉ်းစားရင်းနဲ့ ဝမ်းသာမှု ပီတိတွေ ဖြစ်လာကြပါသတဲ့၊ အဲဒီ ပီတိတွေကိုပဲ လက္ခဏာရေးသုံးပါးတင် ဝိပဿနာဉာဏ်နဲ့ ဆင်ခြင်ပြီး ဖြစ်ပျက်ရှုလိုက်ပါသတဲ့၊ အဲဒီအခါမှာ လေးမဂ် လေး [illegible]အထိ ဆိုက်သွားလို့ “ရဟန္တာကြီး”အထိ ဖြစ်သွားပါသတဲ့။

ပဋ္ဌာန်းဒေသနာတော်ကြီးကား ဤမျှလောက်ပင် အံ့တစ်ပါးဖြစ်ပါပေ၏၊ ကျယ်လဲကျယ်၊ နက်လဲနက်၊ ခက်လဲခက်၍ သိမ်လဲသိမ်မွေ့လှချေတကား။

ထို့ကြောင့်လည်း ဘုရားဖြစ်စ–စတုတ္ထသတ္တာဟမှာ အဘိဓမ္မာတွေ ဆင်ခြင်တုန်းက အောက်ပိုင်း အဘိဓမ္မာတွေကို ဆင်ခြင်ရာ၌ ဘာမှုထူးထူးခြားခြား မဖြစ်ခဲ့၊ အထက်ပိုင်း ဤပဋ္ဌာန်းဒေသနာတော်ကြီးကို ဆင်ခြင်သောအခါကျမှပင် ရောင်ခြည်တော်(၆)ဆိုင် အပြိုင်– အပြိုင် လှိုင်လှိုင်ကြီး ကွန့်မြူးထွက်ပေါ်လာရ လေသတတ်။

## ပဋ္ဌာန်းသင်ရသော အချိန်ကာလများ

ဤမျှကျယ်ဝန်းများပြားလှသော ပဋ္ဌာန်း (၂၄) [illegible]တွင် ယခုခေတ် အကောက် ကောက်၍ ဆိုရိုးပြု [illegible]နေကြသောပဋ္ဌာန်းမှာ အဦးဆုံးဖြစ်သော (တိက [illegible]) တစ်ဆုမျှသာ ဖြစ်သေး၏၊ (၂၄)ကျမ်းလုံး [illegible]သေး။

ဤတိကပဋ္ဌာန်းတွင်လည်း ဆဝါရနှင့် ပဥ္စဝါရ [illegible] ဖြစ်သေး၏၊ ဤမျှသည်ပင် ယခုလက်ရှိ အရ [illegible]စာအုပ်ကြီးမှာ စာမျက်နှာ(၆၀၀)ကျော်ရှိလေ

ဤအကောက်မျှကိုပင် ရှေးခေတ်က ၃နှစ်၊ ၂နှစ်ခွဲ၊ (၂)နှစ်၊ ထို့နောက် တစ်နှစ်ခွဲကြာအောင် သင်ယူရ ဆိုရပါသည်၊ နောက်တွင် စနစ်ထွင်၍လာရာ (၁)နှစ်ကြာမျှဖြင့် ပြီးစီးလာလေသတတ်။

ထိုမှတစ်ဆင့် တဖြည်းဖြည်းနှင့် နည်းစနစ်ရှာ၍ လာခဲ့ကြရာ ပထမကျော် ဦးအုန်းကြီးတို့ လက်ထက်တွင် (၆)လမျှဖြင့် အပြီးအစီးပေါက်မြောက်အောင် သင်ပေးနိုင်လေသည်၊ ဤစနစ်ကြောင့်လည်း ဦးအုန်းကြီး နာမည်ကြီးရခြင်းအကြောင်း တစ်ခုပါလေသတတ်။

မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အသက်နှစ်ဆယ် ပြည့်ဖြိုးကြွယ်

ယခုအခါ ကိုရင်ဝိမလမှာ သက်တော် (၂၀) အရွယ် ဖြစ်လာပြီ၊ ရဟန်းဘောင်သို့ပင် တက်ဖို့အချိန် ရောက်လာ၏၊ ရုပ်ရည်အရွယ်ကလည်း နုထွားကြီး ဖြစ်လာသည်။

စိတ်ထားကလည်း တည်တည်ငြိမ်ငြိမ် ခန့်ခန့် ထည်ထည်၊ အစွမ်းသတ္တိရှိသော ပုံအလား၊ ယောကျ်ား တံခွန် လူရည်ချွန်မည့် အနေအထားတည်း။

* သက်တော်က နှစ်ဆယ်၊
အရွယ်က ဖွံ့ထွား။
* စိတ်ထား ထယ်ထယ်နှင့်၊
ရုပ်အား ကြွယ်ကြွယ်မို့၊
ကောင်းကင်လယ် ကြယ်တမွတ်၊
ဆွတ်မယ့် ယောကျ်ား။ ။

x x



# ရဟန်းဘဝသို့ မြင့်တက်၍လာ



ရဟန်းငယ် ဦးဝိမလ

ယခု ကောဇာသက္ကရာဇ် ၁၂၈၁–ခုနှစ် ဝါဆိုဦး
ရောက်လာပြီ၊ ကောဇာသက္ကရာဇ် ၁၂၈၀–ခု နတ်
တ်လပြည့်ကျော်(၁၁)ရက်နေ့က ကိုရင်ဝိမလသည်
)နှစ်တင်းတင်းပြည့်ခဲ့၏၊ အမိဝမ်းမှာ ၁၀–လ
သဖြင့် အပြင်ဘက်မှာ ၂–လရှိပြီဆိုလျှင် (၁)နှစ်
ည်၊ ဤသို့ ပဋိသန္ဓေလပါယူလျှင် (၁၉)နှစ်နှင့်
ရှိပါက အသက်(၂၀)ပြည့်ပြီဖြစ်၍ ရဟန်းခံနိုင်၏၊
၁၉–နှစ်နှင့် ၅–လပင်ရှိနေပြီ၊ လုံလုံလောက်လောက်
ပြည့်မှီနေ၏၊ ထို့ကြောင့် ကိုရင်ဝိမလကို ရဟန်းခံဖို့
စီစဉ်ကြတော့သည်။

ထိုသို့ စီစဉ်ကြပြီးနောက် ကောဇာသက္ကရာဇ် ၁၂၈၁–ခု ဝါဆိုလဆန်း(၈)ရက်၊ သောကြာနေ့ (ခရစ်နှစ် ၁၉၁၉–ခု ဇူလိုင်လ ၄–ရက်နေ့) နံနက်ပိုင်းမှာ မင်္ဂလာကျောင်းတိုက်၊ ကိုက်အုပ်ဆရာတော်ဘုရားကြီး ဦးသုဇာတကို ဥပဇ္ဈာယ်ပြု၍လျက် ဥပသမ္ပဒကံဆောင်၍ ရဟန်းဘောင်သို့ ရောက်လာသည်။

မှတ်ချက်။ ။ပဋိသန္ဓေလပါယူ၍ ရဟန်းခံခြင်း ဖြစ်၏၊ အသက်(၂၀)တင်းတင်း မပြည့်တတ်သေး၊ ပြည့်ရန် ၅လနှင့် ၁၉–ရက် လိုသေးသည်၊ သို့သော် ၁၉–နှစ်နှင့် ၅လခွဲကျော်နေပြီဖြစ်၍ ရဟန်းခံနိုင်သည့်ရက် လုံလုံလောက်လောက် ပြည့်မှီနေလေပြီ။

ရဟန်းဒါယကာ ဒါယိကာမများမှာ အမရပူရ၊ သိမ်ကြီးဈေးတောင်ဘက်၊ အိုးတော်ရပ်နေ ကုန်သည်ကြီး ဦးဝင်း၊ ဇနီး–ဒေါ်ဒေါ်စောတို့ ဖြစ်ကြ၏။ သူတို့သည် ကိုရင်ဝိမလ၏ စာတော်ပုံ၊ ထက်မြက်ပုံ၊ အလားအလာ ကောင်းပုံတို့ကို ဆရာတော်ဘုရားကြီး ဦးသုဇာတထံမှ သိရကတည်းက "ကိုရင်ကို ရဟန်းခံပါရစေ"ဟု လျှောက်ထားလာခဲ့ခြင်း ဖြစ်သည် ဟူ၏။

ဥယျာဉ်တော်ရွာ ဇွေးပင်တောရကျောင်း ဆရာတော်ဘုရားကြီး ဦးဇာဂရမှ စ၍ ကိုရင် ဝိမလကို သာသနာ့ဘောင်တွင် မြဲအောင် ဖြည်းဖြည်းချင်း မြှုဆွယ်ခေါ်ဆောင်လာခဲ့ကြရသည်၊ သို့သော် မြဲမည် မမြဲမည် ဆိုသည်ကို မည်သူမျှ အတတ်မပြောနိုင်ချေ၊ ယခုသော်ကား သာမဏေဘဝမှ ရဟန်းတော်ဘဝသို့ပင် တစ်ဆင့်တက်သွားပြီဖြစ်၍ ဝမ်းသာနေကြရတော့သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ပျားကောင်များ လာ၍ စွဲပြန်ခြင်း

ရဟန်းခံပြီး၍ သိမ်မှအထွက် ထိုနေ့နံနက်တွင် နေထိုင်မြဲဖြစ်သည့် "မကုဋကျောင်း"ပေါ်သို့ ပြန်ရောက်လာ၏၊ ရဟန်းခံစဉ်က သိမ်ထဲ၌ ဝတ်ရုံထားသော သင်္ကန်းများ ချွေးတွေစိုနေသဖြင့် သင်္ကန်းတန်းဝါးလုံးပေါ်၌ လွှားထားလိုက်သည်။

ထိုအခိုက်တွင် ဘယ်ကဘယ်လို ရောက်လာကြသည်မသိ၊ ပျားကောင်ပေါင်း မြောက်မြားစွာ ဝိုင်းအုံပေါ်လာကြပြီးလျှင် လွှားထားသော သင်္ကန်းပေါ်၌ သိုက်အုံဖွဲ့ကာ စွဲကြလေတော့သည်။ [ဤကား ဒုတိယအကြိမ် ပျားစွဲခြင်း ဖြစ်၏၊ သာမဏေဘဝ ၁၂-နှစ်သားအရွယ်ကလည်း သင်္ကန်း၌ တစ်ကြိမ် ပျားစွဲခဲ့ဖူးသေးသည်။]

ဤပျားစွဲခြင်းကိစ္စနှင့်ပတ်သက်၍ မျက်လုံးပြူးမျက်ဆန်ပြူးတွေနှင့် ပြောကြ- ဆိုကြ- အထိတ်တလန့်ဝေဖန်ကြ၏၊ ရဟန်းတော်ကလေးအသစ်ဘဝသို့ ကူးလာစ အရှင်ဝိမလကလေးအဖို့မှာကား မထူးဆန်းတော့ချေ၊ ယခင် သာမဏေယ်ဘဝတုန်းကလည်း တစ်ကြိမ်စွဲခဲ့ဖူးသည် မဟုတ်ပါလော၊ သို့ရာတွင် အရာရာ၌ (အစ်ကိုကြီးပမာ) ဆုံးမ သွန်သင်လာခဲ့သော စာချဘုန်းတော်ကြီး ဦးနာဂဝံသကမူ-

> "အခုလို ပျားစွဲတာဟာ ကောင်းတဲ့လက္ခဏာပါပဲ၊ ယခုဘဝမှာပဲ တရားထူးရမယ်၊ ကိစ္စပြီးစီးအောင်မြင်မယ်၊ ပြီးတော့ သူ ဟောကြားမယ့် တရားထူး အမြိုက်ရည် အချိုအမြိန့်တွေကိုလဲ ရဟန်းရှင်လူ ပြည်သူတွေ ဝိုင်းအုံသောက်သုံးကြမယ့် နိမိတ်လက္ခဏာပဲ..."

ဟူ၍ မိန့်ပါသတဲ့၊ ထိုအခါမှ ဆက်လက်၍ မဝေဖန်တော့ဘဲ ငြိမ်သက်သွားကြတော့သည်ဟူ၏၊ ဤသို့ နိမိတ်ဖတ်ခြင်းသည် ငွေးပင်တောရ ဆရာတော်ဘုရားကြီး၏ မိန့်ကြားချက်နှင့်မကွာလှချေ၊ သဘောတူပင်ဖြစ်သည်။

"ဤနိမိတ်လက္ခဏာများသည် ထူးခြားသည့် ပုဂ္ဂိုလ်ဖြစ်မည်ကို ပြသခြင်းဖြစ်၏။" ဤသို့ ဘုန်းတော်ကြီး ဦးနာဂဝံသက ရိပ်မိထားသည်၊ သို့ဖြစ်၍လည်း ရဟန်းငယ် ဦးဝိမလကလေးအပေါ် အမြဲလိုပင် သွန်သင်ညွှန်ပြ သတိပေး ဆုံးမလေ့ရှိပါသတတ်။

## ပျားနှင့်ပတ်သက်သော အကြောင်း

ပျားနှင့်ပတ်သက်၍ နိုင်ငံတော်မှ ထုတ်ဝေဖြန့်ချိသော စွယ်စုံကျမ်းကြီးတွင် အပြည့်အစုံ ဖော်ပြထားပါ၏၊ အတွဲ-၇၊ စာမျက်နှာ ၈၅-မှ ၈၈-အထိ ဖြစ်သည်။

> "ပျားကို ပုံပြု၊ ခြကိုတု၊ ရမှု ဥစ္စာ ရတနာ"
> သင်ကြားပညာ၊ ပစ္စည်းရှာ၊ ပမာပျားသတ္တဝါ။

ဟူ၍ပင် ဆိုရိုးများ ပြုထားကြ၏၊ ပညာကိုဖြစ်စေ၊ ဥစ္စာကိုဖြစ်စေ ရှာဖွေသောအခါ ခြကောင်များနှင့် ပျားကောင်များကို အတုယူပါ-ဟု ဆိုလိုသည်။

ပျားတို့သည် ဝေယျာဝစ္စတာဝန်ကို အသီးသီးထမ်းဆောင်တတ်ကြ၏၊ မခိုမကတ် ထမ်းဆောင်တတ်သည်၊ မြန်မာပြည်တွင် ပျားကြီး၊ ယင်ပျား၊ သစ်ခေါင်ပျား၊ ခွေးလှေးပျားနှင့် မွေးလိမ်ပျားဟူ၍ ၅ မျိုးရှိ၏

ပျားအုံတစ်ခုတွင် ပျားဘုရင်မ၊ ပျားထီးနှင့် လုပ်သားပျားများ ဟူ၍ ရှိကြသည်၊ ပျားကောင်ရေ တစ်သောင်းခန့်ရှိသော ပျားအုံတစ်ခုတွင် လုပ်သားပျားများက ၉၅၀၀-ခန့် ရှိတတ်၏။

## တစ်ဘဝသာသနာ

စုပေါင်း၍ အဆောက်အအုံများ ဆောက်လုပ်ကြရာ ၆–ထောင့်အခန်းများ တစ်သီတစ်တန်းကြီး ပါရှိကြ၏။

ပျားသည် လူကြိုက်များသော ပစ္စည်းတစ်မျိုးဖြစ်သည်၊ ချိုမြိန်သော အရသာ ရှိသော အရာလည်းဖြစ်၏၊ လူကို အန္တရာယ်မပေးပါ၊ အင်အားပြည့်ဝမှုကိုသာ ပေးပါသည်၊ ပျားနှင့်ပတ်သက်၍ အပြစ်ဆိုထားချက်ရယ်လို့ တစ်စုံတစ်ရာ မရှိပါချေ။ ဤသို့စသည်ဖြင့် ဖော်ပြထား၏။

**မှတ်ချက်။** ။ဤ ပျားအကြောင်းအရာ များကို ရန်ကုန်မြို့၊ ဗဟိုတရားရုံးရှေ့နေကြီး ဒေါ်ခင်ခင်သွင်နှင့် သူ၏ တပည့်ရှေ့နေကြီး ဦးတင်ဦး စသူတို့က ဝိုင်းဝန်းရှာဖွေ ပေးကြပါသည်။

ပျားအုံ၏ ပျားသလက်တစ်ခုတွင် ဖမျက်နှာရှိသော အကွက်ကလေးများ (အပေါက်ကလေးများ) သောင်နှင့်ချီ၍ ပါတတ်သည်။

တစ်မိုင်မျှ ကျယ်ပြန့်သော ရေပြင်ကြီးခြား၍နေသော်လည်း မိမိတို့၏ အစာဖြစ်သော ပန်းများကို အနံ့ခံ၍ သိနိုင်စွမ်းရှိကြ၏။

ပျားကောင်များသည် အတောင်များကို တစ်မိနစ်လျှင် အကြိမ်ပေါင်း (၁၂၀၀၀) တစ်သောင်း နှစ်ထောင်ခန့်မျှ ခတ်၍ ပျံသန်းနိုင်သည်၊ ပန်ကာကဲ့သို့ ပတ်ချာလှည့်နိုင်၏။

## အထက်တန်း နေ့ဝါများ သင်ကြားခြင်း

သက္ကရာဇ် ၁၂၈၁–ခုနှစ် ဝါဆိုဦးတွင် အရှင်ဝိမလသည် ရဟန်းဘဝသို့ ရောက်လာ၏၊ ထိုအချိန်တွင် ဆရာကြီး ဦးအုန်းထံ၌ အဘိဓမ္မာပိုင်းဆိုင်ရာ ညဝါ (၃)နှစ်ခန့်မျှ သင်ယူပြီးလေပြီ၊ အတော်လည်း ပိုင်နိုင်နေလေပြီ၊ သို့ရာတွင် ကျေနပ်တင်းတိမ်မှုမထားဘဲ အဘိဓမ္မာညဝါများကို နောက်ပုဂ္ဂိုလ်– နောက်ပုဂ္ဂိုလ်များနှင့် တွဲဖက်ကာ ကျေညက်အောင် ထပ်မံ သင်ယူ[illegible]လေသည်။

ဆရာကြီးက သူ့တပည့်တွေထဲက "စာချဘုန်းကြီး" မြန်မြန်ထွက်စေချင်ဟန် တူ၏၊ စာချချိန်တွင် [illegible]ဝိမလ ကလေးကို အနီးသို့ ခေါ်၍ သူ့ရှေ့မှာပင် [illegible]ကိုယ်စား) ညဝါ အဓိပ္ပာယ်များကို အစမ်းသဘော [illegible]ပြောခိုင်းတော့သည်၊ အဘိဓမ္မာညဝါ စာချ ပုဂ္ဂိုလ်[illegible]ဆက် ရပြီး ကျန်ရစ်စေလိုဟန် တူ၏။

ဦးဝိမလကလေးအဖို့ အဘိဓမ္မာညဝါများဘက်၌[illegible]ဘက် ကျေညက်ပိုင်နိုင်နေလေပြီ၊ သို့ရာတွင် "နေ့ဝါ" များဘက်၌ အားနည်းလျက် ပျော့ကွက်ဖြစ်မနေဖို့ လိုအပ်သေး၏။

"နေ့ဝါ"ဆိုရာ၌ အခြေခံနေ့ဝါတို့ကား အရည်အသွေး ပြည့်မီပြီးသားဖြစ်သည်၊ အထက်ပိုင်းဆိုင်ရာဖြစ်သော သုတ္တန် ပါဠိတော်– အဋ္ဌကထာ၊ ဝိနည်းပါဠိတော်– အဋ္ဌကထာများကို ဆိုလိုသည်။

ဤကိစ္စများအတွက် "မန္တလေးသို့ သွား၍ စာလိုက်ရမည်"ဟု ဆရာကြီးက စီမံကိန်းချတော့၏၊ မန္တလေးသို့သွား၍ နေထိုင်ခြင်းမဟုတ်ဘဲ အမရပူရမှ နေ့စဉ် နေ့တိုင်း မီးရထားဖြင့်ဖြစ်စေ၊ မော်တော်ကားဖြင့်ဖြစ်စေ သွားရမည် ဟု အမိန့်ချသည်။

မန္တလေးသို့ သွား၍ နေထိုင်ခြင်းမျိုးဆိုလျှင် မျက်ကွယ်ဖြစ်နေသောကြောင့် ပျက်မည်စိုးဟန် တူပါ၏၊ ထို့ကြောင့် မျက်စိအောက်တွင်ဖြစ်ရန် စီမံခြင်း ဖြစ်ပါလိမ့်မည်၊ သွားရေး လာရေးတို့အတွက် ရဟန်းဒကာ ရဟန်းအမတို့က စီမံပေးကြရ၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## စာလိုက်ဖူးသော ဆရာတော်ကြီးများ

ဤကဲ့သို့ "နေ့ဝါ"များအတွက် မန္တလေးသို့ နေ့စဉ် သွား၍ စာလိုက်ခဲ့ရပုံနှင့်ပတ်သက်ပြီး ဆရာတော် ကိုယ်တိုင်က ပြန်လည် မိန့်ကြားဖူး၏၊ ဆရာတော်၏ ညီဝမ်းကွဲ ဦးဘရင်ကလည်း ပြန်လည် ပြောပြဖူးသည်၊ စာလိုက်ခဲ့ရသော ဆရာတော်ကြီးများမှာ-

၁။ မန္တလေးမြို့၊ အနောက်ပြင်၊ ခေမာသီဝံကျောင်းတိုက် ဆရာတော်ဘုရားကြီး။

၂။ မန္တလေးမြို့၊ တောင်ပြင်၊ ဘုရားကြီးတိုက် ဆရာတော်ဘုရားကြီးများနှင့် ထိုကျောင်းတိုက်မှ ဆရာတော် ဦးခန္တီ။

၃။ မန္တလေးမြို့၊ တောင်ပြင်၊ ရွှေရေးဆောင်တိုက်၊ အရှင်အာဒိစ္စရံသီဆရာတော်ကြီးတို့ ဖြစ်ကြသည်။

ဤသို့လျှင် ကျော်ကြားသော ဆရာတော်ဘုရားကြီးများထံတွင် အဆင်းရဲခံ၍ နည်းယူသင်ကြားရလေသည်၊ တစ်နှစ်လျှင်- တစ်နေရာစီ သွား၍ သင်ကြားခဲ့သည် ဟူ၏။

ထိုစဉ်က ညီဝမ်းကွဲတော်သူ ရဟန်းငယ် (ဦးစန္ဒ) က မန္တလေးမြို့၊ တောင်ပြင်၊ ရွှေရေးဆောင်ကျောင်းတိုက်မှာ နေသည်၊ "ဘယ်နေ့- ဘယ်ကျောင်းမှာ ဘယ်ဆရာတော်က ဘယ်စာဝါ ချပို့ပေးမယ်" လို့ ကြေညာလိုက်ရင် ဦးစန္ဒကိုယ်တော်က တောင်မြို့သို့ လာ၍ ပြောရ၏။

ထိုစာဝါကို ကြိုက်တယ်ဆိုရင် ဦးဝိမလလိုက်လာသည်၊ ထိုမှမက ဦးဝိမလအတွက် နေ့စဉ်နေ့တိုင်း နေရာကိုပါ ဦးပေးထားရသည် ဆို၏။ သင်းပိုင်ကို ခင်းထားလိုက်သည် ဟူသတတ်။

## ဒုတိယအကြိမ် သိက္ခာထပ်ခြင်း

သက္ကရာဇ် ၁၂၈၃-ခုနှစ် ဝါဆိုဦးပိုင်းတွင် သီလရှင် ဆရာကြီး ဒေါ်ဝိစာရီက သိက္ခာထပ်ပြန်သည်၊ သို့ဖြစ်၍ ၂-ကြိမ်မြောက် သိက္ခာတင်ခြင်းဖြစ်တော့၏။

သီလရှင် ဒေါ်ဝိစာရီမှာ မိုးကုတ်မြို့သူ ဖြစ်သည်၊ ငယ်နာမည် (မအေးဘော်) ဖြစ်၏၊ ငယ်စဉ်ကပင် သီလရှင် ဝတ်လာခဲ့သူဖြစ်သည်၊ စာပေတွေ သင်ကြားရင်း အမရပူရ ဆရာကြီး ဦးအုန်းထံသို့ ရောက်လာခြင်း ဖြစ်၏၊ စာတော်သော ရဟန်းကလေး ဦးဝိမလကို တွေ့ရ၍ ကြည်ညိုပြီး သိက္ခာထပ်ခြင်း ဖြစ်လေသည်။

ရဟန်းကလေး ဦးဝိမလ၏ အစ်မ ဒေါ်သုစာရီ၊ ရဟန်းအမ ဖြစ်လာသူ ဒေါ်ဝိစာရီ၊ မင်းကွန်းဘက်မှ မိုးကုတ်ချောင်ပိုင် သီလရှင် ဒေါ်ဝိလာသီ၊ ၎င်း၏ ညီမ ဒေါ်ခေမာစာရီတို့သည် ဆရာကြီး ဦးအုန်းထံမှာ စာလိုက်ဖက်များဖြစ်၍ ရင်းနှီးကြ၏။

ဤသည်ကစပြီး ရဟန်းကလေး ဦးဝိမလသည် မိုးကုတ်နှင့် ဆက်စပ်မိဖို့ရန် ရေစီးကြောင်းကလေး ဖန်လာခြင်း ဖြစ်တော့သည်။

## တစ်ဘဝသာသနာ

# စာချဘုန်းကြီးကလေး ဖြစ်၍လာ

မန္တလေးသို့ သွား၍ "နေ့ဝါ"များအတွက် စာတက်လာခဲ့ရသည်မှာ ယခု ၁၂၈၃-ခု နွေပိုင်းသို့ ရောက်သောအခါ (၃)နှစ်မျှ ရှိလာလေပြီ၊ မီးရထားဖြင့် တစ်မျိုး၊ မော်တော်ကားဖြင့် တစ်ဖုံ၊ မျိုးစုံအောင် သွားခဲ့လာခဲ့ရ၏။

နေ့ဝါများ အခြေခံဆိုင်ရာ ပါဠိသဒ္ဒါကြီး ပုဒ်စစ်–သုတ်စစ်– နည်းလေးဆယ်– ပဒမာလာ– အခြေခံ သဂြိုဟ် စသည်တို့ကား ဥယျာဉ်တော်ရွာ ဝွေးပင်တောရ သာမဏေဃ်ဘဝကပင် ရရှိခဲ့ပါ၏။

ထို့နောက် အမရပူရ မင်္ဂလာတိုက် ဆရာတော်ကြီး ဦးသုဇာတထံသို့ ရောက်လာသောအခါ ဋီကာကျော်၊ ရူပသိဒ္ဓိ စသည်တို့ဖြင့် ပို၍ အဆင့်မြင့်လာကာ လုံလောက်အောင် ရရှိပြီး ဖြစ်ပါသည်။

ယခု သင်ကြားနေရသည့် "နေ့ဝါ"များကား အထက်တန်း ပါဠိတော်– အဋ္ဌကထာ– ဋီကာကြီးများ သွားပုံ လာပုံ ယူဆပုံ စနစ်တကျရဖို့အတွက် ဖြစ်၏။

နိကာယ် ငါးရပ် ပိဋကတ် ပင်လယ်ကြီးကအပြောကျယ်လှပါဘိ၊ ဖြတ်ကူးသည့် နည်းစနစ်ကို သိမှ ကူးနိုင်သည်၊ ယခု ကူးနည်းခပ်နည်းကို သင်ယူနေခြင်း ဖြစ်၏။

တစ်ခါသော် အမရပူရ (တောင်မြို့)သို့ အဘိခမ္မာ ညဝါအတွက် နည်းစနစ်ယူရန် ကြွလာသော ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီးမှ တိုက်အုပ်ဆရာတော် ဦးနန္ဒိယထံမှလည်း (ပခုက္ကူ စာသွားနည်းကို) ဦးဝိမလက အရအမိ သင်ယူလိုက်သေးသည် ဟူ၏။

ဤသို့လျှင် နေ့ဝါဆိုင်ရာ စာသွားနည်းတို့ကို ပိုင်ပိုင်နိုင်နိုင် ရရှိပြီးသောအခါ ဆရာကြီး ဦးအုန်းက ဤသို့ စီစဉ်ပေးတော့သည်–

"ကဲ– လာ၊ ဦးဝိမလက ဆရာကြီး စာချတဲ့အခါ ဆရာကြီးရဲ့ကိုယ်စား မာတိကာ ဓာတုကထာ အဓိပ္ပာယ်ကို ပြောပေးရမယ်"

"ဦးဓမ္မသာမိကိုတော့ ဆရာကြီး ယမိုက်ချတဲ့ အခါ ဆရာကြီးရဲ့ ကိုယ်စား အဓိပ္ပာယ် ပြောပေးရမယ်–လို့ တာဝန်ပေးထားပြီးသား"

ဤသို့လျှင် ဆရာကြီး ဦးအုန်းက သူ့ရှေ့မှာပင် လက်ထပ်သင်ပေး၏၊ ဦးဝိမလ၊ ဦးဓမ္မသာမိတို့က ဆရာကြီးရဲ့ ကိုယ်စား အဓိပ္ပာယ် ပြောပေးရသောအခါ ဆရာကြီးက စိုက်၍ နားထောင်နေသည်၊ မှားသော အချက်ကို ပြင်ပေး၏၊ လိုနေသော အချက်တို့ကို ဖြည့်စွက်ပေးသည်။

ဤသို့ အကြိမ်များစွာ ပြုပြင်ပေးခြင်း၊ လက်ထပ် သင်ပေးခြင်း၊ တာဝန်ပေးခြင်းဖြင့် ဦးဝိမလကလေးမှာ "စာချဘုန်းကြီးကလေး" ဖြစ်မှန်းမသိ ဖြစ်၍လာရတော့သည်။

# ဆရာကြီးက စာချအမွေပေးနေခြင်း

ယခုအခါ ဆရာကြီး ဦးအုန်းက ထက်မြက်တဲ့ ဦးဝိမလနှင့် ဦးဓမ္မသာမိတို့ကို စာချဘုန်းကြီးဘဝ ရောက်အောင် တွန်းတင်ပေးနေပြီ၊ ဆရာကြီးရဲ့အသက်အရွယ်ကလည်း တဖြည်းဖြည်း ရင့်လာပြီ မဟုတ်ပါသော၊ တာဝန်တစ်ရပ်ကို ပခုံးပြောင်း၍ ထမ်းဆောင်ဘတ်အောင်လည်း သင်ပေးနေဟန်တူပါသည်။

"ဦးဝိမလက မာတိကာ ဓာတုကထာရဲ့ အဓိပ္ပါယ်ကို ပိုင်ပိုင်နိုင်နိုင် ပြောတတ်အောင် ကြိုးစားရမယ်နော်၊ ဦးဓမ္မသာမိကလဲ ယမိုက် အဓိပ္ပါယ်ကို ကျကျနန ပြောတတ်ပစေ၊

ပဋ္ဌာန်း အဓိပ္ပါယ်ကိုတော့ ဆရာကြီး ကိုယ်တိုင် ပြောပါမယ်"

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဤသို့အားဖြင့် ဆရာကြီးက စာချသောအခါ ဤ(၂) ပါးကို အနားသို့ ခေါ်ထား၍ ကိုယ်စား အဓိပ္ပာယ် အပြောခိုင်းလာသည်မှာ (၁)နှစ်နီးပါးပင် ကြာလေပြီ၊ အမှန်ကတော့ ဦးဝိမလနှင့် ဦးဓမ္မသာမိတို့ကို အနီးသို့ ခေါ်၍ စာချခိုင်းခြင်းပင် ဖြစ်တော့၏။

ဤသို့လျှင် ဦးဝိမလကလေးအဖို့ အဘိဓမ္မာ ညဝါကို ပီပီပြင်ပြင် စတင်၍ ချပို့လာခဲ့ရသည်မှာ သိက္ခာ(၃)ဝါရကပင် ဖြစ်တော့သည်၊ ယခင်တုန်း ဆရာကြီးက ကြိုးကြား- ကြိုးကြား အစမ်း သဘော အားဖြင့် အဓိပ္ပာယ် အပြောခိုင်းခြင်းမျှသာ ဖြစ်၏။

## ကိုယ့်နေရာကိုယ် စာချခွင့်ပေး

ဤသို့အားဖြင့် ဆရာကြီးရှေ့တွင် (၁)နှစ်ခန့်မျှ အနီးကပ် ကြပ်မတ်မှုဖြင့် လက်တွေ့ညဝါချပို့ပြီးသော အခါ ဦးဝိမလနှင့် ဦးဓမ္မသာမိတို့သည်လည်း ရဲလာ ကြတော့၏၊ အဓိပ္ပာယ် ပြောလည်း ကိုယ်စီ ကိုယ်င ပိုင်နိုင်လာကြတော့သည်၊ ဆရာကြီးကလည်း ထို(၂)ပါး အပေါ်မှာ စိတ်ချလက်ချ ကျေနပ်သွားတော့၏။

အချိန်တို့သည် တရွေ့ရွေ့နှင့် ပြောင်းလဲနေ ကြသည်၊ သက္ကရာဇ် ၁၂၈၄-ခုနှစ် သီတင်းကျွတ်သော အခါ စာချဘုန်းကြီး ဦးဝိမလက သိက္ခာ(၄)ဝါရ၍၊ ဦးဓမ္မသာမိက (၆)ဝါရဖြစ်လာတော့၏၊ ဆရာကြီးက ဤသို့ ပြောဆို၍ ခွင့်ပေးသည်-

"ကဲ ကိုယ်တော်တို့၊ ဒီကရှေ့မှာ ကိုယ့်နေရာ ကိုယ့်ကျောင်း၌ ကိုယ့်စာဝါ ကိုယ်ချပို့ပေးကြ။

ပြီးတော့ မာတိကာ ဓာတုကထာနဲ့ ယမိုက်ကိုလဲ ပိုင်နိုင်နေအောင် တစ်လှည့်စီ (သူ့စာဝါ ကိုယ့်စာဝါ) ပြောင်းလွဲချပို့ပေးကြ။

ပဋ္ဌာန်းကိုတော့ ဆရာကြီးထံမှာ အများနဲ့ အတူ လာပြီး လိုက်ကြအုံး"

## တာဝန်ကိုယ်စီ ခွဲဝေအပ်နှင်း

ဆရာကြီးမှာ အဘိဓမ္မာ ညဝါတွေ ပို့ချဖို့အတွက် အဆက်ကို မွေးထုတ်ခဲ့ရာ ယခုအခါ (၂)ပါးတော့ ရ ပြီ၊ သို့ရာတွင် ဤ ၂-ပါးမျှဖြင့် မလုံလောက်သေး၊ မြန်မာပြည်မှာ အဘိဓမ္မာလောက၌ ကျွမ်းကျင် တတ် မြောက်သည့်ပုဂ္ဂိုလ်တွေ အများကြီး လိုအပ်နေသေး သည်။

ထို့ကြောင့် ဆက်လက်၍ ဦးအာစယ၊ ဦးကော သလ္လ၊ ဦးဉာဏိန္ဒတို့ကိုလည်း စာချဘုန်းကြီးများ ဖြစ် ဖို့ (ယခင်နည်းတူ) အနီးကပ် ကြပ်မတ်သင်ပေးနေ ပြန်ပြီ။

ဤနည်းအားဖြင့် တစ်နှစ်ခန့်အကြာ ၁၂၈၅- ခုနှစ် သီတင်းကျွတ်သောအခါ စာချဘုန်းကြီး ဦးဝိမလ က သိက္ခာ(၅)ဝါရ၍ ဦးဓမ္မသာမိက (၇)ဝါရ ဖြစ်လာ ကြသည်။

ယခုအခါ ဤအရှင်(၂)ပါးတို့သည် ဆရာကြီး၏ ရှေ့တွင် ပဋ္ဌာန်းအဓိပ္ပာယ်တို့ကို အစမ်းသဘောအားဖြင့် တစ်လှည့်စီ ပြောလာကြရတော့၏၊ ဟာကွက် ပျော့ ကွက် လိုအပ်ချက်တို့ကို ဆရာကြီးက ထပ်မံ ဖြည့်သွင်း ပေးသည်။

ယခုအခါ ဆရာကြီးမှာ အကူအညီတွေ ရနေပြီ ဖြစ်၍ အတော်သက်သာလာပါပြီ၊ ဆရာကြီးက အမြဲ တမ်းလို စဉ်းစားနေသလား မသိ၊ သူ့လို အဘိဓမ္မာ

မာတိကာ ဓာတုကထာနှင့် ယမိုက်တို့ကို ခွဲဝေ၍
တာဝန်ယူ ချပို့ပေးကြရမယ်"

ဤသို့ အမိန့်ချလိုက်ပြန်ပြီ၊ ဤသို့ ကိုယ်စီ ကိုယ်င
တာဝန်ခွဲဝေပေးလိုက်သော်လည်း ပဋ္ဌာန်းကိုကား ဆရာ
ကြီးရှေ့မှာ လာပြီး ချပို့ရမည်ဟု ဆို၏၊ ပဋ္ဌာန်းနှင့်
ပတ်သက်၍ အခဲအကပ်တို့ကို ကြပ်မတ်သင်ပေးလိုသေး
သောကြောင့် ဖြစ်ပါလိမ့်မည်။

သဝါ တတ်ကျွမ်းသူတွေ အများကြီး ပေါ်ပေါက်စေလို
ဟန် တူ၏၊ ယခုတစ်ဖန် ထပ်မံ၍ အဆင့်မြှင့်ကာ
ဘိုးလိုက်ပြန်ပါပြီ။

"ကဲ ... ဦးဝိမလနဲ့ ဦးခေမ္မသာမိတို့က တစ်ဆင့်
တက်ပြီး ပဋ္ဌာန်းကို တာဝန်ယူချပို့ပေးကြရမယ်၊
ဒါပေမယ့် ဆရာကြီး ရှေ့မှာလာပြီး ချပို့ကြ"
"ဦးအာစယ၊ ဦးကောသလ္လနဲ့ ဦးဉာဏိန္ဒတို့က

# အမရပူရမှ မင်းကွန်းသို့

သက္ကရာဇ် ၁၂၈၅–ခုနှစ် သီတင်းကျွတ်လျှင်
ာချဘုန်းကြီးကလေး ဦးဝိမလမှာ သက်တော်က
၄)နှစ်၊ သိက္ခာတော်က (၅)ဝါ ရလေပြီ၊ ယမိုက်နှင့်
ဌာန်းတို့ကိုလည်း အရှိန်ကောင်းကောင်းဖြင့် ချပို့ပေး
ိနေလေပြီ။

စာချရသည်မှာ ပင်ပန်းသော်လည်း တစ်ခေါက်
န်တိုင်း ကုန်တိုင်း မိမိ၏ လုပ်ဆောင်ချက်အပေါ်
ဘ်တွေ ဖြာရ ဝမ်းမြောက်ရ၏၊ စာရေးသောသူတို့
ည်း ဤအတိုင်းပင် ဖြစ်ကြသည်။

"အခု တစ်ခေါက် စာဝါကုန်လျှင်တော့ တစ်
နေရာရာ သွားပြီး ခေတ္တ နားဦးမည်၊ မန္တလေးမြို့
အနောက်ဘက်၊ ဧရာဝတီမြစ်၏ တစ်ဘက်
ကမ်း၊ မင်းကွန်းတောင်ရိုးက ပင့်ထားသည်၊
အဲဒီကို သွားပြီး နားရလျှင် ကောင်းလေမည်
လား"

သို့ စဉ်းစားထား၏၊ စာဝါကုန်သောအခါ မင်းကွန်း၊
ာတ်ချောင်မှ ချောင်ပိုင် သီလရှင် ဆရာကြီး
ဒေါ်ဝိလာသီက လာ၍ ပင့်သည်၊ ထို့ကြောင့် ဆရာကြီး
ဦးအုန်းအား ပန်ကြားပြီးလျှင် မင်းကွန်းဘက်သို့
လိုက်သွားခဲ့သည်။

အနားယူရန် ရောက်လာသော်လည်း သိပ်ပြီး
မနားရပါ၊ ယမိုက်–ပဋ္ဌာန်းတို့နှင့်ပတ်သက်၍ ခဲကပ်
သော အရာများ (ဆရာကြီး ဦးအုန်းထံမှာ စာလိုက်စဉ်
တုန်းက မရှင်းလင်းခဲ့သော အချက်အလက်များ)ကို
ဒေါ်ဝိလာသီတို့က မေးကြမြန်းကြ၏။

ယင်းသို့ မေးကြမြန်းကြသဖြင့် ရှင်းလင်း ဖြေ
ကြားပေးနေရသည်မှာ စာချသလိုပင် ဖြစ်တော့သည်၊
ဒေါ်ဝိလာသီ၊ ညီမ–ဒေါ်ခေမာစာရီ၊ ဒေါ်ကိတ္တိ စသော
သီလရှင်များ ကျေနပ်ကြ၏၊ သို့ဖြစ်၍–

"နောင်နှစ်များတွင်လဲ စာဝါများ သိမ်းပြီဆိုလျှင်
ယခုလိုပဲ ကြွရောက် ကြွရောက်ပြီး ချီးမြှောက်
တော်မူပါ ဘုရား"

ဤသို့ ကြိုတင်လျှောက်ထားနေကြတော့သည်၊ သို့သော်
လည်း စာချဘုန်းကြီးကလေးအနေနှင့်မူ "အကြောင်း
ညီညွတ်သလိုပေါ့" ဟူ၍သာ မိန့်ခဲ့တော့၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## မိုးကုတ်မြို့နှင့် အဆက်အသွယ်ဖြစ်

သီလရှင်ဆရာကြီး ဒေါ်ဝိလာသီလည်း (ရဟန်း အမ ဒေါ်ဝိစာရီကဲ့သို့ပင်) မိုးကုတ်မြို့သူ ဖြစ်၏၊ ဆောင်းပိုင်းရောက်လာလျှင် မိုးကုတ်မှ မင်းကွန်းသို့ ဘုရားဖူးများ ဆင်းတတ်ကြသည်၊ ထိုအချိန်က ဆင်းလာသော ဘုရားဖူးအဖွဲ့တွင် ခေါင်းဆောင်က ဒေါ်သိုင်းခြုံ ဖြစ်သည်။

သူတို့ကို တစ်ဖန် ဒေသခံဖြစ်သော ဒေါ်ဝိလာသီက ခေါင်းဆောင်၍ ဘုရားစုံ ပို့နေကျ ဖြစ်၏၊ မင်းကွန်း၊ မန္တလေး၊ မန္တလေးတောင်၊ ရန်ကင်းတောင်၊ စစ်ကိုင်းတောင်ရိုးအထိ လိုက်၍ ပို့ရတတ်၏။

ယခုတစ်ပတ် စစ်ကိုင်း တံတားကြီးအနီးက "ရွှေကြက်ယက်- ရွှေကြက်ကျ" ဘုရားများအထိ လိုက်ပို့မည် စီစဉ်ထားသည်။

ယင်းသို့အသွား လမ်းခရီးအကြားတွင် ရှိသော အမရပူရ မင်္ဂလာတိုက်က စာချ ဘုန်းကြီးကလေး ဦးဝိမလထံ ဝင်၍ ကန်တော့ကြ၏၊ တွေ့သိရင်းနှီး သွားကြရလေသည်။

ဒေါ်သိုင်းခြုံသည် စာချဘုန်းကြီးကလေး၏ ဂုဏ်သတင်းကို ယခင်ကပင် ဒေါ်ဝိလာသီထံမှ အချို့အဝက် ကြားထားပြီး ဖြစ်၏၊ ယခုလို ကိုယ်တိုင် ဖူးတွေ့ရသောအခါ ပို၍ ကြည်ညိုရလေသည်၊ ပို၍ လေးစားသဒ္ဒါပွားလျက် ဦးထိပ်ထားမိတော့၏။

## တစ်နေ့နေ့ မိုးကုတ်ကို ပင့်မယ်

မိုးကုတ်မြို့သို့ ပြန်ရောက်လာသောအခါတွင် ဒေါ်သိုင်းခြုံက ခင်ပွန်းဖြစ်သူ ဦးလယ်အား စာချ ဘုန်းကြီးကလေး ဦးဝိမလအကြောင်းကို ပြောပြသည်။

ထိုအခါ ဒကာ ဦးလယ်ကလည်း မမြင်ရသေးဘဲလျက် ကြည်ညိုနေခဲ့၏၊ မှန်း၍ လက်အုပ်ချီမိသည်၊

"အေးကွ- တစ်နေ့နေ့တွင် တို့မိုးကုတ်ကို ရောက်အောင် ပင့်မယ်"

ဤသို့ အားခဲထားကြသည် ဟူ၏၊ စာချ ဘုန်းကြီးကလေးကား ယခင်နှစ်က ပင့်လျှောက်ထားချက်အရ သီတင်းကျွတ်၍ စာဝါတွေ သိမ်းသောအခါ မင်းကွန်းဘက်သို့ ကြွပြီး ဆောင်းလပတ်လုံး သီတင်းသုံးလေသည်။

ချောင်ပိုင် သီလရှင်ဆရာကြီး ဒေါ်ဝိလာသီ၏ လျှောက်ထားတောင်းပန်ချက်အရ အမရပူရမြို့သို့ မလာရောက်နိုင်သော သီလရှင်တို့အတွက် ညဝါဆိုင်ရာ မာတိကာ ဓာတုကထာတို့ကို ချပို့ပေးရလေသည်။

## ကျောင်းထိုင် ဘုန်းကြီးကလေး ဘဝ

သက္ကရာဇ် ၁၂၈၆-ခုနှစ်တွင် အမရပူရမြို့၊ ပွဲတော်ရပ်မှ ဒေါ်ဒေါ်သစ်နှင့် သားသမီးတစ်စုတို့က မင်္ဂလာကျောင်းတိုက်ကြီးအတွင်းမှာ ပိဋကတ်တိုက်ကျောင်းတစ်ဆောင် ဆောက်လုပ်လှူဒါန်းကြ၏၊ ယင်း

ဆရာကြီး ဦးအုန်း၏ စီမံပေးချက်အရ အခြားသော တပည့်ကြီးများလည်း အသီးအသီး အဘိဓမ္မာ ဉာဏ်တွေ ပို့ချပေးနေကြပြီ။

ဦးဓမ္မသာမိကဆိုလျှင် ပိဋကတ်တိုက်ကျောင်းရဲ့ အရှေ့ဘက်က သစ်သားကျောင်းအိုကြီးပေါ်မှာ အဘိဓမ္မာ ဉာဏ်တွေ ချပို့ပေးနေပြီ၊ ထို့ပြင် ဦးအာစယက လည်း မြောက်ဘက်က သစ်သားကျောင်းကြီးပေါ်မှာ အလားတူပင် ဉာဏ်တွေ ချပို့ပေးနေသည်။

တိုက် ကျောင်းအသစ်ပေါ်မှာ စာချဘုန်းကြီးကလေး ဦးဝိမလ စတင်သီတင်းသုံးရသည်၊ ဉာဏ်များကိုလည်း ထိုကျောင်းပေါ်မှာပင် ချပို့ပေးလေသည်။

ထိုအချိန်က စာချဘုန်းကြီးကလေးမှာ သက်တော် (၂၆)နှစ်၊ သိက္ခာတော်(၆)ဝါမျှသာ ရှိသေး၏၊ ထိုအချိန်မှာပင် အဘိဓမ္မာ ဉာဏ်တွေကို နိုင်နိုင်နင်းနင်း ပို့ချနေပြီ၊ နာမည်လည်း အတော် ရနေလေပြီ။

## ဆရာကြီး၏ဆန္ဒနှင့် ဘဝမိုးချုပ်ချိန်

ဆရာကြီး ဦးအုန်းသည် လူဘုန်းကြီးတစ်ပါးလို ဖြစ်နေ၏၊ အဘယ့်ကြောင့်ဆိုသော် လူကသာ ကာမဂုဏ်သားတို့ အဝတ်အစား ပုဆိုးအင်္ကျီဖြင့် နေသည်၊ စိတ်ဓာတ်နှင့် အလုပ်အကိုင်တို့က သာသနာစိတ် သာသနာအလုပ်၊ ထို့ကြောင့်လည်း သူ့ကို (လူဘုန်းကြီး တစ်ပါးလို) ကြည်ညိုကြ– လေးစားကြ၏၊ သူကလည်း သိက္ခာနှင့်နေသူ ဖြစ်သည်။

အိမ်ထောင်ဘက် ဒကာမကြီးရှိသော်လည်း အိမ်ကို မပြန်တော့၊ ကျောင်းမှာပင် အမြဲနေတော့သည်၊ အချိန်ရှိသမျှ သူ၏ စိတ်ဆန္ဒသည် သာသနာလောက၌ အဘိဓမ္မာတွေ နားလည်ရေး– အဘိဓမ္မာတွေ ပြန့်ပွားရေးပင် ဖြစ်၏၊ ထို့ကြောင့်ပင် “အဘိဓမ္မာ တန်းခွန်ကျမ်း” ဟူ၍ ကျမ်းကြီးတစ်စောင်ရေးသားတော့သည်။

ထို့နောက် သူ၏ ဓာတ်ပုံကြီးဖြင့် သူကိုယ်တိုင် ထုတ်ဝေသွားခဲ့၏၊ အဘိဓမ္မာဉာဏ်လောကတွင် ထင်ရှား ကျော်ကြားသော စာအုပ်ကြီးတစ်အုပ် ဖြစ်လေသည်။

သို့သော် ဆရာကြီးအသက်က (၇၈)နှစ် ပြည့်တော့မည်၊ အရွယ်ရင့်ညောင်း ဇရာက ထောင်းလေပြီကော၊ ကျန်းမာရေးလည်း လျော့လာ၏၊ ခန္ဓာကိုယ်လည်း ယိုင်လာတော့သည်။




အဘိဓမ္မာဉာဏ်လောကတွင် ထင်ရှားကျော်ကြားသော ဆရာကြီးဦးအုန်း၏ အဘိဓမ္မာတန်းခွန်ကျမ်းနှင့် ယမကဝိထိမဉ္ဇရီကျမ်း

ဆရာကြီး ထမင်းစားစဉ် ဟင်းရည်သောက်သော အခါ လက်တွေ တုန်လာသည်ကို တွေ့ကြရ၏၊ ပါးစပ်နား ရောက်သောအခါ ဟင်းရည် အပြည့် မပါ တော့ဘဲ ဇွန်းတစ်ဝက်မျှသာ ကျန်တော့သည်။

အိုလာပြီဖြစ်၍ အရိုးတွေ အကြောတွေက (မအိုခင် တုန်းကလို) ခန္ဓာကိုယ်ကို ဆောင်နိုင်စွမ်း အပြည့် ရှိဟန်မတူတော့ချေ။

စက္ခုပါလ မထေရ်ကြီး ပြောသလို-

"ဇိဏ္ဏာ် အဋ္ဌီစ နှာရုစ၊
ဂတ္တာနိ န ဝဟန္တိ မေ"

မေ-ငါ၏၊ အဋ္ဌီစ-အရိုးတို့သည်လည်းကောင်း၊ နှာရုစ- အကြောတို့သည်လည်းကောင်း၊ ဇိဏ္ဏာ-ဆွေးမြည့် ယိုယွင်း, အိုမင်းလာကြကုန်ပြီဖြစ်၍၊ ဂတ္တာနိ-ခန္ဓာကိုယ် အစိတ်အပိုင်းတို့ကို၊ န ဝဟန္တိ-ရှေးတုန်းကလို မရွက် ဆောင်နိုင်ကြတော့ကုန်။

ဤသို့လျှင် လူ့ည်းအိုကြီးပမာ ဖြစ်လာကြရ တတ်သည်ကား (သာယံ လောကဿ ဓမ္မတာ) ဆို သလို ဓမ္မတာပင် မဟုတ်ပါလော။

# ဆရာကြီး ဦးအုန်း ကွယ်လွန်ခြင်း

ဆရာကြီး ဦးအုန်းသည် သာသနာ့ဘောင်မှာ မပျော်ပိုက်၍ လူထွက်လာခဲ့သော်လည်း အလုပ်ကိုကား သာသနာ့အလုပ်ကိုပင် လုပ်ဆောင်လာခဲ့သူ ဖြစ်၏၊ သက္ကရာဇ် ၁၂၀၈-ခုနှစ်တွင် မွေးဖွား၍ ၁၂၂၈-ခုနှစ် အသက်(၂၀)ပြည့်တွင် ရဟန်းဘောင်သို့ တက်ခဲ့သည်။

မန္တလေးသို့တက်၍ စာသင်ခဲ့၏၊ ပထမကျော် အောင်ခဲ့သည်၊ သက္ကရာဇ် ၁၂၄၈-ခု အသက်(၄၀)တွင် လူထွက်ခဲ့၏၊ လူ့ဘဝဖြင့် ၄-၅နှစ်မျှ အနားယူခဲ့သေး သည်၊ ထို့နောက် အဘိဓမ္မာ ညဝါတွေကို ချပို့ပေးခြင်း ဖြင့် သာသနာပြုအလုပ်တွေကို လုပ်ဆောင်ခဲ့သည်၊ နှစ်ပေါင်း(၃၀)ကျော်မျှ ဖြစ်၏။

ယခုအခါတွင်ကား အသက်အရွယ်ကလည်း အိုမင်းယိုယွင်းလာခဲ့ချေပြီ၊ စိတ်သွားတိုင်း ကိုယ်မပါ နိုင်တော့၊ ရှေး တုန်းကဆိုလျှင် တုတ်ကောက်ကြီး တစ် ချောင်းဖြင့် နံနက်တိုင်း လမ်းလျှောက်ထွက်နိုင်ခဲ့၏၊ ယခု မထွက်နိုင်တော့ချေ၊ လိုရာဆန္ဒပြည့်ဝမှုနည်း၍ နည်း၍ လာတော့သည်။

"ဇရာ ဇဇ္ဇရိတာ ဟောန္တိ၊
ဟတ္ထပါဒါ အနဿဝါ"

ဆိုသလို "အိုမင်း ယိုယွင်း လာပြီဆိုမှဖြင့် လက်တို့ ခြေတို့ကလည်း အလိုဆန္ဒအတိုင်း လိုက်ပါမလာနိုင်ကြ တော့ချေ"၊

ထို့ကြောင့် ယခု သက္ကရာဇ် ၁၂၈၇ ခုနှစ် ကဆုန်လဆုတ်(၈)ရက်နေ့၊ ဆရာကြီး အသက်(၇၉)နှစ် အရွယ်တွင် ကွယ်လွန်အနိစ္စ ရောက်ခဲ့ရလေသည်။

"သဗ္ဗေ သင်္ခါရာ အနိစ္စာ"
သင်္ခါရတရားတွေ ဟူသမျှ
မမြဲကြလေကုန်တကား...။

# ခေတ်ပညာများ လေ့လာခြင်း

ရဟန်းပျိုကလေး ဦးဝိမလသည် ဖျတ်လတ်၏၊ သွက်လက်၏၊ ကျန်းမာရေးလည်း ကောင်း၏၊ စိတ်အား တက်ကြွနေချိန်ဖြစ်သည်၊ ထိုခေတ် ထိုအခါက ရဟန်းပျို များ၏ တိုးတက်သော အယူအဆ အရ "ခေတ်ပညာလည်း သင်သင့်သည်"ဟု ခံယူထား၏။ ဆို့ကြောင့် အတူနေဖြစ်သော ရဟန်းငယ် ဦးနရိန္ဒထံတွင် အင်္ဂလိပ်စာကို သင်ယူတော့သည်၊ ဦးနရိန္ဒက ထိုအချိန်တွင် (၁၀)တန်း အောင်ပြီးပြီ၊ "ညဝါ ဆိုပါရစေ"ဟု ဦးဝိမလထံသို့ လာ၍ လျှောက်ခြင်း ဖြစ်၏၊ ထို့ကြောင့် အတူနေခွင့်ရခြင်း ဖြစ်လေ သည်၊ ထိုစဉ်က ဦးနရိန္ဒမှာ (၁) ဝါမျှသာ ရှိသေးသည် ဟူ၏။

ထိုသို့ ဦးဝိမလက အင်္ဂလိပ်စာ သင်ယူသောအခါ ကျညက်သွားအောင်"ဆိုတဲ့ သဘောဖြင့် ကျောင်းမှာရှိတဲ့ ကိုရင်အောင်ကြီးအား ထပ်ဆင့် သင်ပေးသည်၊ ထိုအခါ မြင်ရသူတို့က–

"ဟင့်– သူကဖြင့် အေ–ဘီ–စီတောင် ကောင်းကောင်း မကျေသေးဘဲနဲ့ သူများကို ဆရာလုပ် သင်ပေးနေ"

ဟူ၍ ပြောကြပါသတတ်၊ ထိုအခါ ဦးဝိမလက ဘာမျှပြန်မပြောဘဲ တဟဲဟဲနဲ့ ရယ်မောနေသည်ဟူ၏၊ ဟုတ်ကလဲ ဟုတ်နေသည်ကိုး–။

ရဟန်းပျိုကလေး ဦးဝိမလသည် ခေတ် နောက်ကျပြီး ကျန်ရစ်မည်ကို စိုးရိမ်ဟန် တူ၏၊ ထို့ကြောင့် ထိုခေတ် ထိုအခါတုန်းက ရဟန်းငယ် လောကတွင် ခေတ်စားလာသည့် အင်္ဂလိပ်စာကလေးကိုပါ သင်ယူလိုက်ခြင်း ဖြစ်လေသည်။

သို့ဖြစ်၍ တရားဟောရာတွင် စိတ်ရွှင်သောအခါ အင်္ဂလိပ်လို တစ်လုံးတလေ ပါလာတတ်၏။

---

**မှတ်ချက်။** ။အင်္ဂလိပ်စာကို ထိုစဉ်က သင်ပေးခဲ့ရသော ဆရာတော် ဦးနရိန္ဒအား မေးလျှောက် ကြည့်သည်၊ "ရဟန်းပျိုကလေးဦးဝိမလ အင်္ဂလိပ်စာ ဘယ်လောက် တတ်ပါသလဲဘုရား" "အတော်အတန် ရေးတတ် ဖတ်တတ်လောက်တော့ရှိပါတယ်၊ ပါးစပ် ကလဲ ထမင်းစား ရေသောက်လောက်တော့ ပြောတတ် ပါတယ်"တဲ့၊ ဖြေကြားတော်မူသည်။ ယခု ၁၃၅၁–ခုနှစ်တွင် သက်တော် ၈၅–နှစ်ပင် ရှိနေပြီဖြစ်သော ဆရာတော် ဦးနရိန္ဒက ပြန်လည် ပြောပြပါ၏။

# ဓမ္မကထိကလေး ဦးဝိမလ

စာချဘုန်းကြီးကလေး ဦးဝိမလ သိက္ခာ(၆)ဝါရချိန်တွင် စိတ်ဓာတ် အင်မတန် ထက်သန်၏၊ ဖျတ်လတ်၏၊ အဘိဓမ္မာညဝါများကို တွင်တွင်ကျယ်ကျယ် ချပို့လျက်နေပြီ၊ စာလိုက်သံဃာ့ပရိသတ်တို့လည်း အတော်များနေ၏၊ နာမည်လည်း အတော်ရနေပြီ။

အဘိဓမ္မာညဝါများကို ချပို့ပေးရုံသာမက ဟိုက ဒီက လာ၍ပင့်သော တရားပွဲကလေးများသို့ပါ လိုက်ဟောပေးလာသည်။

ရှေ့ပိုင်းကာလတွေတုန်းက တရားမဟောဖို့ရန် စာသမားများက တားမြစ်ကြသည်မှာ စာသင်ရေးကိစ္စ လျော့ပါးသွားမှာ စိုး၍ ဖြစ်၏၊ ယခု စာသင်၍ ပြီးစီးနေပြီ၊ ဟောဖို့ အချိန်လည်း ရောက်လာပြီ၊ မဟော၍ ဖြစ်မည်လော–။

"ဘာသယေ ဇောတယေ ဓမ္မံ၊
ပဂ္ဂဏှေ ဣသိနံ ဓဇံ"တဲ့။

ဓမ္မံ–အမှန်တရား သစ္စာများကို၊ ဘာသယေ–သိအောင် ပြောပြရာ၏ [ပြောမှ သိရမှာပေါ့။] ဇောတယေ–လင်းလာအောင် ထွန်းပြရာ၏၊ [ဟောလိုက်တော့မှ ရှင်းလင်းသွားမှာပေါ့။] ဣသိနံ–သူတော်စင် ရသေ့ ရဟန်းတို့၏၊ ဓဇံ–တံခွန်အလံသဖွယ် တရားတော်ကို၊ ပဂ္ဂဏှေ မြင်ရလောက်အောင် မြှင့်ထောင် မြှောက်ပင့်ရာ၏ ။

ဟူသကဲ့သို့ သဘောထားပြီးလျှင် ယခုအခါ တရားပွဲကလေးများကိုပါ လက်ခံလာတော့သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဟောဟန် အမူအရာကား

ထိုခေတ်က ယပ်လှဲ ဓမ္မကထိကများ ခေတ်စားခဲ့ကြ၏၊ ပေါ်များခဲ့ကြ၏၊ လူကြိုက်လည်း များခဲ့ကြသည်၊ အသံဖြင့် ဟောကြားကြခြင်း ဖြစ်၏၊ အပင့်အဟိုက် အရှိက် အငင်တို့ဖြင့် ဟောကြသည်၊ အသံကောင်းမှလည်း ဓမ္မကထိက ဖြစ်နိုင်၏၊ အချို့ ဓမ္မကထိကများ ဇာတ်ပွဲနှင့်တောင် ပြိုင်ကြသည်–ဟု ဆို၏။

"ဓမ္မကထိက ကိုယ်တော်လေး ဦးဝိမလတရားဟောစက ဘယ်လို ဟောပါသလဲ၊ သူများတွေလို အသံနဲ့ပဲ ဟောပါသလား"ဟူ၍ သိမီသော ပုဂ္ဂိုလ်များကို မေးကြည့်မိသည်။

"အသံနဲ့ မဟောပါဘူး၊ ဟိုတုန်းကပင် ရိုးရိုးပဲ ဟောပါတယ်၊ အသံလုပ်ပြီး ဟောရင် ရတာပေါ့၊ သူ့အသံက အသံဝါကြီးပဲ၊ အောင်လဲ အောင်ပါတယ်၊ မြည်လဲ မြည်ပါတယ်"တဲ့။

ပြောကြပါသည်၊ ဟောတဲ့နေရာတွေကတော့ ဦးစိန်းဝါ၏ ဖခင် ဦးရှင်တို့က ကမကထပြု၍ ပင့်လျှောက်ချက်အရ အမရပူရ၊ ဦးပိန်တံတားကြီးအနီးက တောင်မင်းကြီး ဘုရားရင်ပြင်ပေါ်တွင်လည်းကောင်း၊ ထိုအနီး သတ္တဋ္ဌာန ရဲလောင်းဇရပ်စောင်းတန်းတွင်လည်းကောင်း ဟောခဲ့ရသည်ဟူ၏။

ထို့ပြင်– စာရေးကြီး ဦးလှဘူး၏ လျှောက်ထားတောင်းပန်ချက်အရ အမရပူရမြို့လယ်က အောင်မြေ ရွှေဘုံဘုရားတောင်ဘက်က ဇရပ်ကြီးတွင်လည်း မကြာခဏ ဟောရလေ့ရှိသည်။

ဝါတွင်းကာလတွေမှာ အမရပူရမြို့ထဲက ဟိုရပ်ကွက် သည်ရပ်ကွက်တို့၌ ရှိတတ်သည့် ဥပုသ်ဇရပ်တို့၌လည်း လိုက်၍ ဟောပေးသည်ဟူ၏။

## မယ်တော့်ဆန္ဒ ပြည့်ဝအောင် ဆောင်ရွက်

သက္ကရာဇ် ၁၂၈၇–ခုနှစ် ဝါကျွတ်သောအခါ စာချဘုန်းကြီးလေး ဦးဝိမလ သိက္ခာ(၇)ဝါရလေပြီ၊ ထိုနှစ် နွေဦးပေါက်တွင် ဥယျာဉ်တော်ရွာ၌ "မယ်တော်ကြီး ဒေါ်ရွှေအိပ် နေထိုင်မကောင်း"ဟူ၍ သတင်းပို့လာ၏၊ ထို့ကြောင့် မယ်တော့်ထံ ချက်ချင်း လိုက်သွားသည်။

ထိုအချိန်တွင် သီလရှင် မသုစာရီက ဥယျာဉ်တော်ရွာသို့ အလျင်ရောက်နှင့်၏၊ နောက်မှ စာချဘုန်းကြီးကလေး ဦးဝိမလက ရောက်သွားသည်၊ မယ်တော်ကြီးမှာ အိပ်ရာထက်တွင် ပက်လက်ဖြစ်နေ၏၊ ပျော့ပျော့ကလေးသာ ရှိတော့သည်။

"မယ်တော်ကြီး... ဘာလုပ်ချင်သလဲ၊ စိတ်ထဲရှိတာ ပြောပါ၊ ဘာမဆို အကုန်လုပ်ပေးမယ်၊ ဆန္ဒပြည့်ဝစေရမယ်"

ဤသို့ စာချဘုန်းကြီးကလေးက မေးသောအခါ "သပိတ် သင်္ကန်း လှူဒါန်းချင်တယ်"ဟု ပြောပါသတတ်၊ ဤသို့ သူ့ဆန္ဒ ပြောပြ နိုင်သေးသည်ကိုပင် ကျေနပ်ရသေး၏။

ထိုအခါ စာချဘုန်းကြီးကလေးက "ဟာ... ဖြစ်တာပေါ့၊ ရစေ့မယ်–ရစေ့မယ်၊ စိတ်အေးအေးထား မယ်တော်ကြီး၊ အကုန် လုပ်ပေးမယ်"

ဤသို့ ပြောပြီးလျှင် ချက်ချင်း မန္တလေးသို့ သွားစေ၍

ပိဋကတ်သက်န်းတို့ကို မယ်တော်ကြီးအလိုရှိသလောက် အဝယ်ခိုင်းလိုက်သည်။ သပိတ်သင်္ကန်းတွေ ရောက်လာသာအခါ မယ်တော်ကြီးအား ပြကြ၏၊ သံဃာတော်များကိုပင့်ပြီး မယ်တော်ကြီးအနေဖြင့် ကိုယ်တိုင် လှူဒါန်းစေသည်၊ ကိုယ်တိုင် ရေစက်ချ၍ အမျှဝေ သွား၏။

ထို့နောက် စိတ်ဆန္ဒပြည့်ဝစုံလင် ကျေနပ်သည့် အမူအရာအသွင်ဖြင့် မျက်နှာ ကြည်လင်စွာ ကွယ်လွန်အနိစ္စ ရောက်သွားပါလေသည်။

**စာချဘုန်းကြီးကလေး** ဦးဝိမလ ဦးဆောင်၍ သားသမီးများ ဆွေမျိုးများ စုံညီစွာဖြင့် သဂြိုဟ်ခြင်းကိစ္စ ပြုကြလေ၏။

---

**မှတ်ချက်။** ။ဖခမည်းတော်ကြီး ဦးအောင်ထွန်းကား စာချဘုန်းကြီးကလေး ဦးဝိမလ သိက္ခာ (၅)ဝါ ရချိန်ကပင် ကွယ်လွန်ခဲ့လေသည်။

## ကျမ်းပြု ဆရာတော်ကလေးဘဝ



ကျမ်းပြု ဆရာတော်ကလေး ဦးဝိမလ

သက္ကရာဇ် ၁၂၈၈–ခုနှစ် ဝါကျွတ်သောအခါ စာချဘုန်းကြီးကလေး ဦးဝိမလ သိက္ခာ(၈)ဝါရလေပြီ၊ စာပေချပို့ရာတွင် အောင်မြင်ပါ၏၊ စာလိုက်သံဃာတွေ တိုး၍– တိုး၍ လာသည်၊ စာသင်သားများအတွက် လွယ်ကူစေရန် ရည်မှန်း၍ ယမိုက်နှင့်ဆိုင်ရာ (ယမက မဥ္စရီ) ကျမ်းကို ရေးသားခဲ့၏။ တစ်နှစ်ခန့်မျှအကြာ ၁၂၈၉–ခုနှစ်တွင် ပြီးစီး၍ ထုတ်ဝေခဲ့သည်။

စာသင်သားများကလည်း ယမကမဥ္စရီကျမ်းကို နှစ်သက်၏၊ လက်ခံကြ၏၊ စာသင်သားတို့အတွက် ကျေးဇူးများသည်၊ သို့ဖြစ်၍ လေးလေးစားစား "ကျမ်းပြု ဆရာတော်ကလေးတစ်ပါး"အဖြစ် အသိအမှတ် ပြုလာကြတော့၏။

ထိုအချိန်က စာချဆရာတော်လေး ဦးဝိမလမှာ တစ်ဘက်တွင် စာတွေ ချ၊ တစ်ဘက်က ကျမ်းစာ ရေးသား၊ တစ်ဘက်အားမှာတော့ လူတွေကို တရားဟော၊ မမောနိုင် မပန်းနိုင်၊ လုပ်ငန်းတွေ လှိုင်နေဟန်တူသည်၊ သံဃာကြား လူတွေကြား လုပ်ငန်းကိစ္စတို့ဖြင့် ဗျာများနေပုံရသည်။

ထိုအခါ ငယ်စဉ်မှစ၍ အစ်ကိုကြီးအရင်းပမာ အနီးကပ် ဆုံးမ သွန်သင်လာခဲ့သော ဘုန်းတော်ကြီး ဦးနာဂဝံသက မိန့်တော်မူတော့၏–

"တရားဟောတာဟာ ကုသိုလ်ရရုံပါပဲကွာ...
စာချတာလဲ ထို့အတူ ကုသိုလ်ရရုံလောက်ပါပဲ၊
အဲဒါကြောင့် ကိုယ့်ကိစ္စကိုယ် စိတ်ချရအောင်

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

လုပ်ဖို့ လိုသေးတယ်၊ ယခုအခါ အချိန်ရောက်နေပြီ…”

ဤသို့ သတိပေးခြင်းခံရလေသော် ကျမ်းပြုစာချ ဓမ္မကထိက ကိုယ်တော်ကလေး ဦးဝိမလ၏ ရင်ထဲမှာ “ဒိန်း”ခနဲ တုန်လှုပ်ချောက်ချားသွားရလေတော့သည်၊

“ဟုတ်ပေသားပဲ၊ ကိုယ့်ကိစ္စ ကိုယ် စိတ်ချရအောင်…”

# ကိုယ့်ကိစ္စကိုယ် စိတ်ချရဖို့

စာချဘုန်းကြီးကလေး ဦးဝိမလမှာ နောင်တော်ကြီး ဦးနာဂဝံသက သတိပေးလိုက်တော့မှ မျက်ကလူးဆန်ပျာ ထိတ်လန့်သွားရတော့၏၊ နောင်တော်ကြီး ဦးနာဂဝံသကား အဘိဓမ္မာ ညဝါတွေကို ဆုံးခန်းတိုင်ရောက် တတ်မြောက်အောင် သင်ကြားထားသော်လည်း စာဝါကိုကား မပို့ချ၊ တပည့်လည်း မမွေး၊ အေးအေးပင် ဆွမ်းခံစား၍ ကိုယ့်တရားကိုယ် အားထုတ်နေသည်။

*နောင်တော်ကြီး ဦးနာဂဝံသမှာ ယခုအခါ သိက္ခာတော်လည်း (၁၈)ဝါခန့်မျှ ရရှိနေလေပြီ၊ အောင်ခြင်း ရှစ်ပါး ကျောင်းတိုက်၏ ပဓာန နာယက ဆရာတော်လည်း ဖြစ်နေသည်။

“ဟုတ်ပေသည်၊ နောင်တော်ကြီး သတိပေးသလို ကိုယ့်ကိစ္စကိုယ် စိတ်ချရအောင် လုပ်ရပေဦးမည်၊ အမှန်မှာလည်း “ပရိယတ်ကို ရွက်ဆောင်သည်” ဆိုခြင်းမှာ ပဋိပတ်ကို သွားဖို့အတွက် မဟုတ်ပါလော…၊ ဘုရားကလည်း သည်ရည်ရွယ်ချက်ပင် မဟုတ်ပါလော”

“မှန်ပါသည်၊ ကိုယ့်ကိစ္စကိုလည်း ထည့်၍ တွက်ရပေဦးမည်၊ ကျေးဇူးကြီးတဲ့ ဆရာကြီး ဦးအုန်းကလဲ ကွယ်လွန်ခဲ့ပြီ၊ မကြာသေးမီကမှ မယ်တော်ကြီးလဲ အနိစ္စသဘောကို ပြောသွားသလို ဖြစ်ခဲ့ရ၏၊ ဖခမည်းတော်ကြီးကလဲ ထို့ထက် စောစောပိုင်းကပင် မမြဲပုံကို မြင်အောင် တမင်ဆောင်၍ ပြသွားသလို ဖြစ်ခဲ့ရသည်”

ဤသို့ ဆင်ခြင်ကာ စာချဘုန်းကြီးကလေး ဦးဝိမလသည် စာချချိန်၊ စာရေးချိန်၊ တရားဟောချိန်တို့ကို အတိုင်းအတာဖြင့် ကန့်သတ်လိုက်တော့၏၊ ပြီးလျှင် သူ့ဇယားခွင်နှင့်သူ ဆောင်ရွက်သွားကာ ကျန်သော အချိန်ဟူသမျှ “ကိုယ့်ကိစ္စအတွက်”ဟုချည်း ယူထားလိုက်တော့သည်။

ဤသို့လျှင် ထိုအချိန်မှစ၍ “ကိုယ့်ကိစ္စကိုယ် စိတ်ချရအောင်” တစ်စ–တစ်စနှင့် ကြည်ကြည်လင်လင် လုပ်ငန်းခွင်သို့ ဝင်နေပါတော့သတတ်။

*** မှတ်ချက်။** ။အမရပူရမြို့၊ ဦးပိန်တံတားကြီး၏ အနောက်ဘက်တွင် တောင်လေးလုံးကျောင်းတိုက်တည်ရှိ၏၊ ယင်းကျောင်းတိုက်၏ အနောက်ဘက်ကကပ်လျက် “အောင်ခြင်းရှစ်ပါး ကျောင်းတိုက်” ရှိသည်။

## တစ်ဘဝသာသနာ

# တစ်မျိုးစီ အစွမ်းထက်မြက်ကြ

သက္ကရာဇ် ၁၂၈၉–ခုနှစ် သီတင်းကျွတ်လေလျှင် စာချဘုန်းကြီးကလေး ဦးဝိမလမှာ သိက္ခာ(၉)ဝါရလေပြီ၊ ဆရာကြီး ဦးအုန်း၏ ကျေးဇူးကြောင့် အဘိဓမ္မာသုဝါများနှင့်ပတ်သက်၍ အဓိပ္ပာယ်တွေ ကောင်းကောင်းပြောနိုင်လာသည်၊ စာလိုက်နေတဲ့ပရိသတ် နားလည်အောင် ရှင်းပြနိုင်လာ၏။

ဆရာကြီးဦးအုန်းထံမှာ ကိုရင်ဘဝနှင့် ၆–နှစ်၊ ရဟန်းဘဝနှင့် ၆–နှစ်၊ ပေါင်း(၁၂)နှစ်လောက် နီးနီးကပ်ကပ် လက်ထပ်သင်လာခဲ့ရ၏၊ သို့ဖြစ်၍ အဓိပ္ပာယ်သဘော ကောင်းကောင်း ပြောနိုင်တော့သည်၊ ထို့ကြောင့် စာသင်သားတို့က ပြောကြပါသတဲ့–

"ဦးဝိမလက အဓိပ္ပာယ်သဘော အပြောကောင်းတယ်၊ နားလည်သဘောပေါက်အောင် ဥပမာ ဥပမေယျတွေနဲ့ ရှင်းပြနိုင်တယ်၊ သဘော အဓိပ္ပာယ်နဲ့ နားလည်အောင် ပဋ္ဌာန်း ချတယ်။

ဦးမေ့ွသာမိနဲ့ ဦးအာစယတို့ကတော့ သရုပ်တွေ နိုင်တယ်၊ သူ့အကန့်နဲ့သူ ပုံ၍ ပြတော့တာပဲ၊ သူတို့ကတော့ သရုပ်နဲ့ ရှင်းပြ၍ ပဋ္ဌာန်းချကြတယ်၊ တစ်မျိုးစီ ကောင်းကြတာပါပဲ"တဲ့။

# တရွေ့ရွေ့ ဆုတ်ယုတ်လာကြပုံ

ပုဂ္ဂိုလ်တစ်ဦး၏ အစွမ်းသတ္တိတို့ကို ထိုပုဂ္ဂိုလ်မရှိမှ ပို၍ သိလာရတတ်၏၊ အဘယ့်ကြောင့်ဆိုသော် သို့သူ့ခြေရာကို လိုက်၍နင်းကြည့်သောအခါ မမီနိုင်မှန်းသိလာရသောကြောင့် ဖြစ်ပေသည်။

တစ်ခါသော် စာချဆရာတော်လေး ဦးဝိမလက ချရင်း စာလိုက်သံဃာတို့အား အကြောင်းစပ်လာ၍ ဤသို့ မိန့်ဖူးပါသတတ်။

"တပည့်တော်တို့ရဲ့ ကျေးဇူးရှင် ဆရာကြီး ဦးအုန်းကပြောဖူးပါတယ်၊ သူ့ကို အဘိဓမ္မာတွေ တတ်အောင်သင်ပေးတဲ့ ဆရာတော် ဘုရားကြီးဟာ ဘွဲ့တော်က ဦးတေဇ–တဲ့။

မန္တလေးမြို့၊ မဏ္ဍလာရာမတိုက်တည် ဆရာတော်ကြီးပဲ၊ အမရပူရမြို့ဟောင်း ပြည်ကျောင်းတိုက်က ပြောင်းလာတာမို့ "ပြည်ဆရာတော်"လို့ပဲ တွင်ပါသတဲ့။

အင်မတန် ညဝါ နိုင်တော်မူတာ၊ မာတိကာ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်း၊ ဘယ်နေရာက စမ်းစမ်း၊ ဘယ်နေရာက မေးမေး၊ အချိန်မရွေး "ဒက်"ခနဲ ဖြေတော်မူနိုင်တာ။

အဲဒီလို နိုင်နင်းတော့ ညဝါဆိုင်ရာမှာ အောက်ပိုင်း၊ အလယ်ပိုင်း၊ အထက်ပိုင်းတို့ကို တစ်ချိန်တည်း တစ်ပြိုင်နက် ချပို့နိုင်တယ်။

ဘယ်လို ချပို့သလဲဆိုရင် ကျောင်းခန်းကြီးထဲမှာ ဟိုဘက်နားက မာတိကာ– ဓာတုကထာ ဝိုင်း၊ ဒီဘက်နားက ယမိုက်ဝိုင်း၊ ဟောဟိုဘက်နားက ပဋ္ဌာန်းဝိုင်း၊ အဲလို ဝိုင်းဖွဲ့လိုက်တယ်။

ပြီးတော့မှ "ကဲ ... ရွတ်ကြ"ဆိုပြီးတော့ သူက အလယ်ကောင် ကုလားထိုင်ကြီးပေါ် ဝင်ထိုင်နေတယ်၊ နားကိုလဲ စွင့်ထားတယ်။

တစ်ဝိုင်းဝိုင်းက မှားသွားရင် "ဒက်" ခနဲ လှမ်းထောက်တာပဲ၊ သူ့နားက အကုန်လုံးအပေါ် စွင့်ထားတာကိုး။

ဒီတော့ တစ်ချိန်တည်းမှာ စာ ၂–ဝါ၊ ၃–ဝါ ပြီးအောင် တစ်ပြိုင်နက် ချပို့နိုင်တယ်လို့ ဆိုရမှာပေါ့။ အဲလောက်ကို တော်တာ–တဲ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ရှေ့ရှေ့ကို နောက်နောက်က မမီ

ဆရာကြီးဦးအုန်းက ဆက်ပြောပါတယ်၊ "တို့လဲ အဲလို ကျွမ်းကျင်အောင် လုပ်မယ်"ဆိုပြီး ကြိုးစားတာတဲ့၊ မရဘူး၊ အဲလောက် မမီဘူးတဲ့၊ ယမိုက်ဖြင့် ယမိုက်၊ ပဋ္ဌာန်းဖြင့် ပဋ္ဌာန်း၊ တစ်ချိန်မှာ တစ်မျိုးပဲ ပြောလို့ ဖြေလို့ ရတယ်တဲ့။

သို့သော် ဆရာကြီး အိပ်နေ၊ အချိန် မရွေး၊ အိပ်ရာထဲသွားမေး "ဆရာကြီး–ဆရာကြီး၊ ဘယ်နားက ဘယ်လိုဖြစ်နေတယ်၊ ဘယ့်နှယ်လဲ"လို့ မေးလိုက်ရင် ချက်ချင်းပဲ "ဒက်"ခနဲ ဖြေဆိုနိုင်ပါတယ်၊ အဲလောက် တော်တာပါ။

အဲဒါကိုပဲ တပည့်တော်တို့ကလဲ အားကျပါတယ်၊ ဒါနဲ့ "တို့လဲ တို့ဆရာကြီးလို ကျွမ်းကျင်အောင် ကြိုးစားမယ်" ဆိုပြီး ကြိုးစားခဲ့တာပဲ၊ ဒါပေမယ့် မမီပြန်ဘူး။

ဘယ်လောက်ထိအောင် လျှော့ကျလာသလဲ ဆိုရင် စာလာမေးပြီဆိုပါတော့ ဆရာကြီးလို တန်းငြိမဖြေနိုင်ဘူး။

"နေပါအုံး– ပစ္စည်းက ဘာလဲ၊ ပစ္စနိက်က ဘာလဲ"အဲလိုတွေ မေးပြီးမှစိစစ်ပြီးမှ ဖြေနိုင်တော့တယ်" အဲသလို တရွေ့ရွေ့ ယိုယွင်းလာကြတယ်၊ "ရှေ့ ရှေ့ကို နောက်နောက်က မမီချင်ဘူး" တဲ့။

ဤသို့လျှင် စာချဆရာတော်လေး ဦးဝိမလက မိန့်ဖူးပါသတတ်။

---

**မှတ်ချက်။** ။ဤ အကြောင်းအရာများကို ယခုအခါ (၁၃၅၃–ခုနှစ်မှာ) မြန်အောင်မြို့၊ ဘူတာရှေ့၊ ဝေဠုဝန်ကျောင်းတိုက်ကြီးမှ ဆရာတော် ဘုရားကြီး ဦးနာယက၊ သက်တော် (၈၉)နှစ်က ပြန်လည် မိန့်ကြားတော် မူခြင်း ဖြစ်သည်၊ "အဲဒီအခါ စာလိုက်တုန်းက တို့က (၅)ဝါရ၊ စာချ ဆရာတော်လေး ဦးဝိမလက (၉) ဝါ ရပြီကွ" တဲ့။

## ပုထုဇ္ဇန အလင်းပြကျမ်းငယ် ရေးသား

> **အရှင်ဝိမလ**
>
> **ဆိုဆုံးမအပ်သော**
>
> **ခြောက်စုမြောက် စာတ်အမေးအဖြေနှင့်တကွ**
> **သင်္ဂြိုဟ်ဖြတ်အကျဉ်းချုပ် ဖြစ်သော**
>
> **ပုထုဇ္ဇန အလင်းပြကျမ်း**
>
> **ဒုတိယ အကြိမ်**
>
> သီရိနန္ဒာပုံနှိပ်တိုက်
> အမှတ် ၂၀၅၊ ၃၂–လမ်း၊ ရန်ကုန်မြို့။
> ၁၃၅၆–ခု။

စာချဆရာတော်ကလေး ဦးဝိမလသည် ယခုအခါတွင် စာချရုံသက်သက် မဟုတ်တော့ချေ၊ မိမိကိုယ်ရေးကိုယ်တာအတွက် တရားအလုပ် လုပ်ဖို့အချိန်ကို ဖယ်ထားပြီးလျှင် လက်တွေ့အလုပ် လုပ်နေသော ပုဂ္ဂိုလ်တစ်ပါးလည်း ဖြစ်လာသည်၊ ဤတရားကိစ္စအတွက် မုံရွာသို့လည်း သွား၍ တရားဗဟုသုတ ရှာသေးသည်ဟူ၏။

ထို့နောက်ပိုင်းတွင် တရားကိစ္စနှင့်ပတ်သက်၍ မိမိကဲ့သို့ အားထုတ်လိုစိတ်ဖြစ်ပေါ်လာအောင် "ပုထုဇ္ဇန အလင်းပြကျမ်း"ဟူ၍ ကျမ်းငယ်ကလေးတစ်စောင် ရေးသားလေသည်။

ဆရာတော်ကလေး ဦးဝိမလသည် ယခုအခါ ဘုရားဘက်သို့ အတော်ညွတ်ကိုင်းနေလေပြီ၊ သို့ရာတွင် လက်ရှိတာဝန်ထမ်းဆောင်ဆဲဖြစ်သော အဘိဓမ္မာညဝါဒပို့မှုကိစ္စများကိုလည်း တာဝန်မဲ့ ပစ်၍ မထားပါ၊ ထုံးစံအတိုင်း ချပို့လျက်နေပါသည်။

စာသင်သား သံဃာတော်များကား ရှေးကလိုပင် ရောက်လာမစဲ တသဲသဲ...။ ပရိယတ္တိသာသနာအတွက် တာဝန်ကိုလည်း ထမ်းဆောင်ဆဲ...။

## မထေရ်ကြီး စာရင်းဝင်လာသောအခါ

သက္ကရာဇ် ၁၂၉၀-ခုနှစ် သီတင်းကျွတ်လျှင် ဆရာတော်လေး ဦးဝိမလမှာ သိက္ခာတော်(၁၀)ဝါရ ပုဂ္ဂိုလ်ဖြစ်လာတော့သည်၊ သက်တော် ၂၉၊ သိက္ခာတော် (၁၀)ဝါ ဆိုတာ မထေရ်ကြီးစာရင်း ဝင်လာတော့၏။

သာသနာတော်၌ သတ်မှတ်ချက်တစ်ခု ရှိသည်၊ ရဟန်းသိက္ခာ(၅)ဝါ မပြည့်သေးလျှင် "နဝ"ဟု ခေါ်ရ၏။ [ရဟန်းငယ်-ဟု အဓိပ္ပါယ်ရသည်။]

(၅)ဝါအထက် (၁၀)ဝါ မပြည့်သေးသောပုဂ္ဂိုလ်ကို "မဇ္ဈိမ"ဟု ခေါ်ရသည်။ [ရဟန်းလတ်ဟု အဓိပ္ပာယ်ရသည်။]

(၁၀)ဝါပြည့်လာလျှင်ကား "ထေရ"ဟု ခေါ်ရတော့သည်။ [ထေရ်ကြီး=မထေရ်ကြီးဟု အဓိပ္ပာယ်ရ၏၊ တည်ငြိမ်လာသူဟု ဆိုလိုသည်။]

ဝါ(၂၀)နှင့် (၂၀)အထက်ကိုကား "မဟာထေရ" ဟု ခေါ်ရတော့၏။ [မဟာထေရ်ကြီး-ဟု အဓိပ္ပာယ်ရသည်၊ အပြည့်အဝ တည်ငြိမ်သော ပုဂ္ဂိုလ်ကြီးဟု ဆိုလို၏။]

ယခု ဆရာတော်လေး ဦးဝိမလမှာ "မထေရ်ကြီး စာရင်း"ဝင်နေပြီ၊ အစစအရာရာလည်း ကျခြွေရလာတော့၏၊ ခပ်စောစောပိုင်းကဆိုလျှင် ဤသို့ မဟုတ်တတ်ချေ။

ငယ်ရွယ်သူတို့၏ သဘာဝအရ ကြွားချင်ဝါချင်၏၊ ရဟန်းဒကာ ရဟန်းအမတို့ကလည်း မြှောက်ပင့်ကြသည်၊ ဗန်ကောက်သင်္ကန်း တရွှမ်းရွှမ်းနှင့်၊ ပိုးသင်္ကန်းက တဝင်းဝင်းနှင့်၊ လက်ကိုင်ပဝါဖြူဖြူကလေးကို ခါးမှာ ညှပ်၍၊ ပုသိမ်ထီး အရိုးရှည်ကြီးကို အဖျားကနေကိုင်ပြီး အမြင့်ကြီး မြှောက်၍ဆောင်း၊ မြှောက်ကြွ-မြှောက်ကြွ သွားတတ်သည်ဟူသတည်း။

ယခုကား ထိုသို့ မဟုတ်တော့ပြီ။

## မင်္ဂလာတိုက်သစ်-တိုက်ဟောင်း

ဆရာကြီးဦးအုန်း မရှိပြီးနောက် ကျန်ရစ်သော [ဘုန်း]ကြီးတို့က အသီးသီး တာဝန်ခွဲဝေ၍ အဘိဓမ္မာကို ချပို့ပေးနေကြသည်၊ တစ်ပါးက မာတိကာ၊ တစ်ပါးက ဓာတုကထာ၊ နောက်တစ်ပါးက ယမိုက်၊ တော့ နောက်ထပ်တစ်ပါးက ပဋ္ဌာန်း။

ဤသို့ တာဝန်တွေ ခွဲခြမ်းပြီးလျှင် အစဉ်အလာ မပျက် ချပို့ပေးလျက် နေကြသည်၊ အချိန်ကိုလည်း လွှဲပေးထား၏၊ အဘယ့်ကြောင့်ဆိုသော် မာတိကာကို လိုက်နေသူက ဓာတုကထာကိုလည်း လိုက်လိုက လိုက်နိုင်အောင်၊ ယမိုက်ကို လိုက်နေသူက ပဋ္ဌာန်းကို

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

လည်း လိုက်လိုက လိုက်နိုင်အောင် ဟူ၏။

တစ်နေ့တွင် မင်္ဂလာကျောင်းတိုက်၏ အနောက်ဘက်က ကပ်လျက်ရှိသော "ပင်းတလဲကျောင်းတိုက်" တွင် အကြီးအကဲဆရာတော် ပျံတော်မူသွားသည်။

သို့ဖြစ်၍ မင်္ဂလာတိုက်သို့ လာရောက်အပ်နှံရာ ဦးဓမ္မသာမိ လိုက်ပါနေထိုင်၏၊ ကျောင်းတိုက်ကိုလည်း "မင်္ဂလာတိုက်သစ်" ဟူ၍ အမည်ပြောင်းလိုက်သည်၊ ထိုအချိန်မှစ၍ လက်ရှိ မင်္ဂလာတိုက်က "မင်္ဂလာတိုက်ဟောင်း"ဖြစ်၍ သွားတော့သည်။

တိုက်သစ်– တိုက်ဟောင်း နှစ်ကိုယ့် တစ်စိတ် နေထိုင်ကြကာ အဘိဓမ္မာတွေကို ခွဲဝေချပို့ပေးနေကြ တော့၏။

---

**မှတ်ချက်။** ။တစ်ချိန်က ပင်းတလဲ မင်းသ တည်ထား ဆောက်လုပ် ကိုးကွယ်သော ကျောင်းတို ဖြစ်သောကြောင့် "ပင်းတလဲကျောင်းတိုက်"ဟု တွင်ခဲ့သည် ယခုအခါ "မင်္ဂလာတိုက်သစ်" ဖြစ်လာ၏။

## အရှင်သာရိပုတ္တရာ၏ ညီတော်များ

ပထမ သင်္ဂါယနာပွဲကြီး တင်၍ အပြီးတွင် အရှင် မဟာ ကဿပ ကိုယ်တော်ကြီးက တာဝန်တွေ ခွဲဝေပေးတော်မူခဲ့၏–။ ဘုရားသာသနာတော်ကြီး ဆက်လက် ရှင်သန်နိုင်ရေးမှာ အခြေခံဖြစ်သော ပရိယတ်စာပေတွေ ပျောက်ကွယ် မကုန်ဖို့ အရေးကြီးသည်။ ထို့ကြောင့်–

၁။ "ဝိနည်းပိဋကတ်တွေကို အရှင်ဥပါလိ မထေရ် ဦးဆောင်၍ တပည့်အဆက်ဆက်က သင်ကြားပို့ချ ဆောင်ထားကြရမည်။

၂။ သုတ္တန်ပိဋကတ်တွေကို အရှင်အာနန္ဒာ ဦးဆောင်၍ တပည့်အဆက်ဆက်တို့က သင်ကြားပို့ချ ဆောင်ထားကြရမည်။

၃။ အဘိဓမ္မာပိဋကတ်တွေကိုတော့ အရှင် သာရိပုတ္တရာ၏ တပည့်အဆက်ဆက်တို့က သင်ကြားပို့ချ ဆောင်ထားကြရမည်။"

ယင်းသို့ တာဝန်တွေ ခွဲဝေပေးထားချက်အရ ဆောင်ရွက်လာခဲ့ကြရာ ယခုအခါ မြန်မာပြည်အနေဖြင့် ဆရာတော်လေး ဦးဝိမလတို့၏ လက်ထက်သို့တိုင် ရောက်လာကြလေသည်၊ "အရှင်သာရိပုတ္တရာ၏ အဆက်– အရှင်သာရိပုတ္တရာ၏ ညီငယ်များ"ဟုပင် ဆိုထိုက်လာတော့၏။

ယခုအခါ ဆရာတော်လေး ဦးဝိမလမှာ သက်တော် (၃၀)ပင် ပြည့်မြောက်လာလေပြီ၊ သာသနာတော် အတွက် ဆောင်ရွက်ခဲ့ပါ၏၊ များစွာ တာဝန်ကျေခဲ့ပါ သည်။

* သက်တော်က သုံးဆယ်၊
ဘုန်းကြွယ်ရဲ့လုပ်အား။

* အများကို စာနာ၍၊
တရားဘာဝနာနှင့်၊
ဘုရားသာသနာဖို့၊
သားရတနာ သာရိပုတ်လို၊
ထုတ်ခဲ့ အင်အား။ ။

X



## တစ်ဘဝသာသနာ

# အဘိဓမ္မာသက်သက် တရားပွဲ

ဆရာကြီး ဦးအုန်း၏ အရှိန်အဝါသည် လွန်စွာကြီးမားလှဘိ၏၊ ယခုအထိ သူ့အရှိန်အဝါ မပျက်ပြယ်သေး၊ သူ ချမှတ်စိုက်ထူခဲ့သော အဘိဓမ္မာ တံခွန်အလံသည် တလူလူပင် လွင့်လျက်ရှိသေး၏၊ ထို့ကြောင့်ပင် အနယ်နယ် အရပ်ရပ်မှ စာသင်သားတွေ လာနေကြဆဲဖြစ်သည်။

အပြင်ကိစ္စတွေကို လျှော့နိုင်သမျှ လျှော့၍၊ စာချမှုကိုတော့ မလျှော့စေဘဲ ပရိယတ္တိတာဝန်ကို အားသွန်ကြိုးပမ်း ကိုယ်စီကိုယ်င ထမ်းနေကြသည်။

ထိုသို့ ကြိုးပမ်းထမ်းဆောင်နေကြစဉ် ၁၂၉၁-ခုနှစ် ဆောင်းတွင်းပိုင်းသို့ ရောက်သောအခါ စာကလေးတစ်စောင်နှင့် ဒကာတစ်ယောက် ပေါက်လာ၏။

"ညောင်လေးပင်မြို့သို့ ကြွ၍
အဘိဓမ္မာသက်သက် တရား ဟောပေးပါရန်"

ဟူ၍ ဖြစ်သည်၊ လယ်တီ ဓမ္မကထိက ဆရာတော် ဦးပဒုမထံမှ စာကလေး ဖြစ်၏၊ "ဘယ့်နယ်ကြောင့် မဆက်မစပ် လာ၍ ပင့်ပါလိမ့်မည်နည်း"ဟု တွေး၍ နေမိပါသတတ်။

ဤသို့ လာရောက်ပင့်ပါသော်လည်း မိမိ၏ ချုပ်နေဆဲ စာဝါ၊ ရေးသားလက်စ စာအုပ်ကိစ္စတို့ကြောင့် မအားလပ်သဖြင့် ထိုနှစ်က လက်မခံနိုင်ခဲ့ပါ၊ "နောက်တော့ အကြောင်းသင့်ရင် လိုက်တာပေါ့"ဟူ၍မျှသာ ပြောခဲ့ရသည်။

# အဘိဓမ္မာအကြောင်း လူတွေ သိဖို့ကောင်း

ရဟန်းသိက္ခာ(၅)ဝါခန့်မှစ၍ အဘိဓမ္မာ ညဝါ ကျမ်းကြီးများကို ပီပီပြင်ပြင် နိုင်နိုင်နင်းနင်း ချုပ်လာခဲ့သည်မှာ ယနေ့သက္ကရာဇ် ၁၂၉၂-ခုနှစ်သို့တိုင်အောင်ပင် ဖြစ်၏၊ သာသနာတော်အတွက် မိမိနိုင်ရာဘက်က ဘာဝန်ကို ထမ်းဆောင်နိုင်သဖြင့် မိမိဘဝကို ကျေနပ်ရလေသည်။

မိမိကို မွေးပေးသော အမိအဘများ၊ ဥယျာဉ် ာက်ရှာ မူလဆရာတော် ငယ်ဆရာရင်းမှစ၍ နောက် ာက် ဆရာတော်များအားလုံးပင် ကျေးဇူး ကြီးမား ာ်မူကြပေ၏။

ဆောင်းတွင်းပိုင်းသို့ ရောက်သောအခါ လယ်တီ ဓမ္မကထိက ဆရာတော်ဦးပဒုမထံမှ စာကလေး တစ် ာင်နှင့် ဒကာတစ်ဦး ရောက်လာပြန်၏၊ ကိစ္စမှာ ခင်နှစ်က လျှောက်ထားခဲ့သည့်အတိုင်း-

"ညောင်လေးပင်သို့ ကြွ၍ ဘုရားပွဲတွင်
အဘိဓမ္မာတရားသက်သက် ဟောကြား
ပေးပါရန်"

ဖြစ်၏၊ နှစ်ကြိမ်တိုင် ၂-နှစ် ဆက်၍ ပင့်နေခြင်း ဖြစ်သည်၊ ဤကိစ္စအတွက် စဉ်းစားရတော့၏၊ အဘိဓမ္မာအကြောင်း လူတွေလည်း သိဖို့ကောင်းလှသည်။

အစ်ကိုကြီးသဖွယ် ဖြစ်တဲ့ အောင်ခြင်း ရှစ်ပါး ဘုန်းတော်ကြီး ဦးနာဂဝံသက မိမိအား တရားဟောကိစ္စများကို စိတ်မဝင်စားရန် သတိပေးထားမှု ရှိနေခဲ့၏။

သို့ရာတွင် ဤတရားပွဲမှာမူ မိမိတို့ ချုပ်နေကျ အဘိဓမ္မာတရားသက်သက်လည်း ဖြစ်သည်က တစ်ကြောင်း၊ လယ်တီဆရာတော်ဘုရားကြီး၏ တရားပွဲလည်း ဖြစ်သည်ကတစ်ကြောင်းကြောင့် "ဟောပေးပါမည်"ဟု ဝန်ခံလိုက်တော့သည်။

ထို့ကြောင့် သက္ကရာဇ် ၁၂၉၂-ခု တပေါင်းလဆန်း ၆-ရက်နေ့တွင် မန္တလေးမှနေ မီးရထားဖြင့် ညောင်လေးပင်သို့ ကြွခဲ့၏၊ တပေါင်းလဆန်း(၈)ရက် (၂၃.၃.၃၁)နေ့ညမှ စတင်၍ အဘိဓမ္မာ သက်သက် တရားတော်များ ဟောကြားပေးတော်မူခဲ့သည်။

## ညောင်လေးပင်မြို့ တရားပွဲ

ဤတရားပွဲနှင့် ပတ်သက်ပြီး ဆရာတော်လေး ဦးဝိမလ ကိုယ်တော်တိုင် တစ်ခါတုန်းက ပြန်လည် မိန့်ကြားဖူး၏၊ "ကြီးကြီးကျယ်ကျယ်အနေနဲ့ အခုလို စတင်ပြီး ဟောရတော့မယ်ဆိုတော့ ပရိသတ်ကို ခပ်ရွံ့ရွံ့ ပဲ၊ သိပ်မရဲလှဘူး"တဲ့၊ ဒါကြောင့် အခုလို နိဒါန်းပျိုးပြီးမှ ဟောခဲ့သတဲ့။

"ဒကာ ဒကာမ အပေါင်းတို့... ဦးပဥ္စင်းတို့က ပရိယတ်စာပေ အဘိဓမ္မာတွေ ချပို့နေမှုကသာ များတာပါ၊ ဟောရေး ပြောရေးမှာက မကျွမ်း ကျင်ပါဘူး။

သာမန် တရားပွဲကလေးတွေတော့လဲ ဟောဖူး တာပေါ့၊ အခုလို မဏ္ဍပ်ကြီး ထိုးပြီးတော့ ပရိသတ်တွေ အများကြီးနဲ့ ဟောရတဲ့ တရားပွဲ မျိုးကိုတော့ မဟောရသေးပါဘူး။

အခုလာရတာက လယ်တီဆရာတော်ဘုရားကြီး ရဲ့ တရားပွဲလဲဖြစ်၊ အဘိဓမ္မာသက်သက်သာ ဟောရမယ့် တရားလဲဖြစ်၊ ပြီးတော့ လယ်တီ ဓမ္မကထိက ဦးပဒုမကလဲ ၂-ကြိမ်တိုင်တိုင် စာနဲ့ရေးပြီး ပင့်တာလဲ ဖြစ်ပြန်ဆိုတော့ မနေသာ လို့ အခုလိုလာပြီး ဟောရခြင်းပါပဲ..."

လို့ ယို့ယို့ကလေး- ကျုံ့ကျုံ့ကလေး နိဒါန်း ချီပြီး တရားပွဲ စခဲ့တယ်"လို့ ပြန်လည်အမိန့်ရှိဖူးပါသည်။

သို့ရာတွင် နောက်ပိုင်း၌ကား တတ်သလောက် ပီပီပြင်ပြင် စီစဉ်ပြီး ဟောတော်မူလိုက်ဟန် တူသည်၊ ပရိသတ်တွေက သဘောတွေကျ၊ အားတွေရလွန်းလို့ တဲ့-

"ရှေ့လာမည့်နှစ်တွေမှာလဲ ဤရက်သို့ ရောက် တိုင်း ကြွရောက်ချီးမြှင့်ပေးတော်မူပါဘုရား" ဟူ၍ ဝိုင်းဝန်းလျှောက်ထားကြလေသတတ်။

## တောရွာများ၌ ဖြစ်နေတဲ့ အခြေအနေ

တောရွာအများအပြား၌ သားရှင်ပြုအလှူတွေမှာ တရားနာနေလိုက်ကြတဲ့သူတွေ မဏ္ဍပ်ကြီးနဲ့အပြည့်၊ ဟောတဲ့ဘုန်းကြီးကလဲ စရိုက်ကို သိတယ်၊ သူတို့ နယ်သူနယ်သားအလိုက်၊ သူတို့ရွာသူရွာသားအကြိုက်ပဲ ဟောရတာပေါ့။

လူ့ပြည်ပို့၊ နတ်ပြည်ပို့၊ ကျောင်းဆောက်လို့ နန္ဒိယတို့လို မသေခင်က နတ်ဘုံပေါက်၊ လူ့ပြည် ပြန်ရောက်တဲ့သူတွေကျတော့လဲ ဒါနကြောင့် ဇောတိက၊ ဇင်္ဂီလ၊ ကာကောဏ္ဍာတို့လို ပစ္စည်းဥစ္စာတွေ သုံးမကုန် စွဲမကုန် တောင်လိုပုံတာတွေကို ဟောရတော့တာပေါ့။

တစ်ခါတလေ သီလကြောင့် အမျိုးမြင့်တာ မြတ်တာ ရုပ်ရည်ချောတာတွေလဲ ဟောရတော့တာပေါ့ လေ-၊ တစ်ချက် တစ်ချက်လဲ သက်ဆိုင်ရာ ဂါထာ ကလေးရွတ်၊ အနက်ဆံ ကောင်;ကောင်းပေး၊ အသံ ကလေး အနိမ့်အမြင့်၊ အပင့်အဟိုက်-အရှိုက်အငင်တွေ နဲ့၊ အမိပ္ပာယ် လွင်လွင် ပြော၊ သူတို့ကလဲ အဲလိုမှ သဘောကျတာကိုး-။

## တစ်ဘဝသာသနာ

## အဘိဓမ္မာလေး ပါလေကာမျှ

အဲဒီလိုနဲ့ တောရပ်တောရွာတို့ရဲ့ ဓလေ့ထုံးစံ အတိုင်းအတာအရ–ကုန်ကျထားတဲ့ အလှူကြီးနဲ့ လိုက် သွားအောင် ဘုန်းကြီးကလဲ ၂–နာရီခွဲ၊ ၃–နာရီမျှ ဟောလိုက်ရပါတယ်၊ အဲဒီလိုနဲ့ သုတ္တန် ဝတ္ထု ဇာတ် ကြောင်းတွေနဲ့ ခြယ်မှုန်း၍ ဟောပြီးလို့ တရား အဆုံး သတ်ခါနီးတွင်–

> "ဤသည်ကား သုတ္တန်ဒေသနာတော်မြတ် ဖြစ် ချေသည်။ အဘိဓမ္မာဒေသနာတော်မြတ်သည် ကား "ကုသလာ ဓမ္မာ၊ အကုသလာ ဓမ္မာ၊ အဗျာကတာ ဓမ္မာ" အစရှိသည်ဖြင့် ဟောတော် မူ၏"

ဟု ဆိုကာ ရှိသေး၊ ပရိသတ်ကြီးက လှုပ်လှုပ်ရွရွ ဖြစ် လာကုန်ကြပြီ၊ ပြန်ကြတော့မယ်လို့ ထီးကိုင် ဖိနပ်ကိုင် လုပ်ကုန်ကြပြီ၊ ပြီးတော့မယ် ဆိုတာ သိနေတာကိုး၊ တချို့ကတော့လဲ မလာမကောင်းလို့ ဟိုရွာ ဒီရွာက လာကြရတာ၊ ၂–မိုင် ၃–မိုင် ခရီး ပြန်ရဦးမှာ။

အဲဒီလို အခြေအနေမှာ စာပေဗဟုသုတရှိတဲ့ တစ်ဦးစ နှစ်ဦးစ ကတော့ တစ်မျိုးပဲ၊ သူတို့ကတော့ တည်တည်ငြိမ်ငြိမ်ပဲ၊ "ကုသလာ ဓမ္မာ၊ အကုသလာ ဓမ္မာ" စသည်ဖြင့် ရွတ်တော့မှ လက်အုပ်ချီတတ်ကြ သတဲ့။

ဘာလို့လဲဆိုတော့ "ဒါမှ တရားအစစ်"တဲ့၊ "အဘိဓမ္မာ ပါလေကာမျှကလေး ဖြစ်ပေမယ့်– ဒါမှ ဘုရားဟောသက်သက်၊ ဘုရားနှုတ်တော်ထွက်"–တဲ့။

ဟိုဟာတွေက ဘုရားဟောကလေး နည်းနည်းကို သုတ္တန် အကြောင်းအရာတွေနဲ့ ခြယ်မှုန်းထားတာတဲ့၊ ဓမ္မကထိကပုဂ္ဂိုလ်က အာဝဇ္ဇန်းရွှင်ရွှင်နဲ့ ဟုတ်တာရော မဟုတ်တာရော မွှေနှောက်ပြီး ပြောထားတာတဲ့၊ အဲလို ယူဆကြသတဲ့။

## အဘိဓမ္မာတွေ ထွန်းကားစေချင်လို့

**လယ်တီဆရာတော်ကြီး၏ စေတနာ**။ ။အဲသည် ပရိသတ်က ၂–မျိုး ရှိပါတယ်၊ ဒါပေမယ့် အဲလို ...က အင်မတန် ရာခိုင်နှုန်းနည်းပါတယ်၊ အဘိဓမ္မာ တရားကို "ပျင်းစရာကြီး"လို့ သိထားတဲ့အတွက် ...ကိုင်– ဖိနပ်ကိုင်တဲ့သူတွေက များတတ်ပါတယ်။ အဘိဓမ္မာတရားရဲ့ အနှစ်အသား အရသာကို သူတို့က သိမှမသိကြဘဲကိုး၊ ဒါကြောင့် ဟောတဲ့ဘုန်းကြီးကလဲ "ကုသလာ ဓမ္မာ၊ အကုသလာ ဓမ္မာ"နဲ့ ပါလေကာမျှပဲ ...ကြရတော့တာ။

ဒါကြောင့် လယ်တီ ဆရာတော် ဘုရားကြီးက ...ာ ပြည်သူ ပြည်သားများနဲ့ အဘိဓမ္မာတရားကို ...စေချင်သည်၊ အဘိဓမ္မာ၏အရသာတွေကို သုံး ...် ခံစားစေလိုသည်၊ ထို့ကြောင့် ပါဠိလို တည်ရှိနေ အဘိဓမ္မာသဘောတွေကို မြန်မာလို ကျမ်းစာတွေ ...် ရေးသားတော့သည်။

လွယ်လွယ်နဲ့ သိလို့ရအောင်၊ ကျဉ်းကျဉ်းနဲ့ မှတ်လို့ ဖြစ်အောင် "သံခိပ်"ဆိုတဲ့ အမည်တွေဖြင့် ကျမ်းစာတွေ မြောက်မြားစွာ ရေးသားတော်မူသည်၊ ပြီးလျှင် ရပ်ရွာအနှံ့ မြို့နယ်အနှံ့ တိုင်းခွင်အနှံ့ အဘိ ဓမ္မာတွေ ပြန့်အောင် ကိုယ်တော်တိုင် ခရီးဆန့်တော်မူ သည်။

ရောက်ရာအရပ်တွင် "သံခိပ်အသင်း"တွေ ဖွဲ့၊ အဘိဓမ္မာတရားတွေ ဟော၊ ဝိပဿနာလဲ ကြားညှပ်၊ အဘိဓမ္မာဆိုင်ရာ သံခိပ်စာလဲ ကျက်ကြ၊ မှတ်ကြ၊ ရွတ်ကြစေပါသတဲ့။

ဤနည်းအားဖြင့် လယ်တီဆရာတော်ဘုရားကြီး သည် ညောင်လေးပင်မြို့နယ်သို့လည်း အဘိဓမ္မာတရား ဟောရန် ရောက်သွားတော်မူရလေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ညောင်လေးပင် အဘိဓမ္မာတရားပွဲ ဖြစ်ပေါ်လာရခြင်း



ကျေးဇူးတော်ရှင် လယ်တီဆရာတော်ကြီး ပုံတော်

အဂ္ဂမဟာပဏ္ဍိတဘွဲ့နှင့် ရန်ကုန်တက္ကသိုလ်၏ (D. Litt ဒီလစ်ခေါ်) ကျမ်းတတ်ပါရဂူ ဘွဲ့ထူးများကို ဆွတ်ခူးပန်ဆင်တော်မူခဲ့သော ကျေးဇူးတော်ရှင်လယ်တီ ဆရာတော် ဘုရားကြီးသည် ထက်အောက် တစ်ခွင် မြန်မာပြည် တစ်နံ တစ်လျား လှည့်လည်ကြွသွား၍ တရားစည်ကြီး ရိုက်တီး နေချိန် ဖြစ်၏။

သက္ကရာဇ် ၁၂၈၁–ခုနှစ်တွင် ညောင်လေးပင်မြို့သို့ ကြွလာတော်မူသည်၊ ကြွလာရခြင်းအကြောင်းမှာ ညောင်လေးပင်မြို့နှင့် ၄–မိုင်ခွဲမျှ ဝေးသော ဇီးကုန်းကြီး ရွာမှ တိုက်သူကြီး ဦးသက်က တရားဟောပင့်၍ ကြွလာခြင်း ဖြစ်သည်။

ညောင်လေးပင်မြို့ကလည်း တပေါင်းလသို့ ရောက်တိုင်း နှစ်စဉ်အမြဲ ရွာမရပ်တွင် *သဲပုံစေတီဘုရားပွဲ ကျင်းပနေကျဖြစ်၏။ အငြိမ့် ဇာတ်သဘင် ရုပ်သေးစင်တို့ဖြင့် စည်စည်ကားကား ကျင်းပနေကျဖြစ်သည်၊ ယခု ၁၂၈၁–ခုနှစ်တွင် ဦးဖူးညိုရုပ်သေးစင်ကို သွင်း၍ ခင်းကျင်းကပြလျက် ရှိ၏၊ လယ်တီဆရာတော်ဘုရားကြီး ကြွလာခိုက်နှင့် ကြုံနေသည်၊ ဆရာတော်ကြီးက

"ဆိုင်းသံ ဗုံသံတွေ ကြားနေတယ်၊
ဘာလုပ်ကြတာလဲ ကွယ့်"

ဟူ၍ မေးတော်မူတော့၏၊ ထိုအခါ ဒကာများက "ဘုရားပွဲပါဘုရား"ဟု လျှောက်ထားကြရလေသည် ဆရာတော်ဘုရားကြီးက–

"အို... မင်းတို့ကလဲကွယ်–၊ (တစ်နှစ်တစ်ခါ၊ ရေရှား၊ လူ့ရွာဘုရားပွဲ) ဆိုတာလို ဖြစ်နေပေါ့၊ ဒီလို လုပ်ကြပါကွယ့်၊ အငြိမ့်တွေ ဇာတ်တွေ ရုပ်သေးတွေ မထည့်ပါနဲ့တော့။
ဘုရားပွဲမှာ အဲဒါတွေထည့်တော့ ကုသိုလ်မရတဲ့ အပြင် အကုသိုလ်တွေတောင် ပွားသေးတယ်၊ ဘုရားကလဲ ကြိုက်မှာ မဟုတ်ပါဘူး၊ ဒါ့ကြောင့် ပြင်လိုက်ကြစမ်းပါ၊ အဲဒီ သဘင်ပွဲတွေအစား တရားပွဲ ထည့်ရအောင်၊ ငါဟောပေးမယ်"

ဟူ၍ မိန့်တော်မူတော့၏၊ သို့ဖြစ်၍ နောက်တစ်နှစ် ၁၂၈၂–ခုနှစ် တပေါင်းလမှစ၍ လယ်တီဆရာတော် ဘုရားကြီး ကိုယ်တော်တိုင် ကြွရောက်လာပြီး ဘုရားပွဲမှာ တရားချီးမြှင့်တော်မူ၏။

ထိုစဉ်က လယ်တီ ဆရာတော် ဘုရားကြီးသည် နိုင်ငံတွင်း အနှံ့အပြား အဘိဓမ္မာတွေ ပြန့်ပွားအောင် ကြိုးစားနေခိုက်လည်း ဖြစ်သည်။

**မှတ်ချက်။** ။ဤတရားပွဲ၏ ထူးခြားချက်မှာ (က) အခြားသောတရားပွဲတို့ကဲ့သို့ သုတ္တန်တရားများကို မဟောရပေ၊ (ခ) သံနေသံထားဖြင့်လည်း ယပ်လဲတရား များကို မဟောရပေ၊ (ဂ) လယ်တီဆရာတော်ဘုရား၏ စည်းကမ်းဆောင်ခတ်ပေးမှုအရ "အဘိဓမ္မာသဘောတရားများကိုသာ" ရိုးရိုးအသံဖြင့် ဟောရလေသည်။

* နောက်ပိုင်းတွင် သဲပုံစေတီကို အုတ်တို့ဖြင့်ဖုံး၍ "ပြည်လုံး ချမ်းသာစေတီ" ဟူ၍ ဘွဲ့မည်ပေးပြီး မြေပေါ်က်စေတီ တည်ထားကိုးကွယ်ကြသည်။ ညောင်လေးပင်မြို့မြောက်ဘက်တွင်တည်ရှိသည်။

## လယ်တီနှင့် တပည့်အဆက်ဆက်

နောက်နှစ် နောက်နှစ်များတွင်လည်း လယ်တီဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ကြိုးစား၍ ကြွ–ကြွလာတော်မူသည်၊ ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၆၇–ခုနှစ်မှ ၁၂၈၄–ခုနှစ်အထိ (၁၇)နှစ် ကိုင်တိုင် မြန်မာပြည်အတွင်း လှည့်လည်ကြွ၍ သာသနာ ပြုခရီး ဆန့်တော်မူခဲ့၏။

နောင်ပိုင်းတွင်ကား ဤညောင်လေးပင်မြို့သို့ ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မကြွနိုင်သော အခါ လယ်တီဆိုင်ရာ တပည့်ကြီးများ အလှည့်ကျ ကြွ–ကြွလာတော်မူတတ်ကြသည်။

သစ်ချတောင် ဦးတိလောက၊ လယ်တီ ပဏ္ဍိတ၊ လယ်တီ ဦးစန္ဒိမာ၊ လယ်တီ ဦးပဒုမ စသော တပည့်ကြီးများ ကြွ–ကြွလာကြပြီးလျှင် တရားဟောပေးတော်မူကြသည်၊ ဤသို့အားဖြင့် (၁၀)နှစ်ခန့်မျှ ကြာ၍ ၁၂၉၁–ခုနှစ်သို့ ရောက်သောအခါ စစ်ကိုင်းတောင်ရိုး၊ ဇမ္ဗူ့ပဒိချောင်တွင် သီတင်းသုံးတော်မူသော လယ်တီ စာချ ဓမ္မကထိက လယ်တီ ဦးပဒုမက မိန့်သည်–

> "ဒကာတို့ရေ... ငါတော့ လေငန်းရောဂါ စွဲကပ်လာပြီ၊ ခြေတွေ လက်တွေ သိပ်မသယ်ချင်တော့ဘူး၊ ဒီတော့ မင်းတို့ တရားပွဲနဲ့ လျော်တဲ့ ကိုယ်တော်တစ်ပါး– ငါ တွေ့ထားတယ်။
>
> အဲဒီကိုယ်တော်က ဘယ်သူလဲ ဆိုတော့ အမရပူရ မင်္ဂလာတိုက်က စာချဆရာတော်လေး ဦးဝိမလပဲ ဟေ့...။
>
> အဘိဓမ္မာ ထိပ်သီး၊ ဝိနည်း–သုတ္တန်တို့မှာလဲ ကျွမ်းကျင်တာပဲကွ၊ သိက္ခာကလဲ (၁၀)ဝါဝန်းကျင်လောက်ပဲ ရှိဦးမယ်၊ သူ့ကို ပင့်ရမယ်"

ဟု ညွှန်ကြားပါသတတ်။

## အဘိဓမ္မာနှင့် သင့်တော်တဲ့ ဓမ္မကထိက

ဘုန်းကြီး သွားပင့်ရမည့် ညောင်လေးပင်မှ ..:အေးမောင်က "ဦးဝိမလဆိုတာ တပည့်တော်တို့ ..သိဘူး ဘုရား့"ဟု လျှောက်သောအခါ "ငါ စာရေးပေး ..ိုက်ပါမယ်ကွ"ဟု မိန့်ပါသတတ်၊ ထိုစာဖြင့် သွားရာ ..ရာတော်လေး ဦးဝိမလက–

> "ဒီနှစ်တော့ အကြောင်း မညီညွတ်သေး၍ မလိုက်နိုင်သေးပါ၊ နောင်နှစ်များမှ အကြောင်း ညီညွတ်သလိုပေါ့"

ဟု ပြောလိုက်ပါသတဲ့။

သက္ကရာဇ် ၁၂၉၂–ခုနှစ်တွင် တစ်ဖန် လယ်တီ ဓမ္မကထိက ဦးပဒုမ ဆရာတော်က စာရေး၍ ပေးလိုက်ပြန်၏၊ ထိုအခါကျမှ လက်ခံလိုက်သည်ဟူ၏၊ ထို့နောက် တပေါင်းလတွင် ညောင်လေးပင်သို့ ကြွ၍ ဟောပြပေးလေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## မင်းကွန်းဘက်သို့လည်း ကြွရ

ဤသို့လျှင် ဆောင်းတွင်းပိုင်း ရောက်တိုင်း နှစ်စဉ် ကြွ၍– ကြွ၍ လာခဲ့ရာ ၁၂၉၄–ခုနှစ်တွင်ကား မိုးကုတ်မြို့မှ ဆောက်လုပ်လှူဒါန်းမည့်ကျောင်းဒကာ ပေါ်ပေါက်၍လာတော့၏။

မိုးကုတ်မြို့မှ ကျောင်းဒကာ ဦးပု + ဇနီး ဒေါ်နန်းဇော်တို့ မိသားစုက ဆရာတော်လေး ဦးဝိမလ အတွက် မင်းကွန်း မိုးကုတ်ချောင်၌ ကျောင်းငယ် တစ်ဆောင် ဆောက်လုပ်လှူဒါန်းကြသည်။

ဤအခါတွင်မှ ဆရာတော်လေးအတွက် နေရေး ထိုင်ရေး အဆင်ပြေသွားတော့၏၊ သို့သော် စာလိုက်ရန် ခေတ္တ ပြောင်းရွှေ့လာကြသော သီလရှင်များအတွက် ကား လိုအပ်နေဆဲပင်ဖြစ်သည်။

ဆရာတော်လေး ဦးဝိမလသည် ၁၂၉၃–ခုနှစ် တွင်လည်း တန်ဆောင်မုန်း– နတ်တော် စာဝါတွေ သိမ်းပြီးသောအခါ မင်းကွန်းဘက်သို့ ကြွတော်မူ၏၊ အဘိဓမ္မာညဝါဆိုင်ရာတို့ကို ချပို့ပေးတော်မူသည်။

ဤသို့ ဆောင်းတွင်း– ဆောင်းတွင်းကာလမှာ မင်းကွန်းဘက်သို့ ကြွ– ကြွလာ၍ အဘိဓမ္မာများကို သင်ကြားချပို့ပေးကြောင်း သိလာကြသောအခါ သီလ ရှင် ပရိသတ်တို့လည်း တဖြည်းဖြည်း တိုး–တိုးလာကြ တော့သည်။

ထိုစဉ်က မင်းကွန်းမိုးကုတ်ချောင်တွင် နေရာ ထိုင်ခင်း အဆောက်အအုံ မပြည့်စုံလှသေးပါ၊ သို့ဖြစ်၍ ဆရာတော်ကလေးအတွက်လည်း သင့်တော်အောင် နေစရာ ထိုင်စရာ မရှိသေးပါ။

## မိုးကုတ်မြို့သို့ စတင် ကြွရောက်

သက္ကရာဇ် ၁၂၉၄–ခုနှစ် နတ်တော်လပြည့်ကျော် (၁၁)ရက်ဆိုလျှင် ဆရာတော်လေး ဦးဝိမလ သက်တော် ၃၃–နှစ် ပြည့်ပြီ၊ သိက္ခာတော်လည်း ၁၄–ဝါ ရပြီ၊ ထုံးစံအတိုင်းပင် ဆောင်းတွင်းမှာ မင်းကွန်း၊ နွေဦး တပေါင်းမှာ ညောင်လေးပင်သို့ ကြွရ၏။

ညောင်လေးပင်မှ အပြန်တွင် မိုးကုတ်မြို့မှ ကျောင်းဒကာကြီး ဦးလယ်၊ ဇနီး ဒေါ်သိုင်းခြံတို့က ဦးဆောင်၍ ဆရာတော်ကလေး ဦးဝိမလကို မိုးကုတ်မြို့ သို့ ပင့်ဆောင်ကြသည်၊ သို့ဖြစ်၍ ထိုနှစ် နွေဦးပေါက် ကာလတွင် မိုးကုတ်မြို့သို့ စတင်၍ ရောက်ရလေတော့ ၏။

အစဦးဆုံး အခေါက်၌ နေထိုင်ရေးအတွက် မိုးကုတ်သူ ရဟန်း အမကြီး ဒေါ်ဝိစာရီ (ငယ်နာမည် ဒေါ်အေးဘော်)၏ စီစဉ်ပေးချက်အရ အရှေ့ရွာကျောင်း တွင် တည်းခို သီတင်းသုံးရသည်။

ဆရာတော်လေး ဦးဝိမလ ညောင်လေးပင်သို့ ကြွ ကြွပြီး တရားဟောသည်ကို ကြား၍ တရားဟော တတ်မှန်းလည်း သိနေ၏၊ ထို့ကြောင့် ဦးလယ်တို့က "တရားနာလိုသည်၊ တရားပွဲ ကျင်းပမည်"–ဟု ဆရာ တော်လေးထံ အခွင့်ပန်၍ တရားပွဲ စီမံကြတော့သည်။

"တရားဟောပွဲကို အိမ်မှာ ကျင်းပမည်"ဟု သတ်မှတ်ကြ၏၊ အချိန်ရောက်သောအခါ မိုးကုတ်မြို့၊ ရျော့တောင်ရပ်မှာ ရှိသော ကျောင်းဒကာ ဦးလယ်၊ ဇနီး ဒေါ်သိုင်းခြံတို့၏ နေအိမ်မှာ ကျင်းပကြသည်။

မိုးကုတ်ရောက်စက တရားဟောပုံမှာ ပဋ္ဌာန်း သဘောတရားများသာ ဖြစ်ပါသတတ်၊ (ညောင်လေးပင်





မိုးကုတ်မြို့မှ ကျောင်းဒကာကြီး ဦးလယ် နှင့် ဇနီး ကျောင်းအစ်မကြီး ဒေါ်သိုင်းခြုံ

"လောကကြီး တစ်ခုလုံးမှာ အကြောင်းတရား တွေကြောင့်–အကျိုးတရားတွေ ဖြစ်နေမှုသာ ရှိတယ်၊ ဒကာ လယ် ဆိုတာ မရှိ၊ ဒကာမ သိုင်းခြုံဆိုတာလဲ မရှိ၊ အကြောင်း–အကျိုး ဓမ္မအစဉ်အတန်းကြီးမျှသာ ရှိနေတယ်"

ဤသို့လျှင် သက္ကာယဒိဋ္ဌိ စင်အောင် ဟောနေခြင်းမျိုးသာ ဖြစ်သည်ဟူ၏။

မှာ ဟောသကဲ့သို့) ပဋ္ဌာန်းပစ္စည်း– ပစ္စယုပ္ပန်တို့ကို ရှင်းပြခြင်းမျိုးသာ ဖြစ်သည်ဟူ၏၊

"ပစ္စည်း"ဆိုတာ "ပစ္စယ"ဆိုတဲ့ ပါဠိက လာတာ၊ "အကြောင်းတရား"လို့ အဓိပ္ပာယ်ရတယ်၊ "ပစ္စယုပ္ပန်"ဆိုတာကလဲ "ပစ္စယုပ္ပန္န"က လာတာ၊ "အကျိုးတရားတွေ"လို့ ဆိုလိုတယ်။

## ညောင်လေးပင်နှင့် ဆရာတော်လေး

တောရကြီးမှ စာချဆရာတော်တစ်ပါးဆိုလျှင် ဆရာတော်လေး ဦးဝိမလထက် သိက္ခာကြီးတော်မူ၏၊ သို့သော်လည်း အားပေးသောအားဖြင့် တောရကြီးမှ တစ်မိုင်ခွဲမျှဝေးသော ဆရာတော်လေး၏ တရားပွဲသို့ ရောက်အောင် လာ၍ နာတော်မူသည်။

ဆရာတော်လေး ဦးဝိမလနှင့် ညောင်လေးပင် ဒကာ–ဒကာမတို့လည်း တစ်နေ့ထက် တစ်နေ့ ရင်းနှီး ရင်းနှီးလာကြသည်၊ ဟောသမျှ ပြောသမျှတို့ကိုလည်း သဘောကျကြ၏၊ အတော်များများ လက်ခံလာကြပြီ။

အဘိဓမ္မာတရား ဟောသည် ဆိုသော်လည်း ပဋိစ္စ သမုပ္ပါဒ်ကိုပါ ထည့်သွင်း၍ ဟောပြ သဖြင့်

ဆရာတော်လေး ဦးဝိမလသည် ညောင်လေးပင်သို့ တရားဟောကြွလာတိုင်း ပြုလုပ်လေ့ရှိသော ဝတ္တရား တစ်ခုရှိ၏၊ ယင်းကား တရား မဟောခင် တောရကြီး ကျောင်း ဆရာတော်ဘုရားကြီး ဦးအရိယထံ သွားရောက်ကန်တော့ခြင်း ဖြစ်သည်၊ အဆုံးအမကို ခံယူ၍၊ ပြီးမှ ဟောသည်။

အထူးအားဖြင့် တောရကြီးဆရာတော်ဘုရားကြီး က ချီးမြှောက်တော်မူ၏၊ တရားပွဲသို့လည်း တပည့်ကြီး များကို တရားနာရန် လွှတ်သည်၊ ထို့ကြောင့်ပင် တိုက်အုပ်– တိုက်ကြပ်– တပည့်ကြီးများ ကြွ–ကြွ လာတတ်ကြ၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

တောရကြီး ဆရာတော်ဘုရားက ပို၍ သဘောကျတော်မူ၏၊ အဘယ့်ကြောင့်ဆိုသော်–

တောရကြီး ဆရာတော်ဘုရားကြီး ဦးအရိယ ကိုယ်တော်တိုင် "ပဋိစ္စသမုပ္ပါဒ်အရသာ" ကျမ်းစာကို စီရင်ရေးသားပြီး ပဋိစ္စသမုပ္ပါဒ် ထွန်းကားအောင် ဆောင်ရွက်တော်မူနေသောကြောင့် ဖြစ်လေသည်။

**မှတ်ချက်။** ။အဘိဓမ္မာဆိုသည်မှာလည်း ပစ္စည်း–ပစ္စယုပ္ပန်၊ အကြောင်းနှင့်အကျိုး၊
"ပဋိစ္စသမုပ္ပါဒ်" ဆိုတာကလည်း "အကြောင်းကြောင့်–အကျိုးဖြစ်"ဆိုတော့ အကြောင်းနှင့်အကျိုးပင်ဖြစ်သည်။

## သူတော်ချင်းချင်း သီတင်းမွေ့မွေ့

ညောင်လေးပင်ဘုရားပွဲ၌ တရားဟောရာတွင် ဆရာတော်လေး ဦးဝိမလချည်း ဟောရသည်မဟုတ်ပါ၊ အခြားနာမည်ကြီး ဓမ္မကထိကတို့လည်း ပါကြပါသေး၏၊ သူ့ရက်နှင့်သူ ဟောကြရသည်။

၁၀–ရက်ခန့်မျှ ဘုရားပွဲ ကျင်းပကြသလို တရားပွဲကိုလည်း ၁၀–ရက်ခန့်မျှ ကျင်းပကြလေသည်။

သက္ကရာဇ် ၁၂၉၅–ခုနှစ်နှင့် ၁၂၉၆–ခုနှစ်များတွင် ပခုက္ကူမြို့မှ ပခုက္ကူစာချ ဆရာတော်ဦးအဂ္ဂဝံသနှင့် ဆရာတော် ဦးပုညတို့လည်း ပါကြ၏။

သဲပုံစေတီအနီးရှိ ခင်တန်းကျောင်းမှာ တည်းခိုကြရသည်၊ ရက်အတန်ကြာလာသောအခါ တစ်ပါးနှင့်တစ်ပါး ပိုမို ရင်းနှီးလာကြ၏။

ဆရာတော် ဦးအဂ္ဂဝံသက ဆရာတော်ကလေး ဦးဝိမလထက် သိက္ခာကြီး၏၊ သို့သော် တစ်ပါးနှင့်တစ်ပါး လေးစားကြသည်။ သူတော်ချင်းချင်း သီတင်းမွေ့မွေ့ ဖြစ်တော်မူကြ၏။

## အဘိဓမ္မာ အခဲအကပ် ပြဿနာများ

တစ်နေ့တွင် ဆရာတော် ဦးအဂ္ဂဝံသက ဆရာတော်လေး ဦးဝိမလအား "ညဝါနှင့်ပတ်သက်၍ အနည်းငယ် မေးပါရစေ"ဟု ခွင့်ပန်၏၊ "မေးပါ–မေးပါ"ဟု ခွင့်ပြုသည်၊ သို့ဖြစ်၍ ယမိုက်နှင့် ပဋ္ဌာန်းတွင် ခက်ခဲသော အဖုအဆစ် အထုံးအဖွဲ့ကလေးများကို မရှင်းလင်းသဖြင့် မေးမြန်းလေသည်။

ဆရာတော်လေး ဦးဝိမလက အမြဲတမ်း ချပို့နေကျဖြစ်၍ မဆိုင်းမတွ ဒိုးဒိုးဒေါက်ဒေါက် အဖြေပေးနိုင်လေ၏၊ အနားတွင် ခင်တန်းကျောင်းမှ ဒုတိယ ဆရာတော်လေး ဦးသုမနလည်း စာနာနေသည်။

နေ့လယ် ၁၂–နာရီခွဲခန့်မှစတင်၍ မေးလိုက်ဖြေလိုက်၊ မေးလိုက်–ဖြေလိုက်နှင့် လာခဲ့ကြရာ ညနေ ၄–နာရီခန့်အထိ ဖြစ်၍သွားလေသည်၊ မေးသူဘက်ကလည်း မရှင်းလင်းခဲ့သည်တို့ကို သိရ၍ ကျေနပ်၏၊ ဖြေသူဘက်ကလည်း ရှင်းလင်းပေးနိုင်ခဲ့၍ ကျေနပ်ရလေသည်။

ဤနည်းအားဖြင့် ပခုက္ကူ စာချဆရာတော် ဦးအဂ္ဂဝံသက အမေး၊ ဆရာတော်လေး ဦးဝိမလက အဖြေလုပ်ပြီး လာခဲ့ကြရာ (၃)ရက်တင်းတင်း ပြည့်၍သွားလေသည်။ မေးစရာလည်း ကုန်ပြီဟု ဆိုသည်။

ထို့ကြောင့် (၄)ရက်မြောက်တွင်ကား ဆရာတော်လေး ဦးဝိမလက တစ်ဖန်ပြန်၍ "မေးပါရစေ"ဟု ခွင့်ပန်ပြန်၏၊ အခွင့်ရသဖြင့် ဝိသုဒ္ဓိမဂ်ကျမ်းလာ အခဲအကပ်ကလေးများကို မေးလေသည်၊ ဆရာတော် ဦးအဂ္ဂဝံသကလည်း မေးတိုင်း–မေးတိုင်း ဖြေကြား၍ အားရကျေနပ်သည်အထိ ရှင်းပြပေးလေသည်။

ဤသို့လျှင် တစ်ပါးနှင့် တစ်ပါး မာန်မာနမထား ကြဘဲ ပညာများကို ဖလှယ်ကြ ပြီးလျှင် အချင်းချင်း လေးစားကြည်ညိုကြလေသည်။

တစ်ဘဝသာသနာ

# "မိုးကုတ်မြို့"လို့ ဘာ့ကြောင့်ခေါ်

သက္ကရာဇ် ၁၂၉၅–ခုနှစ်တွင်လည်း (ညောင်လေး ...င် တရားပွဲအပြီး) တန်ခူးလဆန်းပိုင်းမှာ မိုးကုတ်မြို့သို့ ...ာက်ခဲ့၏၊ ဤဒုတိယအခေါက်တွင် "နတ်မွန်ကျောင်း" ... တည်းခို သီတင်းသုံးရသည်။ တရားပွဲကိုကား ...လယ်+ဒေါ်သိုင်းခြုံတို့နေအိမ်မှာပင် ကျင်းပကြသည်။

မိုးကုတ်မြို့သည် တောင်ပေါ်မြို့ဖြစ်၏၊ ပင်လယ် ရေပြင် အထက်ပေ(၄၀၀၀)လေးထောင်ကျော်မြင့်သည်၊ တောင်တန်းတွေက ပတ်ချာလည် ဝိုင်းကာထား၏၊ အတွင်းဘက်၌ ဒယ်အိုးကင်းသဖွယ် တဖြည်းဖြည်း နိမ့်ဆင်းသွားသည်၊ ထို၏ အလယ်ကောင်တွင်မှာမှ ...မြို့တည်ထား၏၊ ဤမြေပြင် ဤဝန်းကျင် တစ်ခုလုံးကို ကျောက်သံပတ္တမြားတွေ ထွက်သောကြောင့် "ပတ္တမြား မြေ"ဟုလည်း ခေါ်ကြသေးသည်။

ဤနေရာတွင် ဘာ့ကြောင့် "မိုးကုတ်"လို့ ခေါ်ကြတာလဲ၊ ဤသို့ မေး၍ လေ့လာတတ်ကြ၏၊ အဖြေကို ဤသို့ ပေးကြသည်။

> "မိုးကုတ်"ဆိုတဲ့ အသံနဲ့ ခပ်ဆင်ဆင် တူတဲ့ "မိန်းကွတ်"ဆိုတဲ့ ရှမ်းစကား၊ နောက်တစ်မျိုး က "မိန်းကု(ပ်)"လို့ခေါ်တဲ့ ရှမ်းစကားတို့မှ လာသည်"တဲ့။
>
> အဓိပ္ပာယ်မှာ "မိန်း"ဆိုတာက "မြို့"၊ "ကွတ်" ဆိုတာက "ကောက်ကွေ့ခြင်း"လို့ အဓိပ္ပာယ်ရ၊ နှစ်ရပ်ပေါင်းလိုက်တော့ "ကောက်ကွေ့နေတဲ့ သဏ္ဌာန်ရှိတဲ့ မြို့"
>
> နောက်တစ်နည်း– "မိန်း" ဆိုတာက "မြို့"၊ "ကု(ပ်)" ဆိုတာက "ခမောက်ကို ပက်လက် လှန်ချထားတဲ့ အသွင်သဏ္ဌာန်"၊ နှစ်ရပ် ပေါင်းလိုက်တော့ "ခမောက်ကို ပက်လက်လှန် ချထားသည်နှင့် တူသော မြို့"ဟု အဓိပ္ပာယ် ရပါသတတ်၊ နောက်နည်းက ပို၍ ဗျူပွတ်နှင့် လိုက်ပြီး ကိုက်ညီသည်။

နွေကာလတွင် နေလို့ကောင်း၏၊ လေကလေး တဖြူးဖြူးနှင့် ကြည်နူးဖွယ်ဖြစ်သည်၊ မန္တလေးနှင့် အမရပူရတို့လို နွေကာလတွင် ပူဟိုက်ဟိုက်ကြီး မဟုတ်၊ ရာသီဥတုမှာ နေလို့ ထိုင်လို့ ကောင်းရုံမျှသာ ဖြစ်၏၊ ထို့ကြောင့် "မိုးကုတ်မြို့ဟာ နွေကာလမှာ နေဖို့ကောင်း သောမြို့"ဟူ၍ ဆရာတော်ကလေး ဦးဝိမလက မှတ် ချက် ချသည် ဟူ၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏
## ပန်းဝတ်ရှိရာ ပျားများလာသို့

အမရပူရ မင်္ဂလာတိုက်ဟောင်း–တိုက်သစ်တို့၏ အဘိဓမ္မာ ဂုဏ်သတင်းကား တစ်နိုင်ငံလုံး သင်းနေတော့သည်၊ ဆရာတော် ဦးဝိမလအပြင် ဆရာတော် ဦးခမ္မသာမိ၊ ဆရာတော် ဦးအာစယ၊ ဆရာတော် ဦးဥက္ကံသတို့ စုံစုံညီညီ ညှိနှိုင်းတိုင်ပင်၍ ချပို့ပေးနေကြသည်။

ထို့ကြောင့်လည်း မြန်မာပြည်အရပ်ရပ်မှ အဘိဓမ္မာ လိုလားကြသော စာသင်သားသံဃာတော်တို့သည် လူးလာတုံ့ခတ်– ပျားများပန်းခပ်သလို တရစပ်ပင် ထွက်ဝင် သင်ကြားနေကြကုန်တော့၏။

၁၂၉၆–ခုနှစ်တွင်လည်း မိုးကုန်၍ စာဝါတွေ သိမ်းလျှင် မင်းကွန်းဘက်သို့ ကူးသည်၊ နွေဦးပေါက်လျှင် ညောင်လေးပင်သို့ ကြွသည်၊ ယင်းမှ ပြန်လျှင် မိုးကုတ်သို့ တက်သည်။

ဤတတိယအခေါက်တွင် "သုသာန်ကျောင်း" ၌ တည်းခိုသီတင်းသုံးရ၏၊ တရားပွဲကိုကား ဦးလယ်–ဒေါ်သိုင်းခြံတို့၏ နေအိမ်မှာပင် ကျင်းပကြသည်။ [နောက်ပိုင်းလာတဲ့အခေါက်တိုင်း သုသာန်ကျောင်းမှာချည်း တည်းခိုသည်ဟု ဆို၏။]

## အပွေးမြင်ရုံနဲ့ အပင်သိသလို

ဆရာတော်လေး ဦးဝိမလ၏ ဟောပြောဟန်မှာ ရိုးရိုးပင် ဖြစ်၏၊ ထိုခေတ်ထိုအခါတုန်းက ခေတ်စားနေကြသော ယပ်လှဲ့မွှမကထိကတို့လို အသံနေအသံထားနှင့် ဟောသည်မဟုတ်၊ အဆွဲအငင် အရှိက်အပင့်ကိုလည်း မသုံး၊ ရိုးရိုးပင် စာအဓိပ္ပာယ်ပြောသလို ပြောနေခြင်းမျိုး ဖြစ်သည်။

မိုးကုတ်သူ မိုးကုတ်သားတို့က ကျောက်ရိုင်းတုံးတစ်ခုကို တွေ့လျှင် (အပွေးမြင်ရုံနဲ့ အပင်သိဆိုသလို) အသွေးမြင်ရုံနဲ့ အသွင်ကို သိကြ၏၊ အကဲခတ်တတ်ကြ၏၊ တန်ဖိုးကို သိကြသည်။

ထို့အတူ ယခု ဆရာတော်လေး ဦးဝိမလ၏ အရည်အသွေးကိုလည်း သူတို့ သိနေကြပြီ၊ ဟောပြောမှု အနည်းငယ်ကို နာရုံမျှဖြင့် သူတို့ သဘောကျနေကြပြီ၊ ထို့ကြောင့် "နွေရောက်တိုင်း မိုးကုတ်သို့ အမြဲကြွလာပါရန်" ဝိုင်း၍ လျှောက်ထားနေကြပြီ။

ထို့ကြောင့် နွေရောက်တိုင်း မိုးကုတ်တက်၊ ဝါဆိုခါနီးတွင် အမရပူရပြန်၊ ဆောင်းတွင်း ရောက်ပြန်က မင်းကွန်းသို့ ကူး၊ နွေဦးပေါက်ပါက ညောင်လေးပင်သွား၊ ဤသို့ ဇယားချထားတော့သည်။

## တစ်ဘဝသာသနာ

# စာချဖို့ရာ ဇရပ်ကြီးတစ်ဆောင်

ဆရာတော် ဦးဝိမလ နှစ်စဉ် နှစ်တိုင်း မင်းကွန်းသို့ ကြွ၍ စာချပေးသော်လည်း နေရာဌာနက ပြည့်စုံမှု ိလုပါ၊ပရိသတ်တွေက များ၍ များ၍ လာသောအခါ နေရာဌာနအတွက် အခက်အခဲ ကြုံရလေသည်၊ ဤ ိသနာကား မဆန်းတော့ချေ၊ အမရပူရမှာ အမြဲလို ှဲ့နေရ၏၊

သို့ဖြစ်၍ ယခု ၁၂၉၇–ခုနှစ်တွင် ဆောင်းတွင်း ိး စာချဖို့အမီ မိုးကုတ်မြို့မှ ဘုရား ဒကာကြီး ဦးလှိုင် + ဇနီး ဒေါ်ရှင်တို့ မိသားစုက မင်းကွန်း၌ ဇရပ်ကြီး တစ်ဆောင် ဆောက်လုပ်လှူဒါန်းကြလေသည်၊ ထို့ကြောင့် စာချရာ၌ ကျယ်ကျယ်ပြန့်ပြန့် လုံလုံလောက်လောက် ဖြစ်၍ သွားရတော့၏။

ထိုမျှမက အာရုံခံ တန်ဆောင်းကြီး တစ်ခုကိုလည်း ဆောက်လုပ် လှူဒါန်းကြသေး၏၊ ထို့ပြင် စေတီကြီး တစ်ဆူကိုပါ ပြုပြင်မွမ်းမံကြသေးသည်။

# "မိုးကုတ်ဆရာတော်" တွင်လာခြင်း

မင်းကွန်းဘက်တွင် စာချဖို့နေရာ အခက်အခဲ ဘွေ့ရသလိုပင်– အမရပူရတွင်လည်း စာချဖို့နေရာ ေလုံလောက်သေးပါ၊ ထို့ကြောင့် မိုးကုတ်မြို့–မြို့မရပ်မှ ီဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံ မိသားစုတို့က တာဝန်ယူကြသည်၊ ဆောက်လုပ်ပါမည်–ဟု လျှောက်ကြ၏။

ဤမိသားစုသည် မိုးကုတ်မြို့တွင် ဟောသော ဆရာတော် ဦးဝိမလ၏ တရားပွဲများသို့ မလွတ်တမ်း ာက်ကြ၏၊ တရားတော်ကို သဘောကျသည်၊ သို့ဖြစ် ဆရာတော်ကိုလည်း ကြည်ညိုကြလေသည်။

ထို့ကြောင့် ထိုအချိန်ကစ၍ပင် ဤမိသားစုက ာတော် အမြဲသီတင်းသုံးသော အမရပူရမြို့ မင်္ဂလာ ျာင်းတိုက်ဟောင်းတွင် ရေချမ်းသာဖို့ရန် စက်ရေတွင်း တူး၍ စက်နှင့်တကွ လှူဒါန်းကြတော့သည်။

ထို့နောက် ၁၂၉၇–ခုနှစ်တွင် ဆရာတော်ဦးဝိမလ စာချဖို့၊ သီတင်းသုံးဖို့ရန် ရည်ရွယ်၍ အမရပူရ မင်္ဂလာတိုက်ဟောင်းအတွင်း၌ ကျောင်းကြီးတစ်ဆောင် ဆောက်လုပ် လှူဒါန်းကြလေသည်။

ဤသို့လျှင် မိုးကုတ်သို့ ကြွ၍ တရားဟောခြင်း၊ မိုးကုတ်ဒကာ–ဒကာမတို့က ကြည်ညိုကြခြင်း၊ မိုးကုတ်မှပင် လာ၍ ကျောင်းကြီးတစ်ဆောင် ဆောက်လုပ်လှူဒါန်းခြင်း၊ ထိုမိုးကုတ်ကျောင်းကြီးပေါ်မှာ သီတင်းသုံးခြင်း စသော အကြောင်းတို့ကြောင့် ဆရာတော် ဦးဝိမလကို "မိုးကုတ်ဆရာတော်"ဟု ခေါ်လာကြတော့သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ညောင်လေးပင်မြို့နယ် ဝါဒရေးရာ ပြဿနာတစ်ခုကို ဖြေရှင်းခဲ့

ဆရာတော်ကလေး ဦးဝိမလ ညောင်လေးပင်မြို့၌ တရားဟောလာခဲ့သည်မှာ ယခုဆိုလျှင် ၄–၅–၆ နှစ်ပင် ရှိလာချေပြီ၊ နယ်လူထုပရိသတ်နှင့်လည်း ရင်းနှီးလာ၏၊ ဤသို့ဖြင့် ၁၂၉၇–ခုနှစ်သို့ ရောက်သောအခါ ညောင်လေးပင်မြို့နယ်၌ ဝါဒရေးရာ ပြဿနာတစ်ခု ပေါ်ပေါက်လာ၏။

*ဖြစ်ပွားပုံမှာ ညောင်လေးပင်မြို့မှ အရှေ့ဘက် ၁၄–မိုင်ကျော်ကျော် ၁၅–မိုင်ခန့်ဝေးသော "သောင်ကြီးရွာ"တွင် ဖြစ်၏၊ ထိုရွာနေ အများစု ပုဂ္ဂိုလ်တို့မှာ စီးပွားရေး ကောင်းကြသည်၊ အများအားဖြင့် ချမ်းသာကြွယ်ဝ ပြည့်စုံကြ၏။

ရွာဦးကျောင်းဆရာတော်ကြီးမှာလည်း နယ်နယ်ရရ မဟုတ်ပါ၊ သီလ–သမာဓိ–ပညာနှင့် ပြည့်စုံ၍ ပရိယတ်ဂုဏ်–ပဋိပတ်ဂုဏ် ရှိသောကြောင့် "ဂိုဏ်းထောက် ဆရာတော်ကြီး"အဖြစ် ခန့်အပ်ခြင်းခံရသော မထေရ်ကြီး တစ်ပါးပင် ဖြစ်ပါသည်။

## ကဲ့ရဲ့သင်္ဂြိုဟ် အဆိုအပြောမလွတ်

သို့ရာတွင် ထိုရွာနေ လူတစ်စုတို့က မထေရ်ကြီးအပေါ် ပြစ်တင်ရှုတ်ချကဲ့ရဲ့စကားဆိုကြပါသတဲ့၊ အလုပ်မရှိ အလုပ်ရှာကြသလို ဖြစ်တော့သည်၊ သူတို့ကဲ့ရဲ့ကြပုံမှာ–

"ဘယ့်နယ် … တို့ကျောင်း ဆရာတော်ကြီးက တစ်ခါလာလဲ ဒါန သီလ ဟော၊ နောက်တစ်ခါလာလဲ ဒါန သီလအကြောင်း ဟော၊ ဒါနက ဘဝစည်းစိမ်တွေ ပြည့်စုံစေတယ်လို့ ဆိုတယ်၊ သီလက လူ့ပြည် နတ်ပြည်ဆိုတဲ့ သုဂတိတွေကို ရစေသတဲ့။

ဒီလိုဆိုတော့ ဒုက္ခအသေးစားကနေ ဒုက္ခအကြီးစား ရဖို့ချည်း သူ ဟောနေတာပေါ့၊ ဟောရာ ရောက်တော့တာပေါ့၊ ဒုက္ခခပ်သိမ်း ချုပ်ငြိမ်းတဲ့ နိဗ္ဗာန်ရောက်ကြောင်း ဝိပဿနာတရားကောင်းလေးများ တစ်ခါ တလေမှ မဟောဖူးဘူး၊ မဟောတတ်ဘူးလား မသိပါဘူး"

ဤသို့စသဖြင့် ကဲ့ရဲ့စကားပြောကြားကြသတဲ့၊ ထိုပုဂ္ဂိုလ်တို့သည် သင်္ဂြိုဟ်အခြေခံလည်း အတော်အတန်ရှိသူများဖြစ်ကြ၏၊ ဝိပဿနာစာအုပ်များကိုလည်း ဖတ်ကြားလေ့လာထားသူများ ဖြစ်ကြသည်။

ဤသို့အခြေခံအစအန ရှိကြ၍လည်း ပြောလာကြခြင်း ဖြစ်လေသည်၊ ပြောရုံတွင်မက အဖော်ညှိကြပြီးလျှင် ရွာဦးကျောင်းကိုပင် မသွားဘဲ နေလာကြတော့သတတ်၊ ဤနည်းအားဖြင့် သူတို့လူစုတွေ အတော်ပင် ဦးရေများလာသည် ဆို၏။

* ဤအကြောင်းအရာများကို ညောင်လေးပင်မြို့၊ ရွာမ အနောက်ပိုင်း၊ ရွှေကုန်သည် ဦးတင့်လေးက ပြောပြသည်။

## တစ်ဘဝသာသနာ

# ပြဿနာပေါ်သော သောင်ကြီးရွာသို့

ထိုသောင်ကြီး ရွာသား မျက်စိ က ဆရာကြီး ဘွန်းသာက ညောင်လေးပင်မြို့ပေါ်မှာ နေသဖြင့် ဆရာတော်လေး ဦးဝိမလနှင့် ရင်းနှီးနေ၏၊ သို့ဖြစ်၍ သောင်ကြီးရွာကိစ္စအကြောင်းကို လျှောက်ထားပြီးလျှင် "အရှင်ဘုရား ကြွရောက်ဖြေရှင်းပေးပါ"ဟု တောင်းပန်လေသည်။

ဆရာတော်လေး ဦးဝိမလက ဖြစ်ပုံအချင်းအရာကို သေသေချာချာ စုံလင်အောင်မေးပြီးမှ ၁၂၉၇ခုနှစ် ဘပေါင်းလဆုတ်ထဲတွင် သောင်ကြီးရွာသို့ ကြွရောက်လိုက်ပါတော်မူသည်၊ ခင်တန်းကျောင်း ဦးသုမနလည်း ပါ၏။

သောင်ကြီးရွာသို့ ရောက်သောအခါ ဆိုင်ရာ ဒကာတို့ကို ကျောင်းသို့ခေါ်လိုက်၏၊ စုံညီစွာ ရောက်ကြသောအခါ ဆရာတော်လေးက အမိန့်ရှိသည်။

"ဒကာတို့... အခုလို ဘုန်းကြီး ဒီရွာကိုရောက်လာရတာဟာ ဒီရွာဦးကျောင်း ဆရာတော်ကြီးနဲ့ ဒကာတို့နဲ့ ဝါဒရေးရာ အယူအဆ မတူကြလို့ မညီမမျှ ဖြစ်နေကြတယ် ဆိုတာ ကြားရပါတယ်၊ ဒီကိစ္စကို ပြေလည်အောင် လုပ်ပေးနိုင်မလား လို့ လာရခြင်းပါပဲ"

ဤသို့ မိန့်သောအခါ လှုပ်လှုပ်ရွရွ ဖြစ်လာကြပြီးလျှင် တစ်ယောက်တစ်ပေါက် မကျေနပ်ချက်တို့ကို လျှောက်ကြတော့၏၊ သူတစ်မျိုး ငါတစ်ဖုံ စုံနေတော့သည်၊ ထိုအခါ ဆရာတော်လေးက–

"နေကြအုံး– နေကြအုံး၊ ဒီလိုလုပ်နေလို့ မပြီးနိုင်ဘူး၊ တစ်ယောက်စီ ပြောပါ၊ ဒါမှမဟုတ် အားလုံးရဲ့ကိုယ်စားတစ်ဦးက ပြောပါ၊ မိမိတို့ရဲ့ အယူအဆဝါဒကို တင်ပြပါ။

မရှင်းတာကို မေးနိုင်ပါတယ်၊ ဘုန်းကြီးက ဖြေပါမယ်၊ ဒကာတို့ရဲ့အမေးကို ပြေလည်အောင် ဘုန်းကြီးက မဖြေနိုင်ရင် ဒကာတို့ရဲ့ ဝါဒကို ဘုန်းကြီးက ထောက်ခံသွားမယ်။

အဲဒီနောက် ဘုန်းကြီးက တစ်ဖန် ဒကာတို့ကို ပြန်ပြီး မေးဦးမယ်၊ ဒကာတို့ရဲ့ အယူအဆများဟာ (သုတ်၊ ဝိနည်း၊ အဘိဓမ္မာ)နဲ့ မကိုက်ညီရင် ဒကာတို့က ဒီကျောင်းဆရာတော်ကြီးကို ဦးစွာ ကန်တော့ကြရမယ်။

ပြီးတော့ ဒကာတို့ရဲ့ အရွယ်ရောက်တဲ့ သားတွေ၊ တူတွေကို ဒီကျောင်းမှာ သင်္ကန်းစည်းစေပြီးတော့ ဆရာတော်ကြီးကို ဝတ်ကြီးဝတ်ငယ် ပြုကြရမယ်၊ ဘယ့်နယ်လဲ..."

ဤသို့ စည်းကမ်းသတ်မှတ် ဘောင်ခတ်၍ မေးလိုက်သောအခါ "ကောင်းပါတယ်ဘုရား"ဟူ၍ ဝန်ခံကြပါသတတ်၊ "ကဲ... ဒါဆိုရင် ကိုယ့်အယူဝါဒကို တင်ပြလျှောက်ထားကြစမ်း"ဟု ခွင့်ပြုလိုက်သဖြင့် ဒကာများက လျှောက်ထားကြတော့၏။

# သောင်ကြီးရွာ ဘာဝါဒတွေစွဲ

"ဒီလိုပါဘုရား၊ တပည့်တော်တို့ အခု ကိုးကွယ်နေတဲ့ ရွာဦးကျောင်းဆရာတော်ကြီးက တရားဟောတိုင်း ဒါန–သီလအကြောင်းချည်း ဟောနေတယ်ဘုရား။

တပည့်တော်တို့ စာတွေထဲ ဖတ်ရလို့ သိရသလောက် ဒါနဟာ ဘဝသံသရာမှာ စည်းစိမ်တွေ မောက်ဖြိုး အကျိုးပေးစေတယ်–လို့ ဆိုပါတယ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

သီလကတော့ ကောင်းတဲ့ဘဝနဲ့ ရုပ်ရည် အဆင့်အတန်း မြင့်မြင့်ကို ရစေတယ်လို့ ဆိုပါတယ်။

ပြီးတော့ တခါ ဒီစည်းစိမ်၊ ဒီဘဝတွေဟာ ဒုက္ခသစ္စာတွေပါ၊ အနှစ်မရှိပါဘူး–လို့လဲ ဆိုပြန်ပါတယ်။

တပည့်တော်တို့က အားလုံးပါပဲ၊ ကန်တော့ကြတဲ့အခါ "နိဗ္ဗာန်ကို ရရပါလို၏" ဆိုတော့ လိုချင်တာက နိဗ္ဗာန်၊ ဟောတာက ဒုက္ခတွေရဖို့ ဖြစ်နေလို့ တပည့်တော်တို့ အားမရကြဘူး ဘုရား"ဟူ၍ လျှောက်ကြသည်။

ထို့ပြင်လည်း "ကုသိုလ်ကံ– အကုသိုလ်ကံတွေဟာ ဖြစ်ပြီးတာနဲ့ ပျက်ကုန်တာ"–လို့ သဂြိုဟ်ကျမ်းထဲမှာ တွေ့ကြရတယ် ဘုရား၊ ဒီတော့ ဘယ့်နှယ် လုပ်ပြီး နောက်ဘဝတွေလိုက် အကျိုးပေးနေရဦးမှာလဲ ဘုရား" ဤသို့စသည်ဖြင့်လည်း စုံစုံလင်လင် တစ်နာရီခွဲခန့်မျှ ကြာအောင် လျှောက်တင်နေကြလေသည်။

## ဆရာတော်လေး၏ ရှင်းပြချက်

ဒကာတွေက သူတို့၏အယူအဆများကို အားရအောင် လျှောက်တင်ကြလေ၏၊ ထို့နောက် သူတို့၏ ချွတ်ချော်နေသော အယူအဆတို့ကို ဆရာတော်လေးက မှန်ကန်အောင် တည့်မတ်ပေးရလေတော့သည်။

"ခုတိုင်းဆိုရင် ဒကာတို့ဟာက ဒါန သီလ သမထတွေကို ပယ်ထားရာ ရောက်နေပြီ၊ ဘုရားရှင် ကိုယ်တော်တိုင်ပင် ပွင့်တော်မူစမှာ သတ္တဝါတွေက အသိဉာဏ် မရင့်ကျက်သေးတော့ နက်နဲ ခက်ခဲသော ပရမတ္ထသစ္စာတို့ကို ဦးစွာ မဟောသေးပါဘူး။

ဒါနကထာ၊ သီလကထာ၊ သဂ္ဂကထာ စသည်တို့ဖြင့် နည့်သိမ်မွေ့ ယဉ်ကျေးလာအောင် ဦးစွာ ပထမ ဟောရပါသေးတယ်၊ ပြီးမှ ယဉ်ကျေး သိမ်မွေ့လာတော့မှ ဝဋ်ဒုက္ခတို့မှ လွတ်မြောက်ကြောင်း နိက္ခမ္မကထာကို ဟောရပါတယ်။

ပုဂ္ဂိုလ်ကလဲ အစားစား ရှိတာကလား၊ အဲဒါတွေကို မြတ်စွာဘုရားတို့သာလျှင် သိနိုင်ပါတယ်၊ ဣန္ဒြေအနုအရင့်ကို သိတဲ့ ဣန္ဒြိယပရော ပရိယတ္တိဉာဏ်ပိုင်ရှင်ကိုး–။

ဘုန်းကြီးနှင့် တကွ ဟောဒီ ကြွလာတဲ့ သံဃာတော်များအားလုံးကတော့ အဲဒီဉာဏ်မျိုး မရရှိလို့ အစဉ်အတိုင်းပဲ ဒါန သီလကစပြီး ဟောကြရပါတယ်။ နောက်–ရင့်ကျက်မြင့်တက်လာတော့မှသာ ဝိပဿနာကို ဟောကြရတာပါ

ဒါ့ကြောင့် ဒီကျောင်းက ဆရာတော်ဘုရားကြီးလဲ ဒီအစီအစဉ်အတိုင်း ဟောတော်မူနေခြင်း ဖြစ်ပါလိမ့်မယ်"

## တစ်ဘဝသာသနာ

## သဿတဒိဋ္ဌိနဲ့ ဥစ္ဆေဒဒိဋ္ဌိ

ပြီးတော့ ဆောစောတုန်းက ဒကာတို့ လျှောက်ကြ
ယ်၊ "ပြုလုပ်သမျှကုသိုလ်ကံတွေ -အကုသိုလ်ကံတွေ
ာ ပြုလုပ်ပြီးရင် ပျောက်ပျက်ကုန်တာပဲ၊ ဘာတစ်ခုမှ
ာက်ဘဝသို့ မလိုက်ပါကြဘူး၊ ဘယ်လိုလုပ် အကျိုး
း:ဦးမှာလဲ–တဲ့။ ဖြစ်ပြီးရင် ချက်ချင်း ပျက်ကုန်တာပဲ
ာ"လို့ ဆိုကြတယ်။

ဒီနေရာမှာ သတိထားကြပါ၊ ဆရာကောင်း
ှွန် လိုအပ်ပါတယ်၊ ဆရာနည်းမရရင် အံချော်တတ်
ပါတယ်၊ "ပြုလုပ်သမျှ ကုသိုလ်ကံ–အကုသိုလ်ကံ
ွဟာ ပြုလုပ်ပြီးရင် ပျောက်ပျက်ကုန်တာပဲ၊ ဘာ
စ်ခုမှ နောက်ဘဝသို့ မလိုက်ပါကြဘူး–လို့ ယူဆထား
 ဥစ္ဆေဒဒိဋ္ဌိ၊ (ပြတ်ကုန်တယ်လို့ ယူတဲ့ ဒိဋ္ဌိပေါ့၊)
းတယ်။

တစ်ခါ ပြုလုပ်သမျှ ကုသိုလ်ကံ–အကုသိုလ်ကံ
တွေဟာ ပျောက်ပျက်မကုန်ဘဲ နောက်ဘဝသို့
(အရိပ်ပမာ တကောက်ကောက်) လိုက်ပါသည်
လို့ ယူဆပြန်ရင်လဲ သဿတဒိဋ္ဌိ (မြဲတယ်
ခိုင်တယ်လို့ ယူဆတဲ့ဒိဋ္ဌိပေါ့၊) ဒါလဲ မှားပြန်
တာပဲ။

နည်းနည်းချဲ့ ပြောပါ ဦးမယ်၊ ဒါ
အရေးကြီးတယ်၊ ကုသိုလ်ကံ - အကုသိုလ်ကံ
တွေဟာ (ဆာယာဝ အနုပါယိနီ) အရိပ်ပမာ
အစဉ်တစိုက် နောက်က လိုက်ပါသည်–ဆိုတဲ့
စကား။

(စက္ကံဝ ဝဟတော ပဒံ) လှည်းရုန်းသော
နွား၏ ခြေရာနောက်သို့ လှည်းဘီးက တ
ကောက်ကောက် လိုက်ပါသကဲ့သို့ လိုက်ပါသည်
ဆိုတဲ့စကားတွေဟာ ဘုရားဟောပါပဲ၊ ဘုရား
နှုတ်တော်ထွက်တွေပါပဲ၊ ဓမ္မပဒမှာ ပါတယ်။

## ဒေသနာ အမျိုးအစားက ၂–ပါး

ဒါပေမယ့် အဲဒီနေရာတွေမှာက လူတွေ မြင်
ယ် ထင်လွယ်အောင် ဟောရတာ၊ ဉာဏ်နုတဲ့သူတွေ
တော့ သဘောပေါက်လွယ်အောင် ဥပမာဆောင်
ာရတာ၊ ဒါ့ကြောင့် ဘုရားဟော ဒေသနာက
း ရှိတယ်လို့ မှတ်ပါ။

(က) နီတတ္ထဒေသနာ = တိုက်ရိုက် သိမှတ်ရတဲ့ တရားတစ်မျိုး၊

(ခ) နေယျတ္ထဒေသနာ = ဆောင်၍ သွယ်ဝိုက်၍ သိမှတ်ရတဲ့ တရား တစ်မျိုးလို့ (၂)မျိုး ရှိတယ်။

ဥပမာ– အဘိဓမ္မာတွေထဲမှာ မြတ်စွာဘုရားက
ာ**ငါးပါး**ရှိတယ်၊ ရူပက္ခန္ဓာ–ဝေဒနာ**က္ခန္ဓာ–သညာ**
က္ခန္ဓာ–သင်္ခါရက္ခန္ဓာ–ဝိညာဏက္ခန္ဓာလို့ ငါးပါး"

အဲသည်လို ဟောရင် ဟောထားတဲ့ အတိုင်း
ဖြောင့်ဖြောင့် အဓိပ္ပာယ်ယူလိုက်ရုံပဲ၊ အဲလို ယူရတာမျိုး
ဟာ (က) နီတတ္ထဒေသနာ = တိုက်ရိုက် သိမှတ်ရတဲ့
တရားမျိုးထဲမှာ ပါတာပေါ့။

(ဆာယာဝ အနုပါယိနီ) တို့လို၊ (စက္ကံဝ
ဝဟတော ပဒံ)တို့လို တရားမျိုးကျတော့ တိုက်ရိုက်ယူလို့
မရဘူး၊ ယူရင်မှားကုန်မယ်၊ ဒါက သိလွယ်မြင်လွယ်
အောင်လို့ ဥပမာဆောင်ပြီး ဟောရတာ၊ **အဲသည်လို**
**တရားမျိုးကျတော့** (ခ) နေယျတ္ထဒေသ**နာ = ဆောင်၍**
သွယ်ဝိုက်၍ သိမှတ်ရတဲ့ တရားမျိုး**ထဲ ပါသွား**တယ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အချုပ် မှတ်သားရမှာက

ဒီတော့ ဒကာတို့... ဒီလို မှတ်ပါ၊ အများပြော နေကြသလို ကုသိုလ်ကံ–အကုသိုလ်ကံတွေဟာ အရိပ် ပမာ နောက်ဘဝကို လိုက်ပါတယ်–ဆိုတဲ့စကားလဲ မှားတယ်၊ အခု ဒကာတို့ ပြောနေကြသလို ရုပ်အစု နာမ်အစုတွေဟာ ဖြစ်ပြီး ပျက်ကုန်ကြတာပဲ၊ ဘာတစ်ခု မျှ ကျန်တာ မဟုတ်ဘူး၊ နောက်ဘဝကို လိုက်စရာ မရှိဘူး–လို့ ယူတဲ့ စကားလဲ မှားတယ်။

ယူရမှာက ရုပ်အစု နာမ်အစုတွေ မလိုက်သည် ကား မှန်၏၊ ဖြစ်ပြီးပျက်ကုန်သည်မှာ မှန်၏၊ သို့သော် အကျိုးပေးဖို့ရာ သတ္တိကား ကျန်ရစ်သည်သာ၊ ထိုသတ္တိ က အကျိုးပေးသည်–လို့ ယူရမယ်"
ဒါနဲ့ပတ်သက်လို့ ကျမ်းဂန်တွေထဲမှာ မိန့်ဆိုထားချက် တွေ ရှိပါတယ်၊ ဘယ်လိုလဲဆိုတော့–

သန္တာနေဒံ ကမ္မံ နာမ၊
န နိရုဇ္ဈတိ သဗ္ဗသော။
ဝိသေသံ နိဒေတွာ ဟိ၊
သမယမှိ ဝိပစ္စတိ။ ။

သန္တာနေ – ပြုလုပ်သော ပုဂ္ဂိုလ်၏ သန္တာန်၌၊ ဣဒံ
ကမ္မံ နာမ – ဤကောင်းကံ–မကောင်းကံအမျိုးမျိုးသည်
သဗ္ဗသော – ကြွင်းမဲ့ဥဿုံ အလုံးစုံ အကုန်မကျန်၊
နိရုဇ္ဈတိ – ပြီးပြီးပျောက်ပျောက် အနေရောက်အော
ချုပ်ပျောက်၍ သွားကြသည် မဟုတ်ပေ။
ဟိ – မှန်၏၊ သမယမှိ – အကျိုးပေးဖို့ အချိန်
ကျသောအခါ၌၊ ဝိပစ္စတိ – အကျိုးပေးဖို့ရာ၊ ဝိသေသံ
– အကျိုးပေးဖို့ သတ္တိထူးကို၊ နိဒေတွာ – မြှုပ်နှံထားပြီး
၍၊ (ဝါ) မြှုပ်နှံပြီးမှသာ၊ (နိရုဇ္ဈတိ – သဘာဝ
အလျောက် ချုပ်ပျောက်၍ သွားတော့၏။)–တဲ့။

## လက်တွေ့ဥပမာပြ၍ ရှင်းလင်း

"ကဲ... ဘုန်းကြီးက လက်တွေ့ဥပမာတစ်ခု ပြပါအုံးမယ်၊"ဟု ဆိုပြီးလျှင် နောက်ပါ ကိုယ်တော် ဦးသုမနထံမှ လက်နှိပ်ဓာတ်မီး တောင်းလိုက်၏၊ ပြီး လျှင် "ဟော... ကြည့်ကြ"ဟု ဆို၍ အတွင်းဘက် အနည်းငယ် မှောင်သော နံရံသို့ အလင်းရောင် ထိုးပြ လိုက်သည်၊ ပြီးလျှင် ဆရာတော်လေးက–

"ဒကာတို့... တွေ့ရဲ့လား၊ ဟောဟို နံရံမှာ အလင်းရောင်၊ (တွေ့ပါတယ် ဘုရား) အဲဒီ အလင်းဟာ ဟောဒီလက်နှိပ်ဓာတ်မီးကြီး နံရံကို သွားကပ်လို့ လင်းတာလား (မဟုတ်ပါဘုရား) မီးသီး ရောက်သွားလို့ လင်းတာလား၊ (ဒါလဲ မဟုတ်ပါ ဘုရား)

ဒါဖြင့် ဓာတ်ခဲတွေ ရောက်သွားလို့ လင်းတာလား (အဲလိုလဲ ဓာတ်ခဲတွေ လိုက်ပါ သွားတာ မဟုတ်ပါ ဘုရား)

အေး... ပစ္စည်းအထည်ဒြပ်တွေ နံရံကို လိုက်ပါသွားတာတော့ မဟုတ်ဘူး၊ ဒါပေမယ့် ဟောဒီဓာတ်ခဲအတွင်းက အလင်းရောင် သတ္တိ တွေတော့ နံရံကို ရောက်သွားတယ် (မှန်ပါ ဘုရား)

အထည်ဝတ္ထုတွေတော့ လိုက်ပါ မသွား ဘူး၊ သတ္တိပဲလိုက်ပါသွားတယ်( မှန်ပါဘုရား)

အေး... အဲဒီအတိုင်းပဲ ဒကာတို့...၊ ကုသိုလ်ကံ အကုသိုလ်ကံတွေဆိုတာတွေဟာ သင်္ခတတရားတွေမို့ ဖြစ်ပြီး ပျက်ကုန်ကြရတာ မှန်ပါတယ်။

## တစ်ဘဝသာသနာ

ကုသိုလ်စေတနာ– အကုသိုလ်စေတနာတွေဟာ ဖြစ်ပေါ်လာပြီး ပျောက်ကုန်ရတာ မှန်ပါတယ်၊ နောက် ဘဝကို လိုက်နေချိန် မရလိုက်ပါဘူး (မှန်ပါ)

သို့သော်လဲ ပျက်ကုန်တဲ့ နေရာလေးတွေမှာ အရှိန်အဝါ သတ္တိကလေးများ ကျန်ရစ်ပါသေးတယ်– တဲ့၊ သတ္တိကလေးများ ထားခဲ့ပါသေးတယ်–တဲ့ (မှန်ပါ) အဲဒီအရှိန်အဝါ သတ္တိကလေးတွေက အကျိုးပေးတာ (မှန်ပါ ဘုရား)

## အဲလိုယူမှ အစွန်း၂–ဘက်လွတ်

ဖော်ပြပြီးခဲ့တဲ့အတိုင်း ယူမှ သဿတဒိဋ္ဌိကလဲ လွတ်မယ်၊ ဥစ္ဆေဒဒိဋ္ဌိကလဲ လွတ်နိုင်မယ်၊ (မှန်ပါဘုရား) ကံတွေ လိုက်သွားတယ်ဆိုရင် သဿတဒိဋ္ဌိ ဖြစ်နေမယ်၊ (မှန်ပါ) မလိုက်ဘူး–လုံးဝ ပြတ်သွားတယ်၊ ဘာမှ မကျန်တော့ဘူး ဆိုပြန်ရင်လဲ ဥစ္ဆေဒဒိဋ္ဌိ ဖြစ်နေပြန်အုံးမယ် (မှန်ပါဘုရား)

သဿတက တစ်ဘက် အစွန်း၊ ဥစ္ဆေဒကလဲ တစ်ဘက်အစွန်းပဲ (မှန်ပါ) အဲဒီအစွန်း(၂)ပါးကို မငြိစေဘဲ အခုလို အလယ်က သွားမှသာ (မဇ္ဈိမာပဋိပဒါ) ဘုရားလမ်းစဉ်ကျတယ် (မှန်ပါ ဘုရား)

ကဲ... ရှင်းကြပြီလား၊ ရှင်းလောက်ပါပြီနော် (မှန်ပါ– ရှင်းပါတယ် ဘုရား) အားလုံးလိုလိုပင် တစ်ပြိုင်နက် အားတက်ရွှင်လန်းစွာ ဖြေကြ၏။

သူတို့၏မျက်နှာများသည် ကျေနပ်သည့်အသွင်များဖြင့် လန်းဆန်းနေကြ၏၊ တစ်စုံတစ်ဦးမျှ နောက်ထပ် မမေးကြတော့၊ အချိန်ကလည်း ည(၈)နာရီထိုး၍ သွားချေပြီ။

ထို့ကြောင့် ထိုနေ့ည ထိုမျှဖြင့်ပင် ရပ်နားကြဖို့ရန် ဆရာတော်လေးက အမိန့်ရှိ၏၊ နောက်တစ်နေ့ နံနက် (၇)နာရီ ထပ်မံချိန်းလိုက်သည်။

## ဝန်ချ ကန်တော့ တောင်းပန်ပွဲ

ဒုတိယနေ့ နံနက်တွင် (၇)နာရီထိုးသောအခါ ချိန်းထားသည့်အတိုင်း ဒကာတို့ စုံညီစွာပင် ရောက်လာကြတော့၏၊ ဒကာတို့၏ မျက်နှာများမှာ လန်းဆန်း၍ နေကြသည်၊ ကျေနပ်နေသည့် လက္ခဏာတို့ကို ပြနေကြသည်၊ ဆရာတော်လေး ဦးဝိမလက–

"ဒကာတို့ဟာ ဗဟုသုတကြွယ်ဝသူများ ဖြစ်ကြတယ်လို့ ဘုန်းကြီး ကြားသိခဲ့ရပါတယ်၊ ကြိုတင် သိထားပါတယ်။ ဒီလိုပုဂ္ဂိုလ်များကို ဟောရ ပြောရ ရှင်းပြရတာဟာ အင်မတန်မှ လွယ်ကူပါတယ်၊ သိလွယ် သဘောပေါက်လွယ်ပါတယ်။

နောက်ထပ် ရှင်းပြဖို့ အသင့်ပါပဲ၊ ကဲ... နောက်ထပ် ဘာများ လျှောက်ချင်ကြသေးလဲ၊ လျှောက်နိုင်ပါတယ်၊ လွတ်လွတ်လပ်လပ်ပဲ မေးနိုင်ပါတယ်"

ဟု မိန့်လိုက်သောအခါ အားလုံးပင် လှုပ်လှုပ်ရွရွ ဖြစ်

လာကြ၏၊ လျှောက်ထားခွင့် တံခါးဖွင့်ပေးလိုက်သည် မဟုတ်ပါလော၊ ထို့ကြောင့် ဝမ်းသာအားရ လျှောက်ထားကြသည်–

"တပည့်တော်တို့ ကျေနပ်ကြပါတယ် ဘုရား၊ မနေ့ညက ဆရာတော် ဥပမာ ပြပြီး ဟောလိုက်တာတွေ သဘောကျပါတယ်၊ ညတုန်းက ဒီကပြန်တော့ ရွာထဲမှာလဲ သန်းခေါင်ကျော် အထိ တပည့်တော်တို့ ပြန်လည် သုံးသပ်ဆွေးနွေးကြပါတယ် ဘုရား၊

ယခင်ကလိုဆိုရင် တပည့်တော်တို့ဟာ ဥစ္ဆေဒဒိဋ္ဌိအယူဖြစ်နေကြတာ၊ အခုတော့ အဲဒီအယူက လွတ်ကြပါပြီ၊ ဥစ္ဆေဒလဲ လွတ်ပြီ၊ သဿတလဲ လွတ်ပြီ၊ ဘုရားဟော ဒေသနာ မဇ္ဈိမာ ပဋိပဒါကျကျ သိရပါပြီ၊ ဒါ့ကြောင့် တပည့်တော်တို့ ကျေးဇူးတင်လှပါတယ် ဘုရား။

ဒါနဲ့ တစ်ဆက်တည်း လျှောက်ရရင် အခုပဲ ဒီကျောင်းက ဆရာတော်ဘုရားကြီးကို တပည့်တော်တို့ ကန်တော့ကြပါမယ် ဘုရာ

ပြီးတော့ ဒီကနေ့ပဲ (ဆရာတော့်ထံ ဝန်ခံခဲ့တဲ့အတိုင်း) တပည့်တော်တို့ရဲ့သားများ တူများကို ဒီကျောင်းမှာ ရှင်ပြုကြပါမယ် ဘုရား၊ ဒီကရှေ့မှာ တပည့်တော်တို့ရဲ့ ရွာဦးကျောင်း ဆရာတော်ဘုရားကြီးကို ဆက်လက် ကြည်ညို ဆည်းကပ်သွားကြပါမယ် ဘုရား"ဟူ၍ ဝမ်းသာ အားရ လျှောက်ကြလေသည်။

ဆရာတော်ကလေး ဦးဝိမလ မပြန်ခင်ပင် ပတ်ဝန်းကျင် ရွာ(၄)ရွာမှ ဆရာတော် သံဃာတော်များကို အကုန်ပင့်၍ ရှင်ပြုလှူဒါန်းပွဲ ပြုလုပ်ကြသဖြင့် အားလုံး ရွှင်ပြုံးဝမ်းသာကြရလေသည်။

ပတ်ဝန်းကျင် သံဃာတော်များကလည်း သာဓု အကြိမ်ကြိမ်ခေါ်၍ ကျန်ရစ်ကြ၏။ သံဃာတော်များနှင့် ရွာသူရွာသားတို့၏ မြိုင်ဆိုင်လှသော သာဓုသံတို့သည် ဝန်းကျင်ချာပတ်– ပဲ့တင်ထပ်လျက်– ထက်ရပ်နဘ် မြည်ဟည်း၍ ကျန်ရစ်တော့သတည်း။

## သီဟိုဠ်ကျွန်း မဟာစေတီ စိန်ဖူးတော်

ကောဇာသက္ကရာဇ် ၁၂၉၈–ခု (ခရစ်–၁၉၃၆ ခု)နှစ်က ဖြစ်၏၊ ဒုတိယကမ္ဘာစစ်မတိုင်မီက ဖြစ်သည်၊ ထိုအချိန်က ဆရာတော်၏ သက်တော်မှာ ၃၇–နှစ်၊ သိက္ခာတော် ၁၇–ဝါရချိန် ဖြစ်သည်၊ အမရပူရတွင် ညဝါစာချ အကျော်အမော်ဖြစ်သလို ညောင်လေးပင်နှင့် မိုးကုတ်မြို့တို့တွင်လည်း အဘိဓမ္မာ ဓမ္မကထိက ပေါ်လွင် ထင်ရှား လူကြိုက်များသော ဆရာတော်တစ်ပါး ဖြစ်နေပြီ။

ကောဇာသက္ကရာဇ် ၁၂၉၉–ခု (ခရစ် ၁၉၃၇ ခု) နှစ်တွင်လည်း အဘိဓမ္မာစာသင်သားတို့က လာအားကောင်းကြဆဲတဖွဲဖွဲ၊ ပျားပန်းခတ်သလို ဖြစ်ကြသည်။

*တစ်နေ့သောအခါတွင် ဆရာတော်မှာ ထူးထူးဆန်းဆန်း အိပ်မက် မြင်မက်လေသည်၊ မက်ပုံမှာ ကောင်းကင်ခရီးဖြင့် သီရိလင်္ကာနိုင်ငံ (သီဟိုဠ်)သို့ ကြွသွားပြီးလျှင် မဟာစေတီကြီးကို ဦးတိုက်ရ၏၊ စေတီရင်ပြင်တွင်လည်း အမှိုက်သရိုက်တို့ကို တံမြက်လှည်း၍ ကြည်ကြည်နူးနူးဖြင့် စေတီယင်္ဂဏဝတ်ကို ပြုခဲ့ရသည်။

* ဤအကြောင်းအရာတို့ကို ကျောင်းဒကာ ဦးကျော်သိန်းအား ဆရာတော်ကိုယ်တိုင် ပြန်လည်ပြောပြဖူး၏။

ဤသို့လျှင် ကြံစည်တွေးတောခြင်း၊ စိတ်ကူးခြင်း မရှိဘဲ အိပ်မက်ထူး မြင်မက်ပြီးနောက် မကြာမီပင် သီဟိုဠ်ကျွန်း မဟာစေတီ ဂေါပကအဖွဲ့ထံမှ စာ တစ်စောင် ဆရာတော် ဦးဝိမလထံသို့ ရောက်လာလေသည်၊ ဆိုလိုရင်း အကျဉ်းချုပ်မှာ–

"မြန်မာပြည် မိုးကုတ်မြို့သည် သယံဇာတ ကျောက်မျက်ရတနာ ပေါများကြွယ်ဝသောမြို့ဟု ကြားသိရပါသည်၊ ယခုအခါ သီဟိုဠ်ကျွန်း မဟာ စေတီတော်ကြီးအတွက် စိန်ဖူးတော် လိုအပ်နေပါသည်။

ယင်းစိန်ဖူးတော်ရရှိရန် ဆရာတော် ဦးဆောင်၍ ရွက်ဆောင်ပေးပါလျှင် ဖြစ်မြောက်နိုင်လိမ့်မည်–ဟု ယုံကြည်ပါကြောင်း၊ ဆောင်ရွက်ပေးတော်မူပါရန်"

ဟူ၍ ဖြစ်သည်၊ အိပ်မက်နှင့် ဖြစ်ပေါ်လာပုံသည် ထူးဆန်းလှ၍၊ ဆရာတော်မှာ ကြည်နူး၍လည်း သွားလေသည်၊ သို့ဖြစ်၍ မိုးကုတ်မြို့မှ မြို့မျက်နှာဖုံးလူကြီးများအား ထိုစာကိုပြ၍ တိုင်ပင်ရလေသည်၊ တိုင်ပင်ကြပြီးနောက် "ဆောင်ရွက်ပေးမည် ဖြစ်ကြောင်း" သီဟိုဠ်သို့ စာပြန်လိုက်လေသည်။

ထို့နောက် မိမိတည်းခိုနေကျ သုဿာန်ကျောင်းမှ ဆရာတော် ဦးကောသလ္လကိုပါ အကူအညီ တွဲဖက်ပါဝင်ပါရန် တောင်းပန်၍၊ ဆရာတော်(၂)ပါး ဦးဆောင်ပြီးလျှင် မြို့မျက်နှာဖုံး ဒကာကြီးများကို စုစည်းလိုက်ကြသည်။

## ဦးစီးဆောင်ရွက်သော လူကြီးများ

၁။ ဦးဘိုးလုံ
၂။ ဦးလယ်
၃။ ဦးသူတော်
၄။ ဦးအို
၅။ ဦးရင်မောင်
၆။ ဦးလှိုင်
၇။ ဦးကျောက်လုံး
၈။ ဦးထွန်း
၉။ ဦးတိုး
၁၀။ ဦးကောင်း
၁၁။ ဦးစံဟင်း
၁၂။ ဦးထွန်းပေါ်
၁၃။ ဦးဝ
၁၄။ ဦးသာထွန်း
၁၅။ ဦးချစ်ဖေ
တို့ဖြစ်ကြသည်။

မြို့မျက်နှာဖုံး ဤပုဂ္ဂိုလ်ကြီးများက (မ)တည်၍ အခြား ပါဝင် လှူဒါန်း လိုသူများ ပါဝင် လှူဒါန်းနိုင်ကြပါကြောင်း ပြောပြ အလှူခံကြရာ များစွာ လှူကြလေသည်။

ကျောက်သံ ပတ္တမြား ရွှေငွေရတနာ များစွာ ရကြ၊ စုဆောင်းမိကြပါသတတ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# စိန်ဖူးတော်ကြီး ဖြစ်မြောက်လာ



တန်ဖိုးဖြတ်၍ မရနိုင်သော သီဟိုဠ်အတွက် စိန်ဖူးတော်ကြီး

ထို့နောက် ဆရာတော် ဦးဝိမလ ကိုယ်တော်တိုင် လိုက်ပါ ဦးဆောင်ပြီးလျှင် ညောင်လေးပင်မြို့သို့– ထို အဖွဲ့ဝင် လူကြီးအချို့နှင့် သွားကြရာ ထိုမြို့ကလည်း ရွှေငွေရတနာများစွာ လှူဒါန်းကြပြန်သည်။

ရရှိလာသော ရတနာအားလုံးတို့ကို စုပေါင်းပြီးလျှင် အကောင်းဆုံး– အထွတ်ဆုံး ဖြစ်အောင်၊ အဖိုးအနဂ္ဃထိုက်တန်သော စိန်ဖူးတော်ကြီးတစ်ခုဖြစ်အောင် ဝိုင်းဝန်း စီမံကြတော့သည်၊ မိုးကုတ်မြို့မှာပင် စိန်ဖူးတော်ကြီး ဖြစ်အောင် ပုံဖော်ကြတော့၏။

စိန်ဖူးတော်ကြီး၏ထိပ်တွင် ပတ္တမြားကြီး ၁–ပွင့် အုပ်၍၊ ဝန်းကျင်က ပတ္တမြားကြီးတွေ ၅ကလာပ်၊ ၄ကလာပ်၊ ၃ကလာပ် အသေးဆုံးအနေဖြင့် ခြံရံထားသည်၊ တမ်ဖန် ၎င်းကို ခြံရံခြယ်သသော ကျောက်မျက်ရတနာများမှာ ပထမတန်းစားချည်း ဖြစ်ကြ၏၊ အခြားကလာပ်များတွင် စီခြယ်သော ကျောက်မျက်၊ ပတ္တမြား၊ နီလာတို့လည်း ပါသေးသည်။

စိန်ဖူးတော်ကြီးမှာ တန်ဖိုး ဖြတ်၍ မရနိုင်ပေ။

ကျောက်သံ– ပတ္တမြား– နီလာ စသည်တို့ဖြင့် လှပဆန်းကြယ်စွာ အားလုံး ခြယ်မှုန်းပြီးစီးသောအခါ သီဟိုဠ်ကျွန်းသို့ အကြောင်းကြားလိုက်လေသည်။

ယင်းသို့ အကြောင်းကြားချက်အရ သီရိလင်္ကာနိုင်ငံ (သီဟိုဠ်ကျွန်း)မှ ပင့်ဆောင်ရေး ဆရာတော် ဦးဝိနယာ လင်္ကာရ ကြွရောက်တော်မူလာသည်။



တနာများ စားပွဲဝိုင်းတွင်
ကြသော လူကြီးများ
(ဝဲမှယာသို့)
ရာကြီး ဦးသုတော်။
မွှာရုံဒကာ ဦးအို။
ပွဲစားကြီး ဦးရင်မောင်။
က်ကုန်သည် ဦးလှိုင်။



စိန်ဖူးတော်ကြီးနှင့် ဆရာတော်နှစ်ပါး၊ အဖွဲ့ဝင် လူကြီးများ
စိန်ဖူးတော်ကြီး။ စိန်ဖူးဝဲဘက်တွင် သီဟိုဠ်မှ ဦးဝိနယာလင်္ကာရ။ ယာဘက်တွင် ဆရာတော် ဦးဝိမလ။
ဒုတိယတန်း (ဝဲမှယာသို့)
အငြိမ်းစားမြို့အုပ် ဦးကျောက်လုံး။ အောင်နီလာရုပ်ရှင်ရုံပိုင်ရှင် ဦးထွန်း။ ဆရာကြီး ဦးကြာ။ ကျောက်ကုန်သည် ဦးလှိုင်။ ကျောက်ကုန်သည် ဦးကောင်း။ ကျောက်ကုန်သည် ဦးစံဟင်း။ ကျောက်ကုန်သည် ဦးအို (ဓမ္မာရုံဒကာ)
တတိယတန်း (ဝဲမှယာသို့)
ကျောက်ကုန်သည် (ဦးစံဟင်းသား) ကိုသိန်း။ ကျောက်ပွဲစားကြီး ဦးရင်မောင်။ ကျောက်ကုန်သည်၊ တွင်းများပိုင် ဦးထွန်းပေါ်။ ဆရာဝကြီးခေါ် ဦးဝ။ မြို့မသူကြီး ဦးသာဒွန်း။ မိုးကုတ်အမတ် ဦးချစ်ဖေ။
စတုတ္ထတန်း (ဝဲမှယာသို့)
စိန်ဖူးတော် ကျောက်သွေးဆရာကြီး ဦးခင်မောင်။ စိန်ဖူးတော်ကိစ္စ ဆောင်ရွက်ရေး အတွင်းရေးမှူး ဦးသုတော်။
(မှတ်ချက်။ ဤဓာတ်ပုံထဲတွင် အဖွဲ့ဝင် ဖြစ်သော ဦးဘိုးလုံ၊ ဦးလယ်၊ ဦးတိုးတို့ သုံးဦး ခရီးသွားနေ၍ မပါကြ။)



မိုးကုတ်ဆရာတော်လောင်းလျာ ကိုရင်ဝိမလလေး ဘဝမှစ၍ ရဟန်းတော်ဦးဝိမလ ဘဝတိုင်အောင်
အစ်ကိုကြီးပမာ အနီးကပ် ဆုံးမလာခဲ့သော အောင်ခြင်းရှစ်ပါးဆရာတော် ဦးနာဂဝံသ

## မိုးကုတ်မြို့–ပတ္တမြားကျောက်တွင်းနယ်မှ ကြီးမှူးလှူဒါန်းသော

### သီဟိုဠ်ကျွန်းအနုရာဓမြို့တော်ရှိ၊ မဟာစေတီတော်တွင်တပ်ဆင်ရန် ပတ္တမြားကလာပ်တော်နှင့် စိန်ဖူးတော်ကြီးပုံတော်။

၁၃၀၁-မြန်မာ } သက္ကရာဇ်
၁၉၃၉-အင်္ဂလိပ်

1301 B.E.
1939 A.D.

**Gold & precious stone mounting Stage & Holy crystal to be crowed on the Pinnacle of Ruwanmeli Maha Chetiya (DAGOBA) at Anuradhapura, CEYLON. The making of this Pious & Precious Gift is organised by The Buddhist Citizens of MOGOK, BURMA.**

2483 rd, Year of Our Buddnist Rellgfon.

**Very highly ornamented & adorned with;
3627 rubies,
702 sapphires,
9 lucky gems,
and
12 rose spinels
4350 in all.**

---------

**Fine gold 3 viss, and 41 1/2 viss of silver are used.**

---------

**The weight of the Holy Crystal is 12 1/2 viss, the height is 18 inches, and 25 1/2 inches in circumference.**

---------

**The height of the Stage is 13 inches.**

---------

**The top-most ruby, weighing 15 rattis was bought for Rs. 12000 /-**

---------

**The total value estimated at the present market rate is over Rs. 100000 /-**

+ - + - +



**အစုစု တန်ဘိုးငွေ
၁၀၀၀၀၀ိ–ကျော်။**

---------

မွန်းမံတပ်ဆင်
ချယ်လယ်သော
ကျောက်လုံးရေ။

| | |
|---|---|
| ပတ္တမြား | ၃၆၂၈ |
| နီလာကျောက် | ၇၀၂ |
| နဝရတ်ကိုးပါး | ၉ |
| ပန်းရေဖြောင့် | ၁၂ |

---------

စုစုပေါင်း – ၄၃၅၀

---------

ရွှေနှင့်–ဘော်ချိန်များ။
ရွှေချိန်–၃–ပိဿာ။
ဘော်ချိန် ၄၁–ပိဿာခွဲ။

---------

စိန်ဖူးတော် အလေးချိန်
နှင့် ဉာဏ်တော်အတိုင်း
အထွာများမှာ။
ဉာဏ်တော်–၁၈လက်မ
ငင်းလုံးပါတ်
၂၅–လက်မခွဲ ။
ငင်းအလေးချိန်
၁၂–ပိဿာခွဲ။
ကလာပ်တော်ကြီး၏
ဉာဏ်တော်–၁၃လက်မ

---------

ထိပ်ဆုံးမှတပ်ဆင်သော
ပတ္တမြားမှာ (၁၅)ရတီ။
၎င်း၏ ယခုဈေးတန်ဘိုးငွေ
(၁၂၀၀၀ိ)ကျော်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သီဟိုဠ်ကျွန်း မဟာစေတီတော်အထိ လိုက်ပို့ လှူဒါန်းကြခြင်း

ဆရာတော် ဦးဝိမလ၊ သုသာန်ကျောင်း ဆရာတော် ဦးကောသလ္လ၊ သီဟိုဠ်ကျွန်းမှ ကြွလာသော ဆရာတော် ဦးဝိနယာလင်္ကာရတို့ ဦးဆောင်ကြပြီးလျှင်၊ ဖြစ်မြောက်ရေးအဖွဲ့ဝင် ဂေါပက လူကြီးတို့နှင့်အတူ စိန်ဖူးတော်ကြီးကို မိုးကုတ်မြို့မှ သပိတ်ကျဉ်းသို့ မော်တော်ယာဉ်များဖြင့် ခမ်းနားစွာ ပင့်ဆောင်ကြလေသည်။

သပိတ်ကျဉ်းမှ တစ်ဖန် မီးသင်္ဘောဖြင့် မန္တလေးမြို့သို့လည်းကောင်း၊ မန္တလေး ဂေါဝိန် ဆိပ်ကမ်းမှ မန္တလေး စိန်ပန်းရပ်တွင်ရှိသော–ဦးတော် တည်ဆောက်လှူဒါန်းသည့် "ဝိဇ္ဇာလင်္ကာရကျောင်းတိုက်"သို့လည်းကောင်း အခမ်းအနားဖြင့် ပင့်ဆောင်ကြလေသည်၊ ထိုကျောင်းတိုက်တွင် (၁)ရက်တာမျှ အပူဇော်ခံကြ၏။

ထို့နောက် မန္တလေးမြို့၊ ဗဟိုအမျိုးသား အထက်တန်းကျောင်းကြီး [ယခု အစိုးရ အမှတ်(၂) အထက်တန်းကျောင်းကြီး] သို့ ပင့်ဆောင်ကာ (၃) ရက်တာမျှ မြို့သူမြို့သားတို့၏ ပူဇော်မှုကို ခံယူတော်မူလေသည်။

ထိုမှတစ်ဖန် စိန်ဖူးတော်ကြီးကို မန္တလေးမြို့မှ ရန်ကုန်မြို့သို့ မီးရထားကြီးဖြင့် ပင့်ဆောင်ကြပြန်၏၊ ပြီးလျှင် ရွှေတိဂုံကုန်းတော်ပေါ်၌ ကိန်းဝပ်စံပါယ်တော်မူကာ မြို့သူမြို့သားတို့၏ ပူဇော်မှုကို ခံယူတော်မူပြန်လေသည်။

ထို့နောက် ဆရာတော် ဦးဝိနယာလင်္ကာရနှင့် ဆရာတော် ဦးကောသလ္လတို့ ဦးဆောင်၍ မိုးကုတ်မှ အမှုဆောင်လူကြီးအချို့ပါ ရန်ကုန်မှတစ်ဆင့် စိန်ဖူးတော်ကြီးကို ပင်လယ်ကူးသင်္ဘောကြီးဖြင့် ပင့်ဆောင်ကြလေ၏။

ပင်လယ် ရေပြင် ခရီးဖြင့် သင်္ဘောကြီးသည် သီဟိုဠ်ကျွန်း (သီရိလင်္ကာနိုင်ငံ)သို့ ချောချောမောမော ရောက်သွားခဲ့၏၊ သီဟိုဠ်ကျွန်းမှလည်း အခမ်းအနားဖြင့် သိုက်သိုက်ဝန်းဝန်း ဆီး၍ ကြိုကြလေသည်။ ထို့နောက် မဟာစေတီတော်ကြီးသို့အထိ မြန်မာ ပြည်မှ ကိုယ်စားလှယ်များ၊ ဒါယကာ ဒါယိကာမများ လိုက်ပါပို့ဆောင် လှူဒါန်းကြလေသည်၊ [ဆရာတော် ဦးဝိမလကား သီဟိုဠ်ကျွန်းသို့အထိ မလိုက်ဖြစ်တော့ပါ။]

လှူချင်တိုင်း လှူလို့မရ၊
လှူထိုက်၍ လှူခိုက်ကြုံလို့၊
လှူဒါန်းခွင့် ရကြခြင်းဖြစ်လေသည်။
တော်ကြပါပေစွ။

## တောင်မြို့ပြန်ဆိုလျှင် ဂုဏ်ရှိ

"အဘိဓမ္မာ၊ ညဝါတက္ကသိုလ်၊ ခေါ်ဆိုစလောက်၊ ခေါင်ထိပ်ရောက်သား..."စသည်ဖြင့် အမရပူရကို တင်စားဂုဏ်ပြု၍ စာဆိုကြ၏၊ ဟုတ်ပါသည်၊ သူ့ခေတ်အလိုက် "ညဝါ"ဆိုလျှင် တောင်မြို့ကို ရောက်ဖူးမှပင် တတ်မြောက်သည်ဟု ထင်ကြ၏၊ "တောင်မြို့ပြန်"ဆိုလျှင်ပင် အင်မတန် ဂုဏ်ရှိနေပြီ။

ဆရာတော်လေး ဦးဝိမလတို့ကား ထိုသို့သော ဂုဏ်ပုဒ်တို့ကို ထိန်းသိမ်းနေကြသော ပုဂ္ဂိုလ်များပင် ဖြစ်ကြ၏။

ယခု ၁၂၉၈–ခုနှစ်တွင်လည်း ဆောင်းပိုင်းတွင် မင်းကွန်းဘက်သို့ ကူးသည်၊ မင်းကွန်းတွင် ရှိနေစဉ် မိုးကုတ်မြို့မှ ဦးကောင်းမိသားစုတို့က သောက်ရေကန်

## တစ်ဘဝသာသနာ

ကြီးတစ်ခု တည်ဆောက်လှူဒါန်းကြ၏၊ ပရိသတ်တွေက ...ားသဖြင့် ယခုမှပင် သောက်ရေ သုံးရေ လုံလောက် ...ားတော့သည်။

နေ့ဦးပေါက်လျှင် ညောင်လေးပင်သို့ သွားရ၏၊ ပရိသတ်တို့ကား တရားနာ၍ မဝကြသလို ဖြစ်ကြသည်၊ ပြီးလျှင် မိုးကုတ်သို့ တက်သည်။

## တောရ ဆရာတော်ကြီး၏ ထောက်ခံမှု

ညောင်လေးပင် ဒကာ ဒကာမတို့က ဆရာတော်ကလေး ဦးဝိမလ၏ ဟောပုံ ပြောပုံတို့ကို ကျေနပ်ကြ၏၊ နှစ်သက်ကြ၏၊ သက်တော်က ငယ်သေးသော်လည်း ဘရားတော်က အဘိဓမ္မာတွေ ဖြစ်နေ၍ လေးနက် ဘည်ငြိမ် ခန့်ထည်နေပါသည်။

ဆရာတော်လေး ဦးဝိမလကို ညောင်လေးပင် တောရ ဆရာတော် ဘုရားကြီး ဦးအရိယကလည်း လက်ခံတော်မူ၏၊ တောရဆရာတော်ဘုရားကြီး လက်ခံဖို့ ဆိုတာ မလွယ်ကူတဲ့ အလုပ်ပါ၊ ယခု ဆရာတော်ကလေး ဦးဝိမလကိုကား လက်ခံတော်မူနေပြီ။

အဘယ့်ကြောင့်ဆိုသော် အဘိဓမ္မာတရားတွေကို ဟောပေးသည်ကတစ်ကြောင်း၊ ပဋိစ္စသမုပ္ပါဒ် ဒေသနာတော်ကို အခြေခံ၍ သစ္စာတရားတွေကို ဟောသည်က တစ်ကြောင်း၊ ဝိနည်းကိုယ်ကျင့်ကို လေးစားသည်က တစ်ကြောင်း၊ ဤအကြောင်းတို့ကြောင့်ဟု ဆိုသည်။

ဆရာတော်လေး ဦးဝိမလကလည်း ဤမြို့ ဤနယ် ဤဒေသမှာ ဆရာတော်ဘုရားကြီး၏ ထောက်ခံမှုကို ရပြီးမှ ဟောရတာ ဆိုတော့ ပြည့်ပြည့်ဝဝ ဟောအားရှိလှပါသတတ်။

ဟောတဲ့ ပွဲတိုင်းမှာလည်း အားပေးသောအနေဖြင့် တောရဆရာတော်ဘုရားကြီးက စာချဘုန်းကြီးများ၊ တိုက်ကြပ်ဆရာတော်များကို လွှတ်၍-လွှတ်၍ ပေးပါသတတ်။

## ပဋိစ္စသမုပ္ပါဒ် ထွန်းကားအောင်

မုံရွာမြို့ လယ်တီဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၆၅-ခုနှစ် တပို့တွဲလပြည့်ကျော် ၃ ရက်နေ့က အိန္ဒိယနိုင်ငံရှိ မဟာဗောဓိသို့ ဖူးမြော်သွားရန် မန္တလေးမှနေ မီးရထားဖြင့် ထွက်ခွာလာခဲ့သည်။

မန္တလေးမြို့နှင့် ရန်ကုန်မြို့အကြား မီးရထားကြီးပေါ်တွင် ပဋိစ္စသမုပ္ပါဒ်ပျို့ကဗျာလင်္ကာများကို ရေးသားတော်မူခဲ့၏။

"ဗောဓိရတနာ၊ ယာဉ်စကြာဖြင့်၊
သစ္စာလေးရပ်၊ လေးကျွန်းပတ်သား၊
နတ်ဝိသုဒ္ဓိ၊ တုမရှိအား၊ တြိဒွါရ၊
ရှိဦးခလျက်..."

စသည်ဖြင့် ရေးသားတော်မူလာခဲ့ရာ ရန်ကုန်ရောက် သောအခါ (၁၃)ပုဒ်လုံး ပြီးစီးသွားလေသည်၊ တစ်ဖန် ရန်ကုန်မှ ပင်လယ်ကူးသင်္ဘောကြီးဖြင့် အိန္ဒိယနိုင်ငံ ဘင်္ဂလားမြို့သို့ သွားခဲ့ရာ ၄-ည၊ ၅-ရက် ကြာ၏၊ ကမ်းမမြင်သော ပင်လယ်ပြင်ကြီးပေါ်မှာ (၁၃)ပုဒ်၏ အဖြေ ဒီပနီကို ရေးသားတော်မူခဲ့လေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဤသို့လျှင် ပဋိစ္စသမုပ္ပါဒ် ထွန်းကားအောင် ရွက်ဆောင်တော်မူခဲ့၏။

အလားတူ ညောင်လေးပင် တောရ ဆရာတော်ဘုရားကြီးကလည်း ပဋိစ္စသမုပ္ပါဒ် ထွန်းကားစေချင်လှ၍ "ပဋိစ္စသမုပ္ပါဒ်အရသာ" ကျမ်းစာကို ရေးသားတော်မူခဲ့သည်။

ပြီးလျှင် ပဋိစ္စသမုပ္ပါဒ်သင်တန်းများ ပေး၍ စာမေးပွဲများပါ ကျင်းပပေးတော်မူခဲ့၏၊ ဤသို့ ထွန်းကားအောင် ရွက်ဆောင်တော်မူခဲ့သည်။

ယခု မိုးကုတ်ဆရာတော်လေး ဦးဝိမလကလည်း ပဋိစ္စသမုပ္ပါဒ်ကိုပင် အခြေခံ၍ သစ္စာတရားများကို ဟောပြနေသည်ဟု ညောင်လေးပင် တောရ ဆရာတော်ဘုရားကြီးက ကြားနေ၏၊ ဤအချက်ကိုလည်း ဆရာတော်ကြီးက ကျေနပ်နေတော်မူသတတ်။

ဤသို့လျှင် ပဋိစ္စသမုပ္ပါဒ် ထွန်းကားအောင် စာဖြင့် ရေးသားတော်မူကြခြင်း၊ နှုတ်ဖြင့် မြွက်ကြားတော်မူကြခြင်းဖြင့် ရွက်ဆောင်တော်မူခဲ့ကြသည်။

## သစ္စာနို့ချို ဝိုင်းအုံသောက်စို့

ညောင်လေးပင်မြို့မှာ တရားဟောနေခိုက် တစ်နေ့သော ညအခါတွင် ဆရာတော်လေး ဦးဝိမလမှာ ထူးထူးဆန်းဆန်း အိပ်မက်တစ်ခု မက်သည်။

"တရားပလ္လင် အမြင့်ပေါ်တွင် ထိုင်၍ တရားဟောနေစဉ် ဒကာ– ဒကာမတွေက ရှေ့ကို ဝိုင်းအုံ တိုးလာကြ၏၊ ပြီးလျှင် ဆရာတော်ကလေး၏ ဝဲဘက် ယာဘက် နို့အုံ ၂–ဘက်ကို အလုအယက် ဆွဲ၍ အလုအယက် စို့ကြတော့သည်။

ဆရာတော်ကလေး ဦးဝိမလကလည်း မတားမြစ်ဘဲ အစို့ခံနေမိသည်၊ ခဏကြာတော့မှ "ဘွား"ခနဲ နိုးလာတော့၏"

နိုးလာတော့မှလည်း "သြော်... အိပ်မက်ကိုး" ဟု သိရ တော့သတတ်၊ ဆရာတော်ကလေးလည်း အံ့အားသင့် နေမိတော့၏၊ မမက်စဖူး ထူးဆန်းလွန်းလှသည်။

"ဘယ်လို ဖြစ်လာမည့် အတိတ်နိမိတ်လေလဲ" ဟုလည်း တွေးနေမိတော့သတတ်၊ မနက်မိုးလင်းမှ ညောင်လေးပင်တောရ ဆရာတော်ဘုရားကြီး ဦးအရိယအား သွား၍ လျှောက်ထားကြည့်သောအခါ ဆရာတော်ဘုရားကြီးက–

"ဟယ်... လက်ခမောင်းသာ ခတ်ပေရော့ဟဲ့၊ တယ် ကောင်းတဲ့ နိမိတ်ပါလား မောင်ပဉ္ဇင်းရဲ့၊ ဟင်...။

ဒီအတိတ်နိမိတ်က မောင်ပဉ္ဇင်းရဲ့ သစ္စာတရား အမြိုက်နို့ချိုတွေကို တိုင်းသူပြည်သား ဒကာ– ဒကာမအများက ဝိုင်းအုံသောက်စို့ကြမယ့် အရိပ်ပွာယ်ပဲကွယ်။

မကြုံစဖူး ထူးထူးကဲကဲ၊ သိပ်ကောင်းတာပဲ၊ မပေါ့ပါနဲ့ မောင်ပဉ္ဇင်းရဲ့၊ ကြိုးစားပြီး တရားကိုသာ အားထုတ်ပါတော့"

ဟူ၍ မိန့်ဟ တိုက်တွန်းတော်မူပါသတတ်၊ ဆရာတော်ဘုရားကြီးက စိတ်ဝင်တစားနဲ့ အံ့အားသင့်ပြီး လေးလေးနက်နက် တိုက်တွန်းတော် မူနေခြင်း ဖြစ်ပါသည်–တဲ့။

ဝိပဿနာစခန်းတွေကိုတဲ့ အခြေအမှန်သာ...<br>
ဗွေသံသရာမှာတဲ့ အဟိုဟိုပြေး။<br>
နေရဗာန်လှာတဲ့ သို့မို့ကလေး–<br>
(အမယ်မင်း) အမေ မြန်မြန်လာပါလို့<br>
ဓမ္မာနို့ချိုကို ကျွေး...။ ။

## ဗုဒ္ဓအဘိဓမ္မာ မြန်မာ့ဩဘာရှိ

သက္ကရာဇ် ၁၂၉၉–ခု ဆောင်းလယ်ပိုင်း ရောက်လျှင် ဆရာတော်လေး ဦးဝိမလ၏ သက်တော်မှာ (၃၈)နှစ်၊ သိက္ခာတော်က (၁၉)ဝါ ဖြစ်သွားပြီ၊ အဘိဓမ္မာ သဘင်ပွဲ ဆင်နွှဲသိမ့်သိမ့် တငြိမ့်ငြိမ့်ပင် ဖြစ်၏၊ စာသင်သားတို့လည်း အားကောင်းနေကြဆဲ ဖြစ်သည်။

ဗုဒ္ဓဘာသာထွန်းကားသော (၅)နိုင်ငံတွင် မြန်မာနိုင်ငံသည် (သုတ္တန်–ဝိနည်း–အဘိဓမ္မာ) သုံးဖြာလုံး အပြည့်အဝ အထွန်းကားဆုံးနိုင်ငံဖြစ်၏၊ ဗုဒ္ဓဘာသာနိုင်ငံချင်းပင်လျှင် အဘိဓမ္မာကို အထူးလေ့လာလိုပါက မြန်မာနိုင်ငံသို့ လာကြရလေသည်။

မြန်မာနိုင်ငံတွင်လည်း အမရပူရ (တောင်မြို့)သည် အဘိဓမ္မာညဝါဘက်တွင် ခေါင်ထိပ်အမြင့်ဆုံး ဖြစ်တော့သည်၊ [အဘိဓမ္မာဒေသနာတော်ကို မြန်မာလို ပြန်၍ အရကောက်၍ ပြခဲ့သော ရှေးဆရာတော်ကြီးများ၏–ကောင်းမှုပင်တည်း။]

အမရပူရမြို့တွင် ထိုအချိန်က အဘိဓမ္မာ ချပို့ပေးသော ကျောင်းတိုက်တို့မှာ မဂ်လာတိုက်သစ်၊ တိုက်ဟောင်းတို့သာမက နောက်ပိုင်းတွင် တူမောင်းတိုက်ပါ တိုးလာတော့၏၊ ဘယ်နားသွားသွား အမရပူရ တစ်မြို့လုံး အဘိဓမ္မာညဝါသံတို့ဖြင့် ဖုံးနေသလို ဖြစ်တော့သည်။

## အဘိဓမ္မာတရားမိုး ၉–နှစ်တိုင်တိုင်

သက္ကရာဇ် ၁၃၀၀–ပြည့်နှစ် နတ်တော်လဆုတ် (၁၁)ရက်ဆိုလျှင် ဆရာတော်လေး ဦးဝိမလမှာ သက်တော် ၃၉–နှစ်၊ သိက္ခာတော်က (၂၀)ဝါ၊ မဟာထေရ်ကြီး စာရင်းပင် ဝင်လာပြီ၊ စာပေချပို့မှုလည်း အရှိန်အဝါ ကောင်းတုန်း အင်ပြည့် အားပြည့် ဖြစ်၏။

မိုးတွင်းပိုင်းမှာ အဘိဓမ္မာတွေကို ချပို့၊ ဆောင်းပိုင်းမှာ မင်းကွန်းသို့ ကူး၊ နွေဦးပေါက်လျှင် ညောင်လေးပင်သို့ သွား၍ တရားဟော၊ အဲဒီက ပြန်လျှင် မိုးကုတ်သို့ တက်၊ ဤသို့ စက်ပတ်လည်နေခဲ့သည်။

ထို့ကြောင့် ယခုနှစ်တွင်လည်း တပေါင်းလဆန်း (၈)ရက်နေ့သို့ ရောက်သောအခါ ညောင်လေးပင်သို့ သွား၍ တရား ဟောလိုက်နိုင်သေး၏၊ ၁၂၉၂–ခု တပေါင်းလမှစ၍ ဟောလာခဲ့ရာ ယခု ၁၃၀၀–ပြည့် တပေါင်းလအထိ နှစ်စဉ်မပျက် ဆက်တိုက် (၉)နှစ် တိုင်တိုင် ဟောပေးခဲ့သည်။

ထို့နောက်ပိုင်းတွင်ကား ဒုတိယကမ္ဘာစစ်မီးကြီး တောက်လောင်ဖို့ရာ ဟိုနားက မီးခိုးထလာ၊ ဒီနားက မီးပွားတွေ လွင့်လာ စသည်ဖြင့် လှုပ်လှုပ်ရွရွ ဖြစ်လာကြ၏၊ သို့ဖြစ်၍ တရားပွဲလည်း မကျင်းပနိုင်တော့၊ ဆရာတော် ဦးဝိမလလည်း မကြွနိုင်တော့ဘဲ ပြတ်လပ်သွားခဲ့ကြသည်။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သက်တော်–၄၀၊ ပြည့်ဖြိုးကြွယ်

ဆရာတော်လေး ဦးဝိမလသည် ရဟန်းသိက္ခာ (၅)ဝါခန့်မှစ၍ စာချရာတွင် နာမည်ရခဲ့၏၊ အဓိပ္ပာယ်ကို ရှင်းအောင် ပြောနိုင်သည်၊ သရုပ်ကိုလည်း လင်းအောင် ဟောနိုင်သည်၊ ဤနည်းဖြင့် ယခုလို စာချသက် ၁၅– နှစ်ရှိ၍ သက်တော် ၄၀–ပြည့်လာသောအခါ ပို၍ပင် နာမည်ကြီးလာတော့၏၊ နာမည်ကြီးလေ စာလိုက်သူ ပေါလေ ဖြစ်လာတော့သည်။

**တစ်နေ့လျှင်** စာ(၂)ဝါ ချပို့ပေး၏၊ စာ(၁)ဝါ **လျှင် သံဃာတော်က** ၂၅ဝနှင့် ၃၀၀ကြားတွင် ရှိသည်၊ စာချခန်းမကြီးတစ်ခုလုံး ဝင်းထိန်နေတော့၏၊ တစ်ပင်လုံး ပြွတ်ခဲမည့်ဝင်းနေသော လိမ္မော်ပင်ကြီးပမာ ဖြစ်တော့သည်။

ညဝါပိုင်းဆိုင်ရာ မာတိကာ– ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်းတို့ကို ဖျန်းဖျန်းကွဲအောင် လှည့်ပတ် ပို့ချပေးနေ၏၊ ဘုရားသာသနာတွင် နိုင်ရာဝန်ကို ကျေပွန်အောင် ထမ်းခြင်းပင် ဖြစ်တော့သည်။

ဤစေတနာတို့ကြောင့်ပင်လော မပြောတတ်၊ မြန်မာပြည် ထက်–အောက် တလွှားမှ များပြားလှစွာသော သံဃာတော်တို့သည် ဖန်ဝါရောင် တလွှားလွှားဖြင့် အမရပူရ ဆရာတော်လေး ဦးဝိမလအနားသို့ ဝိုင်းအုံ ချဉ်းကပ်ကြ၍ မပြတ်အောင် သင်ယူနေကြတော့သည်။

* လေးဆယ်မျှ သက်တော်၊
ဘုန်းမော်ရဲ့ ဘဝ။

* တစ်နေ့ စာ (၂) ဝါနှင့်၊
မာတိကာ ယမိုက်ကျမ်းတို့ပြင်၊
ပဋ္ဌာန်းပါ အကုန်ပေါက်အောင်လို့တဲ့၊
ထက်–အောက် ပြည်မြန်မာမှ၊
ထေရ်သံဃာ ဖန်ဝါရဟန်းတို့ကို၊
ခွန်းချို မိန့်ဟ။ ။

x



## ဒုတိယ ကမ္ဘာစစ်ကြီး ကာလ

လွန်ခဲ့သော နှစ်ပေါင်း (၂၀)ကျော်က ပထမ ကမ္ဘာစစ်ကြီး ဖြစ်ခဲ့ဖူး၏၊ ကမ္ဘာကြီးတစ်ခုလုံး မီးဟုန်းဟုန်း တောက်ခဲ့ကြသည်၊ အသက်စည်းစိမ်အိုးအိမ်တွေ ပျက်စီးခဲ့ကြရ၏၊ (၁၉၁၄–၁၈)အတွင်းက ဖြစ်သည်၊ (၄)နှစ်ပတ်လုံး ကြိမ်မီးအုံးမှု ပူလောင်ခဲ့ကြရ၏၊ ကြေမွပျက်သုဉ်း ယူကျုံးမရ ဘဝပျက်စီးကြရသည်၊ ယခုတစ်ဖန် ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ဖို့ရန် ယမ်းခိုးယမ်းနံ့များ ထွက်လာကြပြန်၏။

ကမ္ဘာ့အနောက်ပိုင်း၌ ဟစ်တလာအစိုးရ ဂျာမနီဘို့သည် နေရာတကာတွင် ခေါင်းမာနေကြသည်၊ ခွက်ဖက်ချင်ကြ၏၊ ဩစတြီးယားနိုင်ငံနှင့် ချက်ကိုစလိုဗက်ကီးယားနိုင်ငံတို့ကို ဝင်ရောက်ကျူးကျော်ကြတော့သည်၊ ထို့နောက် တစ်ဆင့်တက်ကာ ပိုလန်နိုင်ငံတွင်းသို့ ချင်းနင်း ဝင်ရောက်တိုက်ခိုက်ကြပြန်၏။

ထိုအခါ အင်္ဂလိပ်နှင့် ပြင်သစ်တို့က (ပိုလန်နှင့် စာချုပ်ထားကြသည် ဖြစ်၍ ဝင်ရောက် ကူညီဖို့ရန် တာဝန်ရှိလာ၏၊ သို့ဖြစ်၍) ၁၉၃၉–ခု စက်တင်ဘာလ ၃–ရက် [မြန်မာသက္ကရာဇ် ၁၃၀၁–ခု ဝါခေါင်လဆုတ် ၅–ရက်] နေ့တွင် ဂျာမနီအား စစ်ကြေညာလိုက်တော့သည်၊ ထိုအချိန်မှစ၍ ကမ္ဘာ့အနောက်ဖျား၌ ဒုတိယ ကမ္ဘာစစ်မီးကြီး စတင် တောက်လောင်လာတော့၏။

## အရှေ့ဖျားတွင်လည်း လှုပ်ရှားလာ

တစ်ဖန် ကမ္ဘာ့အရှေ့ဖျားတွင်လည်း ဂျပန်တို့သည် တိုးတက်သောနိုင်ငံ ဖြစ်လာ၍ နယ်ချဲ့ဖို့ရန် ဟန်ပြင်နေကြ၏၊ တရုတ်ပင်လယ် ကမ်းရိုးတန်း နယ်မြေများကိုပင် ဝင်၍–ဝင်၍ တိုက်ခိုက်သိမ်းပိုက်နေကြပြီ။

ဤကဲ့သို့ ကမ္ဘာ့အရှေ့ဖျားနှင့် အနောက်ဖျားတို့တွင် စစ်မီးတောက်များ စတင်လောင်နေကြပြီ ဖြစ်သော်လည်း မြန်မာပြည်အဖို့ နေသာပါသေး၏၊ ရောင်းဝယ်ဖောက်ကား သွားလာနိုင်ကြပါသေး၏၊ ဇရပ်တန်ဆောင်း ကျောင်းကန်ဘုရားသို့လည်း အေးအေးချမ်းချမ်း သွားလာနိုင်ပါသေး၏၊ ဆရာတော်လေး ဦးဝိမလသည်လည်း ရှိသမျှပရိသတ်ဖြင့် စာချနေနိုင်ပါသေး၏။

သို့ရာတွင် ကမ္ဘာကြီး လှုပ်လာသောအခါ မြန်မာပြည်မှ လူတို့သည်လည်း မငြိမ်မသက် ဖြစ်လာကြရတော့သည်၊ သံဃာတော်များလည်း အပါအဝင် ဖြစ်၏၊ သို့ဖြစ်၍ မြို့ပေါ်၌ စာသင်သား သံဃာတော်များ တဖြည်းဖြည်း နည်းပါးလာကြပြီးလျှင် တောရွာများသို့ ပြန်သွားခိုလှုံကြတော့သည်။

ကမ္ဘာကြီး၏ လှုပ်ရှားမှုမှာ ရပ်နားခြင်းမရှိပေ၊ တရွေ့ရွေ့ လှုပ်ရှားလာရာမှ ၁၉၄၀–ခုနှစ် နောက်ပိုင်းသို့ ရောက်လာသောအခါ ဂျပန်တို့က ပြင်သစ်ပိုင် အင်ဒိုချိုင်းနားကို ဝင်ရောက်သိမ်းပိုက်လိုက်တော့၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## တကယ့် ကမ္ဘာစစ်ကြီးအဖြစ်သို့

ထိုမှုမက ဂျပန်တို့က ဟာဝိုင်ယီကျွန်းပေါ်ရှိ အမေရိကန် ရေတပ်စခန်းကြီးနှင့် လေယာဉ်ကွင်းကြီးကို စစ်မကြေညာဘဲ ရုတ်တရက် ထ၍ တိုက်ကြတော့သည်၊ အမေရိကန်တို့ အတော်ကလေး အထိနာသွားကြ၏။

ထို့ကြောင့် နောက်တစ်နေ့ ၁၉၄၁–ခု ဒီဇင်ဘာ ၈–ရက် [မြန်မာသက္ကရာဇ် ၁၃၀၃–ခု နတ်တော်လ ဆုတ် ၆–ရက်]နေ့တွင် အမေရိကန်တို့က ဂျပန်အား အတိအလင်း စစ်ကြေညာလိုက်လေသည်၊ ထိုအချိန်မှစ၍ ကမ္ဘာ့အရှေ့ဖျားတွင်လည်း စစ်မီးတောက်ကြီး အရှိန်ပြင်းစွာ တောက်လောင်လာတော့သည်။

တစ်ဆက်တည်းပင် အင်္ဂလိပ်နှင့် ဒတ်ချ်တို့က လည်း ဂျပန်ကို စစ်ကြေညာကြတော့၏၊ ထိုအခါ ဂျာမနီနှင့် အီတလီတို့ကလည်း (ဂျပန့်ဘက်ကနေ၍) အမေရိကန်ကို စစ်ကြေညာကြပြန်သည်။

ထို့ကြောင့် ထိုအချိန်မှစ၍ တကယ့်ကမ္ဘာစစ်ကြီး အဖြစ်သို့ ရောက်ရှိသွားကြတော့သည်၊ (ဆွီဒင်၊ ဆွစ်ဇာလန်နှင့် တောင်အမေရိကတိုက်ရှိ နိုင်ငံအချို့မှတစ်ပါး) ကျန်ကမ္ဘာ့နိုင်ငံအားလုံး စစ်ကြီးထဲ ပါဝင်တိုက်ခိုက်ကြတော့သည်။

ကွင်းပြင်ထဲမှာ ကျင်းပနေသော ပွဲခင်းကြီးတစ်ခုလုံး တရုန်းရုန်းနှင့် ရန်ဖြစ်ကြသလို ဖြစ်တော့၏၊ ဘယ်သူ့– ဘယ်သူကိုမှ အုပ်ထိန်း၍ မရကြတော့ဝါးလုံးကြီး အစည်းပြေသလို ဖြစ်ကုန်တော့သည်။

## မြန်မာပြည်သို့ စစ်မီးတောက်ကြီး ကူးစက်လာ၊ ရန်ကုန်မြို့ကြီး ကျဆုံးသွား

ဤသို့ အပြန်အလှန် တိုက်ခိုက်နေကြရာ ဂျပန်တို့သည် အရာရာတွင် အောင်ပွဲခံနေကြ၏၊ ဂျပန်နိုင်ငံသို့ ရောက်နေကြသော မြန်မာ့အာဇာနည် ရဲဘော် (၃၀) ရဲဘော်သုံးကျိပ်တို့သည်လည်း ဂျပန်တို့နှင့်အတူတကွ မြန်မာပြည်သို့ ပြန်လာကြ၍ တိုက်ခိုက်ကြသည်။

ထိုသို့ တိုက်ခိုက်လာခဲ့ကြရာ ၁၃၀၃–ခု တပေါင်းလဆုတ် ၈–ရက် (၁၉၄၂–ခု မတ်လ ၈–ရက်)နေ့တွင် ရန်ကုန်မြို့ကြီး ကျဆုံးသွားရ၏၊ ဂျပန်တို့သည် လေယာဉ် အစင်းပေါင်း (၉၀)ခန့်မျှဖြင့် ရန်ကုန်မြို့ကြီးပေါ်မှာ (ငှက်အုပ်ကြီး ဝဲသလို) ပျံဝဲကြပြီးလျှင် ဗုံးတွေ ကြဲချကြတော့သည်။

အင်္ဂလိပ်တို့သည် ကစဉ့်ကလျား ဖြစ်ကုန်ကြ၏၊ အချို့ သေကြ– အချို့ ပြေးကုန်ကြသည် အင်္ဂလိပ်တို့သာမက အိမ်ခံဖြစ်သော မြန်မာတို့သည်လည်း အနိုင်းအဆမရှိ ဆုံးရှုံးကြရ၏၊ အသက်စည်းစိမ် အိုးအိမ်တွေ မရှုမလှ ပျက်စီးကြရတော့သည်။

ထိုအခါ အောက်ပြေအောက်ရွာမှ လူတို့သည် အထက်အညာဒေသမြို့ရွာများသို့ လွတ်ရာ လွတ်ကြောင်း ပြေးလာကြတော့၏၊ သို့သော် စစ်မီးတောက်ကြီးသည် မြန်မာပြည်တစ်ခုလုံးသို့ အနှံ့အပြား တောက်လောင်လာပြီဖြစ်၍ လွတ်နိုင်ပါမည်လော။

## တစ်ဘာပသာသနာ

# စိုးရိမ်မကင်း ဖြစ်လာကြ၍

ယခုဆိုလျှင် မန္တလေး–စစ်ကိုင်း–အမရပူရမြို့ ...းပေါ်သို့လည်း စစ်လေယာဉ်ပျံများ လာ၍ လာ၍ ...နေကြပြီ၊ ထိုအခါ နီးစပ်ရာ ဒကာတို့က ဆရာတော် ...လေး ဦးဝိမလကို လာ၍ ပင့်ကြတော့၏၊ စိုးရိမ်မကင်း ...စ်လာကြ၍ သင့်တော်ရာသို့ ကြွဖို့ရန် ပင့်လာကြခြင်း ...စ်လေသည်။

စာသင်သား သံဃာတော်တို့ကား စာစောစောကပင် ...ိုယ့်ရပ် ကိုယ့်ရွာ ကိုယ့်ဒေသသို့ ပြန်ကြွကုန်ကြပြီ၊ သို့ဖြစ်၍ ကျောင်းတိုက်ထဲမှာ ခြောက်သွေ့နေသလို ...စ်တော့၏၊ ကျောင်းစောင့်တစ်ပါးစ– နှစ်ပါးစမျှသာ ...ှန်တော့သည်။

ဆရာတော်လေး ဦးဝိမလက "ဘယ်ကိုမျှ ကြွလိုပါ၊ ရှိသမျှ ကိုယ်တော်များနှင့် အေးအတူ ...အမျှ နေတော့မည်"ဟု ဆိုကာ ပင့်၍မရချေ။

နောက်ပိုင်းတွင် စစ်ပြေးဒုက္ခသည်တို့က ဘုန်း ...ကြီး ကျောင်းတိုက်များအတွင်းသို့ အတင်းဝင်ရောက် ...လှုံလာကြတော့၏၊ ထို့ကြောင့် အန္တရာယ်တွေ ပို၍ ...းလာဖွယ်ဖြစ်သည်။

သို့ဖြစ်၍ ဒကာတွေက နောက်ထပ် တစ်ဖန် ...ကျိုးအကြောင်းများဖြင့် လျှောက်ထားကာ ဖွတ် အတင်းပင့်ကြရပြန်တော့၏၊ ထိုအခါကျမှပင် ဆရာတော်လေး ဦးဝိမလ အမရပူရမြို့ထဲ ပွဲတော်ရပ်သို့ လိုက်ပါ ကြွရောက်လေသည်။

ပွဲတော်ရပ်၌ ရက်အနည်းငယ်မျှ သီတင်းသုံးပြီး သောအခါ ထိုအရပ်၌လည်း စိတ်မချရ ဖြစ်လာရပြန်၏၊ ထို့ကြောင့် ပို၍ စိတ်ချရမည်ထင်သော မင်းကွန်းဘက် မိုးကုတ်ချောင်သို့ ပြောင်းရွှေ့ဖို့ရန် စီမံကြရပြန်လေ သည်။ ထိုအစီအစဉ်အရ စစ်ကိုင်းဘက်သို့ ကူး၊ ထိုမှ မြစ်ကမ်းအတိုင်း အထက်သို့ ဆန်တက်ပြီးလျှင် မင်း ကွန်းသို့ ရောက်သွားရလေသည်။

စစ်မီးတောက်ကြီးကား တောမီးလောင်သလို ကူးစက်မှု မြန်ဆန်လွန်းလှသည်၊ အောက်မြန်မာပြည် ရန်ကုန်မြို့ကြီးကို ဗုံးကြဲအပြီးတွင် အထက်မြန်မာ ပြည်သို့လည်း ချက်ချင်း ရောက်လာကြတော့၏။

သက္ကရာဇ် ၁၃၀၃–ခု တပေါင်းလဆုတ် (၁၉၄၂– ခု မတ်လ)ထဲမှာပင် မန္တလေး နန်းတော်အတွင်းရှိ "မြန်မာပြည်အသင်းတိုက်ကြီး"ကို စတင်ဗုံးကြဲတော့ သည်၊ မကြာမီ၍ မန္တလေးမြို့ကြီးတစ်မြို့လုံး တုန်လှုပ် ချောက်ချားသွားရတော့သည်။

# စစ်ဘေး အေးမည့်ထင်ရာ မိုးကုတ်သို့

အခြေအနေတွေမှာ အစစ အရာရာ စိတ်ချဖွယ် မဟုတ်တော့ချေ၊ အားလုံး ထိတ်လန့်နေကြရလေပြီ၊ ...လေးမြို့ကြီးနှင့် မဝေးလှသော (ကြားတွင် ဧရာဝတီ ...သာ ခြားသော) မင်းကွန်းသည်လည်း ချောက်ချား ...ရလေပြီ။

ထိုအချိန်တွင် မိုးကုတ်မြို့မှ ကျောင်းဒကာကြီး ဦးလယ်သည် စိတ်မချနိုင်လွန်း၍ ကိုယ်တိုင် ဆင်း လာ၏၊ ဆရာတော်ကလေး ဦးဝိမလကို အမရပူရတွင် စုံစမ်းသည်၊ မင်းကွန်းသို့ ရောက်သွားပြီဟု သိရ၏၊ သို့နှင့် မင်းကွန်းသို့ လိုက်လာပြီးလျှင် မိုးကုတ်သို့

မရ–အရ ပင့်တော့သည်။

ထို့ကြောင့် ဆရာတော်လေး ဦးဝိမလသည် မိုးကုတ်မြို့သို့ စစ်ဘေးခိုရန် ရောက်လာရတော့၏၊ သက္ကရာဇ် ၁၃၀၃–ခုနှစ် ကုန်ခါနီး တန်ခူးလဆန်းပိုင်း (ခရစ်–၁၉၄၂–ခု မတ်လ)အတွင်းက ဖြစ်သည်။ သင်္ကြန် မကျသေး၊ နှစ်သစ် မကူးရသေး။

မိုးကုတ်မြို့တွင် ဆိုင်ရာဒကာတို့က သုဿာန် ကျောင်းမှာ နေရာချထားပေး၍ သီတင်းသုံးရသည် ထိုအချိန်က ဆရာတော်လေး ဦးဝိမလမှာ သက်တော် (၄၂)နှစ်၊ သိက္ခာတော်(၂၃)ဝါ ရရှိလေပြီ။

# မန္တလေးမြို့ကြီးကျဆုံး မီးတဟုန်းဟုန်း

ဆရာတော်လေး ဦးဝိမလမှာ ဝေးလံသီခေါင်တဲ့ မိုးကုတ်မြို့ကို ရောက်ရ၍ စစ်ဘေး စစ်ဒဏ် အန္တရာယ်တွေမှ အေးချမ်းရပါ၏၊ သို့သော်လည်း မကြာမီပင် ကျန်ရစ်သော မန္တလေးမြို့ကြီးအကြောင်းကို ကြားရပါတော့သတတ်။

> “၁၃၀၃–ခု နှောင်းတန်ခူးလဆုတ် ၄–ရက်၊ (၁၉၄၂–ခု ဧပြီလ ၃–ရက်)နေ့က မန္တလေးမြို့ကြီးပေါ်မှာ အနှံ့အပြား လေယာဉ်ပျံတွေနဲ့ ဝဲ– ဗုံးတွေ ကြဲချလို့ တစ်မြို့လုံး မီးဟုန်းဟုန်း တောက်ရသတဲ့၊ ကြောက်မက်ဖွယ်ကြီးတဲ့။
>
> သေကျေပျက်စီးမှုတွေ အမြောက် အမြားနဲ့ အလောင်းတွေ အတုံးအရုံးတဲ့၊ မြန်မာ့ယဉ်ကျေးမှု အနုပညာ လက်ရာမြောက် – အဆောက်အအုံတွေလဲ ကုန်ပြီ”တဲ့။

ဤသို့ စသည်ဖြင့် စိတ်နှလုံး မချမ်းမြေ့ဖွယ်ရာတွေ ကြားရတော့သတတ်၊ ထို့ပြင် “အမရပူရမြို့ပေါ်မှာလဲ တချို့နေရာ ဗုံးတွေ ချသွားသေးသတဲ့”စသည်ဖြင့် ရင်နင့်ဖွယ်တွေသာ ကြားနေရတော့သတတ်။

# သင်္ကြန်အခါရက် ဖြစ်သော်လည်း

မန္တလေးမြို့ကြီးကို ဗုံးတွေကြဲပြီးနောက် အခြားသော မြို့ကလေးတွေ၊ အင်္ဂလိပ်တို့ ရှိမည်ထင်ရသည့် နေရာတွေကို လိုက်လံရှာဖွေ၊ လေယာဉ်နဲ့ ပျံဝဲပစ်ခတ်၊ အချို့နေရာတွေမှာ ဗုံးတွေကြဲ လုပ်နေကြသည်။

ထိုနှစ်က ၁၉၄၂–ခု ဧပြီလ ၁၅–ရက် (ကဆုန် လဆန်း ၂–ရက်)နေ့သည် ၁၃၀၄–ခုနှစ်အဖြစ်သို့ ကူးပြောင်းသော နှစ်ဆန်း(၁)ရက်နေ့ ဖြစ်၏။

သင်္ကြန်အခါရက်များသို့ ရောက်လာကြသော်လည်း အစစအရာရာ ထိတ်ထိတ်ပျာပျာ ဖြစ်နေကြရ၍ သင်္ကြန်မှန်းပင် မသိလိုက်ကြရ၊ ဤနည်းအားဖြင့် နှစ်သစ်သို့သာ ကူးပြောင်းလာတော့သည်၊ ဂျပန်လေယာဉ်တို့ကား ဝဲလျက်– ပစ်ခတ်လျက်– တဒက်ဒက်…။

အင်္ဂလိပ်တို့က ခံစစ်အနေဖြင့် မန္တလေးမှ ခုခံနေသော်လည်း ကြံ့ကြံ့ခံနိုင်စွမ်း မရှိကြချေ၊ ဂျပန်တို့က တစ်ရှိန်ထိုး တွန်းလှန်တိုက်ခိုက်နေကြသည်၊ ထို့ကြောင့် ၁၃၀၄–ခု ကဆုန်လဆုတ် ၂–ရက် (၁၉၄၂–ခု ဧပြီလ ၃၀–ရက်)နေ့တွင်ကား အင်္ဂလိပ်တို့ လက်လွှတ် ထွက်ပြေးရသော နေ့ကြီး ဖြစ်တော့၏။

ယင်းနေ့ရက်တွင် မန္တလေးမြို့ကြီးကို အင်္ဂလိပ်တို့ လုံးဝ လက်လွှတ်၍ ဆုတ်ခွာပြေးရပြီးလျှင် စစ်ကိုင်း တံတားကြီးကို ဖျက်ဆီးပစ်ခဲ့ကြ၏၊ ထိုအချိန်မှစ၍ အင်္ဂလိပ်တို့ခေတ် တစ်စခန်းရပ်လေသည်။

ထို့နောက် ဂျပန်ခေတ်သို့ ကူးပြောင်းလာတော့၏၊ တစ်ခေတ် ဆန်းကြပြန်သည်။

## မိုးကုတ်မြို့ကလေး အခြေအနေ

စောစောပိုင်းက မိုးကုတ်မြို့ကလေးသည် ဘေး
န် မသန်း အေးချမ်းနေ၏၊ ယခု ထိုသို့မဟုတ်တော့ချေ၊
ှုပ်လှုပ်ရွရွ ဖြစ်လာရချေပြီ၊ မိုးကုတ်မြို့ကလေးသည်
ဿးဘက်လေးတန် တောင်တန်းကြီးတွေက ဝိုင်းပတ်
ာထားနေ၏၊ ဒယ်အိုးကင်းသဖွယ် အတွင်းဘက်သို့
ာ်ချာလယ် နိမ့်ဆင်းသွားသည်။

ထိုသို့ နိမ့်ဆင်းသွားသော အလယ်ကောင်မှာမှ
့နေအိမ်ခြေ လူနေရပ်ကွက် တည်ထားကြ၏၊ ထို့
ကြာင့် သဘာဝအားဖြင့် ရန်သူများ ရုတ်တရက်
ဝင်နိုင်ချေ။

သို့ရာတွင် ယခုအခါ ဂျပန်လေယာဉ်ပျံတို့က
ာ– လာဝဲနေသဖြင့် စိတ်မလုံမလဲ ရှိကြရတော့၏၊
့အတွက် ပစ္စည်းရှိသူ အများစုတို့သည် မိမိတို့နှင့်
နွယ်ရာစပ်ရာ တောရွာများသို့ သွားရောက် ပုန်းအောင်း
ခိုလှုံကြရန် ပြင်ဆင်နေကြပြီ။

ကျောင်းဒကာ ဦးလယ်+ဒေါ်သိုင်းခြံတို့လည်း
နန်းနွဲ့ရှိချောင်သို့ သွား၍ ပုန်းအောင်းကြမည်ဟု
ဆိုသည်၊ ဒေါ်ဒေါ်အုံ– ဒေါ်ဒေါ်ဖုံတို့ မိသားစုလည်း
တခြားသို့ ပြောင်းရွှေ့ ပုန်းအောင်းကြမည်ဟု ဆုံး
ဖြတ်ကြပြီးလျှင် ဆရာတော်လေးထံသို့ လာ၍ လျှောက်
ကြ၏၊ တပါတည်း လိုက်ခဲ့ဖို့ရန် ပင့်ကြလေသည်၊
သို့သော် ဆရာတော်က ပင့်၍ မရ။

"အေး... ပြောင်းကြ– ရွှေ့ကြ၊ သင့်တော်ရာ
အောင်းကြ ခိုကြ၊ ဘေးကင်းရာ တိမ်းကြ ရှောင်ကြ၊
ဘုန်းကြီးကတော့ မလိုက်သေးပါဘူး"ဟု ပြောကာ
ဆရာတော်က နေရစ်ခဲ့လေသည်။

## မိုးကုတ်မြို့မှ ဘော်ပတန်းရွာသို့

သို့သော် အခြေအနေက တစ်နေ့ထက် တစ်နေ့
ပို၍ ဆိုးလာသတတ်၊ လေယာဉ်ပျံဝဲတဲ့ အကြိမ်တွေ
း၍ များ၍ လာသတတ်၊ သူတို့ သံသယမကင်းတဲ့
ရာတွေ မြင်တွေ့နေ၍ ဖြစ်ပါလိမ့်မည်၊ သံသယ
ာလျှင် ဗုံးတွေ ချမှာ အမှန်ပင် ဖြစ်၏၊ စိုးရိမ်စရာတွေ
င်လာသည်။

ထိုအခါ ကျောင်းဒကာကြီး ဦးလယ်၊ ဦးဘိုးလုံ
ဘော်ပတန်းရွာမှ ဒကာမကြီး ဒေါ်ကြီးတို့က လာ
လျှောက်ကြတော့သတတ်။

"အရှင်ဘုရား... ဒီလို နေလို့ မဖြစ်ဘူး၊ ဒီ
မိုးကုတ်မြို့ပေါ်မှာကိုပဲ သိပ်ပြီး စိတ်မချရပြန်ဘူး၊
စစ်လေယာဉ်တွေက ခဏ– ခဏ လာပြီး ဝဲ
နေတယ်၊ ဒီတော့ တပည့်တော်မတို့နေတဲ့
ဘော်ပတန်းရွာကို လိုက်ပြီး သီတင်းသုံးပါ"

ဤသို့ ဝိုင်းဝန်းလျှောက်ကြရတော့၏၊ ထိုအခါကျမှ
လက်ခံကာ ၁၃၀၄–ခု နယုန်လဆုတ်ထဲ (၁၉၄၂–ခု
ဇွန်လထဲ)မှာ မိုးကုတ်မြို့ကနေ (၄)မိုင်ခန့်ကွာဝေးတဲ့
ဘော်ပတန်းရွာကလေးသို့ လိုက်ပါပြီး သီတင်းသုံး
တော်မူတော့သည်။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဘော်ပတန်း ရွာကလေး



**မိုးကုတ်မြို့အနီး ဘော်ပတန်းရွာကလေး**

ဘော်ပတန်း ရွာကလေးသည် မိုးကုတ်မြို့၏ အနောက်မြောက်ဘက်တွင် ရှိ၏၊ မိုးကုတ်မြို့မှနေ၍ သွားလျှင် ကန်သာရွာ၊ ရေပူရွာ၊ သဖန်းပင်ရွာတို့ကို ကျော်ဖြတ်၍ သွားရသည်၊ မိုးကုတ်မြို့နှင့် (၄)မိုင်ခန့် ကွာဝေး၏။

လမ်းတစ်လျှောက်တွင် ချယ်ရီပင်များ၊ သစ်တိုပင်များ၊ သစ်တော်ပင်များ၊ အင်ကြင်းပင်များ၊ ထင်းရှူးပင်များကို သာယာရှုမောဖွယ် တွေ့ရသည်၊ ဘော်ပတန်း ရွာကလေးသည် မြေပြန့်မှာ တည်ရှိသော ရွာကလေး မဟုတ်ပါ။

ပင်လယ်ရေပြင်အထက် ပေ(၄၀၀၀)လေးထောင် ကျော် မြင့်သော တောင်ပေါ် (တောင်ကမ်းပါးယံ)တွင် တည်ရှိသော တောင်ပေါ် ရွာကလေးသာ ဖြစ်ပါ၏၊ အိမ်ခြေ (၁၀၀)ကျော် ရှိသည်။

မျက်နှာသုံးဘက်က တောင်တန်းကြီးတွေ ပိတ်ကာထားသဖြင့် တိတ်ဆိတ်နေ၏၊ ငြိမ်သက်အေးဆေးသော ရွာကလေးသာ ဖြစ်သည်၊ အပြာရောင် တောင်ခိုးမြူငွေ့တွေ အမြဲတမ်းလို ဝေနေ၏၊ ရာသီဥတုကလည်း တောင်ကြားထဲမှာ ဖြစ်၍ အစဉ် အေးစိမ့်နေတတ်သည်။

လေကလေးက တဖြူးဖြူးနှင့်မို့ ကြည်နူးဖွယ်လည်း ကောင်းလှပါ၏၊ ပတ်ဝန်းကျင် တောတောင်တစ်ခုလုံး စိမ်းစိုရွှန်းမြလျက် သဘာဝကပင် ဆွတ်ပျံ့ဖွယ် ဖြစ်ပါသည်။

သို့သော် အခြေအနေတွေက ထိတ်ထိတ်ပျာပျာ၊ လန့်လန့်ကြောက်ကြောက် အချိန်အခါကြီး ဖြစ်နေ၍ သာမောဖွယ် ကောင်းသော တောတောင် သဘာဝ၏ အရသာကို မခံစားနိုင်ကြပါချေ။

စစ်ဘေးစစ်ဒဏ်အန္တရာယ်ကို ရှောင်ကြဉ်ရန် အတွက်သာ ရောက်လာကြရ– ဘေးရန်လုံဖို့ စိတ်စောနေကြရတော့သည်။

## တစ်ဘဝသာသနာ

# လိုဏ်ဂူကြီးက ဖိတ်ခေါ်နေသလို

ဘော်ပတန်း ရွာကလေးမှ တောင်ဘက်ကို ...ာ်နှာ မူ၍ ကြည့်လျှင် တလွင်တပြင်ကြီးကို မြင်နိုင်၏၊ ...မြောက်ဘက်–အနောက်ဘက်–အရှေ့ဘက်တို့တွင်ကား ...တောင်တန်းကြီးတွေက မိုးထိနီးပါး ပိတ်ကာထား ...သောကြောင့် ကွင်းပြင်ကို မမြင်ကြရ၊ တောင်ဘက် ...ှင်သာ တောင်ကမ်းပါးယံမှနေ၍ တစ်မျှော်တစ်ခေါ် ...ီး မြင်ကြရသည်၊ မြင်းခွာပုံသဏ္ဌာန်လို ဖြစ်တော့၏။

သုံးဘက်ကာထားသော တောင်တန်းကြီးတွေ ...ကြားထဲမှာ အစီအရီ တည်ဆောက်ထားသော ဘော်ပတန်း ရွာကလေးကို တွေ့နိုင်သည်၊ သွပ်ခေါင်မိုး ကလေးတွေ ဖွေးဖွေးနှင့် အဝေးကပင် မြင်နိုင်ကြ၏။

ရွာတွင်းသို့ မဝင်ခင် ရွာပြင်ဘက်အနီး အရှေ့ ဘက် တောင်တန်းကြီးကို မျက်စိ ဝေ့၍ လေ့လာ အကဲခတ်နိုင်သည်၊ တောင်တန်းနံရံကို ကျောပေးမှီလျက် ကျောက်လိုဏ်ဂူကြီးတစ်ခုရှိ၏၊ လိုဏ်ဂူကြီး၏ မျက်နှာ ဝက တရားဓမ္မဖြင့် မွေ့လျော်မည့်သူတို့ကို ဖိတ်ခေါ်နေ သလို ဖြစ်တော့သည်။

## ကျောက်လိုဏ်ဂူကြီး၏ အနေအထား



ဒုတိယကမ္ဘာစစ်ကြီးအတွင်း မိုးကုတ်ဆရာတော်ဘုရားကြီး တရားအားထုတ်ခဲ့သော
ဘော်ပတန်းရွာအနီး ကျောက်လိုဏ်ဂူကြီး

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ယင်းဂူကြီးဆီသို့ ရောက်အောင် တောင်ခုလတ်မှ အထက်ပေ (၂၀၀)ခန့် ခပ်ပြေပြေ မော့၍ တက်ရသေး၏၊ ထိုအခါကျမှ ဂူပေါက်ဝသို့ ရောက်သည်၊ ဂူ၏ အထက်တွင်လည်း မြင့်မားသော တောင်စွယ် တောင်ထွတ်တို့ကို မြင်နေကြရသေး၏၊ ကျောက်လိုဏ်ဂူကြီးသည် အထိကရ မြင့်မားသော တောင်တန်းကြီး၏ တစ်ဝက်ခန့် (တောင်ကမ်းပါးယံ)တွင် တည်ရှိနေသည်။

ဂူအတွင်းသို့ ဝင်၍ကြည့်သောအခါ လက်၂-ဖက်ခန့်မျှမက ကျောက်တိုင်ကြီး ၃-ခုက မတ်လျက် ရပ်လျက် တည်ရှိ၏၊ ယင်းကျောက်တိုင်ကြီး ၃-ခု ထိပ်ပေါ်တွင် (ကွမ်းသီးခြမ်းကို လက်သုံးချောင်းထိပ်ပေါ်၌ မှောက်၍ တင်ထားသလို) ကျောက်တုံးအလုံးကြီး တစ်ခြမ်းက မှောက်လျက်တင်၍ မိုးထားသည်။

အမိုး ကျောက်တုံးကြီးမှာ အပေါ်က ခုံးလျက်နေသော်လည်း အတွင်းဘက်၌မူ မျက်နှာကြက်ကဲ့သို့ ညီညာ၍ ပြန့်ပြူးနေ၏၊ ယင်း၏ ဝန်းကျင်တွင်မူ တောင်မြေ သဲမြေ ကျောက်မြေတို့ဖြင့် ညှပ်လျက် ပြည့်သိပ်နေအောင် ပတ်ကာထားသည်၊ အတွင်းဘက်၌ အလျား ၁၅-ပေခန့်၊ အနံ-၁၀-ပေခန့် ကျယ်ဝန်းသော၊ အမြင့်အားဖြင့် လူ့တစ်ရပ်ခွဲကျော်မြင့်သော တိုက်ခန်းမကြီးသဖွယ် ဖြစ်နေတော့၏၊ နတ်တို့ဖန်သလို ဖြစ်တော့သည်။

ရာဇဂြိုဟ်မြို့၏ ပြင်ဘက် ခပ်လှမ်းလှမ်းတွင် တောင်ကမ်းပါးယံ တောင်စောင်း ဆင်ခြေလျှော၌ "ကာဠသိလာ"ဟူ၍ နာမည်ကြီးသော ကျောက်လိုဏ်ဂူကြီး တစ်ခုရှိ၏၊ "ကျောက်ညိုဂူကြီး" ဟု အဓိပ္ပာယ် ရသည်၊ တစ်ခါ တစ်ရံတွင် ဘုရားရှင်ကိုယ်တော်မြတ်ကြီးတို့ သီတင်းသုံးတော်မူတတ်၏၊

တစ်ခါတစ်ရံတွင်လည်း အရှင် မောဂ္ဂလာန်၊ အရှင်သာရိပုတ္တရာစသော ဘုရားသားတော်များ သီတင်းသုံးတော်မူတတ်ကြသည်၊ ယခု ဘော်ပတန်းရွာက ကျောက်လိုဏ်ဂူကြီးကလည်း ထိုနည်းပမာ ကြီးမားခန့်ထည် ပြန့်ကျယ်လှစွာ တရားဓမ္မတို့ဖြင့် ပျော်မွေ့စရာ ကောင်းလှတော့သည်။

## လူမတွေ့အောင် ဂူမွေ့တော်မူခြင်း

ဤ ကျောက်လိုဏ်ဂူကြီး၏ အနေအထားကို ကြည့်၍ ဆရာတော်က သဘောကျနေသည်၊ စေ့စေ့စပ်စပ် ကြည့်ရှုသုံးသပ်ပြီးနောက် ပြုံးစပ်စပ်ဖြင့်ပင် ဤသို့ ဆုံးဖြတ်ချက် ချတော်မူ၏-

"ဒီကျောက်လိုဏ်ဂူကြီးက တရားအားထုတ်ဖို့ ကောင်းတယ်၊ ဘုန်းကြီးက ဒီကျောက်လိုဏ်ဂူကြီးထဲမှာ နေမယ်"

ဟူ၍ဖြစ်သတည်း၊ သို့သော် ဒကာတို့က စဉ်းစားရပါ၏၊ "ကျောက်လိုဏ်ဂူထဲမှာချည်း အမြဲနေလျှင် ကျန်းမာရေး ထိခိုက်နိုင်သည်၊ အပြင်ဘက်တွင် သစ်သားကျောင်းဖြင့် လေကောင်းလေသန့်လည်း ရဦးမှ ဖြစ်မည်"ဟု တိုင်ပင်ကြ၏။

ထိုသို့ တိုင်ပင်ကြပြီးနောက် လိုဏ်ဂူကြီးအနီး ရှေ့မျက်နှာစာ ဆင်ခြေလျှော မြေပြင့်ပြန့်ပေါ်မှာ ယာယီတဲကျောင်းကလေးတစ်ခု ဆောက်လုပ်ပေးကြသည်၊ ဆွမ်းကပ်သောအခါ ထို ယာယီ တဲကျောင်းကလေးပေါ်မှာ ကပ်လှူကြသည်ဟူ၏။

ထိုယာယီကျောင်းကလေးကား ဝါးတိုင်ထူ၊ ဝါးကြမ်းခင်း၊ ဝါးကပ်ကာလျက်၊ လေကောင်းလေသန့်ရရန် ၂-တောင့်ထွာခါးပြတ် ပတ်ထားပေးသည်ဟူ၏။

အမိုးအတွက်ကိုတော့ တောင်နေကြာပန်းပင်ကိုင်းတို့ကို ပိတ်သဲထူထပ်စွာ ကပ်လျက်ထပ်၍ တင်ပေးထားသည် ဟူသတတ်။

## တစ်ဘဝသာသနာ

**နံနက်စောစောတွင် ယာဂု(ဆန်ပြုတ်) ဘုဉ်းပေး**သည်၊ နေမြင့်ပိုင်း ၁၀–နာရီခွဲလောက်မှ ဟင်းတစ်ခွက်၊ နှစ်ခွက်စဖြင့် ဆွမ်းဘုဉ်းပေးတော်မူသည်၊ ယာဂုနှင့် ဆွမ်းကို ဦးဘိုးလုံ+ဒေါ်ကူးတို့က တာဝန်ယူ ချက်ပြုတ် ဆက်ကပ်ကြပါသတတ်။

ဤသို့လျှင် ၁၃၀၄–ခုနှစ် ပထမဝါဆိုလဆန်း ...ိုင်းကစ၍ ကျောက်လိုဏ်ဂူကြီးအတွင်းသို့ ရောက်နေ ...တော်မူပြီ၊ ထို့နောက် ဝါကပ်ရန်ရက်သို့ ရောက်လာသော အခါ ဂူကြီးအတွင်းမှာပင် ဝါကပ်၍ သီတင်းသုံးတော် မူတော့၏။

၁။ လူမတွေ့ချင်လို့တဲ့၊
ဂူမှေ့တဲ့ မထေရ်။
၂။ သံသရာ ဟိုဘက်ကမ်းကို၊
မြန်းဖို့ ရော်ရည်။
၃။ တောင်ထွတ်တွေနဲ့ စုံစုံညီ၊
မှုန်ရီတဲ့ ဘော်ပတန်း။
၄။ ဆိပ်ဦး သည်နေရာက၊
ပြည်ခေမာ နိဗ္ဗူကိန်းလို့ရယ်၊
ငြိမ်းဖို့ မျှော်မှန်း။ ။

## ဆရာတော်ကိစ္စ ကူညီကြသူများ

နောက်ပိုင်းတွင် ဆရာတော်လေး ဦးဝိမလ ...ဘော်ပတန်းရွာသို့ ရောက်နေပြီဖြစ်ကြောင်း ဒေါ်အုံ– ...ဒေါ်ဖုံတို့ ကြားသောအခါ သူတို့မိသားစုပါ တခြား ...ရာတွင် ခိုအောင်းနေရာမှ ဘော်ပတန်းရွာသို့ ရွှေ့ ...ပြောင်း လာကြပြန်တော့သည်၊ ဆရာတော်အတွက် ...ယျာဝစ္စပြုမည့်သူများ တိုးလာကြခြင်း ဖြစ်တော့၏။

ဆရာတော်က ကျောက်လိုဏ်ဂူကြီးအတွင်းမှာ ...ချိန်များစွာ သီတင်းသုံးတော်မူတတ်၏၊ ဆွမ်းဘုဉ်း ...ချိန်များကျမှ တောင်ကမ်းပါးယံ ဆင်ခြေလျှော ...ကွက်လပ်ပေါ်ရှိ ယာယီ တဲကျောင်းကလေးသို့ ...် ကြွ လာတတ်သည်။

ဒေါ်အုံ–ဒေါ်ဖုံတို့ မိသားစုက ထိုတောင်ကြီး၏ ...ဘက်ခြေ လျှိုမြောင်ထဲမှာ တဲထိုး၍ နေထိုင်ကြ၏၊ ...သံ၊ အမြောက်သံ၊ လေယာဉ်ပျံသံတို့ကြားထဲမှာ ...ဘ်နိုင်သမျှ ကိုယ်ယောင်ဖျောက်ကြရခြင်း ဖြစ်သည်။

ဒေါ်ဖုံ၏ သားအရင်း ကိုမြင့်နှင့် သားသမက် ကိုအောင်ကျော်တို့က ဆရာတော်အတွက် မလစ်လပ်ရ အောင် ပြုစုပေးကြ၏၊ စားရေးသောက်တာအတွက် အထူးဂရုစိုက် ရှာဖွေပေးကြသည်၊ ရလာသမျှတို့ကို ဒေါ်အုံ– ဒေါ်ဖုံနှင့်သမီး မစိန်စိန်နှင့် မလှလှတို့က ချက်ပြုတ် ကပ်လှူကြသည်ဆို၏။ ကျေးဇူးများသော မိသားစုပါပေ။

ကိုမြင့်နှင့် ကိုအောင်ကျော်တို့က သပိတ်ကျဉ်း နှင့် နီးစပ်ရာရွာများသို့ သူခိုးဓားပြတွေကြားထဲ၊ သားရဲ တိရစ္ဆာန် ဘေးရန်အလယ်၊ အရဲစွန့်ပြီး မကြောက်မရွံ့ သွားခဲ့ကြရ၏၊ ဆီ ဆန် ဆားတို့ကို ထမ်းပိုးသယ်ဆောင် ၍ ဆရာတော်အား ပြုစုခဲ့ကြသည် ဟူသတတ်။

---

**မှတ်ချက်။** ။ဤ အကြောင်းအရာများကို ယခုအခါ ဒေါ်ဒေါ်ဖုံ၏သား ဦးမြင့်နှင့် သားသမက် (မိုးကုတ်ဥက္ကဋ္ဌ) ဦးအောင်ကျော်တို့က ပြန်လည်ပြောပြပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အတွင်းရန်ကို တိုက်ခိုက်နေခြင်း

ယခုအခါ ဆရာတော် ဦးဝိမလကား ဘော်ပတာန်းရွာ ကျောက်လိုဏ်ဂူကြီးထဲမှာ တရားဓမ္မအတွက် အချိန်ကို အလွန်တန်ဖိုးရှိစွာ အသုံးချနေလေပြီ၊ ဂူကြီးကလည်း ဆရာတော်အတွက် စောင့်မျှော်နေသလို ဖြစ်ခဲ့၏၊ ယခုအခါ ဆရာတော်လည်း ရောက်လာခဲ့ပြီတည်း။

အပြင်လောကကြီးထဲမှာ စစ်ကို လိုလားကြတဲ့ စစ်ဝါဒီတို့က အပြင်ရန်သူတွေနှင့် သူနိုင်– ကိုယ်နိုင် အပြိုင်တိုက်ခိုက်နေကြ၏၊ ထိုအချိန်မှာ ဆရာတော် ဦးဝိမလကား ဂူအတွင်းမှာ ကိုယ်တွင်းရန်သူတွေနဲ့ သူနိုင်– ကိုယ်နိုင် အပြိုင်ကြဲ၍ တိုက်ပွဲဝင်နေလေပြီ။

အပြင်လောကကြီးတွင် ကမ္ဘာကြီးတစ်ခုလုံး မီးဟုန်းဟုန်းတောက်၍ ပျက်စီးကုန်ကြသည်ကို ဆရာတော်က (လိုဏ်ဂူထဲ ရောက်နေ၍) မသိလိုက်ရပါ၊ သို့ရာတွင် အတွင်းလောက (မိမိခန္ဓာဗွင်း)၌ ပျက်စီးကုန်ကြသည်တို့ကိုကား ဆရာတော် ကောင်းကောင်း သိနေပါသည်။

## မာ ဝေါ ခဏော ဝိရာဓေထ

အချိန်တို့သည် ရပ်တန့်၍ မနေ၊ တရွေ့ရွေ့ ပြောင်းလွဲနေကြ၏၊ ထိုပြောင်းလျက် ရွေ့လျက်နေသော အချိန်တို့ကို ဆရာတော်က မလွတ်တမ်း ဖမ်းယူ၍– ဖမ်းယူ၍ တန်ဖိုးရှိစွာ အသုံးချနေသည်၊ အဘဘုရားရှင် ကိုယ်တော်မြတ်ကြီးကလည်း–

"မာ ဝေါ ခဏော ဝိရာဓေထ"

"အချိန်ကောင်း အခွင့်ကောင်းတွေ လက်လွတ်
မကုန်ကြစေနှင့်–"

ဟူ၍ သတိပေးထားသည် မဟုတ်ပါလော၊ ထို့ကြောင့် အပြင်လောကတွင် အချိန်ကောင်း အခွင့်ကောင်းတွေကို သူတို့ ဆိုင်ရာကိစ္စတို့၌ အသုံးချကြသလို ဆရာတော်ကလည်း ကိုယ့်ကိစ္စအတွက် မလွတ်တမ်း ဖမ်းယူ၍ အသုံးချနေပြီ။

## ၅–ပေါက်ပိတ်၊ ၁–ပေါက်က စောင့်ဖမ်း

ကျောက်လိုဏ်ဂူကြီးအတွင်းသို့ ဝင်လိုက်လျှင် ဣန္ဒြေတွေ အတော်များများ စောင့်စည်းပြီးသားလို ဖြစ်ကုန်တော့၏၊ မြင်စရာအာရုံရယ်လို့ ထူးထူးထွေထွေ မတွေ့ရ၊ ကြားစရာအာရုံလဲ မကြားရ၊ အနံ့ဆိုလို့လဲ မြေသင်းနံ့ကလေးတွေမှတစ်ပါး အခြားမရှိပေ၊ အရသာလည်း တံထွေးမျိုမှုမျှလောက်သာ ရှိပေသည်၊ တွေ့ထိစရာအနေနှင့်မူ လိုဏ်ဂူအတွင်းက သဲမြေပြင်မျှသာ ဖြစ်တော့၏။

ဤသို့လျှင် ဣန္ဒြေ ၆–ပါး၊ တံခါး ၆–ပေါက် ရှိသော်လည်း ၅–ပေါက်က ပိတ်ပြီးသားလို ဖြစ်နေတော့သည်၊ ကျန် မနိန္ဒြေ မနောတစ်ပေါက်ကိုသာ ဖွင့်ထားပြီး အလုပ်–လုပ်ရုံသာ ရှိတော့သည်။

"အပေါက် ၆–ခု ရှိသော တောင်ပို့ကြီးကို ၅–ပေါက် ပိတ်ထားပြီး၊ ကျန်တစ်ပေါက်က စောင့်ဖမ်းလျှင် သည်ဖွတ်– ဘယ်ပြေးမလဲ၊ မိရမှာပေါ့"

ဟူသကဲ့သို့တည်း၊ ယခုလည်း ဤအတိုင်းပင် အလုပ်လုပ်တော်မူနေပေလိမ့်မည်။ အမြန်နှုန်းဖြင့် ဖြစ်–ပျက်နေသည်တို့ကို ဉာဏ်ဖြင့် လိုက်၍ မိအောင် ဖမ်းနေပါလိမ့်မည်။

## တစ်ဘဝသာသနာ

# သမ္မပ္ပဓာန် လုံ့လဝီရိယမျိုးဖြင့်

ဆရာတော်၏ ဘဝခရီးအရပ်ရပ်ကို သုံးသပ်ကြည့်မည်ဆိုပါလျှင် အံ့သြဖွယ် အဖြစ်အပျက်ကလေးများကို တွေ့ရမည် ဖြစ်၏၊ ယခုပင်လျှင် လုံခြုံအေးချမ်းသော ကျောက်လိုဏ်ဂူကြီးအတွင်းသို့ ရောက်နေရပြီ ဘည်း။

ဆရာတော်၏ ကံတရားတို့က အန္တရာယ်ဘေးရန်များလှတဲ့ အပြင်လောကကြီးထဲတွင် မနေစေဘဲ၍ ကျောက်လိုဏ်ဂူကြီးအတွင်းသို့ ပို့ပေးလိုက်သလိုဖြစ်တော့သည်၊ ဤအချက်တို့ကို ဆရာတော်လည်း သတိပြုမိပါလိမ့်မည်။

သို့ဖြစ်၍ "မိမိကသာ ကြိုးစားဖို့ လိုသည်၊ သည်မှန်းသမျှ အောင်ရမည်"ဟူ၍ အောင်စိတ်ကို အပြည့်အဝ မွေးထားလိုက်သည် ဟူ၏၊ သမ္မပ္ပဓာန် လုံ့လဝီရိယတို့ဖြင့် တက်တက်ကြွကြွ အသင့် အနေအထား (တိုက်ပွဲဝင်မည့် စစ်ဗိုလ်ကြီးအလား) ကိုယ့်ကိုယ်ကို ပြင်ဆင်ထားလိုက်သည် ဟူသတတ်။

၁။ အကျိုးအမြတ်တို့ကို မြင်၍ ချက်ချင်းထပြီး လုပ်ကိုင်ကြိုးစားသော အာရမ္ဘဓာတ်။

၂။ အလုပ်ခွင်၌ နှောင့်ယှက်တတ်သော (ထိန–မိဒ္ဓ–ကောသဇ္ဇ) ထိုင်း–မှိုင်း–ပျင်းရိ စသည်တို့ကို တွန်းလှန် တိုက်ဖျက်သော နိက္ကမဓာတ်။

၃။ အထက်တန်းတရားတို့ကို ရဖို့အတွက် တက်လှမ်းရာ၌ ဆုတ်နစ်စေတတ်သော ဘေးရန်တို့ကို တွန်းလှန် တိုက်ဖျက်တတ်သော ပရက္ကမဓာတ်။

ဤဓာတ်တို့ကို ကိုယ်တွင်း အပြည့် မွေး၍ "ကိစ္စမပြီးစီးသမျှ ဤနေရာမှ ငါ မထပြီ"ဟူ၍ စက်ကုန်လွှတ်သော ဝီရိယမျိုးဖြင့် ကြိုးစားခဲ့သည် ဟူသတတ်။

စက္ကန့်မှ မိနစ်၊ မိနစ်မှ နာရီ၊ နာရီမှ နေ့ရက်၊ နေ့ရက်မှ လသို့ တစ်စ–တစ်စ အချိန်တွေ ပြောင်းလွဲလာခဲ့သည်၊ ဝါဆို၊ ဝါခေါင်၊ တော်သလင်း၊ သီတင်းကျွတ်လေပြီ။

ထိုအခါ ဆရာတော်၏ သက်တော်က ၄၃–နှစ်၊ သိက္ခာတော်က ၂၄–ဝါ ရှိလာပြီ၊ အားပြည့် အင်ပြည့် သတိ–ဝီရိယ–သမာဓိတို့ အခြေခံလျက် သမ္မာသင်္ကပ္ပ–သမ္မာဒိဋ္ဌိတပ်သားတွေ အပြည့်ဖြင့် တိုက်ပွဲဝင်နေဆဲ။

# ဥတုသုံးလီ ရာသီပြောင်းလွဲ၍

မိုးကုတ်ရာသီဥတုသည် မိုးတွင်းအခါ၌ အုံ့မှိုင်းထိုင်းနေသလိုဖြစ်၏၊ တောင်ခိုးမြူငွေ့တို့ဖြင့်လည်း ဓာမ်းလိုပင် ရစ်ပတ်ထွေးပိုက်ထားသည်၊ ကျေးငှက်ရကာတို့လည်း အသိုက်တွင်းမှာပင် ကုတ်နေတတ်၏။

မိုးကုန်၍ ဆောင်းသို့ကူးသောအခါမှ ပွင့်လင်းကြသည်၊ သို့သော် မိုးသီးမိုးပေါက်တို့အစား နှင်းမှုန်နှင်းမွှားကလေးတို့က အလှည့်ပြောင်း၍ ယူကြသလို ဖြစ်ပြန်သည်။

ဆောင်းကုန်၍ နွေသို့ ကူးသောအခါတွင်ကား အထူး လန်းဆန်း ပွင့်လန်းလာကြတော့၏၊ ပွင့်လင်းရာသီ ဖြစ်လာပြီ၊ ကျေးငှက်သာရကာတို့လည်း လူးလာပျံသန်း၍ ရွှင်လန်းလာကြတော့၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ပတ်ချာဝန်းရံ တောင်ကမ်းပါးယံတကြော တောတန်း ဂနိုင် မြိုင်လျှိုချုပ်ကြားတို့က အလှပန်းကလေးများတို့သည် စွင့်ကား ဝင့်ကြွားလျက် ဖွံ့ထွားစွာ အလှချင်း ပြိုင်လာကြတော့၏၊ ပန်းမျိုးစုံပင် ဖြစ်တော့သည်။

ဤမြင်ကွင်းမျိုးကို မြင်ထား၍လော မပြောတတ်၊ ပန်းများ စာဆို ရှင်ကရဝိက ကိုယ်တော်က ဤသို့ ဖွဲ့ဆိုထားဖူး၏ –

> **"**သော်က ထွတ်ထွတ်၊ ဖက်ဆွတ်လတ်လတ်၊
> ရင်ခတ်ရွှေရွှေ၊ မိုးစွေနီနီ၊
> သရဖီ ထပ်ထပ်၊ ဇလပ်မွှေးမွှေး၊
> မုလေးဆင့်ဆင့်၊ ကြာပွင့်ဝါဝါ၊
> ယင်းမာ လန်းလန်း၊ အနန်းရှားရှား၊
> စကားဝင်းဝင်း၊ အင်ကြင်းရွှင်ရွှင်၊
> သဇင်လူလူ၊ မဥ္ဇူလှိုင်လှိုင်၊
> ပန်းခိုင်ခိုင်နှင့်…"

စသည်ဖြင့် မခုရတာဂုဏ်မြောက်အောင် ဖွဲ့ကုံးတော်မူလိုက်သည်၊ သူ့ဂုဏ်ထူးနှင့် သူ– တစ်ပွင့်နှင့် တစ်ပွင့် မတူရချေတကား၊ သူနိုင်–ကိုယ်နိုင် အလှချင်း ပြိုင်နေကြလေသလော၊ မပြောတတ်။

## ရျာန်ပိုင်ရှင် ထေရ်ရဟန်းသော်မှ

အချိန်တို့သည် တရွေ့ရွေ့ ပြောင်းလွဲလာခဲ့၏၊ ၁၃၀၄–ခုနှစ် ကုန်ဆုံး၍ ၁၃၀၅–ခုနှစ်သို့ပင် ကူးပြောင်းလာခဲ့ပြီ၊ နှစ်ပြောင်းသော်လည်း ဆရာတော်ကား ဂူတွင်း အောင်းလျက် ကဆုန်၊ နယုန်၊ ဝါဆို၊ ဝါခေါင်၊ တော်သလင်း၊ သီတင်းကျွတ်သောအခါ ဆရာတော်၏ သက်တော်မှာ ၄၄နှစ်၊ သိက္ခာ ၂၅–ဝါရတော့သည်။

မိုးကုန်၍ ဆောင်းသို့ ကူးလာသောအခါ ထုံးစံအတိုင်း တောင်နေကြာပန်းတို့က ရဟန်းကိုယ်စီ ပတ်ကြသလို၊ ထိန်ဝါဝင်းစက်လာကြပြီးလျှင် တောင်တန်းကြီးတွေ တစ်ခုလုံး ရွှေတုံး ရွှေတောင်ကြီးတွေလို ဖြစ်လာကြတော့သည်။

ဆရာတော်ကား ခေတ္တခဏမျှ ဂူမှ ထွက်သောအခါ ဤအခြေအနေ အမှတ်အသား လက္ခဏာတို့ကို ကြည့်၍ ကြည့်၍ "ဪ– တစ်မိုးနှောင်း၍ တစ်ဆောင်း ကူးခဲ့ပြန်ပြီကော" ဟူ၍မျှသာ အသိအမှတ်ပြုရလေတော့သည်။

ဝန်းကျင်တစ်ခွင် မျက်စိတစ်ဆုံး ကြည်နူးဖွယ် မြင်ကွင်းတို့ဖြင့်ဖုံးနေသလိုဖြစ်၏၊ နှလုံးအေးမြသာမောဖွယ်၊ တောင်စွယ်တောင်ထွတ် တမွတ်အဖျား တို့ကိုလည်း မြူခိုးတွေကြားက ခပ်ပါးပါးမြင်နေကြရသည်။

ရေတံခွန်စိမ့်စမ်း တောင်ကြားလမ်းကလေးတို့မှလည်း ဖြတ်သန်းကြည်လင် တသွင်သွင် စီးဆင်းနေသည်တို့ကိုလည်း တွေ့နေကြရ၏။

တွေ့ရသမျှ မြင်ကွင်းတို့ကား ကြည်နူးဖွယ် ဆွတ်ပျံ့ဖွယ် တသဖွယ် လွမ်းဆွတ်ဖွယ်တို့ချည်းသာ ဖြစ်နေကြသည်။

> ၁။ တောင်တစ်ရိုး…
> ခိုးမင်သန့် တဝေဝေ၊
> ၂။ မဟာမြိုင် သာတဲ့နန်းမှာ
> ပန်းတွေက ထွေ။
> ၃။ ချောင်းမြစ်ရေ…
> တွေတွေကွယ့် သာမော၊
> ဈာန်ပိုင်ရှင် ထေရ်ရဟန်းသော်မှ
> လွမ်းဖွယ့် ဤတော။ ။

ဤမြင်ကွင်း ဤတောတောင်မျိုးကား ကောင်းကင်က ပျံသန်းတဲ့ ဈာန်ရ–ရဲဟန်း၊ ဈာန်ရ မထေရ်ကြီးတို့သော်မှ စိတ်ထိခိုက်ဖွယ် ဖြစ်၏၊ ပုထုဇဉ် ဈာန်ရ ဆိုလျှင် မဆည်နိုင် မျက်ရည်စို၍ လွမ်းဆွတ်ဖို့များ ဖြစ်ကြသည်ဟု ဆိုလိုသည်။

## ဂူအတွင်း နေထိုင်စဉ် ကျန်းမာရေး

မိုးကုတ်ရာသီဥတုသည် အမြဲလိုပင် အေးစိမ့်နေ
တတ်၏၊ နွေပိုင်းကာလသော်မှ နေရောင်ခြည်ကလေး
ဖျော့ဖျော့ဖြင့် နေလို့ ကောင်းရုံမျှသာ ဖြစ်သည်၊ ဒါ
သောင် မနက်စောစော ဖြစ်ပါက ခြုံထည် မလွတ်သေး၊
စောင်ပတ်ခြုံထွေး ထားရသေး၏။

ဆောင်းတွင်းပိုင်း မိုးတွင်းပိုင်း၌ကား အုံ့မှိုင်း
ထိုင်းနေတတ်သည်၊ အေးစိမ့်၍လည်း နေတတ်၏၊
သို့အခါမျိုးတွင် တစ်ခါတစ်ရံ ဆရာတော့်မှာ နှာစေး
ချင်လာတတ်သည်၊ နှာရည်တွေပျော်ပြီး ဆင်းနေတတ်
၏၊ ထိုအခါ အနေခက်တတ်သည်။

ယင်းသို့ ဖြစ်လာလျှင် ဂူအပြင်သို့ ထွက်၍
"အခိုးပွင့်ဆေး"ကို အကပ်ခိုင်းရတော့သည်၊ အခိုးပွင့်
ဆေးကို ရေနွေးပူပူ ကျိုက်ကျိုက်ဆူဖြင့် သောက်ချ
လိုက်လျှင် ပွင့်လာပြီး ပေါ့ပါးသွားတတ်သည် ဆို၏။

ထို့ကြောင့် ဆရာတော်က အမိန့်ရှိပါသတဲ့၊
"ဒီဆေးဟာ တယ်ကောင်း တာပဲ၊ အခိုး ပွင့်တယ်၊
ကျန်းမာရေးအတွက် အထောက်အကူ အများကြီး
ဖြစ်တယ်"ဟူ၍ မိန့်ပါသတတ်။

## ဂျပန်ကို ပြန်၍ တော်လှန်ကြခြင်း

အင်္ဂလိပ်တို့ ထွက်ပြေးကုန်ကြပြီးနောက် မြန်မာ
ပြည်သည် ဂျပန်တို့၏ လက်အောက်သို့ ရောက်သွားခဲ့
ပြန်၏၊ သူတို့ အုပ်ချုပ်၍ တစ်နှစ် ပြည့်သော နေ့
၁၀၅–ခု ဝါခေါင်လဆန်း ၁–ရက် (၁.၈.၄၃)နေ့တွင်
မြန်မာပြည်အား "ရွှေရည်စိမ် လွတ်လပ်ရေး" ပေးတော့
သည်။

ထိုအခါမှစ၍ မကျေမနပ်ဖြစ်ကုန်ကြ၏၊ ထိုမှ
က ဂျပန်တို့သည် တစ်နေ့တခြား ရမ်းကားလာခဲ့ကြ
သူတို့၏ ဇာတိပြလာကြသည်၊ နေရာတကာတွင်
သနာတွေ ပေါ်ပေါ်နေတော့၏၊ သူတို့ကို ကြည့်၍
ကြတော့။

သူတို့ကို မောင်း၍ ထုတ်ရန်သာ ရှိတော့သည်၊
အခွင့်အခါကို စောင့်၍လာခဲ့ရာ တစ်နှစ်ကျော် ကြာ
သွားလေ၏၊ ပို၍–ပို၍သာ ဆိုးလာကြတော့သည်။

သို့ဖြစ်၍ သက္ကရာဇ် ၁၃၀၆–ခု တပေါင်းလ
(၁၉၄၅–ခု မတ်လ)တွင် ဗိုလ်ချုပ်အောင်ဆန်း အမှူး
ရှိသော ဗမာ့တပ်မတော်တို့က ဂျပန်ကို အတိအလင်း
ပြန်၍ တော်လှန်ကြတော့သည်။

နီးရာ ဂျပန်တို့ကို လိုက်၍ တိုက်ခိုက် ချေမှုန်း
နေကြပြီ၊ ကစဉ့်ကလျား ဖြစ်ကုန်ကြရတော့၏၊ တဖြည်း
ဖြည်းနှင့် အရေးနိမ့်ကာ သူတို့နိုင်ငံရှိရာ အရှေ့ဘက်သို့
ဦးတည် ပြေးနေကြရပြီ။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အနောက်စစ်မျက်နှာ အေးချမ်းသွား

အနောက်ဥရောပစစ်မျက်နှာတွင် အင်္ဂလိပ်နှင့် အမေရိကန်တို့က ဝိုင်း၍ ဖိ၍ ညှပ်၍ ဂျာမနီကို တိုက်ကြသဖြင့် ဂျာမနီတို့ မရှုမလှ ဖြစ်နေကြရပြီ။ လူလုံးမလှအောင် ဖြစ်ကုန်ကြရသည်။

ထို့ကြောင့် ၁၃၀၇–ခု ကဆုန်လဆုတ် ၁၃–ရက် (၁၉၄၅–ခု မတ်လ ၈–ရက်)နေ့တွင် ဂျာမဏီတို့က ခြွင်းချက် မရှိ လက်နက်ချလိုက်ကြသဖြင့် အနောက်ဥရောပတစ်ခွင် စစ်မျက်နှာပြင်တွင် အေးချမ်း၍ သွားရလေသည်။

အနောက်ဖျားက အေးချမ်းသွားလျှင် ကမ္ဘာ့အရှေ့ဖျားသို့ ဦးလှည့်လာကြ၏၊ အင်္ဂလိပ်နှင့် အမေရိကန် မဟာမိတ်တပ်ဖွဲ့တို့က (အနောက်ဥရောပတွင် စစ်တိုက်စရာ မရှိတော့၍) ကမ္ဘာ့အရှေ့ဖျား၌ ဂျပန်တို့ကို ဖိ၍ တိုက်လာကြတော့သည်၊ ဂျပန်တို့သည် အရှေ့ဘက်သို့ တစ်ပြေးတည်း ပြေးနေကြ၏။

အင်္ဂလိပ်–အမေရိကန်လေယာဉ်တို့က ဂျပန်တို့ ရှိရာကို လိုက်၍ ပစ်၊ ဗုံးကြဲ လုပ်နေကြသည်၊ ထို အချိန်က အမရပူရမြို့ကလေးမှာလည်း ဂျပန်တွေ ရှိနေသောကြောင့် အပစ်ခံရတော့၏။

တစ်ခုသောရက်ကဆိုလျှင် ဂျပန်တွေကို မြင်၍လော မပြောတတ်၊ သဲကြီး မဲကြီး ဖွဲကြီးကြီးဖြင့် ကောင်းကင်မှနေ၍ ပစ်ခတ်၏၊ တစ်နေ့တည်းမှာပင် အမရပူရမြို့ကလေးကို (၇)ကြိမ်တိုင်တိုင် ဗုံးတွေ ကြဲချတော့သည်။

ဆရာတော်လေး ဦးဝိမလကား ဘော်ပတန်းရွာ ကျောက်လိုဏ်ဂူကြီးထဲ ရောက်နေ၍ မသိလိုက်ရှာပါ။

## အရှေ့စစ်မျက်နှာလည်း အေးငြိမ်းသွား

အင်္ဂလိပ်–အမေရိကန်တို့က ဂျပန်နိုင်ငံအထိ လိုက်လံတိုက်ခိုက်ကြ၏၊ ဗုံးတွေ ကြဲချ၏၊ သို့သော် ဂျပန်တို့က အနိုင်မခံ အရှုံးမပေးဘဲ လိုက်လာသော လေယာဉ်တို့ကို မြေပြင်ကနေ အမြောက်တွေနဲ့ ပစ်ပစ်ချနေကြတော့သတတ်။

ထို့ကြောင့် နောက်ပိုင်းတွင် အမေရိကန်က ဂျပန်နိုင်ငံရှိ ဟီရိုရှီးမားနှင့်နဂါးစကီမြို့ပေါ်တွင် အဏုမြူ ဗုံး တစ်လုံးစီ ချလိုက်တော့၏၊ ရာဇဝင်တွင် မကြုံဖူးအောင် အဖြစ်ဆိုးကြီးနှင့် ရင်ဆိုင်ကြရတော့သတတ်၊ ထို အခါကျမှ ဂျပန်တို့က လက်လျှော့ကြတော့သည်။

ထိုသို့ လက်လျှော့ကြပြီးလျှင် သက္ကရာဇ် ၁၃၀၇–ခုနှစ် ဝါခေါင်လဆန်း ၆–ရက် (၁၉၄၅–ခု ဩဂုတ်လ ၁၄–ရက်)နေ့တွင် ဂျပန်တို့က လုံးဝ လက်နက်ချလိုက်ကြတော့၏၊ "အားမတန်လို့ မာန်လျှော့"ဆိုသလို ဖြစ်တော့သည်။

ထိုအခါကျမှ ကမ္ဘာ့အရှေ့ဖျား စစ်မျက်နှာတွင်လည်း စစ်မီးတောက်ကြီးများ ငြိမ်းအေးသွားကြရတော့၏၊ စစ်၏ဘေးဒဏ်ကား အဘယ်မှာလျှင် သာယာဖွယ်ရှိအံ့နည်း၊ ခါးသီးသော ရင်နင့်ဖွယ် အဖြစ်အပျက်တို့သာ ရရှိကြလေသည်။

ယခုအခါတွင်ကား ကမ္ဘာ့အရှေ့ဖျားမှာလည်း အေးငြိမ်း၍သွားကြလေပြီတည်း။

## တစ်ဘ၀သာသနာ

# ဦးခိုက်ကော်ရော် နေလေသလော

ကျောက်လိုဏ်ဂူကြီးအတွင်း၌ ဆရာတော် ...ကင်းသုံးလာခဲ့သည်မှာ ယခုအခါ (၄)ဝါပင် ပြည့် ...မည်၊ ဆရာတော်၏ ကျောက်ဂူကြီးကား စိမ်း ညို့ညို့ အသွင်ဖြင့် တည်ငြိမ် ခန့်ညားလှပါဘိ။

ဝန်းကျင်တောတောင်တစ်ခွင်တို့မှုကား သာယာ ...မောဖွယ်၊ လန်းဆန်းကြည်နူးဖွယ်၊ ချမ်းမြေ့အေးမြ အသွင်တို့ အပြည့် ဆောင်လျက်ရှိကြသည်။

ဆရာတော်အနေဖြင့်မူ ကျောက်ဂူကြီးထဲမှာချည်း အနေများ၍ အပြင်လောကကို ရှုစားဖို့ အချိန်မအားပါ၊ အချိန်ပိုလည်း မပေးနိုင်ပါ၊ သို့ရာတွင် တောတောင် ...စ်ခွင် အပြင်လောကကြီးကမူ သူ့ရာသီနှင့်သူ မှန်မှန် ...င် ပြောင်းလွဲပြနေပါ၏။

"ရှုပါဦး– ကြည့်ပါဦး"ဟူ၍ လျှောက်ထားနေ သလိုလည်း ဖြစ်တော့သည်၊ ခပ်လှမ်းလှမ်းတွင် မြင် နေရသော တောင်စွယ် တောင်ထွတ်၊ ကျောက်ညွန့် ကျောက်ဆိုင်တို့ကလည်း အပြိုင်းပြိုင်း– အရိုင်းရိုင်း၊ မှိုင်းမှိုင်းဝေဝေနှင့် သူတို့ကလည်း "ရှုစားပါ"ဟူ၍ လျှောက်ပန်နေသလိုလို။

"ကျောက်ဆောင် ပြိုင်းပြိုင်း၊
မှိုင်းမှိုင်းအုပ်ထွေ၊ ဝေဝေမို့မို့၊
ညို့ရရှိ့နှင့်၊ မြသို့ရှိန်းရှိန်း၊
ခပ်သိမ်းတောတောင်၊
ကုန်အောင်ပတ်ကုံး၊ မျှော်မဆုံး
သည်... နှလုံးများဖွယ်ရှိချေ၏"

ဤသို့လျှင် အင်းဝစာဆို ရှင်မဟာရဋ္ဌသာရ ကိုယ်တော်ဖွဲ့ဆိုသကဲ့သို့ ဖြစ်တော့သည်၊ ရှုမျှော်ခင်း တို့က ဂူအတွင်း၌ သီတင်းသုံးနေသော ဆရာတော်ကို ပင် ကြည်ညိုလေးစား၍ ဦးခိုက်ကော်ရော် ပူဇော်နေ ကြလေသလော–။

# ဣန္ဒြေကြီးမား တရားမွေ့ထုံ

သီဟိုဠ်ကျွန်း ကုရဏ္ဍက လိုဏ်ဂူကြီး၌ အရှင် ...ဂုတ္တမထေရ်ကြီး သီတင်းသုံးနေ၏၊ အင်မတန် ...န္ဒြေကြီးတော်မူလှသည်၊ နှစ်ပေါင်း(၆၀)ကျော် လိုဏ် ...ြီးအတွင်းမှာ နေလာခဲ့သော်လည်း မော်၍မျှ မကြည့် ...ချေ။

တစ်နေ့သော် အာဂန္တုကိုယ်တော်များ ရောက် ...ကြ၏၊ လိုဏ်ဂူအတွင်းနံရံများအထက်ပိုင်းတွင် ...း(၇)ဆူတို့၏ တောထွက်ခန်း ပန်းချီကားများကို ...ည့်ပြီးလျှင် "အရှင်ဘုရားရဲ့ ပန်းချီကားတွေက ...ဲ... လက်ရာမြောက်လှပါလားဘုရား" ဟူ၍ ...မ်းကြသတတ်။

ထိုအခါ မထေရ်ကြီးက "အိမ်း... တပည့်တော် ဖြင့် နှစ်ပေါင်း(၆၀)ကျော် ဒီအထဲ နေလာတာ ပန်းချီ ကားများ ရှိမှန်းတောင် မသိခဲ့ပါဘူး၊ အခုမှပဲ အရှင် ဘုရားတို့လို မျက်စိကောင်းတဲ့ သူတွေက ပြောမှပဲ တပည့်တော်လဲ သိခွင့်ရပါတော့တယ်"ဟူ၍ မိန့်ပါ တော့သတတ်။

ထို့ပြင် လိုဏ်ဂူကြီးအဝ၌ ဂန့်ဂေါပင်ကြီး တစ်ပင်ရှိ၏၊ ထိုအပင်ကြီးအနားမှ ဖြတ်သန်းသွားနေ ခဲ့သော်လည်း မော်၍ မကြည့်စဖူးချေ၊ တစ်နှစ်တစ်ခါ ဝတ်မှုန်တွေ ကြွေကျမှ "သြော်... ပွင့်ပြီကိုး၊ သြော်... ရာသီတွေလဲ ပြောင်းလွဲသွားပြီကိုး"ဟု သိရပါတော့ သတတ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဆိုလိုသည်မှာ "လိုဏ်ဂူအတွင်းက ပန်းချီကားများကိုလည်း ကြည့်မနေအားပါ၊ ဂန့်ဂေါ်ပင်ကြီးကိုလည်း မော့ကြည့်ပြီး လေ့လာမနေနိုင်ပါ၊ အချိန်မအားပါ၊ အချိန်ရှိသမျှ အချိန်လပ်အား မထားနိုင်ဘဲ ကိုယ့်တရားကိုယ် ကြည့်နေရသောကြောင့်"ဟု ဆိုလိုပါ၏၊

ထို့အတူပင် ယခုအခါတွင် ဘော်ပတန်းဂူကြီး၌ သီတင်းသုံးနေသော ဆရာတော် ဦးဝိမလလည်း ဤအတိုင်းပင် ဖြစ်နေလေမည်လော။

## ကိုယ့်အိမ်ကိုယ် ပြန်လာကုန်ကြပြီ

ကမ္ဘာ့အရှေ့ဖျား အနောက်ဖျား စစ်မီးတောက်ကြီးတွေ ငြိမ်းသွားကြသောအခါ ဟိုနေရာ ဒီနေရာ ကိုယ်နှင့်စပ်ရာ တောရွာများသို့ ပြောင်း၍ ပုန်းအောင်းနေကြသော မြို့သူမြို့သားတို့သည် ကိုယ့်အိမ်ကိုယ် ပြန်လာကုန်ကြပြီ၊ အချိန်ကား ၁၃၀၇–ခု တော်သလင်းလ (၁၉၄၅–ခု စက်တင်ဘာလ)ထဲတွင် ဖြစ်၏။

မိုးကုတ်မြို့မှ ဦးဘိုးလုံ+ဒေါ်ကူးတို့လည်း မြို့ပေါ်သို့ ပြန်၍ ကိုယ့်အိမ်ကိုယ် ပြန်ရောက်ကုန်ကြပြီ၊ ဒေါ်အုံ–ဒေါ်ဖုံတို့ မိသားစုလည်း ဘော်ပတန်းမှ မိုးကုတ်မြို့ပေါ်သို့ ပြန်ရန် ပြင်ဆင်ကုန်ကြပြီ၊ ဆရာတော်အားလည်း တပါတည်း ပြန်လည်ကြွရောက်ပါရန် ပင့်ကြသည်။

သို့သော် ဆရာတော်က တန်းပြီး မလိုက်သေး၊ ဝါလည်း မကျွတ်သေး၊ ဘော်ပတန်းရွာ ကျောက်လိုဏ်ဂူကြီးထဲမှာပင် ချမ်းမြေ့လှသဖြင့် ဆက်လက်ပြီး သီတင်းသုံး နေရစ်သေးသည်၊ "သီတင်းကျွတ်တော့မှ လိုက်လာခဲ့မည်"ဟု မိန့်တော်မူလိုက်၏။

ဤသို့လျှင် ဆရာတော့်ကို ဘော်ပတန်းရွာသို့ ပင့်စဉ်ကလည်း တန်းပြီး မလိုက်ခဲ့ လက်မခံခဲ့၊ ယခု တစ်ဖန် ဘော်ပတန်းရွာမှ မိုးကုတ်မြို့ပေါ်သို့ ပြန်လည်ကြွရောက်ပါရန် လျှောက်ပြန်သောအခါတွင်လည်း ရုတ်တရက် လက်မခံပြန်သေး။

ဘော်ပတန်း ကျောက်လိုဏ်ဂူကြီး ထဲမှာ အင်မတန် အေးမြ၊ တရားအလုပ်တွေနှင့် ဘဝင်ကျနေ၍ ဖြစ်ပါလိမ့်မည်။

## လေးနှစ်လေးမိုး ကြိုးစားကြံ့ခိုင်

ဘော်ပတန်းရွာ ကျောက်လိုဏ်ဂူကြီးအတွင်းသို့ ဆရာတော် ဝင်ခဲ့သည်မှာ ၁၃၀၄–ခုနှစ် ဝါဆိုဦးက ဖြစ်၏၊ ဂူအတွင်းမှာပင် သီတင်းသုံး၍ တစ်ဝါကျွတ်ခဲ့ပြီ။

၁၃၀၅–ခုနှစ် ဝါတွင်း၊ ၁၃၀၆–ခုနှစ် ဝါတွင်း၊ ၁၃၀၇– ခုနှစ် ဝါတွင်း တို့၌လည်း ဂူအတွင်း မှာပင် သီတင်း သုံး၍ တစ်ဝါတွင်းလုံး နေကာ တစ်ဝါကျွတ်ခဲ့ရလေ၏၊ လေးနှစ် လေးမိုးတိုင်ခဲ့ပြီ။

၁၃၀၇–ခုနှစ် သီတင်းကျွတ်သောအခါ ဆရာတော်မှာ သက်တော် ၄၆–နှစ်၊ သိက္ခာတော် ၂၇–ဝါ ရှိလာလေပြီ။

ကျောက်လိုဏ်ဂူကြီးအတွင်း၌ ခိုင်ခိုင်ကြံ့ကြံ့ ကြိုးစားခဲ့ရ၏၊ လုံ့လထန်ပြင်းအားတင်းခဲ့ရ၏၊ အားထုတ်ခြင်း၍ဖြစ်မည်လောဟုဘုရားရှင် ကိုယ်တော် မြတ်ကြီး က ယခုလို ဟော၍ သတိပေးထားတာပဲ-

*"နယိဒံ သိထိလ မာရဗ္ဘ၊
နယိဒံ အပ္ပေန ထာမသာ။
နိဗ္ဗာနံ အဓိဂန္တဗ္ဗံ၊
သဗ္ဗဒုက္ခပ္ပမောစနံ-"တဲ့။

အဓိပ္ပာယ်မှာ-"ဒုက္ခအားလုံးမှ လွတ်မြောက်တဲ့ နိဗ္ဗာန်ဆိုတာ ကို ပျော့ပျော့နဲ့နဲ့ လျော့လျော့ရဲ့ရဲ့ လုံ့လဝီရိယမျိုးဖြင့် ဘယ်ရနိုင်လိမ့်မလဲ။

မပြောပလောက်တဲ့ အနည်းငယ် စွမ်းအားသာမန် ဝီရိယကလေးများဖြင့်လည်း ဘယ်ရနိုင်လိမ့်မလဲ၊ မရနိုင်"တဲ့။

သို့ဖြစ်၍ ရနိုင်လောက်အောင် အစွမ်းကုန် ခေါင်ထိပ်ရောက်တဲ့ လုံ့လဝီရိယမျိုးဖြင့် ကြိုးစားခဲ့ရလေသည်၊ အကြောင်းမူကား အလုပ်မလုပ်ဘဲ ရနိုင်သောတရားမျိုး မဟုတ်သောကြောင့်ပင် ဖြစ်၏။

"ဒန္ဓေဘိ ဒန္တမာဒါယ၊
တာလုံ့ အာဟစ္စ ဇိဝှာယ"

ဒန္ဓေဘိ-အထက်သွားတို့ဖြင့်၊ ဒန္တ-အောက်သွားတွေကို၊ အာဒါယ-ယူ၍ (ဝါ) ဖိနှိပ်ထား၍ (ဝါ) အံချင်းကြိတ်ထား၍၊ ဇိဝှာယ (ဇိဝှါယ)-လျှာဖြင့်၊ တာလုံ့-အာထိပ်ကို၊ အာဟစ္စ-ထိထား၍ (ဝါ) ထောက်ကန်ထား၍။

မလျှော့သောဇွဲမျိုး၊ နည်းနည်းမျှ သမာဓိ မပျက်သောဇွဲမျိုး၊ ဥတ်မိသဲတိုင် တက်နိုင်ဖျားရောက် ဇွဲမျိုး၊ ကြောင်ပုစွန်စား- ကြွပ်ကြွပ်ဝါးသို့ ဇွဲမျိုးဖြင့် ကြိုးစားခဲ့ရလေသည် ဟူ၏။

# ဉာဏ်မီးရဲရဲ တောက်ပချိန်

ယခုအခါ သက္ကရာဇ် ၁၃၀၇-ခု သီတင်းဝါလကျွတ်ပြီဖြစ်၍ ဆရာတော်၏ သက်တော်မှာ ၄၆-နှစ်၊ သိက္ခာတော်(၂၇)ဝါ ရရှိနေလေပြီ၊ အရွယ်တော်အားဖြင့် ပညာဒသကပိုင်း ဉာဏ်မီးရဲရဲ တောက်ပချိန်လည်းဖြစ်ပေသည်။

အသက်(၁၀၀)ရှိသော ပုဂ္ဂိုလ်တစ်ယောက်ကို ၁၀-ပိုင်း ပိုင်းလျှင် အောက်ပါအတိုင်းဖြစ်၏၊ "ဒသက" ကို "တစ်ဆယ်စု"ဟူ၍ မှတ်ပါ။

၁။ မန္ဒဒသက = အသိဉာဏ်နုံ့သောအရွယ် (၁၀ -နှစ်အတွင်း)
၂။ ခိဍ္ဍာဒသက = မြူးထူးပျော်ပါးတတ်သောအရွယ် (၂၀-တွင်း)
၃။ ဝဏ္ဏဒသက = ရုပ်ရည်အဆင်းလှပသောအရွယ် (၃၀-တွင်း)
၄။ ဗလဒသက = ခွန်အားပြည့်ဝသောအရွယ် (၄၀-တွင်း)
၅။ ပညာဒသက = ဉာဏ်ပညာကြီးသောအရွယ် (၅၀-တွင်း)
၆။ ဟာနိဒသက = အင်အားလျော့လာသောအရွယ် (၆၀-တွင်း)
၇။ ပဗ္ဘာရဒသက = ယိမ်းယိုင်လာသောအရွယ် (၇၀-တွင်း)
၈။ ဝင်္ကဒသက = ခန္ဓာကိုယ်ကုန်းကော့လာသောအရွယ် (၈၀-တွင်း)
၉။ မောမူဟဒသက = မိန်းမောတွေဝေလာသောအရွယ် (၉၀-တွင်း)
၁၀။ သယနဒသက = အိပ်ရာထဲ လဲလျောင်းရသောအရွယ် (၁၀၀-တွင်း)

ယခုအခါ ဆရာတော်ကား ၄၆-နှစ် ဖြစ်၍ ပညာဒသကပိုင်းသို့ ရောက်နေ၏၊ ၄၁-နှစ်မှ ၅၀-နှစ်အတွင်းသည် ပညာဒသကပိုင်း ဖြစ်၏၊ ဉာဏ်မီးရဲရဲ တောက်ပချိန်ပင် ဖြစ်လေသည်၊ ကျောက်ဂူကြီးအတွင်း၌ ပညာပိုင်းဖြင့် အလုပ် လုပ်နေချိန်တွင် ပညာဒသကပိုင်းနှင့် တိုက်တိုက်ဆိုင်ဆိုင်ပင် ကြုံတော်မူရလေ၏၊ အားရဖွယ်ပင် ဖြစ်တော့သည်။

* နိဒါန ၊သံ၊ပါ၊ ၄၆၆

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဂူမှ ထွက်တော်မူလာခြင်း

အပြင်လောကမှာ ကမ္ဘာ့စစ်မီးတောက်ကြီးတွေ ငြိမ်းအေးကုန်ကြသလို ဆရာတော့်မှာလည်း အတွင်းမီးတွေ ငြိမ်းအေးကုန်ကြလေသလား မသိပါ၊ ကြည်လင်ဝင်းစိုသော ကိုယ်ခန္ဓာ၊ လန်းရွှင်အေးမြသော မျက်နှာတော်ဖြင့် ဂူအတွင်းမှ ထွက်ကြွတော်မူလာသည်။

ကိုယ်တွင်း ရန်သူတွေနဲ့ တိုက်ပွဲတွင် ဆရာတော်က အပြတ်အသတ် အနိုင်ရခဲ့ခြင်း ဖြစ်လေမည်လော မပြောတတ်၊ အောင်ပွဲရပုဂ္ဂိုလ်တို့၏ မျက်နှာထားအတိုင်း ဝင့်ဝင့်ကြွားကြွား မားမားမတ်မတ်ဖြင့် ထွက်ကြွတော်မူလာသည်။

တစ်ဖန် အပြင်လောကတွင် ဂျပန်တို့ကို အင်္ဂလိပ်တို့ အမေရိကန်တို့က အနိုင်ရလိုက်ကြသည် ဆိုခြင်းမှာ အစဉ်ထာဝရ ဟုတ်ချင်မှ ဟုတ်ကြပေမည်၊ ဆရာတော်က အတွင်းပူ ကိလေသာရန်မီးတို့ကို အပြီးတိုင် ငြိမ်းသတ်၍ အနိုင်ရလိုက်ခြင်းကား အစဉ် ထာဝရ ေ . အနိုင်ရခြင်း ဖြစ်ပါလိမ့်မည်။

ဤသို့ အစဉ်ထာဝရ အမြဲအနိုင်ရခြင်းမျိုးသာ လျှင် မြတ်သောအနိုင်ရခြင်းမျိုးဖြစ်သည်၊ အစဉ်ထာဝ မဟုတ်ဘဲ နောင်တစ်ချိန်တွင် တစ်ဖန်ပြန်၍ ရှုံးနိုင်သော အနိုင်ရခြင်းမျိုးကား မြတ်သောအနိုင်ရခြင်းမျိုးဟု မဆိုသာချေ၊ ဤသဘောကို မြတ်စွာဘုရားက ဤ. ဟောထားသည် မဟုတ်ပါလော။

> န တံ ဇိတံ သာဓု ဇိတံ၊
> ယံ ဇိတံ အဝဇီယတိ။
> တံ ခေါ ဇိတံ သာဓု ဇိတံ၊
> ယံ ဇိတံ နာဝဇီယတိ။ ။
>
> (ဓမ္မပဒပါဠိ)

# အေးချမ်းတဲ့ နိမိတ်လက္ခဏာများ

ယခုအခါ အပြင်လောကတွင် စစ်မီးတောက်ကြီးများ ငြိမ်းကုန်ကြပြီ၊ ယမ်းခိုး ယမ်းငွေ့တို့လည်း သိမ်းကုန်ကြပြီ၊ ထို့ကြောင့် လူတွေရော တိရစ္ဆာန်တွေပါ ကျေနပ်ကြသဖြင့် လန်းဆန်းလာကြ၏၊ လှုပ်လှုပ်ရွရွနှင့် မြူးမြူးကြွကြွ ဖြစ်၍လာကြသည်။

ဝန်းကျင်ပတ်ချာ တောတန်းတောင်တန်း၊ ချောင်နန်း လျှိုမြောင်တို့မှ ရှဉ့်ငယ်ကလေးတို့သည်ပင် ခါတိုင်းထက် ထူး၍ မြူးနေကြသလို ထင်ရ၏၊ သစ်တစ်ပင်မှ တစ်ပင်သို့၊ သစ်ကိုင်းတစ်ခုမှ သစ်ကိုင်းတစ်ခုသို့ ကူး၍ မြူးထူးစွာ ပြေးလွှားနေကြသည်။

"တစ်ပင့်တက်–တစ်ပင် ရှဉ့်ငယ်တို့ ပြေးကြပုံကဖြင့်၊ ယခင့်ထက် ယခင် တင့်တယ်လို့ အေးကြပြီထင့်၊ တွေးဆနိုင်ဖွယ်..."

ဟု ဆိုရလောက်အောင် အေးချမ်းတဲ့လက္ခဏာတွေ ပေါ်နေ၏၊ အေးချမ်းကြပါစေ၊ ကမ္ဘာကြီးတစ်ခုလုံး ငြိမ်းချမ်းကြပါစေ၊ ကမ္ဘာ့လူသားတို့သည်လည်း ကမ္ဘာစစ်ကြီး (၂)ခုကို ကြုံတွေ့လိုက်ကြရ၍ ခါးသီးသော အရသာတို့ကို သိရှိနေကြပြီ၊ ဤကမ္ဘာစစ်ကြီးမျိုးကို နောင်အနာဂတ်ကာလ ဘယ်သောခါမျှ မတွေ့ကြရအောင် ကိုယ်စီကိုယ်င ကမ္ဘာ့လူသားတို့ ထိန်းသိမ်းသင့်ကြပြီ။

## တစ်ဘဝသာသနာ

# ခြသေ့်မင်းတို့ ဂူမှ ထွက်သောအခါ

* သီဟော ဘိက္ခဝေ မိဂရာဇာ သာယနှသမယံ အာသယာ နိက္ခမတိ။ ။ရဟန်းတို့... သားတို့သေဋ္ဌနင်း ခြသေ့်မင်းသည် ညနေချမ်းအခါ၌ ကိန်းအောင်းရာ လိုဏ်ဂူမှ ထွက်လာ၏၊ ဂူမှထွက်လာပြီးလျှင် ဂူရှေ့၌ ခံပယ်၏။

"စံပယ်၏"ဆိုသည်မှာ မြေကြီးပေါ်၌ နောက်ခြေ ၂–ဘက်ကို ညီညီညာညာ ရပ်လိုက်သည်၊ ပြီးလျှင် ရှေ့လက်၂–ဘက်တို့ကိုလည်း ရှေ့သို့ အနည်းငယ်တိုး ကိုင်းညွှတ် နိမ့်ရှိုင်းဆန့်တန်းလိုက်သည်၊ ပြီးမှ ခန္ဓာကိုယ် နောက်ပိုင်းကို ရှေ့သို့ ဆွဲငင်၍ (အကြောအခြင်တို့ကို ခြေသည့်အနေဖြင့်) ကျောကော့လည်မော့ကာ (မိုးကြိုးသံကဲ့သို့) နှာခေါင်းလေတို့ကို မှုတ်လိုက်သည်၊

ပြီးလျှင် ခန္ဓာကိုယ်၌ ငြိကပ်နေသောဖုန်မှုန့်တို့ကို တအားကုန်ယမ်းကာ တဖွားဖွားနေအောင် လှုပ်ခါပစ်လိုက်သည်၊ ဤသို့ ပြုလုပ်သည်တို့ကို "စံပယ်၏"ဟု ဆိုသည်။

ထိုသို့ ပြုလုပ်ပြီးနောက် အရပ်လေးမျက်နှာတို့ကို မျက်နှာထားတင်းတင်းဖြင့် လှည့်လည်ကြည့်ရှု၏၊ ထို့နောက် သံကုန်တင်း၍ ပြင်းထန်စွာ "ဝေါ"ခနဲ "ဝေါ"ခနဲနေအောင် (၃)ကြိမ် ဟိန်းဟောက်လိုက်ပြန်သည်၊ တောကြီးတစ်ခုလုံး တုန်ဟည်းလှုပ်ခါသွား၏၊ ပြီးမှ စားကျက်သို့ ရဲတင်းစွာ ထွက်လာသည်။

# တန်ခိုးရှိန်ဝါ လွန်စွာ ကြီးမားခြင်း

"ခြသေ့်မင်း၏ ပြင်းထန်တုန်ဟည်းလှုပ်ခါသွားစေသော ထိုဟိန်းဟောက်သံတို့ကို ကြားကြရသည့် သတ္တဝါတို့သည် အလွန်ကြောက်ရွံ့ကြကုန်၏၊ ဆတ်ဆတ်တုန်ကြရသည်၊ နေစရာမရှိအောင် ပြူးပြူးပျာပျာ ဖြစ်ကြရကုန်၏၊ ထိုအခါ–

တွင်းအောင်းသတ္တဝါတို့သည် တွင်းထဲသို့ ပြေးဝင်ကြကုန်၏၊ တောအောင်းသတ္တဝါတို့သည် (ကွင်းထဲ ထွက်နေရာမှ) တောထဲသို့ ပြေးဝင်ကြကုန်၏၊ ရေအောင်း သတ္တဝါတို့သည် ရေထဲသို့ ငုံ့လျှိုးပြေးဝင်ကြကုန်၏၊ ကောင်းကင်နေသတ္တဝါတို့သည် ကောင်းကင်ထဲသို့ ပျံသန်းပြေးဝင်ကြကုန်၏။

ယုတ်စွအဆုံး ရွာ နိဂုံး မင်းနေပြည် တို့မှာ ကြသည့် ဘုရင့်ဆင်တော်ကြီးတို့သော်မှ ကြောက်လန့်ကြ၍ ချည်ထားသော ကြိုးကြီးတွေကို ဖြတ်တောက်ကြပြီးလျှင် မစင်တွေပါရင်း ဟိုဟိုဒီဒီ ဦးတည့်ရာ ပြေးတတ်ကြကုန်၏၊ ခြသေ့်မင်းကား ဤမျှလောက်ပင် တန်ခိုးအရှိန်အဝါ လွန်စွာ ကြီးမားလှပေသည်။

ထို့အတူပင် ဘုရားရှင် ကိုယ်တော်မြတ်ကြီး လောကအတွင်း၌ "ဘွား"ခနဲ ပေါ်ပေါက်လာသော အခါတွင်လည်း ဤသို့ပင် အရှိန်အဝါ လွန်စွာကြီးမား တန်ခိုးထွားတော်မူ၏။"

ဤသို့ ဟောမိန့်တော်မူထားပါသည်။

ယခု ဘုရားရှင် ကိုယ်တော်မြတ်ကြီး၏ သားတော်ကြီး ဂူမှ ထွက်လာသောအခါတွင်ကော မည်သို့ ဖြစ်လေသနည်း...။

* ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်၊ ၇၀

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ၂–ကြိမ်တိုင်တိုင် စစ်ဘေးဒဏ်ခံရ

မြန်မာပြည်သည် ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ၂–ကြိမ်တိုင်တိုင် စစ်ဘေးဒဏ် ခံလိုက်ရ၏၊ ၁၉၄၂–ခုနှစ် အင်္ဂလိပ်တို့အပြေး ဂျပန်တို့အဝင်တွင် တစ်ကြိမ်၊ တစ်ဖန် ၁၉၄၅–ခုနှစ် ဂျပန်တို့အပြေး အင်္ဂလိပ်တို့ ပြန်အဝင်တွင် တစ်ကြိမ်၊ ပေါင်း(၂)ကြိမ်တိုင်တိုင် မြို့ကြီးမြို့ငယ်အသွယ်သွယ် မီးလောင်ပြာကျဖြစ်ခဲ့ကြရသည်။

လူမျိုးရေး ဘာသာရေး သာသနာရေး ပညာရေး စီးပွားရေး အားလုံး ပျက်စီးဆုံးရှုံးကြရ၏၊ ၁... ပြန်၍ စကြရမည်ကဲ့သို့ ဖြစ်တော့သည်၊ ... ရလဒ်ကား ဤသို့သာတည်း။ ရင်နင့်သည်းစွာ န... ခါးသီးသော ဒုက္ခတို့သာ ကိုယ်စီရ၍ အဝပျက်... ရကုန်၏။

အစဉ်ထာဝရ အေးငြိမ်းမှု ရမှသာလျှင် ဒု... ခပ်သိမ်း လုံးဝ ချုပ်ငြိမ်းရပေတော့မည်။

# ရေနောက်နေမှ ထမင်းဝ

ယခုအခါ မိုးကုတ်မြို့နယ်အတွင်းက ချောင်းရေ မြောင်းရေတို့သည် ကြည်လင်နေကြ၏၊ ယင်းသို့ ကြည်လင်နေသည်ကို "အကောင်း"ဟု မဆိုသာချေ၊ မိုးကုတ်မြို့သူမြို့သားတို့အနေဖြင့် ပြောလေ့ပြောထ ရှိကြသည်မှာ "ရေနောက်နေမှ– ထမင်းဝသည်"တဲ့။

အကြောင်းမှာ ဤသို့ဖြစ်ပါသတတ်၊ မိုးကုတ် မြို့နယ်က အလုပ်သမားတို့သည် မြေကြီးကို တူးဆွ၍ အောက်ထဲထိအောင် နှိုက်၍ဆင်း၍၊ မြေတွေ သဲတွေကို ယူလာခဲ့ကြ၍ ရေဖြင့် ဖျော်ပြီးလျှင် ရွှေရှာကြ၏၊ ကျောက် ရှာကြ၏၊ ပတ္တမြား ရှာကြ၏။

ထိုရွံ့ရည် နံ့ရည်တို့သည် နီးစပ်ရာ ချောင်း မြောင်းများသို့ စီးဆင်းကြသောအခါ ချောင်းရေ မြောင်း ရေများ နောက်ကျိနေတတ်ကြသည်၊ ထိုအခါ လုပ်ငန်း အဆင်ပြေ၍ စီးပွားရေး ဖြောင့်ကြ၏။

မိုးကုတ်မြို့အနီး ကျပ်ပြင်နားက ချောင်းရေ နောက်နောက်ကျိကျိ (နီကျင်ကျင်)သည် တရွေ့ရွေ့ စီးဆင်းလာရာ မန္တ လေးမြောက်ဘက် မတ္တရာအနီးက ချောင်းအထိ ရောက်လာသည်၊ နီကျင်ကျင် စီးဆင်းနေ... သည်ကို တွေ့နိုင်ကြ၏။

အကြောင်းတစ်ခုခုကြောင့် အလုပ် မဆင်းနို... ကြလျှင် ချောင်းရေ မြောင်းရေတွေဟာ ကြည်လင်... ကြရော၊ ဒါဆိုရင် လုပ်ငန်းကိစ္စ မလုပ်ရ၍ "အလု... သမားတွေ ထမင်းငတ်နိုင်တယ်"ဟု ပြောကြ၏။

စစ်အတွင်းက ဂျပန်တွေ ရောက်လာ၊ အပိ... အဆီး အဟန့်အတားတွေ များလွန်း၍ အလုပ် မလု... နိုင် ဖြစ်ကြရပါသတဲ့၊ ထိုအခါ မြို့လူကြီးတွေက "ရေကြည်နေရင် မိုးကုတ်မြို့က ထမင်းငတ်နိုင်တယ်" လို့ ပြောတော့မှ ဂျပန်တွေက လိုက်လျောပါသတဲ့ အလုပ်ဆင်းခွင့်ပေးပါသတဲ့။

နောက်ပိုင်းတွင် ဂျပန်တွေ ပြေးရ၍ အင်္ဂလိပ်တွေ ပြန်ဝင် လာသောအခါ လုပ်ငန်းတွေ မဆင်းနိုင်ဘဲ ကသောင်း ကနင်းတွေ ဖြစ်ကြရပြန်၏၊ ထို့ကြောင့် ရေတွေ ကြည်လင်နေကြခြင်း ဖြစ်သည်။

## တစ်ဘဝသာသနာ

# တရားပွဲများ ပြန်လည်ကျင်းပကြခြင်း

သက္ကရာဇ် ၁၃၀၇–ခုနှစ် သီတင်းကျွတ်မှပင်
ရာတော်သည် ဘော်ပတန်းရွာမှ မိုးကုတ်မြို့ပေါ်သို့
န်လည် ကြွလာတော်မူ၏၊ သုဿာန် ကျောင်းမှာ
ဘင်း သုံးရသည်၊ ဒကာ ဒကာမတို့ကလည်း
ယ့်နေရာ ကိုယ့်ဌာနသို့ ပြန်လည် ရောက်ရှိလာကြပြီ
၍ အတော်အတန် စိတ်အေး ကိုယ်အေး ဖြစ်လာကြ
သာအခါ တရားနာချင်လာကြ၏၊ ထို့ကြောင့် ဆရာ
ာ်အား လျှောက်ထား၍ တရားပွဲကျင်းပကြသည်။

တရားပွဲကို ခါတိုင်းလိုပင် မိုးကုတ်မြို့၊ ကျော
ာင်ရပ်က ကျောင်းဒကာကြီး ဦးလယ်+ဒေါ်သိုင်းခြုံ
၏ နေအိမ်မှာ ကျင်းပကြ၏၊ ဆရာတော်က သတိ
း စကား ပြောကြားသည်–

"ဒကာ ဒကာမတို့... တရားကို နာယူရုံမျှဖြင့်
ကျေနပ်မနေကြနဲ့၊ လက်တွေ့ကိုယ်တိုင် အလုပ်
လုပ်ကြဆော့၊ ကံကောင်းထောက်မ၍ စစ်ဘေး
စစ်ဒဏ်မှ လွတ်ကြရတယ်လို့ အောက်မေ့ကြ၊
တရားရဖို့အတွက် အသက်မသေဘဲ ကျန်ရစ်ပေး
ကြရတယ်–လို့ ခံယူကြ"

ဟူ၍ ဖြစ်ပါသတတ်၊ ပြီးလျှင် ဆရာတော်က ဝိပဿနာ
အလုပ်စခန်းတရားတွေ ဟောပေးသည်ဟူ၏။

စစ်အတွင်းက ကြောက်မက်ဖွယ်ရာ ရင်တုန်ဖွယ်
ရာတွေကို ကြုံခဲ့ကြရသဖြင့်လည်း ဒကာ ဒကာမတို့
ဘက်က ပို၍ သံဝေဂ ရသလို ဖြစ်ကြရပါသတတ်။

# ခန္ဓာဉာဏ်ရောက် ဖြစ်အောင် နာကြ

ဆရာတော်က ဒကာ ဒကာမတို့အပေါ်တွင်
ေစ့စပ်စပ် ညွှန်ပြနေတော်မူ၏၊ တရားနာတဲ့အခါ
မှတ်တမဲ့ မနာမိဖို့၊ လေးလေးစားစားနှင့် စူးစူး
ာ်စိုက် နာမိအောင် သတိပြုဖို့ ညွှန်ပြနေသည်။

"ဒကာ ဒကာမတွေ... တရားနာတဲ့အခါမှာ
တရားအမိပ္ပာယ်ကို သိနေရုံလောက်မျှနှင့်
ကျေနပ် မနေကြနဲ့၊ အခု တရားနာနေတဲ့
အခိုက်မှာပဲ ကိုယ့်ဉာဏ်က ကိုယ့်ခန္ဓာပေါ်မှာ
စိုက်ထားပါ. (မှန်ပါ ဘုရား)
ဒီက ဘုန်းကြီးက ပြောတဲ့အတိုင်း ကိုယ့်ဉာဏ်က
ကိုယ့်ခန္ဓာ အစဉ်ပေါ်မှာ လျှောက်နေပါစေ
(မှန်ပါ) စာက ဆိုတာက–
*"ဒေသနာ ဉာဏာနုသာရေန ဉာဏံ ပေသေ
န္တဿ ဉာဏုတ္တရဿ ဟောတိ"–တဲ့။

ဒေသနာဉာဏာနုသာရေန – ဟောတော်မူတဲ့
သနာ ဉာဏ်တော်ကို အစဉ်လျှောက်သဖြင့်၊ ဉာဏံ–
ဉာဏ်ကို၊ ပေသေန္တဿ–ခန္ဓာထဲသို့ စေလွှတ်သော၊
အဿ–ထိုပုဂ္ဂိုလ်၏၊ ဉာဏံ–ဉာဏ်သည်၊ ဉတ္တရံ–
မြင့်မြတ်ရင့်ကျက် ထက်မြက်လာသည်၊ ဟောတိ–
ဖြစ်၏။ (မှန်ပါဘုရား)

သူ့အဓိပ္ပာယ်က "ဒေသနာဉာဏ်ကို အစဉ်
လျှောက်ပြီး ကိုယ့်ဉာဏ်ကို ကိုယ့်ခန္ဓာထဲ စေလွှတ်
လိုက်တဲ့အခါ ဉာဏ်ထူးဉာဏ်မြတ်ကြီး ဖြစ်သွားလို့
တရားထူးရနိုင်တယ်–တဲ့ (မှန်ပါဘုရား)

ဘုရားလက်ထက်တော်တုန်းက တရားတစ်ပွဲ
အပြီး–အပြီးမှာ တရားထူးတွေ ရ–ရကုန်ကြတယ်ဆိုတာ
အဲလိုဉာဏ်ကို စေလွှတ်လို့ ရကြတာ (မှန်ပါ) နာရုံ
သက်သက်နဲ့ ဘယ် တရားရလိမ့်မလဲ။ (မှန်ပါ)

ဉာဏ်က ခန္ဓာပေါ်ရောက်လို့ ရကြတာ (မှန်ပါ)
ခန္ဓာပေါ် မရောက်ဘဲနဲ့ ဘယ် တရားရနိုင်လိမ့်မလဲ၊
ခန္ဓာဉာဏ်ရောက်ဖြစ်မှ တရားရနိုင်မှာပေါ့ (မှန်ပါ)

ဒါ့ကြောင့် "နားက တရားကို နာ၊ ဉာဏ်က
ခန္ဓာပေါ် လှည့်ထားပါ" (မှန်ပါဘုရား)

["မိုး(၅)နာ–၅၈၃"]

* ဓမ္မပဒ ၊၄၊၃၊ ကာလဝတ္ထု။

## ဘုန်းကြီးက မေးလျှင် ဖြေကြပါ

ဒကာ ဒကာမတို့... အခုလို တရားဟောတဲ့ အခါမှာ ဘုန်းကြီးက မေးရင် ဖြေကြနော် (မှန်ပါဘုရား) ဒီ–မိုးကုတ်မြို့ဆိုတာ ကိုယ့်မိသားစုလိုလဲ ဖြစ်နေကြပြီ၊ (မှန်ပါ)

* "ဘဝသံသရာထဲမှာ အမိအဖ အဘိုးအဘွား ညီအစ်ကို မောင်နှမ မတော်ဖူးသူ မရှိသလောက်ရှားတယ်" တဲ့၊ ဘုရားက ဟောတာ (မှန်ပါ)

အဲဒီတော့ မိသားစုတရားပွဲပဲ (မှန်ပါ) ဖြည်းဖြည်းအေးအေးနဲ့ နားလည်မှုကို ရှေးရှုပြီးတော့ သွားရအောင် (မှန်ပါ)

နားလည်ပြီလား–မလည်သေးဘူးလား၊ သ... ပေါက်ပြီလား မပေါက်သေးဘူးလားဆိုတာ မေ... မယ်နော် (မှန်ပါဘုရား)

အဲဒါ မှားမှားမှန်မှန် ရဲရဲ ဖြေကြပါ၊ (မှန်... အဲဒါမှ ဘုန်းကြီးက တရားနာသူရဲ့ အခြေအ... အကဲခတ်နိုင်မှာပေါ့၊ (မှန်ပါ)

## အရှုခံတရားနဲ့ ရှုဉာဏ်များ

ဘုန်းကြီးက အရှုခံတရားနဲ့ ရှုဉာဏ်များကို ခွဲခွဲပေးနေတယ်၊ ခဏ ခဏ ထပ်ပြန်တလဲလဲ ပြောပေးနေတယ်နော် (မှန်ပါ) "အရှုခံနဲ့ ရှုဉာဏ်၊" "အရှုခံနဲ့ ရှုဉာဏ်" (မှန်ပါဘုရား)

အရှုခံဘက်က ရှုစရာခန္ဓာငါးပါးရှိတယ် (မှန်ပါဘုရား) ဘယ်သူများလဲဆိုတော့–

"ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊
သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာ"

လို့ ငါးပါး (မှန်ပါဘုရား) တကယ်ရှုကြပြီဆိုတော့ အဲဒီငါးပါးလုံးကို ပြုံပြီး တစ်အုံကြီး ရှုရမှာတော့ မဟုတ်ပါဘူး၊ (မှန်ပါ) ရှိသမျှ အကုန် ထုတ်ပြတာပါ၊ (မှန်ပါဘုရား)

အဲဒီငါးပါးထဲက ကြိုက်ရာတစ်ခုခုကို ရွေးပြီး ရှုရမှာ (မှန်ပါဘုရား)

ရုပ်ကို ကြိုက်ရင် ရုပ်ကို ရှု၊ ဝေဒနာကို ကြိုက် ဝေဒနာ ရှု၊ သညာ ကြိုက် သညာ ရှု၊ သင်္ခါရ ကြိုက် သင်္ခါရ ရှု၊ စိတ်ကြိုက်ရင်လဲ စိတ်ကို ရှုပေါ့၊ (မှန်... တစ်ခုခု ရွေး ရှုရမှာ (မှန်ပါဘုရား)

ဒါတွေအားလုံးဟာ အရှုခံဘက်က တရား... ပေါ့ (မှန်ပါ) ကဲ... အဲဒါတွေ မှတ်ခဲ့ကြ။

ပြီးတော့ ရှုတဲ့ဉာဏ်ဘက်ကို သွားကြမ... (မှန်ပါ) ရှုတဲ့ဉာဏ်ဘက်မှာလဲ ၅ပါးပဲရှိတယ် (မှန်... ဘယ်သူတွေလဲဆိုရင်–

"သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ။

သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ" တို့ပေါ့ (မှန်ပါဘုရား) သူတို့တွေကတော့ ရှုတဲ့ဘက်က ရှုတိုင်း–ရှုတိုင်း ၅ပါးလုံးပါတယ် (မှန်ပါ) လောကီ... ငါးပါးလို့ ခေါ်တာပေါ့ (မှန်ပါဘုရား) ဝိပဿနာ... ဉာဏ်တွေဖြစ်လို့ "ဝိပဿနာဉာဏ်ငါးပါး"လို့လဲ ... တယ် (မှန်ပါဘုရား)

ရုပ်ကို ကြိုက်လို့ ရုပ်ကို ရှုရင် အရှုခံဘက်... ရုပ်တရားတစ်ပါး (မှန်ပါ) ရှုတဲ့ ဉာဏ်ဘက်က... ဒီငါးပါး (မှန်ပါဘုရား)

---

* န သော ဘိက္ခဝေ သတ္တော သုလဘရူပေါ၊ ယော န မာတာပိတုပုဗ္ဗော ဣမိနာ ဒီဃေန အဒ္ဓုနာ။ (အနမတဂ္ဂသံယုတ်)

ဝေဒနာကို ရှုရင်လဲ အရှုခံဘက်က ဝေဒနာ ါ၊ ရှုတဲ့ဉာဏ်ဘက်က အခုနက ငါးပါး (မှန်ပါ )

"ရှုတယ်"ဆိုတာ ကြည့်တာကို ပြောတာ၊ ာနဲ့ ကြည့်တာ အတူတူပဲပေါ့ (မှန်ပါ) ဘာနဲ့ကြည့် လဲဆိုရင် ဉာဏ်နဲ့ကြည့်တယ် (မှန်ပါ)

သညာ၊ သင်္ခါရ၊ စိတ်တို့ကို ရှုတဲ့အခါမှာလဲ ဒီအတိုင်းပဲပေါ့ (မှန်ပါ) အရှုခံဘက်က တစ်ပါး၊ ရှုဉာဏ်ဘက်က ငါးပါး (မှန်ပါဘုရား)

အဲဒီလို ရှုနေတဲ့အခိုက်မှာ ဉာဏ်ကို အရှုခံတရားပေါ်မှာ လွှတ်ထားပါ၊ (မှန်ပါဘုရား) ရှုတတ်ပြီလား (ရှုတတ်ပါပြီ ဘုရား)

အေး...ဒီအတိုင်း အလုပ်လုပ်ကြရမှာ (မှန်ပါ)

# ဘယ်ရုပ်မျိုးကို ရှုရမှာလဲ ဘုရား

ဆရာတော်က စောစောကပင် ကြိုတင်၍ ိသတ်အား ဖိတ်မံထားသည်၊ "မသိတာရှိ မေးကြပါ၊ အောင် နားလည်အောင် စိတ်ရှည်ရှည်နဲ့ ဖြေရှင်းပေး မယ်"၊ ဤသို့ ခွင့်ပြုထားချက်အရ ပရိသတ်အတွင်းမှ ကာကြီးတစ်ဦးက တရားဟော၍အပြီးတွင် ရှေ့သို့ ဟကာ မေးလျှောက်တော့၏-

"ရုပ်ကြိုက်ရင် ရုပ်ကိုရှု"ဆိုတာ ဘယ်လိုဟာလဲ ဘုရား၊ ဘယ်လိုရုပ်တွေကို ရှုရမှာလဲ ဘုရား"

"အေး... ကောင်းတယ်၊ အဲသည်လို မသိတာကို မသိတဲ့အတိုင်း မေးမှ ဖြေရတာ ကောင်းတယ်၊ သိသလိုလို လုပ်နေရင် ကိုယ်ပဲ နစ်နာပြီး ကျန်ရစ်မယ်၊ (မှန်ပါဘုရား)

ရာမှာ ရုပ်(၂)မျိုးရှိတာကို မှတ်ရမယ် ဒကာကြီးရ ါဘုရား) (က) ရိုးရိုးပကတိမျက်စိနဲ့ မြင်ရတဲ့ရုပ်နဲ့ ဉာဏ်နဲ့သာ မြင်ရတဲ့ရုပ်လို့ (၂)မျိုး ရှိတယ် (မှန်ပါ ဘုရား) ရုပ်ကြမ်း-ရုပ်နုဆိုပါတော့ (မှန်ပါ)

ရိုးရိုးပကတိမျက်စိနဲ့ မြင်ရတဲ့ အတုံး အခဲ သဏ္ဌာန်ဒြပ်ရုပ်တွေဆိုတာ ပညတ်တစ်မျိုးမျိုး တင်ပြီးပြီ၊ ပညတ် ဖုံးသွားပြီ၊ အစစ်ကို အတုက ကွယ်ထားပြီ၊ (မှန်ပါ)

ဉာဏ်နဲ့သာ မြင်ရတဲ့ ဖောက်ပြန်မှု ရုပ်သဘော တရား အစုကလေးတွေကတော့ ပညတ်နာမည် မတပ်ရသေး၊ ပရမတ်စစ်စစ်ပဲ တွေ့နေရသေးတယ် (မှန်ပါဘုရား)

အေး... ဝိပဿနာရှုတဲ့နေရာမှာ ပညတ် ဖုံးနေတဲ့ ရုပ်ကို မရှုရ၊ ပညတ်မဖုံးသေးတဲ့ ပရမတ်သားသက်သက်ရုပ်ကိုသာ ရှုရတယ် (မှန်ပါဘုရား)

ထပ်ပြောဦးမယ်၊ "ရုပ်ကိုရှု"ဆိုတာ မျက်စိနဲ့ မြင်ရတဲ့- ပညတ်ဖုံးနေတဲ့ရုပ်ကို မရှုရဘူး (မှန်ပါ)

ဉာဏ်နဲ့သာ မြင်ရတဲ့- ပညတ် မတင်ရသေးတဲ့ ဖောက်ပြန်မှုပရမတ်သားအစုသက်သက်ကိုသာ ရှုရမယ် (မှန်ပါဘုရား) ပေါ်ပြီလား (ပေါ်ပါပြီဘုရား)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သမထရှုနဲ့ ဝိပဿနာရှု

မသိ၍မေးလျှင် ဆရာတော်က စိတ်ရှည်ရှည်နဲ့ ဖြေရှင်းပေးသည် ဆိုတာကို သိလာကြသောအခါ တစ်စ တစ်စ မေးလာကြတော့၏၊ "သမထရှုနဲ့- ဝိပဿနာရှု အတူတူပဲလား ဘုရား"တဲ့။

ဆရာတော်က "ဟာ... ဘယ်တူမလဲ၊ "သမ ထ ရှု"ဆိုတာက ပထဝီကသိုဏ်း အာပေါကသိုဏ်း တေဇောကသိုဏ်း စသည်တို့ကို ရိုးရိုးပကတိမျက်စိနဲ့ မြင်အောင် ထင်အောင် စွဲနေအောင် (ပဋိဘာဂနိမိတ် ဖြစ်အောင်) စိုက်ပြီး ကြည့်နေရတာ (မှန်ပါဘုရား) အဲဒါ သမထ၊ (မှန်ပါ)

"ဝိပဿနာရှု"ဆိုတာကတော့ အဲလိုမဟုတ်ဘူး၊ ရိုးရိုးပကတိမျက်စိနဲ့ ကြည့်ရတာ မဟုတ်ဘူး။ ဉာဏ်နဲ့သာ ကြည့်ရတာ (မှန်ပါ) ဉာဏ်နဲ့ ခန္ဓာထဲမှာ စိုက်[illegible] ကြည့်နေရတာ၊ အရှုခံတရား တစ်ခုခုအပေါ်မှာ ဉာဏ်[illegible] စိုက်ပြီး ကြည့်နေရတာ (မှန်ပါ)

အဲဒါကြောင့်မို့ "မျက်လွှာချထား"လို့ ပြောတာ ပေါ့ (မှန်ပါ) ဉာဏ်နဲ့သာ ကြည့်ရမှာကိုး (မှန်ပါဘုရား) အဲဒါ ဝိပဿနာ (မှန်ပါ)

ဒီတော့ မှတ်လိုက်ပါ၊ (က) ပကတိမျက်စိဖြင့် စွဲမြဲထင်မြင်နေအောင် ရှုရတာက သမထ ရှု (မှန်ပါ ဘုရား) (ခ) ဉာဏ်ဖြင့်သာ သူ့သဘာဝအတိုင်း ဖြစ် ပျက်နေတာတွေကို မြင်အောင်ရှုရတာက ဝိပဿနာရှု လို့ ပီပီပြင်ပြင် ခွဲခြားမှတ်သားပါ (မှန်ပါဘုရား)

# စင်္ကြံ သွားရကျိုး ငါးမျိုး

မြတ်စွာဘုရားက အင်္ဂုတ္တိုရ်ပါဠိတော် ပဥ္စက နိပါတ်မှာ စင်္ကြံ သွားခြင်းကြောင့် ရနိုင်တဲ့အကျိုး(၅) မျိုး ရှိကြောင်းကို ဟောထားတော်မူသည်။

ပဉ္စိမေ ဘိက္ခဝေ စင်္ကမေ အာနိသံသာ၊
ကတမေ ပဉ္စ၊ အဒ္ဓါနက္ခမော ဟောတိ၊
ပဓါနက္ခမော ဟောတိ၊ အပ္ပါဗာဓော
ဟောတိ၊ အသိတံ ပီတံ ခါယိတံ သာယိတံ
သမ္မာ ပရိဏာမံ ဂစ္ဆတိ၊ စင်္ကမာဓိဂတော
သမာဓိ စိရဋ္ဌိတိကော ဟောတိ၊ ဣမေ
ခေါ ဘိက္ခဝေ ပဉ္စ စင်္ကမေ အာနိသံသာ။

လိုရင်းအချုပ်ကို ကောက်နုတ်ပြရပါလျှင်-

၁။ အဒ္ဓါနက္ခမော = ခရီးရှည်သွားနိုင်ခြင်း၊
၂။ ပဓါနက္ခမော = ဖွဲလုံ့လဝီရိယသန်ခြင်း၊
၃။ အပ္ပါဗာဓော = ကျန်းမာရေး ကောင်းခြင်း၊
၄။ သမ္မာ ပရိဏာမံ ဂစ္ဆတိ = အစာကြေညက်ခြင်း၊
၅။ သမာဓိ စိရဋ္ဌိတိကော = သမာဓိ ခိုင်မြဲခြင်း။

[ဆောင်] ခရီးသွားနိုင်၊ ကြံ့ခိုင်အားအင်၊ ကင်းစင် ရောဂါ၊ အစာကြေကျက်၊ မပျက်သမာဓ် ငါးပါးရှိ၊ သွားသည့် စင်္ကြံ အကျိုးတည်း။

မြတ်စွာဘုရား၏ ဤဒေသနာတော်ကို ဆရာ တော် ဦးဝိမလက စောစောကပင် တွေ့ထားတော်မူခဲ့ ထို့ကြောင့် စာသင်သားဘဝ၊ စာချဘုန်းကြီးဘဝတို့ စ၍ လမ်းလျှောက်လာခဲ့သည်၊ အဘိဓမ္မာတွေကို တ[illegible]

## တစ်ဘဝသာသနာ

နဲ့တာ လေ့လာကြပြီးပြီဆိုရင် ညနေပိုင်း၌ နေ့တိုင်း ဲ့လို လမ်းလျှောက်တဲ့ အလေ့ရှိခဲ့ကြဖူး၏၊ ယင်းသို့ လျှောက်ရသည်မှာ ကြာပြီ။

မိုးကုတ်မြို့နယ်၊ ဘော်ပတန်းရွာ ကျောက် ဲဏ်ဂူကြီးထဲသို့ ရောက်နေခဲ့ရ၍ဖြစ်၏၊ ဂူကြီးထဲမှာ ဲ အနေများကာ တရားကိုသာ ဖိပြီး ကြိုးစားနေရ က်တွင် အပြင်သို့ စင်္ကြံ ဝေးဝေး မသွားနိုင်ခဲ့။

ယခုအခါတွင်ကား ဂူအတွင်းမှ ထွက်လာပြီဖြစ် ကျယ်ဝန်းသော အပြင်လောကကြီးထဲသို့ ရောက်လာခဲ့ပြီ၊ သန့်ရှင်းသော လေတွေကိုလည်း တဝကြီး ရှူရှိုက်နေရလေပြီ။

ဂူအတွင်း၌ ညောင်းညာမှု ကိုက်ခဲမှုတို့လည်း များခဲ့၍ ယခုအခါ အားပါးတရ စင်္ကြံကြွနေလေပြီ၊ ညနေတိုင်း မှန်မှန် ကြွ၏၊ ခပ်ဝေးဝေးသို့ ရောက်အောင် ကြွနေသည်။

ဤသို့လျှင် ဆရာတော်အဖို့ စင်္ကြံကြွခြင်းကိစ္စ (လမ်းလျှောက်တဲ့အလေ့)ကို အထူးအရေးထား၍ လေး စားတော်မူခဲ့၏၊ ရောက်တဲ့ အရပ်မှာပင် အချိန် ယူ၍ စင်္ကြံကြွလေ့ရှိခဲ့သည်။

## ရာကျော်ဆရာတော်ဘုရားကြီး၏ မိန့်ကြားချက်များ

စစ်ကိုင်းတောင်ရိုး၊ ရွှေဟင်္သာချောင်မှ ရွှေဟင်္သာ ဆရာတော်ဘုရားကြီး ဘဒ္ဒန္တ ပဏ္ဍိတသည် သက်တော် ဲ့တော်မူ၏၊ အသက်တော်(၁၀၀)တစ်ရာကျော်လာ သာအခါ ဟိုကသည်က မေးလျှောက်ကြ၏၊ "အသက် ဲ့အောင် ဘာ ဆေးဘုဥ်းပေးပါသလဲ ဘုရား"တဲ့၊ အခါ ဆရာတော်ဘုရားကြီးက ဖြေတော်မူရသည်–

၁။ ဘာဆေးရယ်လို့ ထူးထူးထွေထွေ ဘုဉ်း ပေးသည်တော့ မဟုတ်ပါ၊ အဲ... အရာရာတော့ သတိထားရတာပေါ့၊ ဥပမာ နံပါတ်(၁) စိတ်ကို ချမ်းသာ အောင် ထားတတ်ရမယ်။

၂။ ပြီးတော့နံပါတ်(၂) သင့်တော်တဲ့ ရာသီ ဥတုမှာ မျှတအောင် နေရမယ်၊ ဘုန်း ကြီးဆိုလျှင် မြန်မာပြည် အောက်ပိုင်း ဒေသသား ဖြစ်ပေမယ့် အောက်ပြေ အောက်ရွာနဲ့ မတည့်ဘူး၊ ခဏ ခဏ ဖျားတယ်၊ နာတယ်၊ အောက်ပိုင်း ညောင်တုန်းမှာ နေတုန်းက ဆိုရင် ကျန်းမာတယ်လို့ မရှိဘူး။

တစ်ခါဟာတော့ ကိစ္စတစ်ခုနဲ့ မြန်မာပြည် အထက်ပိုင်း စစ်ကိုင်းကို ရောက်သွားတယ်၊ နေလို့ ကောင်းလိုက်တာ၊ တစ်လကျော်ကျော်အတွင်းမှာ သိသိ သာသာကြီး ကျန်းမာရေးတွေကောင်းလာတယ်၊ ဒါနဲ့ စစ်ကိုင်းတောင်ရိုးမှာ အမြဲနေလိုက်တော့တယ်။

၃။ အဲဒီနောက် နံပါတ်(၃) အစာအာဟာရ ကိုလဲ လွန်လွန်ကဲကဲ မစားရဘူး၊ မျှတရုံစားရတယ်၊ မတည့်တာကိုလဲ ရှောင်ရတယ်။

၄။ အဲ... နောက်ဆုံးနံပါတ်(၄) စင်္ကြံ သွားတဲ့ အလေ့လဲ ရှိရတယ်၊ ဘုန်းကြီးကတော့ နှစ် ကိစ္စ ပြီးအောင် ဆွမ်းခံကြွလိုက်တယ်၊ အဲဒီတော့ ပိဏ္ဍစာရိကဝတ်လဲပြည့်၊ စင်္ကြံကြွတဲ့ကိစ္စလဲ ပြီးသွား တယ်။

အဲဒီလို မျှတအောင်နေလို့ အသက်ရှည်တာပါ၊ အခုဆိုရင် (၁၀၀)နဲ့ ၂လရှိလာပြီ"၊ ဤသို့ မိန့်တော်မူ ပါသည်။

---

**မှတ်ချက်။** ။သက္ကရာဇ် ၁၃၅၅–ခု တပေါင်းလ ထဲက မိန့်တော်မူခြင်း ဖြစ်၏၊ ဆရာတော်ဘုရားကြီး၏ မိန့်ကြား ချက်များတွင် အရာရာမှာ လွန်လွန်ကဲကဲမဖြစ်စေဖို့၊ မျှမျှတတ ရှိစေဖို့နှင့် စင်္ကြံကြွတဲ့ကိစ္စများပါလာသည်၊ မှတ်သားဖွယ်၊ လေးစားဖွယ်၊ လိုက်နာဖွယ်တွေ ဖြစ်၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အေးချမ်းတဲ့စိတ်ဖြစ်အောင် ဖန်တီးပါ

ထို့ပြင် သက်တော်(၁၀၀) တစ်ရာ ထဲရောက်နေပြီဖြစ်သော ရန်ကုန်၊ ရန်ကင်းမြို့နယ်၊ ဘောက်ထော်တွင် သီတင်းသုံးတော်မူသော ကမ္ဘာ့ ဗုဒ္ဓသာသနာပြုဆရာတော်ဘုရားကြီး ဦးသေဋ္ဌိလကလည်း၎င်း သဘောပင် မိန့်တော်မူသည်။

ဆရာတော်ဘုရားကြီးသည် ပထမကျော်၊ အဂ္ဂမဟာပဏ္ဍိတ၊ ကမ္ဘာ့ဗုဒ္ဓသာသနာပြု၊ နိုင်ငံတော်ဩဝါဒါစရိယ၊ အဘိဓဇ မဟာရဋ္ဌဂုရု၊ အဘိဓဇမဟာသဒ္ဓမ္မဇောတိက ဖြစ်တော်မူ၏။

"ဘာပဲဖြစ်ဖြစ် စိတ်မညစ်နဲ့၊ စိတ်ကိုပူလောင်အောင်မထားနဲ့၊ အေးချမ်းတဲ့စိတ်ဖြစ်အောင် ဖန်တီးပါ၊ စိတ်ကိုစင်ကြယ်ဖြူလွှအောင် ပြုပြင်နေပါ . ."

"တေမိမင်းကလေးဟာ နန်းတော်ထဲမှာတုန်းက ပိန်နေတယ်၊ တောထဲထွက်ပြီး တစ်ယောက်တည်းနေတော့မှ ဝဖြိုးစိုပြည်လာတာတဲ့၊ အဲဒါ နန်းတော်ထဲတုန်းက အပူတွေရှိလို့ ပိန်တာ၊ တောထဲရောက်တော့ အပူအပင်မရှိလို့ ဝဖြိုးစိုပြည်လာတာ၊ ဆရာတော့်မှာ အဲဒီလိုအပူမရှိအောင်နေတတ်လို့ အသက်ရှည်တာ" တဲ့

သက္ကရာဇ် ၁၃၅၆–ခု၊ တန်ဆောင်မုန်း လ (၁၉၉၄–ခု၊ နိုဝင်ဘာလ) ထဲမှာ သွားရောက်ဖူးမြော်စဉ်က မိန့်တော်မူခြင်း ဖြစ်သည်။ ထို့နောက် သက်တော် (၁၀၂)နှစ်အထိ နေသွားရှာ၏။

## အပေါင်းဆိုရင် ပညတ် ဖြစ်နေမယ်

အရှုခံတရားတွေဆိုတာက ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာလို့ ငါးပါး ရှိတယ် (မှန်ပါ) ဉာဏ်နဲ့ ခွဲဝေပုံရတာပေါ့ (မှန်ပါ)

အဲဒီငါးပုံထဲက ကြိုက်ရာတစ်ပုံပုံကို ရွေးပြီး ဉာဏ်နဲ့ ရှုရမယ် (မှန်ပါ) ဉာဏ်နဲ့ စိတ်မွှာပစ်ရမယ် (မှန်ပါဘုရား)

ဉာဏ်နဲ့ မစိတ်နိုင်ရင် အပေါင်းဖြစ်နေမယ် (မှန်ပါ) အပေါင်းဖြစ်နေသေးရင် ပညတ်ဖြစ်နေမယ်၊ ပညတ်ကို မရှုရဘူး (မှန်ပါဘုရား)

အဲ . . . ဉာဏ်နဲ့ အစိတ်စိတ်အမွှာမွှာတွေ့အောင် ရှုနိုင်မှ ပရမတ်ကို မြင်လာမယ်၊ ပရမတ်ကိုသာ ရှုရမှာ (မှန်ပါဘုရား)

ဆိုလိုတာက ဒီခန္ဓာငါးပါးလုံး တစ်ခုမှ တည်မြဲနေကြတာ မဟုတ်ဘူး၊ အားလုံး တဖြုတ်ဖြုတ်နဲ့ ပျက်စီးပြောင်းလွဲနေကြတာပဲ (မှန်ပါ)

အဲဒါတွေကို မမြင်ကြတော့ အပေါင်းအစုဖြစ်ပြီး ပုဂ္ဂိုလ် သတ္တဝါတွေ ထင်ကုန်၊ လူ နတ် ဗြဟ္မာတွေ ထင်ကုန်၊ ယောကျ်ား မိန်းမတွေ ထင်ကုန်ကြတော့တာပေါ့ (မှန်ပါ) အဲဒီတော့ ပညတ်တွေ ဖုံးကုန်ရော (မှန်ပါ ဘုရား)

ပညတ်တွေဖုံးနေပြီး ပညတ်အနေနဲ့ မြင်နေသမျှ လဲ တရားမရနိုင် (မှန်ပါ) ဘာလို့လဲဆိုတော့ အမှန်အတိုင်းမှ မမြင်ကြဘဲကိုး (မှန်ပါဘုရား)

အဲဒါကြောင့် အမှန်အတိုင်း မြင်ရအောင် ခန္ဓာတွေကို ဉာဏ်နဲ့စိတ်မွှာပစ်ပါ၊ (မှန်ပါ) ဖြစ်–ပျက်တွေ မြင်အောင် ရှုပါလို့ ဆိုလိုတယ် (မှန်ပါဘုရား)

အဲဒီလို ခန္ဓာငါးပါးလုံး ဖြစ်–ပျက်တွေမျှသာလို့ မြင်လာမှ အမြင်မှန် အမှန်မြင်ပဲ၊ (မှန်ပါ) ဒီကျမှပဲ ပညတ်တွေ ကွာကျကုန်မယ် (မှန်ပါဘုရား)

ပညတ်တွေ ကွာကျကုန်ပြီး ပရမတ်သား သက်သက်ကို မြင်ရမှသာ တရားထူးရနိုင်မယ် (မှန်ပါ)

အပေါင်းကြီးကို မြင်နေရင် ပညတ်တွေ မစင်သေးလို့ တရားထူး မရနိုင်သေး၊ (မှန်ပါဘုရား)

## ကိုယ့်စရိုက်နဲ့လိုက်တဲ့ ကမ္မဋ္ဌာန်းရွေး

အဲဒီခန္ဓာငါးပါးကို သတိပဋ္ဌာန်လေးပါးနဲ့ ပုံနိုင်တယ်၊ ပုံလို့ရှိရင် အခုလို ပုံလိုက်ပါ။

[မိုး(၄) နှာ-၅၂၅မှ။]

* ရူပက္ခန္ဓာက – ကာယာနုပဿနာ၊
ဝေဒနာက္ခန္ဓာက – ဝေဒနာနုပဿနာ၊
သညာနဲ့ သင်္ခါရတို့က – ဓမ္မာနုပဿနာ၊
စိတ်ကလေးတွေက – စိတ္တာနုပဿနာ။

အဲဒီထဲက ကိုယ်နဲ့ ဘယ်ကမ္မဋ္ဌာန်းနဲ့လိုက်သလဲ ဆိုတာ ရွေးချယ်ရပါမယ်၊ ကိုယ့်စရိုက်နဲ့လိုက်တဲ့ ကမ္မဋ္ဌာန်းကို ရှုမှ တရားတက်လွယ်မယ်။ (မှန်ပါ)

၁။ ဉာဏ်ထိုင်းပြီး+လောဘတွေများလျှင် ကာယာနုပဿနာ (ရုပ်ကိုရှုပါ)
၂။ ဉာဏ်ထိုင်းပြီး+ဒိဋ္ဌိအယူအစွဲများလျှင် စိတ္တာနုပဿနာ (စိတ်ကိုရှုပါ)
၃။ ဉာဏ်ထက်ပြီး+လောဘတွေများလျှင် ဝေဒနာနုပဿနာ (ဝေဒနာကို ရှုပါ)
၄။ ဉာဏ်ထက်ပြီး+လောဘတွေ နည်းပါးလျှင်ဓမ္မာနုပဿနာ(ဖြစ်ပျက်–သစ္စာကို ရှုပါ)

## ဒါက ရုပ်သဘော – ဒါက နာမ်သဘော

ဤနေရာ၌ ရုပ်သဘော– နာမ်သဘောတို့ကို ပြောပြရာတွင် သုတ်မဟာဝါအဋ္ဌကထာ၊ မဟာသတိပဋ္ဌာနသုတ်အဖွင့်၊ ဣရိယာပထ ပဗ္ဗအခန်းမှ အချက်အလက်များကို ယူ၍ တင်ပြပါမည်။

မေး။ ။တလှုပ်လှုပ် တရွရွဖြင့် ရှေ့သို့ ရွေ့လျား၍ နေသည်ကို "ဘယ်သူသွားနေတာလဲ"ဟု မေးလျှင်–

ဖြေ။ ။"ဘယ်သူ"မှ သွားတာမဟုတ်၊ "သွားတတ်တဲ့သူ" မရှိ၊ သွားတတ်တဲ့ ပုဂ္ဂိုလ်ရယ်– သတ္တဝါရယ်ဆိုတာ မရှိ။

မေး။ ။ဒါဖြင့် ဘယ်သူရဲ့ရွေ့လျားနေခြင်းလဲ။

ဖြေ။ ။"ဘယ်သူရဲ့"ဆိုတဲ့ "သူ"ကို မရှိဘူး။

မေး။ ။ဒါဖြင့် ဘာကြောင့် ရွေ့လျားနေတာလဲ။

ဖြေ။ ။အေး... အဲဒီမေးခွန်းရဲ့ အဖြေကတော့– စိတ္တကိရိယဝါယောဓာတုဝိပ္ဖါရေန ဂစ္ဆတိ၊ စိတ်က ပြုပြင်အပ်သော ဝါယောဓာတ်၏ ပျံ့နှံ့မှုကြောင့် ရွေ့လျားနေရခြင်း ဖြစ်တာပဲ။

အကျယ်ချဲ့၍ ဆိုပါဦးမည်၊

၁။ "ဂစ္ဆာမိ"တိ စိတ္တံ ဥပ္ပဇ္ဇတိ = ဦးစွာ ပထမ "သွားမယ်"ဆိုတဲ့စိတ် ဖြစ်ပေါ်လာတယ်။
၂။ တံ ဝါယံ ဇနေတိ = အဲဒီစိတ်က ဝါယောဓာတ်ကို ဖြစ်ပေါ်စေတယ်၊ ဖြစ်အောင် လုပ်တယ်၊ နိုးကြွလာအောင် နှိုးတယ်။
၃။ ဝါယော ဝိညတ္တိံ ဇနေတိ = အဲဒီဝါယောဓာတ်က တစ်ဖန် သွားလိုတဲ့ အမူအရာ (ဝိညတ်)ကို ဖြစ်ပေါ်စေပြန်တယ်။

* မဟာဝဂ္ဂ အဋ္ဌကထာ၊ ၃၆၇

၄။ စိတ္တ ကိရိယ ဝါယောဓာတုဝိပ္ဖါရေန
သကလ ကာယဿ ပုရတော
အဘိနီဟာရော ဂမနန္တိ ဝုစ္စတိ =

အဲဒီလို စုပေါင်းမိပြီးတော့ စိတ်က ပြုလုပ်အပ်သော ဝါယောဓာတ်၏ ပျံ့နှံ့မှုကြောင့် တစ်ကိုယ်လုံး ရှေ့သို့ တရွေ့ရွေ့–ရွေ့နေတာကို "သွားတယ်"ဟူ၍ ခေါ်ဆိုသမုတ်နေကြခြင်း ဖြစ်တယ်။

ရပ်တဲ့အခါ၊ ထိုင်တဲ့အခါ၊ လျောင်းတဲ့အခါတို့မှာလဲ ဒီအတိုင်းပဲ၊ ဦးစွာ ပထမ ရပ်လိုစိတ်၊ ထိုင်လိုစိတ်၊ လျောင်းလိုစိတ်တို့ ဖြစ်ကြတယ်။

အဲဒီစိတ်ကမှ ဝါယောဓာတ်ကို ဖြစ်ပေါ်စေအောင်နှိုးဆွတယ်၊ အဲဒီဝါယောက တစ်ဆင့် အမူအ-တွေကို ဖြစ်ပေါ်စေပြီးတော့ တုံ့ဆိုင်းရပ်တန့်သွားခြ-ကိုယ်တစ်ပိုင်းကျိုး၍ ထိုင်ကျသွားခြင်း၊ အိပ်ရာပေါ်ခန္ဓာကိုယ်ကြီး ကန့်လန့်တင်၍ သွားခြင်းတို့သာ ဖြ-ကြတယ်။

အဲဒီတော့ ပုဂ္ဂိုလ် သတ္တဝါ၊ သူ–ငါရယ် မရှိ၊ ယောကျ်ား–မိန်းမရယ်လို့ မရှိ၊ နာမ်တရားနဲ့ ရု-တရားသာ ရှိတယ်၊ နာမ်တရားက ခိုင်းလို့ ရုပ်တရားကြီးက လုပ်ပေးနေရခြင်းမျှသာ ဖြစ်တယ်။ နာမ်သဘောနှင့် ရုပ်သဘောမျှသာ ရှိကြတယ်။ အဲဒီမှာ ခိုင်းတာက နာမ်သဘော၊ လုပ်ပေးရတာက ရုပ်သဘော။

## ပုဂ္ဂိုလ် သတ္တဝါ၊ သူငါ မဟုတ်၊ နာမ်နှင့်ရုပ်မျှသာ

"သွားချင်စိတ်"ဖြစ်တာက နာမ်၊ ရှေ့သို့ တရွေ့– တရွေ့ ရွေ့လျားနေတာက ရုပ်၊ အတိုချုပ်ပြောရလျှင် သွားချင်တာက နာမ်၊ သွားတာက ရုပ်။

["ရုပ်က သွားတတ်သလား"လို့တော့ လိုက်ပြီး ကပ်မနေနဲ့၊ ဒီလိုပြောမှပဲ သဘောပေါက်လွယ်မှာမို့ ဒီလိုပဲ ပြောရတာပဲ။]

•

ရုပ်ချင်တာက နာမ်၊ ရပ်တာက ရုပ်၊ ထိုင်ချင်တာက နာမ်၊ ထိုင်တာက ရုပ်၊ လဲလျောင်းချင်(အိပ်ချင်)တာက နာမ်၊ လဲလျောင်းတာက ရုပ်၊ ဤသို့စသည်ခွဲခြားပါ။

၁။ သွားလို ရပ်လို၊ ထိုင်နေလို၊ အိပ်လိုစိတ်ဟုသိ။
၂။ စိတ်ကြောင့်ဖြစ်သော၊ ဓာတ်ဝါယော၊ နှံ့နှော ကိုယ်ဝယ်ပြည့်။
၃။ ဝါယောပြည့်သော်၊ ဝိညတ်ပေါ်၊ ရုပ်သော် သွားပေ၏။
၄။ ပုဂ္ဂိုလ်မသွား၊ ငါမသွား၊ ရုပ်သွားဉာဏ်ဖြင့်သိ။
၅။ ပုဂ္ဂိုလ်မရပ်၊ ငါမရပ်၊ ရုပ်ရပ်ဉာဏ်ဖြင့်သိ။
၆။ ပုဂ္ဂိုလ်မထိုင်၊ ငါမထိုင်၊ ရုပ်ထိုင်ဉာဏ်ဖြင့်သိ။
၇။ ပုဂ္ဂိုလ်မအိပ်၊ ငါမအိပ်၊ ရုပ်အိပ်ဉာဏ်ဖြင့်သိ။
၈။ ပုဂ္ဂိုလ်မကွေး၊ ငါမကွေး၊ ရုပ်ကွေးဉာဏ်ဖြင့်သိ။
၉။ ပုဂ္ဂိုလ်မဆန့်၊ ငါမဆန့်၊ ရုပ်ဆန့်ဉာဏ်ဖြင့်သိ။
၁၀။ ပုဂ္ဂိုလ်မဖြန့်၊ ငါမဖြန့်၊ ရုပ်ဖြန့်ဉာဏ်ဖြင့်သိ။

ဤသို့လျှင် "နာမ်နှင့် ရုပ်သာ ရှိတယ်" လို့ သဘောပေါက်ထားသော ပုဂ္ဂိုလ်မှာ အပြောအားဖြင့်တော့ "ပုဂ္ဂိုလ် သတ္တဝါ ယောကျ်ား မိန်းမ သွားတယ်" ဟု ဆိုကောင်း ဆိုကြမည်၊ သို့သော်လည်း သဘောအမှန် အသိကတော့ "ပုဂ္ဂိုလ် သတ္တဝါ ယောကျ်ား မိန်းမ သွားတယ်"ဆိုတာ မရှိ၊ နာမ်က စေခိုင်းလို့ ရုပ်ကြီးက ရွေ့လျားပေးရခြင်းမျှသာ ဖြစ်တယ်–လို့ လက်ခံနိုင်လာ၏။

## တစ်ဘဝသာသနာ

# "ဖြစ်–ပျက်"ပဲရှိတယ်

* အနိစ္စာ ဝတ သင်္ခါရာ၊
ဥပ္ပါဒ ဝယ ဓမ္မိနော။
ဥပ္ပဇ္ဇိတွာ နိရုဇ္ဈန္တိ၊
တေသံ ဝူပသမော သုခေါ။ ။

သင်္ခါရာ–သင်္ခါရတရားတို့သည်၊ ဝတ–စင်စစ်ကန် အမှန်အားဖြင့်၊ အနိစ္စာ–မမြဲကြဘူးတဲ့၊ (မှန်ပါရား) ဥပ္ပါဒဝယဓမ္မိနော–ဖြစ်ပြီးတော့ ပျက်သွားခြင်းသဘော ရှိကြပေကုန်၏၊ (မှန်ပါ) အဖြစ်နဲ့ အပျက်ပဲဘယ်တဲ့ (မှန်ပါဘုရား)

အဲဒါကို သေချာအောင် ထပ် ဖွင့်တဲ့အနေနဲ့ ဇ္ဇိတွာ နိရုဇ္ဈန္တိ–တဲ့ (မှန်ပါ) ဥပ္ပဇ္ဇိတွာ–ဖြစ်ပြီး၍၊ ရုဇ္ဈန္တိ–ချုပ်ပျောက်ကုန်၏ ဆိုတော့လဲ "ဖြစ်ပြီး–က်တာ"ပဲ မဟုတ်လား (ဟုတ်ပါတယ် ဘုရား) ဒီတော့ မှတ်လိုက်ကြ၊ "အားလုံးဟာ ဖြစ်–ပျက်ပဲ ရှိတယ်" (မှန်ပါ)

ကံ စိတ် ဥတု အာဟာရတို့ကြောင့် ဖြစ်ပေါ်လာတဲ့ ရုပ်တရားများ၊ အာရုံနဲ့ ဒွါရတို့ကြောင့် ဖြစ်ပေါ်ရတဲ့ နာမ်တရားများ၊ အဲဒီရုပ်တရားနဲ့ နာမ်တရားဟာ သူများတွေက လုပ်လို့၊ အကြောင်းတရားတွေ ပြုပြင်ကြလို့ ဖြစ်ပေါ်လာရတဲ့ အကျိုးတရားများ ဆိုတော့ "သင်္ခါရတရား"တွေပေါ့ (မှန်ပါဘုရား)

သဗ္ဗေ သင်္ခါရာ အနိစ္စာ = အဲဒီသင်္ခါရတရားတွေ အားလုံးပဲ မမြဲကြဘူး (မှန်ပါ) ဘယ်လိုသဘောရှိလို့လဲ၊ ဘာလို့ မမြဲဘူး ပြောနိုင်သလဲဆိုတော့ "ဥပ္ပါဒ ဝယဓမ္မိနော"တဲ့ (မှန်ပါ) ဖြစ်ပြီးတော့ ပျက်ကုန်တဲ့ သဘော ရှိလို့တဲ့ (မှန်ပါဘုရား)

အဲဒါကို သေချာအောင် ထပ်ပြီး ဖွင့်သေးတယ် "ဥပ္ပဇ္ဇိတွာ နိရုဇ္ဈန္တိ"တဲ့ (မှန်ပါ) ဖြစ်ပေါ်လာပြီးတော့ ပျောက်ပျက်ကုန်လေ၏–တဲ့ (မှန်ပါဘုရား)

ဒါတွေအားလုံးကို ချုံးလိုက်ရင်တော့ "ဖြစ်ပြီး ပျက်ပဲ"၊ အတိုကောက် "ဖြစ်–ပျက်"ပေါ့ (မှန်ပါဘုရား)

ရုပ်နာမ်တွေဟာ (ဥပါဒ်–ဋ္ဌီ–ဘင်) ကာလသုံးပါး ရှိတယ် မဟုတ်လား–တဲ့၊ မေးကြတယ်၊ (မှန်ပါဘုရား) အို… ရှိတော့ ရှိတာပေါ့၊ ဒါပေမယ့် "ဋ္ဌီ"ဆိုတာ ခဏကလေးပါ၊ မပြောပလောက်ပါဘူး (မှန်ပါ)။

စိတ္တယမိုက်မှာလဲ လာတယ်၊ ဖြစ်လာပြီ ဆိုကတည်းက ပျက်တော့မယ်လို့ ယိုင်နေပြီ၊ ဒါ့ကြောင့် ထင်ရှားတာက ဥပါဒ်နှင့် ဘင်ပဲ၊ ဘာသာပြန်ရင် "အဖြစ်နဲ့အပျက်ပဲ" အတိုချုပ် "ဖြစ်–ပျက်"ပဲ ရှိတယ်။ (မှန်ပါဘုရား)

# မိုးကုတ်မြို့မှာ တရားပွဲတွေ တခြိမ့်ခြိမ့်

မိုးကုတ်မြို့မှာ ဆရာတော် ဦးဝိမလ၏ တရားပွဲ ဂျော့တောင်ရပ်က ကျောင်းဒကာကြီး ဦးလယ် ါသိုင်းခြံတို့နေအိမ်မှာ နေ့စဉ်နေ့တိုင်း ည၇နာရီမှ ာရီအထိ ဖြစ်လေသည်၊ ပရိသတ်တို့ကား တစ်နေ့တခြား များပြားလာကြ၏၊ ဟောပြောမှုတို့က တစ်နေ့ထက် တစ်နေ့ ပို၍ ပို၍ ကောင်းလာသလို ဖြစ်သည်ဟူ၏၊ အမှန်ကတော့ ပို၍ သဘောပေါက်လာလို့ ဖြစ်ပါလိမ့်မည်။

* (၂)နှာ–၂၈၈၊ ၆၁၀၊ သဂါထာသံယုတ်၊ ၆၊ ၁၆၀။]

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဒုက္ခသစ္စာနဲ့ မဂ္ဂသစ္စာ

အရှုခံဘက်က ရုပ်နာမ်၂-ပါး၊ အကျယ်ချဲ့ရင် ခန္ဓာငါးပါး၊ အဲဒါတွေဟာ တစ်ခုမှ မမြဲကြဘူး၊ (မှန်ပါ) တဖွဲဖွဲ ကသဲသဲ အသစ်အဟောင်း ပြောင်းလဲနေကြတာပဲ (မှန်ပါဘုရား) ဒီခန္ဓာငါးပါးကြီးဟာ ရလာကတည်းက မသက်သာဘူး၊ ဒုက္ခသစ္စာကြီးပဲ (မှန်ပါ)

"ဇာတိပိ ဒုက္ခာ၊ ဇရာပိ ဒုက္ခာ၊ ဗျာဓိပိ ဒုက္ခော၊ မရဏမ္ပိ ဒုက္ခံ"လို့ ဓမ္မစကြာတရားဦးထဲမှာ ပါတယ်မဟုတ်လား (ပါ-ပါတယ်ဘုရား) ဘာသစ္စာတွေတဲ့တုံ (ဒုက္ခသစ္စာတွေပါတဲ့ ဘုရား)

အို-နာ-သေ-ကွဲ-မွဲ-အကုန်လုံး ဒုက္ခတွေပဲ၊ လိုချင်တာ မရတာလဲ ဒုက္ခသစ္စာပဲ၊ (မှန်ပါ ဘုရား) ဒုက္ခတွေ အကုန်လုံး မဆုံးနိုင်တော့ဘူး၊ ချုံးပြောလိုက်တော့မယ်-တဲ့။ (မှန်ပါ)

"သံခိတ္တေန ပဉ္စုပါဒါနက္ခန္ဓာ ဒုက္ခာ"
ခန္ဓာငါးပါးလုံး ဒုက္ခတုံး ဒုက္ခခဲ
ဒုက္ခသစ္စာကြီးပဲ-တဲ့ (မှန်ပါဘုရား)

အေး... အဲဒီခန္ဓာငါးပါးကြီးဟာ စက္ကန့်မလပ်၊ မိနစ်မလပ် ဟရစပ် ဖြစ်-ပျက်နေကြတာ (မှန်ပါ) အဲဒီအဖြစ်-အပျက်တွေက နှိပ်စက်နေကြလို့ ဒုက္ခဖြစ်နေကြရတာပဲ (မှန်ပါဘုရား)

ဒါဖြင့် အဲဒီဖြစ်-ပျက်တွေကိုရော ဘာသစ္စာခေါ်မလဲ (ဒုက္ခသစ္စာ ခေါ်ပါမယ်ဘုရား) အေး... ဟုတ်တယ်။

အဲဒီဖြစ်-ပျက်နေတာတွေကို ဒီကနေ ဉာဏ်နဲ့ ကြည့်ရင် မြင်ရတယ် (မှန်ပါ) ဖြစ်လိုက်-ပျက်လိုက်၊ ဖြစ်လိုက်-ပျက်လိုက်နဲ့ အသစ်အဟောင်း ပြောင်းလဲနေတာတွေကို မြင်ရတယ် (မှန်ပါဘုရား)

သမာဓိကလေး ထူထောင်ပြီး ဉာဏ်နဲ့ ကြည့်ရင် မြင်ရနိုင်တယ် (မှန်ပါ) အဲဒီမြင်တတ်တဲ့ဉာဏ်ကို ကျတော့ မဂ္ဂသစ္စခေါ်တယ် (မှန်ပါဘုရား) ဘာသစ္စာခေါ်မယ် (မဂ္ဂသစ္စာ ခေါ်ပါမယ် ဘုရား)

ကဲ... ဒါဖြင့် ပြန်မေးမယ်၊ ဖြစ်-ပျက် ဘာသစ္စာ (ဒုက္ခသစ္စာပါဘုရား) မြင်တဲ့ဉာဏ်က ဘာသစ္စာ (မဂ္ဂသစ္စာပါဘုရား) အေး... မှန်တယ်၊ စွဲစွဲမြဲမြဲ မှတ်ထားကြ၊ (မှန်ပါဘုရား)

## သမုဒယသစ္စာနဲ့ နိရောဓသစ္စာ

သမာဓိ ထူထောင်ပြီး ဉာဏ်နဲ့ ကြည့်တဲ့အခါ ခန္ဓာရဲ့ အဖြစ်-အပျက်ကို မြင်ရနိုင်တယ်၊ (မှန်ပါ) အဲဒီအဖြစ်အပျက်တွေကို မြင်နေတဲ့အခိုက်မှာ လောဘတဏှာ မပေါ်လာနိုင်ဘူး၊ (မှန်ပါဘုရား)

ဘာပြုလို့လဲဆိုတော့ လောဘတဏှာလာမယ့်နေရာ ဟဒယဝတ္ထုပေါ်မှာ မဂ်ဉာဏ်ရောက်နေလို့ပါပဲ၊ မဂ်ဉာဏ်က ဦးနေနှင့်လို့ပါပဲ (မှန်ပါဘုရား)

မဂ်ဉာဏ်ကလဲ ဟဒယဝတ္ထုပေါ်မှာ ပေါ်ရတာ၊ လောဘတဏှာလာယင်လဲ ဟဒယဝတ္ထုပေါ်မှာပဲ လာမှာ (မှန်ပါ) မဂ်ဉာဏ်ကလဲ နာမ်တရား၊ လောဘတဏှာကလဲ နာမ်တရားပဲ၊ (မှန်ပါဘုရား)

နာမ်တရားတို့ဆိုတာကလဲ တစ်ချိန်တည်းမှာ (၂)မျိုး ပြိုင်၍ ဖြစ်ရရိုးထုံးစံမရှိ၊ တစ်မျိုးစီသာ ဖြစ်တာ (မှန်ပါ)

အခု "မဂ်ဉာဏ်"ဆိုတဲ့ နာမ်တရားက ဟဒယဝတ္ထုပေါ်မှာ ဦးစွာပေါ်နှင့်တယ် (မှန်ပါ) အဲဒါကြောင့်

လောဘတဏှာ"ဆိုတဲ့ နာမ်တရားက အဲဒီဟဒယဝတ္ထု မှာ နောက်ထပ်ပေါ်လို့ မရတာ (မှန်ပါဘုရား)

ဒီတော့ လောဘတဏှာ မပေါ်လာနိုင်ဘဲ ပျောက် ရတော့တာပေါ့ (မှန်ပါ) လောဘတဏှာ သေနေ ယ် ဆိုပါတော့ (မှန်ပါဘုရား)

ဘယ်သူ သေတာလဲ (လောဘတဏှာ သေတာ ဘုရား) အဲဒီလောဘတဏှာကို သစ္စာ ဖွဲ့ရင် မုဒယသစ္စာလို့ မှတ်ကြ၊ (မှန်ပါဘုရား) ဒါဖြင့် မုဒယသစ္စာ သေနေတာပေါ့ (မှန်ပါ ဘုရား)

အေး... အဲဒီလို အဖြစ်-အပျက်တွေကို မြင်နေတဲ့ အခိုက်မှာ သမုဒယသစ္စာမပေါ်လာနိုင်ဘူး၊ သေနေတယ်လို့ ဆိုရတာပေါ့ (မှန်ပါ)

ဒါတွင် ဘယ်ကမလဲ၊ သမုဒယသစ္စာက လုပ်လို့ ပေါ်-ပေါ်လာရတဲ့ နောင်ဘဝ နောင်ခန္ဓာတွေလဲ မပေါ်လာတော့ဘူး (မှန်ပါဘုရား) ဘဝခန္ဓာတွေ ချုပ်ငြိမ်းကုန်တယ် ဆိုပါတော့ (မှန်ပါ) အဲဒီလို ချုပ်ငြိမ်းကုန်တာဟာ နိရောဓသစ္စာပဲ (မှန်ပါဘုရား)

နောင်ခန္ဓာတွေ မပေါ်လာတော့ဘဲ ချုပ်ငြိမ်းကုန်တာ ဘာခေါ်မယ် (နိရောဓသစ္စာ ခေါ်ပါမယ်ဘုရား) အေး... ဟုတ်တယ်။

## သစ္စာ ၄-ချက် ပြန်လည်စစ်ဆေး

ဒီသဘောတွေ ကြေညက်သွားအောင် ပြန်ပြီး ဆေးမယ်၊ မေးမြန်းမယ်၊ ဖြေကြ၊ ပုံသေလဲ မှတ်ထား ပါ (မှန်ပါဘုရား)

ဖြစ်ပျက်က ဘာသစ္စာ (ဒုက္ခသစ္စာပါဘုရား)
မြင်တဲ့ဉာဏ်က ဘာသစ္စာ (မဂ္ဂသစ္စာပါဘုရား)
သေတာက ဘာသစ္စာ (သမုဒယသစ္စာပါဘုရား)
နောင်ခန္ဓာ မလာတာက ဘာသစ္စာ
(နိရောဓသစ္စာပါဘုရား)

အေး... မှန်တယ်၊ သစ္စာတရားဆိုတာ အဲဒီလို ာထဲမှာ ရှိတာ (မှန်ပါဘုရား) သစ္စာတရားဆိုတာ အုပ်ထဲမှာ ရှိတာမဟုတ်ဘူး (မှန်ပါ) စာအုပ်ထဲမှာ ဘာက မှတ်တမ်းပဲ (မှန်ပါဘုရား)

ခန္ဓာထဲမှာ ဖြစ်ပေါ်သမှုကို စာနဲ့ ရေးပြီး စာအုပ်ထဲမှာ မှတ်တမ်းတင်ထားခြင်းမျှသာ ဖြစ်တယ် (မှန်ပါ)

အမှန်ကတော့ သစ္စာတရားဆိုတာဟာ အခု ပြောခဲ့တဲ့အတိုင်း ခန္ဓာထဲမှာပဲ ရှိတယ်၊ (မှန်ပါဘုရား)

ကဲ... ယနေ့ တော်ကြဦးစို့။

---

**မှတ်ချက်။** ။"နောင်ခန္ဓာမလာတာက နိရောဓသစ္စာ"ဟု ဆိုရာ၌ ကိုယ့်အဆင့်နှင့်ကိုယ် ပြောနိုင်၏၊ ဥပမာ သောတာပန် ဖြစ်သွားလျှင် ထိုပုဂ္ဂိုလ်အတွက် အပါယ်လေးပါးခန္ဓာ မလာနိုင်တော့ချေ၊ သကဒါဂါမ်အတွက် အထူးမရှိ၊ အနာဂါမ်ဖြစ်သွားလျှင် အပါယ်လေးဘုံနှင့် ကာမသုဂတိ ၇-ဘုံ၊ ပေါင်း(၁၁)ပါးသော ခန္ဓာတွေ မလာနိုင်တော့ချေ၊ ရဟန္တာဖြစ်သွားလျှင်ကား ဘယ်ခန္ဓာမှ မလာနိုင်တော့ချေ။ ။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သစ္စာလေးပါး ဆိုတာဟာ

**[ဆရာတော်ကြီး၏ ကိုယ်တိုင်ဟောပြောချက်မှ ကောက်နုတ်ဖော်ပြပါမည်]**

ဒီခန္ဓာကြီး ဘယ်ကများ လာပါလိမ့်မလဲ၊ (တဏှာက လာပါတယ်) ဟုတ်တယ်၊ ဒီရုပ်နာမ်နှစ်ပါး ခန္ဓာငါးပါးကြီးဟာ တဏှာကြောင့်ဖြစ်ရတာ (မှန်ပါဘုရား) ဒါဖြင့် တဏှာက ဘာသစ္စာ (သမုဒယသစ္စာပါ) အင်း... သူက ဖြစ်စေတဲ့ အကျိုးခန္ဓာကြီးကျတော့ ဘာသစ္စာ (ဒုက္ခသစ္စာပါ ဘုရား)

သူတို့ နှစ်ခု ချုပ်အောင် ကျင့်တဲ့ အကျင့်က ဘာသစ္စာ (မဂ္ဂသစ္စာ)၊ တကယ် ချုပ်သွားတဲ့အခါကျတော့ ဘာသစ္စာ (နိရောဓသစ္စာပါ ဘုရား)

ဩော်... ဒီလိုချုပ်သွားပြန်တော့ နိဗ္ဗာန်ဆိုတာ သူတို့ နှစ်ခုချုပ်တာကို ဆိုတာပါလား (မှန်ပါဘုရား ပေါ်ကြပလား (ပေါ်ပါပြီဘုရား)

နိဗ္ဗာန်ဆိုတာ ဘာပါလိမ့် (သူတို့နှစ်ခုချုပ်တာပ ဘုရား) အေး... သမုဒယနဲ့ ဒုက္ခချုပ်တာကို ဆိုပ တယ်၊ (မှန်ပါဘုရား)

ဒကာ–ဒကာမတို့... နိဗ္ဗာန်ဆိုတာ ဘာပါလိမ့် (သမုဒယနဲ့ ဒုက္ခချုပ်တာပါဘုရား) အေး... မှန်တယ် သမုဒယနဲ့ ဒုက္ခချုပ်တာ (မှန်ပါဘုရား)

[မိုး(၅)၊ နှာ–၂၇၉မှ။]

## ဩော်... သစ္စာလေးပါးဆိုတာ ဒီလိုကိုး

ဆရာတော် ရှင်းပြသော သစ္စာလေးပါးတရားကို နာရသောအခါ စောစောက တရားမေးသော ဒကာကြီးမှာ အံ့အားသင့်နေမိပါသတတ်၊ မိမိတို့ ကိုယ်တိုင် အတွေးချော်၍ အလွဲသုံးနေမိသည်ကိုလည်း သတိရ၍ ပြုံးနေမိပါသတတ်။

> ဒုက္ခံ တေဘူမကံ ဝဋ္ဋံ၊
> တဏှာ သမုဒယော ဘဝေ။
> နိရောဓေါ နာမ နိဗ္ဗာနံ၊
> မဂ္ဂေါ လောကုတ္တရော မတော။ ။

သစ္စာလေးပါးသရုပ်ကို ဖော်ပြတဲ့ သင်္ဂြိုဟ်ပါဠိဂါထာ ဖြစ်၏၊ အဓိပ္ပာယ်မှာ–

၁။ ဘုံသုံးပါး၌ ဖြစ်သော ဝဋ်တရားသည် ဒုက္ခသစ္စာမည်၏။

၂။ လောဘတဏှာသည် သမုဒယသစ္စာမည်၏။

၃။ နိဗ္ဗာန်သည် နိရောဓသစ္စာမည်၏။

၄။ လောကုတ္တရာမဂ္ဂင်တရားကိုယ်ရှစ်ပါးသည် မဂ္ဂသစ္စာမည်၏။

ဤသင်္ဂြိုဟ်ပါဠိဂါထာကို ငယ်စဉ်က အလွတ် ကျက်ခဲ့ကြရ၏၊ ပြီးလျှင် သစ္စာလေးပါးကို မမေ့ကောင်း ဘူး–ဟု သဘောထားကာ ဘုရားရှိခိုးစာထဲ ထည့်ခဲ့ သည်။

ည–ဘုရားဝတ်တက်တိုင်း ထည့်ဆိုနေခဲ့သည်မှာ ကြာပြီ၊ ဘုရားရှိခိုးစာ လုပ်နေခဲ့၏၊ သို့ဖြစ်၍ ပြုံ မိသည်။

ထို့ကြောင့်လည်း "သစ္စာလေးပါး"ဆိုတာ ရွတ် ဆိုရသော စာထဲမှာပဲ ရှိတယ်–လို့ အောက်မေ့ခဲ့တာ၊ ယခုလို ဆရာတော်ကြီးက လက်တွေ့ရှင်းပြတော့မှပဲ "ခန္ဓာထဲမှာ ရှိတဲ့တရားကိုး"–လို့ သဘောပေါက်ကြရ တော့၏၊ "ဩော်... သစ္စာလေးပါးဆိုတာ ဒီလိုကိုး"

## တစ်ဘဝသာသနာ

# အရုဏ်လာလျှင် နေထွက်တော့မယ်

မနက်စောစော အရှေ့လောကဓာတ်ကို ကြည့်၊ အာရုံအလင်းရောင်နီနီကလေး တက်လာပြီဆိုရင် မကြာခင် နေထွက်တော့မှာဘဲ၊ (မှန်ပါ) ဒါဟာ ထုံးစံပဲ၊ နေမင်းကြီးက သူထွက်လာတော့မယ်ဆိုရင် အရုဏ်အလင်းရောင်ကို ရှေ့ပြေးအနေနဲ့ ကြိုတင်လွှတ်လိုက်သေးတာ မှန်ပါဘုရား) ဒါဆိုရင် မကြာခင် နေမင်းကြီး ထွက်လာမှာ ကျိန်းသေဘဲ (မှန်ပါဘုရား)

ထို့အတူပဲတဲ့၊ လောကုတ္တရာမဂ်အစစ်ကြီး လာတော့မယ်ဆိုရင်လဲ ရှေ့ဘက်က ရှေ့ပြေးအနေနဲ့ လောကီ ဝိပဿနာမဂ်ကို လွှတ်လိုက်သေးတာ။ (မှန်ပါ)

ဖြစ်ပျက်ကို မြင်တဲ့ မဂ်ဟာ လောကီ ဝိပဿနာမဂ်ပေါ့ (မှန်ပါ) အဲ... ဒီမဂ်ရရင် မကြာခင် မဂ်စစ်ကြီးလာတော့မယ် (မှန်ပါ) ဖြစ်ပျက်တွေကိုသာ ဖြိုင်ဖြိုင်မြင်ပေစေ၊ မကြာခင် လောကုတ္တရာမဂ်အစစ်ကြီးလာမှာ အမှန်ဘဲ (မှန်ပါဘုရား)

* ဥဂ္ဂစ္ဆတိ ယထာ ဒိစ္စော၊
ပုရေကတွာ ရုဏံ တထာ။
ဝိပဿနံ ပုရေကတွာ၊
မဂ္ဂဓမ္မော ပဝတ္တတိ။ ။

အာဒိစ္စော–နေမင်းကြီးသည်၊ အရုဏံ–အရုဏ်အလင်းရောင်ကလေးကို၊ ပုရေကတွာ–ရှေ့၌ ထား၍ (ဝါ) ရှေ့သွားပြု၍၊ ဥဂ္ဂစ္ဆတိယထာ–တက်လာမြဲဖြစ်သကဲ့သို့။

တထာ–ထို့အတူ၊ မဂ္ဂဓမ္မော–လောကုတ္တရာ မဂ်တရားသည်လည်း၊ ဝိပဿနံ–လောကီဝိပဿနာမဂ်ကို (ဝါ) အဖြစ်အပျက်ကို မြင်သော လောကီဝိပဿနာမဂ်ကို၊ ပုရေကတွာ–ရှေ့သွားပြု၍၊ ပဝတ္တတိ–ဖြစ်ပေါ်လာ၏။ (မှန်ပါဘုရား)

ဒါ့ကြောင့် ဖြစ်ပျက်တွေ မြင်လာပြီဆိုရင် ဝမ်းသာပါတော့ (မှန်ပါ) ဖြိုင်ဖြိုင်မြင်လေ နီးစပ်လေပဲ (မှန်ပါဘုရား)

# တရားရေအေး နေ့တိုင်း ပေး၍

သက္ကရာဇ် ၁၃၀၇–ခု နွေပိုင်းကာလတွင် ဖြစ်၏၊ "နွေကာလ" ဆိုသော်လည်း မိုးကုတ်မြို့၏ ရာသီဥတုမှာ သာယာပါ၏၊ နေလို့ကောင်းရုံမျှသာ ရှိပါသည်၊ ညပိုင်းဆိုလျှင် ချမ်းချင်သေး၏၊ အနွေးထည် လက်မလွှတ်ရသေးပေ။

ဘော်ပတန်းရွာ ကျောက်လိုဏ်ဂူကြီးမှ ထွက်လာခဲ့ပြီးနောက် ဆရာတော်သည် မိုးကုတ်မြို့ပေါ်တွင် နေ့စဉ်နေ့တိုင်း တရားပွဲတွေ ကျင်းပလာခဲ့၏၊ တရားဟောရာ ဌာနမှာ ကျောင်းဒကာကြီး ဦးလယ်+ဇနီး ဒေါ်သိုင်းခြုံတို့၏ နေအိမ်မှာဖြစ်သည်၊ အားလုံး အလုပ်တွေ သိမ်းချိန်ညပိုင်းမှာမှ ဟောရန် သတ်မှတ်ထား၏။

သီတင်းကျွတ်၊ တန်ဆောင်မုန်း၊ နတ်တော်၊ ပြာသို၊ တပို့တွဲ၊ တပေါင်းလတိုင်အောင် လေး ငါးခြောက်လလောက် ဟောလာသောအခါ ပရိသတ်တို့မှာ အတော်သဘောပေါက်နေကြလေ၏၊ တရားတွေလည်း ရင့်နေကြလေပြီ။

တရားတွေက သစ္စာတရားတွေဆိုတော့ သဘောပေါက်လာမှ အရသာက ရှိတာကိုး၊ သဘောပေါက်လေ အရသာရှိလေပဲ၊ ဤနည်းအားဖြင့် ပရိသတ်တို့ကား

---

* နာမရူပပရိစ္ဆေဒကျမ်း၊ ဂါထာ–၁၇၇၉။

အလျှော့မရှိ၊ အတိုးသာ ရှိနေသည်။

သင်္ကြန်တွင်းသို့ ရောက်လာသောအခါ ပရိသတ်တို့မှာ လွန်လွန်ကဲကဲ ဝက်ဝက်ကွဲမျှ ဖြစ်လာကြတော့သည်။

ဆရာတော်၏ ဟောဟန်မှာလည်း တစ်မျိုး ဆန်းနေ၏၊ အသံနေအသံထား မပါ၊ ပါဠိဂါထာ လည်း နည်းနိုင်သမျှ နည်းအောင် ချုပ်တည်းထားသ မြန်မာစကား သက်သက်ဖြင့်သာ ဟောတော်မူ သို့ဖြစ်၍ ပရိသတ်တို့က "နားလည်တယ်"ဟု ဂုဏ် ပြောဆိုနေကြသည်။

## လွတ်လပ်ရေး ချက်ချင်းပေး

သက္ကရာဇ် ၁၃၀၈–ခုနှစ် သီတင်းကျွတ်သောအခါ ဆရာတော်မှာ သက်တော်က–၄၇၊ သိက္ခာတော်က ၂၈၊ အားပြည့်အင်ပြည့်ဖြစ်၏၊ ကျောက်လိုဏ်ဂူကြီးမှ ထွက်ပြီးနောက် တစ်နှစ်မြောက်ပင် ရှိလာချေပြီ၊ တရားဟော အရှိန်လည်း တက်နေဆဲ။

ယခုအခါ အပြင်လောကတွင် "လွတ်လပ်ရေး" အကြောင်းကို အများဆုံး ပြောနေသောအချိန်ဖြစ်သည်၊ မြန်မာပြည်ကား လွတ်လပ်ရေး မရသေး။

ဤကိစ္စအတွက် မြန်မာ့ခေါင်းဆောင်တို့က အားသွန်ခွန်စိုက် နေ့ညမအား ကြိုးပမ်း နေကြသည်၊ ရဟန်း ရှင်လူ ပြည်သူလူထုက စိတ်ဝင်စားနေကြပါ၏၊ စိတ် မဝင်စားဘဲ မနေနိုင်၊ တိုင်းတစ်ပါးသားတို့က မိမိတို့ နိုင်ငံအပေါ် အုပ်ချုပ်၍ ကုပ်သွေးစုပ်လာခဲ့ကြသည်မှာ ကြာပြီ မဟုတ်လော။

လူမျိုးရေး၊ ဘာသာရေး၊ စီးပွားရေး၊ ပညာရေ ယဉ်ကျေးမှုတို့မှစ၍ အားလုံး ယိုယွင်းပျက်ပြားလာ ကြရသည်၊ အဆီတွေ ခန်းခြောက်သလို ဖြစ်ကုန်ကြ တော့၏။

ယခုအခါ ကိုယ့်နိုင်ငံ၊ ကိုယ့်လူမျိုး၊ ကိုယ့် ပွားရေးတို့အတွက် ကိုယ့်ဘာသာ ထူထောင်လိုကြ ထို့ကြောင့် ကိုယ့်နိုင်ငံ ကိုယ်ပြန်ရရေးအတွက် ဆိုင် တို့ထံမှာ အကြိမ်ကြိမ် တောင်းဆိုခဲ့ကြပြီ။

"လွတ်လပ်ရေး ချက်ချင်းပေး"ဟူသော အ တို့မှာ ဘဝင်လှုံခဲ့ကြပြီ၊ မရခဲ့၊ ထို့ကြောင့် ဒုတိယကမ္ဘာ စစ်ကြီးနှင့်ရော၍ ကြိုးပမ်းအားထုတ်ခဲ့ကြရာ ယခုအ လွတ်လပ်ရေးရဖို့ ရောင်ခြည်သန်းလာလေပြီ––။

## မြန်မာပြည် လွတ်လပ်ရေး ရတော့မည်

မြန်မာပြည်သည် သူ့ကျွန်ခံလက်အောက်ဘဝ၌ နှစ်ပေါင်းများစွာ နေခဲ့ကြရ၏၊ ထို့ကြောင့် ညှိုးငယ်ခဲ့ကြရသည်၊ အဘက်ဘက်မှ တိုးတက်မှုများ တုံ့ဆိုင်းခဲ့ကြရ၏၊ လူမျိုး ဘာသာ သာသနာ အရာရာ နိမ့်ဆင်းခဲ့ကြရတော့သည်။

ထို့ကြောင့် တစ်ချိန်က ကိုယ့်ထီး ကိုယ့်နန်း ကိုယ့်ကြငှန်းဖြင့် လွတ်လွတ်လပ်လပ် နေလာခဲ့နိုင်သော အခွင့်အရေးတို့ကို ပြန်လည်ပေးဖို့ရန် တောင်းဆိုခဲ့ကြ မရ၊ အနုနည်းဖြင့် အမျိုးမျိုး ကြိုးစားကြည့်ကြသ မရ။

သို့ဖြစ်၍ ယခုအခါတွင်ကား ဒုတိယ ကမ္ဘာ ကြီးနှင့်ရောကာ အကြမ်းနည်းပါ နှော၍ လာကြ သည်၊ အသက်အိုးအိမ်စည်းစိမ်တို့ဖြင့် လဲကြရတော့

နာကျင် ခါးသီးသော အနိဋ္ဌာရုံတို့ဖြင့် ဖလှယ်ကြရတော့သည်၊ ထို့ကြောင့် လွတ်လပ်ရေးကို မပေးဘဲ နေ၍မရသော အခြေသို့ ဆိုက်ခဲ့ကြရတော့၏။

"သက္ကရာဇ် ၁၃၀၉–ခု ပြာသိုလပြည့်ကျော် ၉–ရက် (ခရစ်နှစ် ၁၉၄၈–ခု ဇန်နဝါရီလ ၄–ရက်) တနင်္ဂနွေနေ့ နံနက် ၄–နာရီ မိနစ်–၂၀ ဆိုလျှင် မြန်မာနိုင်ငံ လုံး၀ လွတ်လပ်ရေး ရတော့မည်"

ဤသို့ဆိုင်ရာတို့က ကြေညာလိုက်သောအခါ တစ်နိုင်ငံလုံး အုန်းအုန်းကျွက်ကျွက်ဖြစ်၍ သွားတော့၏၊ လန်းဆန်းသွားကြတော့၏၊ အနိုင်းအဆကို ကျော်လွန်၍ အတိုင်းမသိ ပျော်ရွှင်သွားကြတော့သည်၊ ဤသို့ ပျော်ရွှင်ကြသည့် အထဲတွင် မိုးကုတ်မြို့သူ– မြို့သားတို့လည်း အပါအဝင် ဖြစ်ကြလေသည်။

# အို–နာ–သေဘေး လွတ်လပ်ရေး

ဤအခြေအနေကို ကြည့်၍ ဆရာတော်က ဝဦးစားနေမိပါသတတ်၊ မြန်မာပြည်တစ်ခုလုံးအပေါ်သို့ ဝိတ်အာရုံရောက်သွားကာ မစဉ်းစားဘဲ မနေနိုင်အောင် ဖြစ်လာရပါသတတ်။

"အင်း... တိုင်းတစ်ပါးသားတို့၏ လက်အောက်မှ ကိုယ့်နိုင်ငံ လွတ်မြောက်လာရသည် ဆိုခြင်းမှာ လောကီအနေအားဖြင့် ဝမ်းသာစရာ ကောင်းလှ၏၊ တန်ဖိုးထားရမည်လည်း ဖြစ်သည်၊ လွယ်လွယ်ကူကူဖြင့် လွတ်မြောက်လာရသည် မဟုတ်ချေ။

မြန်မာပြည်တစ်ခုလုံးကို ဗြိတိသျှလူမျိုးတို့က လွှမ်းမိုးအုပ်ချုပ်လာခဲ့သည်မှာ ကြာပြီ၊ အထက်မြန်မာပြည်ကို နှစ်ပေါင်း ၆၂–နှစ်မျှ၊ အောက်မြန်မာပြည်ကိုကား နှစ်ပေါင်း(၁၀၀)ကျော်မျှ လွှမ်းမိုးလာခဲ့ကြ၏၊ အုပ်ချုပ်လာခဲ့ကြ၏၊ တင်းကျပ်လာခဲ့ကြ၏၊ လွတ်လပ်ခွင့် မပေးခဲ့ကြ။

ကိုယ့်တိုင်းပြည်ကို သူတစ်ပါးတို့က လာ၍ အုပ်ချုပ်နေကြသည်၊ အုပ်ချုပ်ခြင်းကို ခံနေကြရသည်၊ လွတ်လပ်သောဘဝကို ပိတ်ဆို့ထားကြ၏၊ တားမြစ်ထားကြ၏၊ ချုပ်ချယ်ထားကြ၏၊ ပြီးလျှင် ကိုယ့်တိုင်းပြည်က ထွက်သော သယံဇာတပစ္စည်းတို့ကို သူတို့က ယူကြသည်၊ ကိုယ့်တိုင်းပြည်လူမျိုးကိုကား လည်ပင်းကို နင်းထား၏၊ မွန်းကျပ်နေကြရတော့သည်။

မွန်းနစ်တင်းကျပ်နေသော ဘဝကို မည်သူလိုချင်အံ့နည်း၊ ကိုယ်စီကိုယ်ငလွတ်လပ်မှုကို ရချင်ကြသည်သာ၊ ထို့ကြောင့် မရ အရ ကြိုးစားခဲ့ကြရာ ယခုအခါတွင်ကား ထိုကဲ့သို့ မွန်းနစ်တင်းကျပ်သောဘဝမှ လွတ်မြောက်ကြရပေတော့မည်၊ သို့ဖြစ်၍ အတိုင်းမသိ ပျော်ရွှင်သွားကြရခြင်းဖြစ်လေသည်။

ဤသို့ လွတ်မြောက်ရသည်ကား ကောင်းလှပါ၏၊ သို့ရာတွင် ထို့ထက်လွတ်မြောက်ဖို့ ကောင်းသည်လည်း ရှိသေး၏၊ ယင်းတို့ကား အို–နာ–သေဘေး၊ ပူဆွေးသောက၊ ပရိဒေဝတို့ဖြစ်ကြသည်။

ထိုဘေးတို့မှ လွတ်မြောက်အောင် ကြိုးစားကြဖို့ကိုလည်း တိုက်တွန်းရပေဦးမည်"ဟူ၍ ဖြစ်ပါသတတ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ရန်ကုန်မြို့ ဗိုလ်တထောင်စေတီ စိန်ဖူးတော်

သီဟိုဠ်ကျွန်း မဟာစေတီတော်ကြီး၏ စိန်ဖူးတော်အတွက် မြန်မာပြည် မိုးကုတ်မြို့က ဆောင်ရွက်ပေးလိုက်သည့် သတင်းကို အများပင် ကြားသိလိုက်ကြ၏၊ အထူးအားဖြင့် ရန်ကုန်မြို့ ဗိုလ်တထောင်စေတီ ဂေါပကအဖွဲ့က ပို၍ စိတ်ဝင်စားကြသည်၊ အဘယ့်ကြောင့်ဆိုသော် ဗိုလ်တထောင် စေတီတော်အတွက်လည်း စိန်ဖူးတော် လိုအပ် နေသောကြောင့် ဖြစ်သည်။

ထို့ကြောင့် သက္ကရာဇ် ၁၃၀၉-ခု (ခရစ်နှစ် ၁၉၄၇-ခု)နှစ်က ဖြစ်သည်၊ ရန်ကုန်မြို့ ဗိုလ်တထောင်စေတီတော် ဂေါပကအဖွဲ့၏ မေတ္တာရပ်ခံချက်အရ ယင်းစေတီတော်ကြီးအတွက်လည်း စိန်ဖူးတော် ရနိုင်ရန် ဆရာတော် ဦးဝိမလ ဦးဆောင်ရပြန်လေသည်၊ ထိုအချိန်က ဆရာတော်၏ သက်တော်မှာ ၄၈-နှစ်၊ သိက္ခာတော် ၂၉-ဝါ ရှိလေပြီ။

ယခင်အကြိမ်ကဲ့သို့ မိုးကုတ်မြို့မှ ဒကာများကို ပြောပြရာ စုပေါင်း ဝိုင်းဝန်း လှူဒါန်းကြပြန်လေသည် ထိုစိန်ဖူးတော်ကြီးအတွက် မိုးကုတ်မြို့မှ မျက်နှာပံ့ဖြစ်သော ဒေါ်ဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံနှင့် သား-ကိုမြင့်တို့ မိသားစုက အများဆုံးပါဝင်၍ လှူဒါန်းကြလေသည်။

## ရခဲသော ကျောက်သလင်း စိန်ကြီး

နှစ်ပေါင်းများစွာ ကြာမှ တစ်ခါတစ်ရံသာ ရတတ်သော ကျောက်သလင်းစိန်ကြီးဖြစ်၏၊ ဘုရားရှင်၏ တန်ခိုးတော်ဟုပင် ဆိုရချေမည်၊ ယခုအခါ လှူဖို့ရာ ပေါ်ပေါက်လာသည်၊ ယင်းစိန်ကြီးကို စိန်ဖူးတော်အဖြစ် ပြုလုပ်ကြ၏။

အချင်းထိပ်ဝ ၅လက်မ၊

လုံးပတ်တော် ၁၅လက်မ၊

အမြင့်ဉာဏ်တော် ၁၈လက်မ၊

အလေးချိန် ၂-ပိဿာရှိ၏။

ဤစိန်ဖူးတော်ကြီးကို ပင့်ဆောင်ရာတွင်လည်း အခမ်းအနားဖြင့် စည်ကားစွာ ပင့်ဆောင်ခဲ့ကြသည်၊

၁။ မိုးကုတ်မြို့မှ သပိတ်ကျဉ်းသင်္ဘောဆိပ်သို့ ကားများဖြင့်။

၂။ သပိတ်ကျဉ်းမှ မန္တလေး ဂေါဝိန်ဆိပ်ကမ်းသို့ သင်္ဘောဖြင့်။

၃။ မန္တလေးမှ အမရပူရ-မင်္ဂလာကျောင်းတိုက်သို့ ကားများဖြင့် ခမ်းနားသိုက်မြိုက်စွာ အဆင့်ဆင့် ပင့်ဆောင်လာကြ၏။

၄။ တစ်ဖန် အမရပူရမှ မန္တလေးသို့ ကားများဖြင့် ပင့်ဆောင်ကြပြီးလျှင်-

၅။ မန္တလေးမှ ရန်ကုန်သို့ လေယာဉ်စင်းလုံးငှား၍ ကောင်းကင်ခရီးဖြင့် ပင့်ဆောင်လာကြ၏။

၆။ ထိုသို့ ပင့်ဆောင်လာကြပြီးနောက် ရန်ကုန်မြို့ မင်္ဂလာဒုံလေဆိပ်တွင် အသင့် စောင့်ကြိုနေကြသော ဗိုလ်တထောင်စေတီတော် ဂေါပကအဖွဲ့လက်သို့ အပ်နှံလှူဒါန်းလိုက်ကြလေသည်။

## တစ်ဘဝသာသနာ

# မြစ်ရေအယဉ် တသွင်သွင်သို့

"စိတ်"ဆိုတဲ့ နာမ်တရားတွေဟာ ဘဝတစ်ခုလုံး ...မှာ စဉ်တန်းဖြစ်နေကြသည်၊ အကြားအလပ်မရှိအောင် ...ဆက်စပ်ဖြစ်နေကြသည်၊ အဦးဆုံးစပြီးဖြစ်တဲ့ ပဋိသန္ဓေ ...်၊ ပြီးတော့ အလယ်ပိုင်းမှာ ဘဝတစ်ခုလုံးဖြစ်နေ ...တဲ့ ပဝတ္တိစိတ်တွေ၊ နောက်ဆုံးသေတဲ့အခါဖြစ်တဲ့ ...ိစိတ်–ရယ်လို့ စိတ်တွေဟာ မြစ်ရေ အယဉ်လို ...သွင်သွင် အစဉ်မပြတ် ဖြစ်နေကြသည်။

အဲ... "အစဉ်မပြတ်"ဆိုပေမယ့် တစ်ချိန်မှာ ...ခု ပူးတော့ မဖြစ်ဘူးပေါ့၊ ၁–ခုစီပဲ၊ တစ်ခုပြီးမှ ...်ခု ဖြစ်ရတာ၊ *ကေစိတ္တ သမာယုတ္တာ–တဲ့၊ တစ် ...မှာ တစ်စိတ်စီနဲ့ပဲ ယှဉ်တယ်၊ တစ်စိတ်ချုပ်သွားမှ ...က်တစ်စိတ်ကပ်လျက် ဖြစ်ပေါ်လာတာမျိုး။

အညံ ဥပ္ပဇ္ဇတေ စိတ္တံ၊
အညံ စိတ္တံ နိရုဇ္ဈတိ။
အဝီစိ မနုသမ္ဗန္ဓော၊
နဒီသောတောဝ ဝတ္တတိ။ ။

...ဒါ–အကြင်အခါ၌) အညံ–အခြားသော၊ စိတ္တံ– ...က ဖြစ်နှင့်သော စိတ်သည်၊ နိရုဇ္ဈတိ–ချုပ်ပျောက် ...၏၊ (တဒါ–ထိုအခါကျမှ)၊ အညံ–အခြားသော၊ ...–နောက်စိတ်အသစ်သည်၊ ဥပ္ပဇ္ဇတေ–ဖြစ်ပေါ်လာ ရ၏၊ အဝီစိ မနုသမ္ဗန္ဓော–အကြားမလပ် ဆက်စပ်ကပ် လျက်၊ နဒီသော တောဝ–မြစ်ရေအယဉ်ကဲ့သို့၊ ဝတ္တတိ– ဖြစ်ပျက်–ဖြစ်ပျက်နေ၏။

ဆိုလိုသည်မှာ တစ်ဘဝလုံး အကြား မလပ် စိတ်တွေ ဆက်စပ်ဖြစ်နေ၏၊ အိပ်ပျော်နေစဉ်မှာလည်း ဘဝင်စိတ် (မသိစိတ်)တွေ ဖြစ်နေကြသည်၊ နိုးနေစဉ်မှာ လည်း ဝီထိစိတ် (သိစိတ်)တွေ ဖြစ်နေကြ၏၊ တစ်ဘဝ လုံး တစ်စိတ်ပြီး–တစ်စိတ်၊ တစ်စိတ်ပြီး–တစ်စိတ်၊ အကြားမလပ် ဆက်စပ်ကပ်လျက် ဖြစ်နေကြ ပျက်နေ ကြသည်။

အကယ်၍ တစ်စိတ်ချုပ်ပျောက်သွားတဲ့နေရာမှာ နောက်တစ်စိတ်မဖြစ်ဘဲ ရပ်ဆိုင်းသွားပါလျှင်၊ နောက် စိတ် မဖြစ်ဘူးဆိုပါလျှင် (နိရောဓသမာပတ် ဝင်စားနေ ချိန်မှ တစ်ပါး) ထိုပုဂ္ဂိုလ် သေရမည် ဖြစ်၏။

ဤကား တစ်ဘဝလုံး စိတ်တွေ စဉ်တန်းဖြစ်နေ ပုံကို ပုံပေါ်စေလို၍ ပြောခြင်း ဖြစ်သည်။

**မှတ်ချက်။** ။နိရောဓသမာပတ် ဝင်စားနေခိုက်တွင်ကား အဓိဋ္ဌာန်ဖြင့် တမင်သက်သက် စိတ်တို့ကို ရပ်ဆိုင်းသွားအောင် ချုပ်စေထားခြင်းဖြစ်၏၊ အချိန်စေ့သောအခါ စိတ်တွေမှာ (ယခင် ကလို) ဆက်လက် ဖြစ်ပေါ်နေကြမည်။ ။

...ကစိတ္တ သမာယုတ္တာ၊ လဟုသော ဝတ္တတေ ခဏော။
...ဟာနိဒ္ဒေသပါဠိတော်၊၃၂)

# စိတ္တာနုပဿနာ ရှုပွားနည်း

ဤစိတ္တာနုပဿနာ (စိတ်ကို ရှုပုံရှုနည်း)နှင့် ...သက်ပြီး ဆရာတော်ကြီး ကိုယ်တော်တိုင် ဟော ...သော တရားတို့မှယူ၍ အကျဉ်းချုပ်ကောက်နုတ် ...ပြပါမည်။ [မိုး(၂)နှာ–၄၅၆မှ။]

"ကမ္မဋ္ဌာန်းတွေကတော့ အစုံရှိတာပဲ၊ ဒါပေမယ့် ခင်ဗျားတို့နဲ့ အလျော်ဆုံးက ကိုယ့်စိတ် ကိုယ် ရှုတာ အလျော်ဆုံး (မှန်ပါ) စိတ္တာနုပဿနာပေါ့" (မှန်ပါ)

စိတ်ဆိုတာ ဖြစ်ပြီး ပျက်သွားတဲ့စိတ်က တစ်မျိုး၊ (မှန်ပါ) အဲဒါကို သိတဲ့စိတ်က တစ်မျိုး၊ (မှန်ပါ) ဘယ်နှစ်မျိုးတုံး (နှစ်မျိုးပါဘုရား) ဒါဖြင့် ဖြစ်ပျက်ကို သိတယ်ဆိုပါတော့ (မှန်ပါ)

ဒါဖြင့် ဖြစ်ပျက်က အသေ၊ (မှန်ပါ) မဂ်က အရှင် (မှန်ပါ) သူက နောက်မှ ပေါ်ရတာကိုး (မှန်ပါ) ဒါဖြင့် အသေကို အရှင်နဲ့ သိပေးတယ် (မှန်ပါ) ဒါ–ဝိပဿနာပဲ၊ (မှန်ပါဘုရား)

အသေကို အရှင်နဲ့ သိတာ ဘာ ခေါ်မယ် (ဝိပဿနာပါဘုရား) ဟော... ဒီလိုဆိုတော့ ဒကာ–ဒကာမတို့... ဝိပဿနာဆိုတာ အလွယ်ကလေးပါလား (မှန်ပါဘုရား)

အသေကို အရှင်နဲ့သိရင် ဒါ ဝိပဿနာ ဖြစ်နေပြီ၊ စာလို သုံးနှုန်းနေလို့ အပာန့်ကြီးပြီးတော့ ခင်ဗျားတို့က နားယောင်နေတာ (မှန်ပါ) တကယ်တော့ ကိုယ့်အသေကို ကိုယ့်အရှင်စိတ်နဲ့ သိရင် ပြီးတာပဲ (မှန်ပါဘုရား) ကြည့်ပါ ဒီအထဲမှာ စိတ်ကလေးတစ်ခု ပေါ်လာတယ်၊ စိတ်အသက်က ၁နှင့်၂ပဲ ရှိတယ်၊ ၁–ဆိုယင် ဖြစ်တယ်၊ ၂–ဆိုရင် ပျက်တယ် (မှန်ပါ)

အဲဒါလေးကို နောက်သိလုံးကလေးနဲ့ နောက်စိတ်နဲ့ သိပေးလိုက်တာပေါ့ (မှန်ပါ) နောက်စိတ်နဲ့ အသက်ရှင်နေတယ် (မှန်ပါ) ဒီရှေ့စိတ်က သေသွားပြီကိုး (မှန်ပါ) လူတစ်ယောက် သေသွားပြီ၊ မောင်ဘအေးဖြင့် မောင်ဘအေးတစ်ယာက် သေသွားပြီ၊ ကိုသန်းမောင်ဖြင့် ကိုသန်းမောင်တစ်ယောက် သေသွားပြီ (မှန်ပါ)

## ကမ္မဋ္ဌာန်းကျောင်းက ဒီမှာပဲ

အသေဟာ ဘာသစ္စာခေါ်ကြမလဲ (ဒုက္ခသစ္စာပါ) အသိက (မဂ္ဂသစ္စာပါ) ကိုယ့်ဉာဏ်နဲ့ ကိုယ့်အသေ ကိုယ်သိတာ ဝိပဿနာခေါ်တယ် (မှန်ပါ) ပေါ်ကြပလား (ပေါ်ပါပြီ ဘုရား)

ကိုင်း... ဝိပဿနာဆိုတာ အသေကို အရှင်နဲ့ ကြည့်တာလို့ မှတ် (မှန်ပါ) ဝိပဿနာဆိုတာ (အသေကို အရှင်နဲ့ကြည့်တာပါဘုရား) ခင်ဗျားတို့က တောကျောင်း တောင်ကျောင်း သွားပြီး ရှုမှ ဝိပဿနာထင်ကြတာကိုး၊ မဟုတ်ပါဘူး–တဲ့၊ (မှန်ပါဘုရား)

ကိုယ့်အသေက ဘယ်မှာ ရှိတာတုံး (ကိုယ့်ခန္ဓာထဲမှာပါဘုရား) ကိုယ့်အသိကရော (ကိုယ့်ခန္ဓာထဲမှာပဲ ဘုရား) ဒါ ကမ္မဋ္ဌာန်းကျောင်းပေါ့ဗျ (မှန်ပါ) ဒီခန္ဓာဟာ ကမ္မဋ္ဌာန်းကျောင်းပဲပေါ့ (မှန်ပါဘုရား)

တောမထွက်ချင်အောင်လို့ ဘုန်းကြီးက ဟောနေ ဘာလို့ မထင်လိုက်ကြပါနဲ့၊ ခင်ဗျားတို့ လူစုတွေက ထွက်မှာလဲ မဟုတ်ပါဘူး (မှန်ပါဘုရား)

ကဲ... လိုရင်းကတော့ ကိုယ့်အသေ ကိုယ်သိနေရင် ပြီးတာပါပဲ၊ တောထဲသွားနေပေမယ်လို့ မြို့စိတ်ပေါက်နေမယ် ရွာစိတ်ရောက်နေမယ်ဆိုရင် အလကားပါပဲ၊ ကိုယ့်အသေ ကိုယ် မရှုဘူး–မမြင်ဘူးဆိုရင် အလကားပါပဲ (မှန်ပါဘုရား)

တောကျောင်း တောင်ကျောင်း ဆိုတာတွေက သမထအတွက် ဟောတာ၊ (မှန်ပါ) သမထက တိတ်ဆိတ်ဖို့ လိုအပ်တယ် (မှန်ပါ) ဒါက သုတ္တန်နည်း။

ဝိပဿနာအတွက်ကတော့ လှေ၊ ဘားခုံက ခြေတစ်လှမ်း ဆင်းရင် တောကျောင်း တောင်ကျောင်းပဲ–တဲ့၊ ဒါက အဘိဓမ္မာနည်း၊ (မှန်ပါဘုရား)

ဝိပဿနာအတွက်ကတော့ မြင်စိတ် ကြားစိတ် နံစိတ် စားစိတ် စတဲ့ စိတ်တွေကို ရှုတာ ဆိုတော့ နေရာ မရွေးဘူး၊ (မှန်ပါ) ဘယ်နေရာ ရှုရှု–ရတာပေါ့ (မှန်ပါဘုရား)

## တစ်ဘဝသာသနာ

# စိတ်ရှုရမှာ မဟုတ်၊ အပျက် ရှုရမှာ

* ဒကာ–ဒကာမတို့ "ကိုယ့်စိတ်ကိုယ်ရှုပါ"ဆိုတာ "ကိုယ့်စိတ်–ကိုယ်သိပါ"လို့ ပြောတာ (မှန်ပါ) "ကိုယ့်စိတ်"ဆိုတာရယ် "ကိုယ်သိ"ဆိုတာရယ် ၂– (မှန်ပါ) စိတ်–စိတ်ချင်း ရှုရမယ့်ကိစ္စ၊ အရေးကြီးတယ် (မှန်ပါဘုရား)

"စိတ်–စိတ်ချင်းရှု"ဆိုပေမယ့် တကယ်တော့ ရှုတဲ့စိတ်ပေါ်တဲ့အချိန်မှာ အရှုခံစိတ်က မရှိတော့ပါဘူး (မှန်ပါ) ဘာပြုလို့လဲဆိုတော့ တစ်ချိန်တည်းမှာ ၂–စိတ် ပြိုင်၍ အသက်ရှင်ရိုးထုံးစံ မရှိလို့ပါပဲ (မှန်ပါ) "ဧကစိတ္တ သမာယုတ္တာ" ဆိုတဲ့ အတိုင်း တစ်ချိန်မှာ တစ်စိတ်စီနဲ့သာ အသက် ရှင်ရတာ မဟုတ်လား (မှန်ပါဘုရား)

အဲဒီတော့ "ကိုယ့်စိတ် ကိုယ်သိပါ"ဆိုပေမယ့် တကယ်တော့ စိတ်ကို သိရမှာ မဟုတ်ဘူး၊ အပျက်ကို သိရမှာ (မှန်ပါဘုရား) စိတ်ကို သိရမှာလား၊ စိတ်ရဲ့ အပျက်ကို သိရမှာလား (စိတ်ရဲ့အပျက်ကို သိရမှာပါဘုရား) အေး… ဟုတ်တယ်။

ဒါဖြင့် အရှုခံစိတ်ကလေးက အပျက်၊ ဒီဘက် ရှုဉာဏ်စိတ်ကလေးက မဂ်၊ အဲလို သွားကိုက်တယ် (မှန်ပါဘုရား) ဒါကလေးတွေက တော်တော် အရေးကြီးတဲ့ အချက်ကလေးတွေနော် (မှန်ပါဘုရား)

ခင်ဗျားတို့ကတော့ ထင်မယ်၊ ဘုရားက "စိတ္တာနုပဿနာ"လို့ ဟောတော့ စိတ်ကို အရှုခိုင်းတယ်လို့ ထင်ကြမှာ၊ (မှန်ပါ) ဘယ်ဟုတ်လိမ့်မှာလဲ၊ စိတ်ကို အရှုခိုင်းတာ မဟုတ်ဘူး၊ "စိတ်၏ ပျက်မှုကို ရှုပါ"–လို့ ပြောတာ၊ (မှန်ပါဘုရား)

အေး… "သမုဒယဓမ္မာနုပဿီဝါ၊ ဝယဓမ္မာနုပဿီဝါ"ဆိုတာတွေ လာလိမ့်မယ်၊ အဲဒါတွေ နောက်တော့ ပြောမယ်။

# ဝိပဿနာရှုပုံ အစစ်အမှန်က

ထပ်မံပြောဦးမယ်၊ စိတ်ကို အရှုခိုင်းတာ မဟုတ်၊ စိတ်၏ မရှိမှုကို အရှုခိုင်းတာ (မှန်ပါဘုရား) ရှုတဲ့အချိန်မှာ မရှိတာဘဲ တွေ့ရမယ် (မှန်ပါ) ရှိပြီးမှ မရှိဘဲ ဖြစ်သွားတဲ့ သဘောကို တွေ့ရမှာ (မှန်ပါ) ဆရာတောက ဒီနား ရှိတယ်၊ အခု မရှိတော့ဘူး၊ အဲဒီသဘောကို တွေ့ရမှာ (မှန်ပါဘုရား)

ရှိတာ ရှုနေလို့ရှိရင် ခိုင်တာမြဲတာ ရှုနေသောကြောင့် သဿတဒိဋ္ဌိဖြစ်တယ်၊ (မှန်ပါ) မရှိတာ ရှုမှသာလျှင် သဿတဒိဋ္ဌိက လွတ်တယ် (မှန်ပါဘုရား)

ဒါဖြင့် ဒကာ–ဒကာမတို့ "အသေကို အရှင်နဲ့ ရှုပါ"ဆိုတာ အမှန်ဆုံးပဲ (မှန်ပါ) ဘာပြုလို့လဲဆိုတော့ တစ်ခု သေပြီးမှ တစ်ခု ဖြစ်ရမှာကိုး (မှန်ပါ)

ခင်ဗျားတို့က "စိတ်ကို အရှုခိုင်းတယ်"ဆိုပြီး "ကျုပ်ကတော့ စိတ်တွေလာတိုင်း ရှုနေတာပဲ"ဆိုရင် ဒါ–ဝိပဿနာ မဟုတ်ဘူး၊ ဝိပဿနာအဝါးမဝသေးဘူး၊ ဆရာကရင် လိုနေမယ်၊ ကိုယ်ကရင်လဲ လိုနေမယ်၊ (မှန်ပါဘုရား)

စိတ်က တစ်ချိန်တည်းမှာ ၂–ခု ပြိုင်၍ ပေါ်ကောင်းရဲ့လား (မပေါ်ကောင်းပါ) ဒါ့ကြောင့် ရှေ့စိတ်ကို နောက်စိတ်နဲ့ မြင်လို့ မရနိုင်ဘူး၊ (မှန်ပါ) ရှေ့စိတ် အပျက်ကိုသာ နောက်စိတ်နဲ့ မြင်လို့ ရနိုင်မယ် (မှန်ပါ ဘုရား)

• [မိုး(၂) မျက်နှာ–၄၆၄။]

ရှေ့က ပထမစိတ်ပျက်ပြီးမှ နောက်က ဒုတိယ စိတ် ပေါ်နိုင်မယ် (မှန်ပါ) ပထမစိတ်က အသေ၊ ဒုတိယစိတ်က ရှင်ဆဲပါ (မှန်ပါ) အသေကို ရှင်တဲ့စိတ်နဲ့ ရှု၊ ရှင်တဲ့စိတ်ထဲမှာ ဉာဏ်ပါတယ် (မှန်ပါ) အသေကို ဘာနဲ့ရှုမယ် (အရှင်နဲ့ ရှုပါမယ်) အဲဒါမှ ဝိပဿနာ အစစ်ပါ (မှန်ပါဘုရား)

အပျက်မပါဘဲနဲ့ စိတ်သက်သက်ကိုသာ ရှုနေရင် ဝိပဿနာအစစ် မဟုတ်သေးဘူး၊ ဖြစ်လဲ မဖြစ်နိုင်ဘူး (မှန်ပါ) ဘာလို့လဲဆိုတော့ နောက်က ရှုတဲ့စိတ်ပေါ်တဲ့ အချိန်မှာ ရှေ့ကစိတ်က ရှိမှ မရှိနိုင်ဘဲ (မှန်ပါဘုရား) ပျက်သွားရပြီ၊ ပျက်သွားပြီးမှသာ နောက်က စိတ် ပေါ်နိုင်ခွင့်ရတာကိုး (မှန်ပါဘုရား)

## သမုဒယ–ဝယဓမ္မာနုပဿီဝါ

"စိတ္တာနုပဿနာ=စိတ်ရှုတယ်"ဆိုတာ အပြော ကတော့ ပြောချင်ပြောပေါ့၊ ဒါပေမယ့် အမှန်စင်စစ် ကတော့ "ကိုယ့်အသေကို အရှင်နဲ့ ရှုတာပါ" ဒါမှ အမှန်ဗျ (မှန်ပါဘုရား)

ဝိပဿနာဆိုတာ ဘာပါလိမ့် (အသေကို အရှင်နဲ့ ကြည့်တာပါ) အသေ မတွေ့သေးလို့ ရှိရင်လဲ အနိစ္စ မတွေ့သေးဘူး၊ (မှန်ပါ) ဒါ့ကြောင့် ဝိပဿနာဆိုတာ (အသေကို အရှင်နဲ့ ကြည့်တာပါဘုရား) အေး... ဟုတ်တယ်။

စိတ္တာနုပဿနာလား၊ အသေကို အရှင်နဲ့ ကြည့် တာလား (အသေကို အရှင်နဲ့ ကြည့်တာပါ ဘုရား) ဝေဒနာနုပဿနာလား၊ အသေကို အရှင်နဲ့ ကြည့်တာ လား၊ (အသေကို အရှင်နဲ့ ကြည့်တာပါဘုရား) ဒါမှ လမ်းမှန်ကျတယ် (မှန်ပါဘုရား)

ဒါဖြင့် စိတ်ရှုရှု၊ ဝေဒနာရှုရှု၊ ရုပ်ရှုရှု၊ အပျက် ကို မြင်စေရမယ်လို့ ပြောတာ (မှန်ပါဘုရား) ဒါဟာ ဘုရားဟော အထောက်အထားရှိလို့ ပြောတာ (မှန်ပါ)

* "သမုဒယဓမ္မာနုပဿီဝါ ဝယဓမ္မာနုပဿီဝါ. စိတ္တသ္မိံ ဝိဟရတိ"–တဲ့၊ မဟာသတိပဋ္ဌာန် ပါဠိတော် ကြီးမှာ ပါတယ်၊ မြတ်စွာဘုရား ဟောထားတာ (မှန် ပါ)

သမုဒယ–ဆိုတာ ဖြစ်တာ၊ မွေးလာတာ၊ (မှန် ပါ) ဝယ–ဆိုတာ ပျက်တာ၊ သေတာပေါ့ (မှန်ပါ) အဲဒီမွေးလာပြီး သေသွားလိုက်၊ မွေးလာပြီး သေသွား လိုက်တွေကို ရှုရမှာ၊ ဉာဏ်နဲ့ရှုရမှာ (မှန်ပါဘုရား)

ပြောနေကျ စကားလုံးနဲ့ ပြောရရင်တော့ ဖြစ် လာပြီး ပျက်သွားလိုက်၊ ဖြစ်လာပြီး ပျက်သွားလိုက်၊ အတိုကောက် "ဖြစ်–ပျက်"ပေါ့၊ အဲဒါတွေကို ဉာဏ်နဲ့ ရှုရမှာ (မှန်ပါဘုရား)

မဟာသတိပဋ္ဌာန်ပါဠိတော်ကြီးထဲမှာ ဘုရားရှင် ကိုယ်တော်မြတ်ကြီးက အတိအလင်း ဟောထားတာပဲ (မှန်ပါ) "သမုဒယ–ဝယ"မွေးလာပြီး သေသွားတာကို မြင်အောင် ကြည့်ရမယ် ဆိုတာလေ (မှန်ပါ) အဲဒီထိ အောင် သွားရမှာ၊ အဲဒီကျတော့မှ ဝိပဿနာဖြစ်တာ (မှန်ပါ)

ခုတော့ မဟုတ်ဘူး၊ ခင်ဗျားတို့က စာကို ရှေ့ ပိုင်းတွင်ပဲ ဖတ်ပြီး ရှေ့ပိုင်းတွင်ပဲ ပြောနေကြတာ၊ ဒီ နောက်ပိုင်း (သမုဒယဓမ္မာနုပဿီဝါ–ဝယဓမ္မာနုပဿီ ဝါ) ထိအောင် လာရမှာ (မှန်ပါဘုရာ )

ကဲ... ဒါဖြင့် ပြန်မေးမယ်၊ ဝိပဿနာဆိုတာ ဘာပါလိမ့် (အသေကို အရှင်နဲ့ရှုတာပါဘုရား) ဟုတ် တယ်၊ အရှင်–အရှင်ချင်း ကြည့်လို့ ဖြစ်မလား (မဖြစ် ပါ ဘုရား) အေး... မြဲမြဲမှတ်ထားကြ၊ (မှန်ပါဘုရား) [မိုး(၂)နှာ–၄၆၇။]

* သုတ်မဟာဝါပါဠိ၊ မဟာသတိပဋ္ဌာန၊ ၂၃၇

## တစ်ဘဝသာသနာ

## အားသစ်အင်သစ် လူသစ်စိတ်သစ်

သက္ကရာဇ် ၁၃၀၉–ခုနှစ်ဟောင်း၍ သက္ကရာဇ် ၁၃၁၀–ခုနှစ်သို့ ပြောင်းခဲ့ပြီ၊ လွတ်လပ်ရေးရပြီးစ ...င်ဖြစ်၍ အဘက်ဘက်မှ ပြန်လည်ထူထောင်ရေးတွေ ...ပ်နေကြရ၏၊ စစ်အတွင်းက ယိုယွင်းခဲ့သမျှ လမ်း ...တား တာတမံ ဆည်မြောင်း စာသင်ကျောင်း ...းရုံ ရေတွင်း ရေကန် ဈေး မြို့ပြပြည်ရွာ လူနေ ...ဆောက်အအုံ အကုန် ပြန်လည်၍ ပြုပြင် ထူထောင်နေ ...ရဆဲ ဖြစ်သည်။

အားလုံးပင် အားသစ်အင်သစ် လူသစ်စိတ်သစ် ...နေကြရ၏၊ ဆရာတော် ဦးဝိမလကလည်း ကိုယ့် ...ဆောင့်နဲ့ ကိုယ် ကြည့်ကာ "ပြုပြင်ပေးရမည်"ဟု ...းခဲ့ထားပါသတတ်။

"နိုင်ငံခေါင်းဆောင်တွေက တိုင်းပြည်အတွင်းမှာ ယိုယွင်းသမျှ အပြင်ဗဟိဒ္ဓတွေကို ပြုပြင်ကြသလို တို့သာသနာတော်ဘက်ကလဲ သာသနာ့ခေါင်းဆောင် တွေက ဘာသာရေး သာသနာရေးတွေကို လမ်းစဉ် မှန်အောင် ပြုပြင်ပေးကြရမည်၊ အတွင်း အဇ္ဈတ္တ စိတ် ဓာတ်ပိုင်း ဆိုင်ရာ ပျက်ယွင်းသမျှတို့ကို ပြုပြင်ပေးကြ ရမည်" ဟူ၍ တာဝန်မကင်းသော စိတ်ထားအပြည့်ဖြင့် အသင့် ခံယူထားပါသတတ်။

ထို့ကြောင့်လည်း တရားဟောသောအခါတိုင်း ထိုအချိန် ထိုကာလ ဟောပြောချက်တို့၌ ရှေ့ပိုင်း ရှေ့ပိုင်းတို့မှာ ဘာသာရေး သာသနာရေး ယဉ်ကျေးမှု စိတ်နေစိတ်ထားတို့အကြောင်းပါ ထည့်သွင်း၍ ထည့် သွင်း၍ ဟောလေ့ရှိပါသတဲ့၊ ပြီးမှ နောက်ပိုင်းတွင် ဝိပဿနာဆိုင်ရာတို့ကို ဆက်လက်ဟောပြပါသတတ်။

## ဒုက္ခနောက်က မဂ္ဂသစ္စာလိုက်ပါ

သက္ကရာဇ် ၁၃၁၀–ခု သီတင်းကျွတ် (ခရစ် ...၄၈–ခု အောက်တိုဘာလ)အပြီးတွင် ဆရာတော်မှာ ...က်တော်က ၄၉–နှစ်၊ သိက္ခာတော်က ၃၀–ဝါ ရရှိ ...ပြီ၊ တရားပွဲကား မိုးကုတ်မြို့၊ ကျော့တောင်ရပ်က ...ာင်းဒကာကြီး ဦးလယ် + ကျောင်းအမကြီး ဒေါ် ...ခြုံတို့အိမ်မှာ ညစဉ် ၇နာရီမှ ၈နာရီ အမြဲ ရှိလေ ...ည်။

"ဒကာ–ဒကာမတို့... "မဂ်"ဆိုတာ သိလုံး ...လေးကို ပြောတာ (မှန်ပါ) မဂ်ဆိုတာ ဘာပါလိမ့် ...လုံးကလေးကို ပြောတာပါဘုရား) အေး... သိတဲ့ ...ကလေးကို ပြောတာပါ" (မှန်ပါဘုရား)

သိရမှာကတော့ ဒုက္ခသစ္စာ (မှန်ပါ) သိရမှာက ...ါလိမ့်ဗျာ (ဒုက္ခသစ္စာပါဘုရား) ဒုက္ခသစ္စာဆိုတာ ဘယ်ဟာတွေလဲဆိုတော့ ခန္ဓာပေါ်တာ (မှန်ပါ) ခန္ဓာ ငါးပါးထဲက တစ်ပါးပါး ထင်ထင်ရှားရှား ပေါ်တာကို ဆိုတာ (မှန်ပါဘုရား)

ဒါဖြင့် ဒုက္ခသစ္စာဆိုတာ ခွေးကိုက်လို့ နာတာကို ပြောတာ မဟုတ် (မှန်ပါ) တုတ်နဲ့ ရိုက်လို့ နာတာလဲ မဟုတ် (မှန်ပါ) ကျောက်ပေါက်လို့ ဝေဒနာရတာကို ဆိုတာလဲ မဟုတ် (မှန်ပါ) လက်မှာ ခြေထောက်မှာ ရူနာကြီးတွေ ပေါက်တာကို ဆိုတာလဲ မဟုတ် (မှန်ပါ ဘုရား)

အေး... ဒုက္ခသစ္စာဆိုတာ ခန္ဓာပေါ်တာ (မှန်ပါ) ခန္ဓာငါးပါးထဲက တစ်ပါးပါး ပေါ်တာ (မှန်ပါဘုရား)

အေး... အဲဒီတော့ ဒုက္ခသစ္စာကို ဒကာ– ဒကာမတွေက ကျောပေးပြီး မနေလိုက်ကြပါနဲ့၊ သိစရာ

သူက လာပေးတာကို သိလုံးကလေးနဲ့ သိလိုက်ကြစမ်းပါ (မှန်ပါဘုရား)

အဲလို သိလိုက်လို့ရှိရင် "အညာသိ=သိသွားပြီ" ဆိုတာလို ဖြစ်သွားမယ် (မှန်ပါ) အဲဒါကြောင့် ဒုက္ခသစ္စာနောက်က မဂ္ဂသစ္စာလိုက်ဖြစ်အောင် လိုက်ကြစမ်းပါ (မှန်ပါ) သူက "ဟော... ကြည့်ပါဗျ"လို့ လာပြောတာကို ကိုယ်က ကြည့်ဖြစ်အောင် ကြည့်လိုက်ကြစမ်းပါ (မှန်ပါဘုရား)

[မိုး(၂)နာ-၄၅၃မှ။]

# သက်တော်-၅၀ ပြည့်ချိန်ဝယ်

ဆရာတော်သည် ဘော်ပတန်းကျောက်လိုဏ်ဂူကြီးမှ ထွက်တော်မူလာပြီးနောက် ဒကာ-ဒကာမတို့၏ တောင်းပန်ချက်အရ ပတ္တမြားမြေ မိုးကုတ်မြို့တွင် တရားဓမ္မတွေ ဟောပြပေးနေသည်၊ အားတယ် မရှိ၊ နားတယ် မရှိ။

ယခု သက်တော် ၅၀-ပြည့်သည်အထိလည်း ဟော၍ အရှိန်ကောင်းတုန်းဖြစ်သည်၊ သစ္စာတရားတွေကို ဟောပြသဖြင့် သဘောတွေ ကျလွန်းလို့ နားဝင်ချိုဆိမ့်၊ ဘဝင်စိမ့်၍၊ တသိမ့်သိမ့်ဖြစ်နေကြ၏၊ သာဓုသံတို့ဖြင့်လည်း တခြိမ့်ခြိမ့်နေကြသည်ဟူ၏။

၁။ သက်တော်ငါးဆယ်၊ အများလယ်၌၊
အားတယ်မရှိ၊ နားဝယ်ငြိအောင်၊ ကြားသိစေရန်၊ ဓမ္မကွန်၊ ဖန်ဖန်စိမ့်၍ထုံ။

၂။ ဒုက္ခ-သမုဒယ၊ နိရောဓနှင့်၊ မဂ္ဂတစ်ဖြာ၊
သစ္စာလေးဝ၊ သိစေရအောင်၊ ဓမ္မဘေရီ၊
တရားစည်၊ ရိုက်သည် ဆော်ခတ်ဖိမ့်ဖိမ့်တုန်။

၃။ လောဘ-ဒေါသ၊ မောဟကင်းကွာ၊
သဒ္ဓါဖွားဖွား၊ လက်စများအောင်၊
ပတ္တမြားမြေ၊ တရားဝေ၊ များထွေသာဓုသိမ့်သိမ့်ခုန်။

x x



## နားလည်လွယ်သော အပြောမျိုး

သက္ကရာဇ် ၁၃၁၁–ခုနှစ် နတ်တော်လဆုတ် ၁၁–ရက်သို့ ရောက်သောအခါ ဆရာတော်မှာ သက်တော်က–၅၀၊ သိက္ခာတော်က–(၃၁)ဝါ ရှိလာ၏၊ ဆရာတော်ကြီးဖြစ်လာပြီ၊ မိုးကုတ်မြို့မှာပင် ရှိသေး၏။

ဒုတိယကမ္ဘာစစ်အတွင်းက စစ်ဘေးဒဏ်ကို ရှောင်ရင်း မိုးကုတ်မြို့သို့ ရောက်လာခဲ့ရာ ယခုအထိ အမရပူရကို မပြန်ဖြစ်သေး၊ စိန်ဖူးတော် ပို့ဆောင်စဉ်က ခေတ္တခဏမျှသာ ပြန်လည်ရောက်ရှိသေး၏။

မိုးကုတ်မြို့မှ ဒကာ–ဒကာမတို့ကလည်း တစ်နေ့ တခြား တရားရင့်၍ ရင့်၍ လာကြသည်၊ ရင့်လာလေ တရားနာလို့ မဝလေ ဖြစ်ကြဟန် တူ၏၊ တရားနာသောပရိသတ်တွေသာ များ၍ များ၍ လာတော့သည်။

ဆရာတော် ဦးဝိမလ၏ ဟောဟန်မှာ အသံမပါချေ၊ အများခေတ်စားသလို အသံတွေ အနိမ့်အမြင့် သံနေသံထားနှင့် ဟောခြင်းမျိုး မဟုတ်ဟု ဆိုလို၏၊ အကြောင်းအရာတစ်ခုကို ရိုးရိုးအရပ်သုံးစကားဖြင့် ရှင်းပြခြင်းမျိုးသာ ဖြစ်သည်၊ ထို့ကြောင့် နာကြားရသူများ နားလည်သဘောပေါက်လွယ်ကြ၏။

## အသံရှည်ဆွဲပြီး တရားမဟောရ

ထိုခေတ် ထိုအခါက "တရားဟောပြီ"ဆိုလျှင် အသံကလေးတွေ လွင်လွင်ဖြင့် ဟောနေကျထုံးစံဖြစ်၏၊ အသံကောင်းမှလည်း ဓမ္မကထိက ဖြစ်နိုင်သည်၊ ဂါထာ[illegible]လေးရွတ်၊ အနက်ဆံကောင်းကောင်းနှင့် အသံကို [illegible]နိမ့်အမြင့်ဆွဲ၊ ဝတ္ထုကြောင်းကို လွမ်းလောက်အောင် [illegible]သားပေးဟောနေကျ၊ ထိုခေတ်ကြီးမှာ ဆရာတော်က [illegible]ိုးရိုးပင် ဟောပြနေတော်မူ၏။

ထို့ကြောင့် တစ်ခါသော် အရင်းအချာ ဖြစ်တဲ့ [illegible]ကြီး ဦးလယ်က လျှောက်ဖူးသည်–

"ဘယ့်နှယ် တစ်ခါတစ်ရံ အသံကလေး–
ဘာလေးနဲ့ လုပ်အုံးမှပေါ့– ကိုယ်တော့"

အခါ ဆရာတော်က ချက်ချင်းပင် လက်ကာ၍ [illegible]ပင်တားမြစ်တော်မူပါသတတ်၊ ထို့ပြင်လည်း ဤသို့ [illegible]ပါသေးသတတ်။

"ဟာ... မဖြစ်ဘူး ဒကာကြီး၊ မလုပ်နဲ့ မလုပ်နဲ့၊ အသံတွေ လုပ်ပြီး ဟောနေရင် ပရိသတ်က အသံဘက်ကို လိုက်–လိုက်ကုန်တယ်။

ဟောတဲ့ ကိုယ်တော်ကလဲ ဒီလိုပဲ၊ အသံမလွဲအောင် ဆိုပြီး အသံကို အာရုံပြုပြုနေရတယ်။

ဒီတော့ တရားတွေလဲ ပေါ့ပျက်ပျက်ဖြစ်ကုန်ရော၊ သစ္စာတရားတွေဆိုတာ တည်တည်ငြိမ်ငြိမ်နဲ့ လေးလေးပင်ပင် ရှိရမှာ။

မြတ်စွာဘုရားကလဲ "အသံတွေ လုပ်ပြီး ရှည်ရှည်ဆွဲ၍ တရား မဟောရဘူး"–လို့ တားမြစ်ထားတာပဲ"

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဘုရားပညတ်တော်မူချက်များ

ဟုတ်ပါသည်၊ ဤကိစ္စနှင့်ပတ်သက်၍ ဘုရားရှင်ကိုယ်တော်မြတ်ကြီး အထူး ပညတ်တော်မူထားချက်ရှိပါသည်။

* "န ဘိက္ခဝေ အာယတကေန ဂီတဿရေန
ဓမ္မော ဂါယိတဗ္ဗော၊ ယော ဂါယေယျ၊
အာပတ္တိ ဒုက္ကဋဿ"တဲ့။

အဓိပ္ပာယ်ကတော့–

"သဘင်သည်များလို ရှည်လျားတဲ့ ဂီတသံနဲ့
တရားမဟောရ၊ ဟောလျှင် ဒုက္ကဋ်အာပတ်
သင့်စေ"တဲ့။

ထို့ပြင် အသံရှည်ဆွဲပြီး ဟောတဲ့အတွက် ရနိုင်တဲ့ အပြစ်(၅)ချက်ကိုလည်း ဆက်လက်၍ မိန့်ဆိုတော်မူလျက် ရှိပါသေးသည်–

"ပဉ္စိမေ ဘိက္ခဝေ အာဒီနဝါ အာယတကေန
ဂီတဿရေန ဓမ္မံ ဂါယန္တဿ၊ အတ္တနာပိ
တသ္မိံသရေ သာရဇ္ဇတိ၊ ပရေပိ တသ္မိံသရေ
သာရဇ္ဇန္တိ၊ ဂဟပတိကာပိ ဥဇ္ဈာယန္တိ၊
သရကုတ္တိမ္ပိ နိကာမယမာနဿ သမာဓိ[illegible]
ဘင်္ဂေါ ဟောတိ၊ ပစ္ဆိမာ ဇနတာ ဒိဋ္ဌါနု
အာပဇ္ဇတိ"

အဓိပ္ပာယ်ကတော့–

၁။ ကိုယ့်အသံ ကိုယ်ပြန်၍ နှစ်သက်စွဲမက်တတ်ခြင်း၊

၂။ သူတစ်ပါးတို့က ကိုယ့်အသံပေါ် လာ၍ နှစ်သက် စွဲမက်နေတတ်ကြခြင်း၊

၃။ လူတွေရဲ့ ကဲ့ရဲ့မှုကို ခံရတတ်ခြင်း၊

၄။ အသံလုပ်နေရတဲ့အတွက် ကိုယ့်သမာဓိ [illegible] ပြားရခြင်း၊

၅။ နောင်လာနောက်သားတွေက ကိုယ်လုပ်သမျှကို အတုလိုက်နေတတ်ခြင်း၊

ဤသို့ အပြစ်(၅)မျိုး ရှိသည်ဟု ဟောတော်မူထားသည်။

# လက်တွေ့ ကျင့်ရသော တရား

သက္ကရာဇ် ၁၃၁၂–ခု နတ်တော်လ (ခရစ် ၁၉၅၀–ခု နိုဝင်ဘာလ)သို့ ရောက်သောအခါ ဆရာတော်မှာ သက်တော်က ၅၁–နှစ်၊ သိက္ခာတော်က ၃၂–ဝါ ရှိလာပြီ၊ ပရိသတ်တို့က ဆရာတော်၏ တရားတော်ကို နာရလေ–လေးစားလေ ဖြစ်လာကြ၏။

ဆရာတော် ဟောသော တရားတို့ကလည်း ရှေးယခင်က ဟောသော တရားတို့နှင့် အများကြီး ကွာခြားနေသည် ဆို၏၊ စစ်ပြီးကာလတွင် ဟောသော တရားတို့က ပို၍ လေးနက်မှု အပြည့်အဝ ရှိနေကြသတတ်။

ပရိသတ်တို့ကလည်း တဖြည်းဖြည်း များ၍ များ၍ လာကြရာ ဥပုသ်နေ့များ၌ဆိုလျှင် သိသိသာသာတရားနာသူများလာသဖြင့် ကျောင်းတကာကြီး ဦးလယ် +ဒေါ်သိုင်းခြုံတို့အိမ်မှာ ပဆုံတော့ချေ၊ ပြည့်ကျပ်နေတော့သည် ဟူ၏။

ထို့ကြောင့် နောက်ပိုင်းတွင် တရားဟောရာဌာနကို (ဆရာတော် တည်းခိုသီတင်းသုံးနေသည့်) သုဿာန်ကျောင်းသို့ ပြောင်းရတော့၏၊ ပရိသတ်တို့ကလည်း မြူးကြွစွာ လိုက်ပါလာကြသည်။

ဆရာတော်က ပဋိစ္စသမုပ္ပါဒ်ကို အခြေခံ ထား၍ သစ္စာတရားများ စတင် ဟောကြားတော်မူလာသည်၊

---

* စူဠဝါပါဠိ၊၂၄၃

## တစ်ဘဝသာသနာ

ထို့ပြင် ဆရာတော်၏ တရားမှာ နာရုံသာ နာ ရသည် မဟုတ်၊ လက်တွေ့လည်း ကျင့်ကြံအားထုတ်ရ သော တရားမျိုးဖြစ်၏၊ ထို့ကြောင့် တရားနာယူပြီးလျှင် ထိုနေရာ၌ပင် အချို့က ဆက်လက်၍ တရားရှုမှတ်နေ ကြတော့သည် ဟူ၏။

ဤအချက်ကပင် အများနှင့်မတူဘဲ ထူးခြားနေ ခြင်း ဖြစ်သည်။

လေးနက်သော တရားတို့ကို မိုးကုတ်ပရိသတ်ကလည်း လက်ခံနိုင်နေသည်၊ အဘယ့်ကြောင့်ဆိုသော် ဆရာတော် က နေ့စဉ်မှန်မှန် တရားဓမ္မ ဟောပြပေးနေသောကြောင့် ဖြစ်ပေသည်။

ထိုအခါ ပရိသတ်က တစ်နေ့ တလေမျှပင် အလွတ်မခံနိုင်သလို ဖြစ်လာကြ၏၊ လွတ်သွားမှာ ိုးနေကြ၏၊ ထို့ကြောင့် တစ်နေ့ထက်တစ်နေ့ သူ့ထက် ါ ဦး အလုအယက်သာ လာနေကြတော့သည်။

## တရားပွဲ လွတ်သွားမည်ကို စိုးရိမ်သူများ

သို့ဖြစ်၍ လူကြီးလူကောင်းဆိုသူများ၊ မြို့ မျက်နှာဖုံးလူကြီးများ၊ စိစစ်ဝေဖန်တွေးဆဉာဏ်ရှိသူများ ဘဖြည်းဖြည်း တိုးလာကြ၏၊ ပရိသတ်တွေ များ၍ များ၍ လာကြသည်။

ထိုခေတ်ထိုအခါတုန်းက မိုးကုတ်မြို့မှာ မျက်နှာ ဖုံးလူကြီးများဖြစ်သော ဦးဖိုးလုံ၊ ဦးကောင်း၊ ဦးလှိုင်၊ ဦးပု၊ မြို့မရပ်မှ ဒေါ်ကူး၊ ဒေါ်အုံ၊ ဒေါ်ဖုံ၊ ဒေါ်သန်း၊ ဒေါ်သွယ်၊ ဦးမြနှင့် ဇနီး ဒေါ်ခင်၊ ဦးကြာနှင့် သား သမီးများ။

ဈေးဟောင်းရပ်မှ ဆရာလှိုင်နှင့် သားသမီးများ၊ ရှမ်းစုရပ်မှ ဦးစံဟင်းနှင့် ဇနီးဒေါ်ကြွယ်၊ ဦးရင်မောင်နှင့် ဇနီး ဒေါ်သွယ်၊ ရှမ်းစုရပ်မှ ဒေါ်ငွေး၊ ညီမ ဒေါ်ချိန်။

ဈေးသစ်ရပ်မှ ဦးဘိုးဟိန်းနှင့် ဇနီး ဒေါ်အေး၊ သားသမီးများ၊ ဒေါ်ပု၊ ဒေါ်မေ၊ ဦးဝနှင့် ဇနီး ဒေါ်စောမယ်၊ ဈေးသစ်ရပ်မှ ဦးထွန်းလှိုင်၊ ဦးနိုင်။

စည်ပင်သာယာရပ်မှ ဦးပေါ် စသော ကျောင်း ဒကာ ဒကာမများ၊ ဘုရားဒကာ ဒကာမများဆိုလျှင် တရားပွဲလွတ်သွားမည်ကို အလွန် စိုးရိမ်ကြသည် ဆို ၏၊ တရားပွဲကို မလွတ်တမ်း နာယူကြသူများ ဖြစ်ကြ သည်။

## ဝိပဿနာဉာဏ်မှ မဂ်ဉာဏ်သို့

* ကိုယ့်စရိုက်နဲ့ လိုက်တဲ့ကမ္မဋ္ဌာန်းကို ရွေးရှုပါ၊ (မှန်ပါ) ရုပ်ကြိုက် ရုပ်ရှု၊ ဝေဒနာကြိုက် ဝေဒနာရှု၊ စိတ်ကြိုက် စိတ်ရှု (မှန်ပါဘုရား) ရှုဖန်များလာရင် ခန္ဓာထဲမှာ ဖျပ်ဖျပ်-ဖျပ်ဖျပ်နဲ့ လာမယ် (မှန်ပါ) ်က ရွရွ ဒီက ရွရွနဲ့ လာမယ် (မှန်ပါ) ဟိုစိတ်ကလေး ပေါ်လာ၊ ဒီစိတ်ကလေး ပေါ်လာနဲ့ မလာပေဘူးလား ာပါမယ် ဘုရား)

အဲဒါလေးတွေက ဘာလဲဆိုရင် အနိစ္စကလေး တွေ၊ ဒုက္ခကလေးတွေ၊ အနတ္တကလေးတွေပဲ (မှန်ပါ) အကျဉ်းချုံးယင် ဖြစ်-ပျက်ပဲ (မှန်ပါဘုရား) "ဖြစ်- ပျက်ကို ရှုပါ"လို့ ဆရာဘုန်းကြီးက သတိပေးတယ် (မှန်ပါ)

ရှုဖန်များလာတော့ ဉာဏ်ရင့်လာမယ်၊ ဝိပဿ နာဉာဏ်ရင့်လာမယ်၊ (မှန်ပါဘုရား) ရင့်လာလဲ ဆက်ရှု၊

- [မိုး(၅)နာ-၁၁၆မှ။]

မရပ်နဲ့ ဆက်ရှု (မှန်ပါ) ရှုဖန်များတော့–

* ပရိပက္ကာ ကမေနေ၀၊
ပရိဘာ၀ိတ ဘာ၀နာ။
ပရိစ္ဆိန္ဒိ သင်္ခါရေ၊
ပက္ခန္ဒတိ အသင်္ခတေ။ ။

၀ေ–ဤနည်းအားဖြင့်၊ ကမေန–အစဉ်အတိုင်း၊ ပရိဘာ၀ိတဘာ၀နာ–ပွားများ အားထုတ်အပ်သည့် ဝိပဿနာ ဘာ၀နာဉာဏ်သည်၊ ပရိပက္ကာ–ရင့်ကျက်လာသည် (သမာနာ–ဖြစ်လတ်သော်) သင်္ခါရေ–ဖြစ်ပျက်–ဖြစ်ပျက်သင်္ခါရတရားတို့ကို၊ ပရိစ္ဆိန္ဒိ–စွန့်ခွာလျက်၊ အသင်္ခတေ–ဖြစ်ပျက်–ဖြစ်ပျက်တွေ မရှိရာ အသင်္ခတနယ်ထဲသို့၊ ပက္ခန္ဒတိ–ပြေး၀င်သွားတော့၏–တဲ့။

ဒါဟာ နာမရူပ ပရိစ္ဆေဒကျမ်းက လာတာ၊ (မှန်ပါ ဘုရား) ဖြစ်ပျက်တွေ မြင်ဖန်များတော့ ဉာဏ်တွေ ရင့်လာမယ် (မှန်ပါ) အဲဒါ ဆက်ရှုတော့ ဉာဏ်တွေက ဖြစ်ပျက်တွေကို စွန့်ခွာလိမ့်မယ် (မှန်ပါ) ဖြစ်ပျက်တွေကို တွန်းခွာလိုက်သလို လုပ်ပြီးတော့ အဲဒီဉာဏ်ဟာ "ပက္ခန္ဒတိ အသင်္ခတေ"–တဲ့၊ ဖြစ်ပျက်တွေ မရှိတဲ့ နယ်ထဲသို့ ပြေး၀င်သွားလိမ့်မယ်–တဲ့၊ (မှန်ပါ ဘုရား)

"ဖြစ်ပျက် မရှိတဲ့နယ်"ဆိုတာ နိရောဓသစ္စာ နိဗ္ဗာန်ကို ပြောတာ (မှန်ပါ) အဲဒီနိရောဓသစ္စာနယ်ထဲသို့ ဉာဏ်က ပြေး၀င်သွားတယ် (မှန်ပါ) အဖြောင့်ပြောရရင်တော့ အဖြစ်အပျက်မရှိတဲ့ နိရောဓသစ္စာ (နိဗ္ဗာန်)နဲ့ ဉာဏ်နဲ့သွားတည့်နေတယ် (မှန်ပါဘုရား) ရှေ့ပိုင်းမှာ ဖြစ်–ပျက်တွေ မြင်နေတုန်းက လောကီဝိပဿနာဉာဏ် (မှန်ပါ) နောက်ကျတော့ ဉာဏ်တွေရင့်လာပြီး အဖြစ်–အပျက်မရှိတဲ့ နိရောဓသစ္စာကို မြင်နိုင်လာတယ် (မှန်ပါ ဘုရား) အဲဒီကျတော့ လောကုတ္တရာမဂ်ဉာဏ် (မှန်ပါ) အဲဒါဟာ ဝိပဿနာဉာဏ်မှ မဂ်ဉာဏ်သို့ ကူးပြောင်းသွားခြင်းပဲ (မှန်ပါဘုရား)

## လက်တွေ့ ကျင့်ကြံမှုကို ပို၍လိုလား

သက္ကရာဇ် ၁၃၁၃–ခုနှစ်တွင်လည်း မိုးကုတ်မြို့မှာပင် သီတင်းသုံးလျက်ရှိသေး၏၊ မှန်မှန်ပင် တရားဟောနေတော်မူသည်၊ တရားပွဲအချိန်ကိုမူ ည(၇)နာရီမှ (၈)နာရီအထိ တစ်နာရီမျှသာ သတ်မှတ်ထား၏။

ဆရာတော်က တရားတစ်ပွဲ တစ်ပွဲကို (၁)နာရီမျှသာ အချိန် သတ်မှတ်ထားသည်၊ အကြောင်းအရာ မကုန်သေးလျှင် နောက်တစ်ပွဲကျမှ ဆက်၍ ဟောတတ်၏၊ ဤသို့ တစ်နာရီမျှသာ သတ်မှတ်ခြင်းဖြင့် ဟောသူလဲ မပင်ပန်း၊ နာသူလဲ စိတ်မနွမ်း၊ တရားတော်လည်း ရွှင်လန်းနေတော့သည်။

ဆရာတော်က တရားနာပရိသတ်အပေါ် ဆင်းရဲ **ချမ်း**သာ မခွဲခြားဘဲ တသားတည်းထား၍ ဟောကြား**တော်မူ**တတ်၏၊ လက်တွေ့တကယ်ကျင့်ကြံသူ၊ လက်တွေ့ တကယ်အားထုတ်သူကို ပို၍လိုလားတော်မူသည်၊ တကယ်အားထုတ်လျှင် တကယ်ပင် တန်ဖိုးထားတော်မူတတ်၏။

တရားကို အပိုအလို မရှိ၊ တိကျ မှန်ကန်စွာ ပြတ်ပြတ်ပင် ဟောပြတော်မူတတ်သည်၊ ချွဲချွဲပစ်ပစ်လည်း ဟောလေ့မရှိ၊ အချို့နေရာတို့တွင် ခိုင်လုံစေရန် ဘုရားဟောဒေသနာပါဠိကို အနည်းငယ်မျှ သာကေထုတ်တတ်၏၊ ဆရာတော်၏ ဟောပြောချက်တို့မှာ ဘယ်ဘက်သို့မျှ မစောင်း၊ တရားလမ်းကြောင်းအတိုင်း သဘာ၀ကျကျ ဟောပြသွားတတ်သည်။

ထို့ကြောင့် ဤမိုးကုတ်မြို့တွင် ဗုဒ္ဓဘာသာ၀င်များသာမက အခြားဘာသာ၀င်တို့လည်း လာရောက်နာယူကြ၏၊ အထူးအားဖြင့် ဂူဂျာရတီ လူမျိုးများ၊ ပန်ချာပီလူမျိုးများလည်း လာရောက်နာယူကြသည်။

* နာမရူပပရိစ္ဆေဒကျမ်း၊ ၁၅၂

## တစ်ဘဝသာသနာ

# လူမျိုးပေါင်းစုံလာ၍ တရားနာ

ထိုလူမျိုးများအတွက် ဆရာတော်က အထူးအခွင့်အရေးတစ်ရပ်ပေးထား၏၊ သူတို့ နားမလည်သောအချက်၊ သဘောမပေါက်သောအရာတို့ကို အချိန်မရွေးမေးမြန်းနိုင်ကြောင်း ခွင့်ပြုထားတော်မူသည်။

ပြန်လည်၍ ဖြေရှင်းပြနိုင်ရန်လည်း သူတို့စကားကို တတ်ကျွမ်းသူ၊ နားလည်သူကို ဘာသာပြန်အဖြစ် အနားမှာ ခေါ်ထားရ၏၊ သူတို့အတွက် သူများတွေ မလာမီ "ညနေ ၂–နာရီမှ ၃–နာရီအတွင်း"ဟု သတ်မှတ်ပေးထားသည်။

ထိုစဉ်က တရားနာလာကြသော လူမျိုးကွဲပုဂ္ဂိုလ်များကို မှတ်မိသမျှ ပြောပြပါရန် တောင်းပန်သောအခါ **မီလိုက်သောသူတို့က အောက်ပါအတိုင်း ပြောပြကြပါ၏။**

**ဂူဂျာရတီလူမျိုးများ**

(၁) ဘာပူလား (၃) ကီလာလား
(၂) ဒွါကနပ် (၄) ဟီရလား
(၅) ဗာဒီလား (၇) ဆူဘားလ်
(၆) ရတီလား (၈) ဟာရီတရစ်ရှနား

**ပန်ချာပီလူမျိုးများ**

(၉) အော့တာဆင် (၁၀) ဆီဗာဆင့်
(၁၁) စထရိုင်း(မ်) တို့ဖြစ်ကြသည်။

သူတို့သည် အမြဲမှန်မှန်း တရားနာလာကြ၍၊ လက်တွေ့ကျင့်ကြံအားထုတ်သော ပုဂ္ဂိုလ်များဖြစ်ကြ၏၊ ထို့ကြောင့်လည်း ဆရာတော်က သူတို့အား ဦးစားပေးအနေဖြင့် နားမလည် လည်အောင် ရှင်းပြပေးနေခြင်းဖြစ်သည်။

မှတ်ချက်။ ။ဂူဂျာရတီလူမျိုးထဲမှ (ဟီရလား)ဆိုလျှင် ဗဟုသုတကြွယ်ဝသူဖြစ်၏၊ ကျမ်းဂန်နှံ့စပ်သူ ဖြစ်သည်၊ သူက ခဏ ခဏ ပြောတတ်သည်မှာ– "ယခုဆရာတော်ကြီး၏ ဟောပြောချက်တို့မှာ သူတို့ ဂူဂျာရတီဘာသာဖြင့် ရေးသားထားသော ကျမ်းစာတို့နှင့် တစ်ထပ်တည်း တူသည်"ဟူ၍ ဖြစ်၏။

# မိုးကုတ်မြို့မှာ (၁၀)နှစ်ကြာ

သက္ကရာဇ် ၁၃၁၄–ခုနှစ် သီတင်းဝါလကျွတ် (၁၉၅၂–ခု အောက်တိုဘာလ)သို့ ရောက်သောအခါ ဆရာတော်မှာ သက်တော်က (၅၃)နှစ်၊ သိက္ခာတော်က (၃၄)ဝါ ရှိလာပြီ၊ မိုးကုတ်မြို့မှာပင်ရှိသေး၏၊ ဒုတိယကမ္ဘာစစ်အတွင်း ၁၃၀၃–ခုနှစ် ကုန်ခါနီး တန်ခူးလဆန်းပိုင်းလောက်ကပင် မိုးကုတ်မြို့ကို ရောက်လာခဲ့သည်၊ ယခုအထိ အမရပူရကို မပြန်ဖြစ်သေး၊ (၁၀)နှစ်ပင် ကြာ၍သွားချေပြီ။

သာမဏေရွယ်ရွယ်ဘဝ၊ ရဟန်းငယ်ဘဝ၊ စာချကြီးကလေးဘဝ၊ ဆရာတော်ကလေးဘဝသို့တိုင်အောင် နှစ်ပေါင်းများစွာ ပြုစုထောက်ပံ့လာခဲ့ကြသော အမရပူရမှ ဒကာ–ဒကာမတို့ကလည်း မျှော်ကြလှလေပြီ၊ ပြန်လည်ကြွရောက်လာဖို့ရန် တောင့်တနေကြလေပြီ။

အထူးအားဖြင့် ကျောင်းအမကြီး ဒေါ်သက်ရင်ဖြစ်လေသည်၊ ဒေါ်သက်ရင်က ခဏ ခဏ တရရပြောနေ၏– "ငါ့မှာ အသက်တွေလဲ ကြီးလှပြီ၊ မသေခင် ဆရာတော်ကို ဖူးချင်ပါသေးတယ်၊ ဆရာတော့်တရားကိုလဲ နာကြားချင်ပါသေးတယ်"ဟူ၍ တောင့်တနေပါသတတ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# အမရပူရသို့ ပြန်လည်ကြွရောက်လာ

ထို့ကြောင့် ကျောင်းအမကြီး ဒေါ်သက်ရင်၏ ပူဆာပြင်းပြ တောင့်တချက်အရ ကြီးကဲသော ဒကာ–ဒကာမများက မိုးကုတ်မြို့သို့ လာ၍ ပင့်ကြရတော့၏၊ သို့ဖြစ်၍ ၁၃၁၄–ခု တန်ဆောင်မုန်းလပြည့်ကျော် (ကထိန်ခေတ်အကုန်) [၁၉၅၂–ခု နိုဝင်ဘာလအတွင်း] ဆောင်ဦးပေါက်သို့အရောက် အမရပူရမြို့သို့ ဆရာတော် ပြန်လည် ကြွရောက်တော်မူလာသည်။

“ဆရာတော် ပြန်လည် ကြွရောက်လာပြီ” ဆိုလျှင်ပင် ဒကာ–ဒကာမတို့လည်း လှုပ်လှုပ်ရွရွ ဖြစ်လာကြ၏၊ တအား တက်လာသလို ဖြစ်ကြသည်။

ဆရာတော်လည်း (ရှေးတုန်းကလိုပင်) “အဘိဓမ္မာ ညဝါတွေကို ချပို့ပေးမည်”ဟုဆိုကာ ပြင်ဆင်လေတော့၏၊ ထို့နောက် ရောက်လာသမျှ သံဃာ့ပရိသတ်နှင့်ပင် အဘိဓမ္မာညဝါ ပို့ချပွဲ စတင်ဆင်နွှဲလေတော့သည်၊ စာလိုက်သံဃာတော် (၅၀)ကျော် (၆၀)ခန့်မျှ ရောက်လာကြ၏။

ဆရာတော် ပြန်လည် ရောက်ရှိလာပြီးနောက် ကျောင်းသို့ တစ်နေ့လုံးလိုလို လာ၍ နေတတ်သော ကျောင်းအမကြီး (ဒေါ်သက်ရင်)အားလည်း အချိန်တစ်ခု သီးသန့်ထားပြီး ဝိပဿနာတရား ဟောပေးသေးသည်။

# စာနာတဲ့ပွဲမှ ဝိပဿနာတရားပွဲ ဖြစ်လာ

အမရပူရမြို့သို့ ဆရာတော် ပြန်ရောက်လာစ အခြေအနေကို မျက်မြင်အနေဖြင့် မြင်တွေ့ခဲ့ရသော ဦးအေးမောင်က ဤသို့ ပြန်လည် ပြောပြပါသည်။

“ဆရာတော် ဦးဝိမလ မိုးကုတ်ကနေ အမရပူရကို ပြန်ရောက်လာ အစပိုင်းမှာ ပဋ္ဌာန်းညဝါချပါသေးတယ်၊ စာလိုက်သံဃာတွေ ၅၀ကျော်၊ ၆၀–ခန့်မျှ မြင်နေရပါတယ်။

နေ့လယ် ၁–နာရီခန့်အချိန်မှာ မင်္ဂလာတိုက်ဟောင်းထဲက ကျောင်းအမကြီး ဒေါ်ဖုံရဲ့ မိုးကုတ်ကျောင်းကြီး အပေါ်ထပ်မှာပါ။

အဲဒီမှာ ဒကာတွေဘက်ကလဲ ဟိုတုန်းကလိုပဲ စာဝါသနာပါတဲ့သူတွေတချို့ အရပ်ထဲက လာ–လာပြီး နာနေကြတယ်။

တစ်နေ့တော့ ဆရာတော်က ဒကာတွေဘက်ကို လှည့်ကြည့်ပြီး “မင်းတို့ နားလည်ကြရဲ့လားကွ”လို့ မေးတယ်၊ “တချို့တစ်ဝက်တော့ နားလည်ပါတယ် ဘုရား”လို့ လျှောက်ကြတယ်။

ဒီတော့ ဆရာတော်က– “ဒီစာတွေဟာ လူတွေအဖို့ အကုန် နားမလည်နိုင်ပါဘူး၊ အထက်ပိုင်း အဘိဓမ္မာတွေပဲ၊ အဲဒါကြောင့် မင်းတို့ ဒီမှာလာပြီး အချိန်ကုန် မခံကြနဲ့၊ မင်းတို့နဲ့ လိုက်ရုံ နားလည်လောက်ရုံ အဆင့်နှိမ့်ပြီးတော့ သီးသန့်ဟောပေးမယ်”လို့ မိန့်ပါတယ်။

---

**မှတ်ချက်။** ။ဤအကြောင်းအရာများကို ဝမ်းတွင်း မြို့နယ်၊ သဲတော ကုန်းမြင့်သာယာ မိုးကုတ်ဝိပဿနာ ရိပ်သာကျောင်း ဘုန်းတော်ကြီး ဦးအဂ္ဂ (ဦးအေးမောင်) က ပြန်လည် ပြောပြပါသည်။

ဆရာတော်ကြီး လက်ထက်က ဦးအေးမောင် (၂) ယောက်ရှိ၏၊ တစ်ယောက်က ဆရာတော်ကြီး တရားဟောပြီဆိုလျှင် အသံချဲ့စက်ပြင်ပေး၊ အသံဖမ်း ပေးရသူ ဖြစ်၏၊ နောက်ပိုင်းတွင် ရဟန်းဝတ်လာပြီး လျှင် မိုးကုတ်ဓမ္မကထိက

ကျော်အမော် ဦးဓမ္မိဿရ ဖြစ်လာသည်။

ကျန်တစ်ယောက်လည်း ဤကဲ့သို့ ရဟန်း ဝတ်လာပြီး ်းတွင်း သဲတောမှာ တရားရိပ်သာ ထောင်သည်။

အဲဒီနောက် ဆရာတော်က "လူတွေ အတွက်" ဆိုပြီးတော့ ညနေ၄–နာရီအချိန်မှာ သီးသန့်တစ်ပွဲ ဟောပေးပါတယ်၊ အဘိဓမ္မာ အခြေခံသဘောများကို အောက်ခြေက စပြီး လွယ်လွယ် ဟောပေးပါတယ်။

အဲဒီကနေပြီး တဖြည်းဖြည်းနဲ့ ဝိပဿနာ လုပ်ငန်းခွင်ကလေးများပါ ပါတတ်ပါတယ်၊ ဝိပဿနာ အားထုတ်ပုံ အားထုတ်နည်း၊ ရှုပုံ ရှုနည်းကလေးများ ရောစွက်၍ ပြောပြလာပါတယ်။

အဲဒီအချိန်ကစပြီးတော့ လူတွေလဲ များ–များလာ၊ နောက်တော့ "ဝိပဿနာတရားပွဲ" ဖြစ်မှန်းမသိ ဖြစ်သွားရော။

# မဂ္ဂင် ဘယ်နှစ်ပါးနဲ့ ရှုရမှာလဲ

"ဝိပဿနာရှုတယ်"ဆိုတာ အရှုခံတရားပေါ် ာ ရှုဉာဏ်များနဲ့ ရှုရတာပါပဲ (မှန်ပါ) အဲဒီလို ရှုတဲ့ ခါမှာ "မဂ္ဂင်ဘယ်နှစ်ပါးနဲ့ ရှုရမှာလဲ"–တဲ့ (မှန်ပါ) ဖြေကတော့ ငါးပါးနဲ့ ရှုရမယ် (မှန်ပါဘုရား)

အဲဒီ "အရှုခံတရား"ဆိုတာက အကျဉ်းအားဖြင့် ပြာရရင် ရုပ်နဲ့ နာမ်ပဲ (မှန်ပါ) ရုပ်ကြိုက်ရင် ရုပ် နာမ်ကြိုက်ရင် နာမ်ရှု (မှန်ပါဘုရား)

အဲဒီရုပ်နဲ့နာမ်ကို နည်းနည်းချဲ့ပြောရင် ခန္ဓာ းပါး၊ (မှန်ပါ) ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာတို့ပေါ့ (မှန်ပါ ဘုရား) တွေဟာ အရှုခံတရားတွေပဲ (မှန်ပါ)

တကယ်ရှုပြီဆိုရင်တော့ ငါးပါးလုံးကို တစ်ပြို ိုး၊ တစ်အုံကြီး ရှုရမှာ မဟုတ်ပါဘူး (မှန်ပါ) ကြိုက်ရာ တစ်ခုခု ရွေးရှုရတာပါ (မှန်ပါဘုရား)

အဲ... ရှုဉာဏ်များဘက်ကတော့ အမြဲတမ်း ပါးပဲ (မှန်ပါ) ဘယ်သူတွေလဲဆိုရင် သမ္မာဒိဋ္ဌိ၊ မ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ တဲ့ ငါးပါးပဲ (မှန်ပါဘုရား)

ဒီငါးပါးကို လောကီမဂ္ဂင်ငါးပါးလို့လဲ ခေါ်တယ်၊ ဝိပဿနာဉာဏ်လို့လဲ ခေါ်တယ်၊ ယထာဘူတဉာဏ်လို့လဲ ခေါ်တယ်၊ ပုဗ္ဗဘာဂမဂ်လို့လဲ ခေါ်တယ်၊ ပဋ္ဌဂ်ိကမဂ်လို့လဲ ခေါ်တယ် (မှန်ပါ) ဒီငါးပါးနဲ့ ရှုကြရပါမယ် (မှန်ပါဘုရား)

မဂ္ဂင်ဆိုတာက ရှစ်ပါးရှိတယ် မဟုတ်လားတဲ့၊ အဲဒီလို စောဒက တက်ကြတယ် (မှန်ပါ) အိုး... ရှစ်ပါး ရှိပေမယ့် ရှစ်ပါးလုံး အလုပ် လုပ်ကြတာ မဟုတ်ဘူး၊ နိဗ္ဗာန်ရဖို့ အလုပ်လုပ်တာက ဒီငါးပါးပဲ (မှန်ပါ) အဲဒါကြောင့် ဒီငါးပါးကို အဋ္ဌကထာဆရာများက "ကာရကမဂ္ဂင်"လို့တောင် နာမည်ပေးကြတယ် (မှန်ပါ) အေး... ဒီကာရကမဂ္ဂင်ငါးပါးနဲ့ ရှုကြရပါမယ် (မှန်ပါဘုရား)

နောက်တစ်နည်းအားဖြင့်တော့လဲ တရားရှုခါစ ပုထုဇဉ်များသန္တာန်မှာ ဒီငါးပါးပဲ ကိန်းနိုင်ပါတယ် (မှန်ပါ) မဂ္ဂင်ရှစ်ပါးလုံး မကိန်းနိုင်ပါဘူး၊ (မှန်ပါ)

အဲဒါကြောင့် မဂ္ဂင်ရှစ်ပါးရှိပေမယ့် ရှစ်ပါးလုံးနဲ့ မရှုရ၊ ဒီငါးပါးနဲ့ပဲ ရှုကြရပါမယ် (မှန်ပါဘုရား) [အကျယ်ကိုတော့ နောက်ဆက်တွဲ ပဋ္ဌဂ်ိကမဂ်နှင့် အဋ္ဌဂ်ိကမဂ်အခန်းမှာ ရှုပါ။]

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## တစ်ပါးနှင့် တစ်ပါး လေးစားကြခြင်း

မိုးကုတ် ဆရာတော် ဦးဝိမလ မိုးကုတ်မြို့မှ အမရပူရသို့ ပြန်မလာသေးမီအတွင်းက အမရပူရ မဟာ ဂန္ဓာရုံ ကျောင်းတိုက်ထဲ၌ ဥပုသ်နေ့များတွင် တရားပွဲ ရှိ၏၊ ဆရာတော် အရှင် ဇနကာဘိဝံသ ကိုယ်တော်တိုင် ဟောပြပေးတော်မူသည်၊ ရည်ရွယ်ချက်မှာ ဒကာ ဒကာမတွေ အချိန်အလဟဿ မကုန်ဆုံးစေရန်နှင့် ရသင့်ရထိုက်တဲ့အသိဉာဏ်များ ရရှိကြစေရန် ဖြစ်၏။

စောစောပိုင်းက ဥပုသ်နေ့များတွင် ဒကာ–ဒကာမတို့သည် အားလပ်နေကြ၍ ဟိုသွား ဒီသွား လုပ်နေကြ၏၊ မယ်ဇယ်ပင်တန်းတွေ တစ်လျှောက်၊ ဦးပိန်တံတား တစ်လျှောက်နှင့် ဘုရားပုထိုးစေတီများဆီသို့ သွားလာလှည့်ပတ်နေတတ်ကြသည်၊ ဤသည်တို့ကို မြင်၍ ဒကာမြည္ဟန့်– ဒကာဘိတို့က ဆရာတော့်အား လာပြီး လျှောက်ကြ၏၊ ဆရာတော်က "လာကြ ဘုန်းကြီး တရားဟောပေးမယ်"ဟုဆိုရာကစပြီး တရားပွဲ ဖြစ်လာသည်။

ထို့နောက် မိုးကုတ်ဆရာတော်ဦးဝိမလ အမရပူရသို့ ပြန်လည်ရောက်ရှိလာပြီးနောက် တရားပွဲများ စတင်ကျင်းပ ဟောပြောစ ပြုနေလေပြီ၊ ဥပုသ်နေ့များ၌ တစ်ဥပုသ် နှစ်ဥပုသ်မျှ တရားပွဲများ ထပ်သွားသလား မပြောတတ်၊ ထိုအချိန်တွင် အရှင်ဇနကာဘိဝံသ ဆရာတော်က–

> "ကဲ… ဒကာ ဒကာမတို့၊ ဥပုသ်နေ့များ၌ ဘုန်းကြီး တရားဟောပေးနေတာက ဒီမြို့မှာ ဟောမယ့်သူမရှိသေးလို့ ဟောနေတာ။
>
> အခု မိုးကုတ် ဆရာတော် ဦးဝိမလ မင်္ဂလာတိုက်မှာ ဟောနေပြီလို့ ကြားရတယ်၊ အဲဒီသွားနာကြ၊ ဘုန်းကြီးမှာက ကျမ်းစာပြုစုနေရတဲ့ကိစ္စတွေ ရှိသေးတယ်၊ မအားလပ်ပါဘူး၊ ဒီက ရှေ့ ဘုန်းကြီးရဲ့တရားပွဲကို ရပ်လိုက်တော့မယ်"

ဟု ကြေညာပါတော့သည်၊ ဤသို့လျှင် အမရပူရမြို့မှာ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသနှင့် မင်္ဂလာတိုက်ဟောင်း မိုးကုတ် ဆရာတော် ဦးဝိမလတို့ဟာ တစ်ပါးနှင့် တစ်ပါး ဣဿာ မစ္ဆရိယ မထားဘဲ လေးစားတော်မူကြ၏။

## သက်တူ–ရွယ်တူ ဖြစ်တော်မူကြ

ဆရာတော်(၂)ပါးသည် သက်တူ–ရွယ်တူလည်း ဖြစ်တော်မူကြ၏၊ မိုးကုတ် ဆရာတော် ဦးဝိမလက သက္ကရာဇ် ၁၂၆၁–ခု နတ်တော်လပြည့်ကျော် ၁၁–ရက် (ခရစ် ၁၈၉၉–ခု ဒီဇင်ဘာလ ၂၇–ရက်) ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်သည်။

မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသက သက္ကရာဇ် ၁၂၆၁–ခု တပို့တွဲလပြည့်ကျော် ၁၄–ရက် လကွယ်နေ့ (ခရစ် ၁၉၀၀ပြည့်၊ ဖေဖော်ဝါရီ ၂၇ရက်) အင်္ဂါနေ့တွင် ဖွားမြင်တော်မူသည်။

မိုးကုတ်ဆရာတော်က မဟာဂန္ဓာရုံဆရာတော်ထက် ၂လနှင့် ၂–ရက် ကြီးတော်မူ၏။

ရဟန်းဖြစ်သောအခါတွင်ကား မိုးကုတ် ဆရာတော်က သက္ကရာဇ် ၁၂၈၁–ခု ဝါဆိုလဆန်း ၈–ရက်နေ့၊ မဟာဂန္ဓာရုံ ဆရာတော်က ၁၂၈၀–ခု တပေါင်းလပြည့်နေ့ ဖြစ်ကြ၍ မဟာဂန္ဓာရုံဆရာတော်က လပိုင်းမျှ ကြီးတော်မူပြန်သည်။

ဤသို့လျှင် သက်တူ ရွယ်တူဆရာတော်(၂)ပါး သာသနာတော်မှာ နေလို–လလို ထွန်းကား လူသိများခဲ့ကြ၏၊ တစ်ပါးနှင့် တစ်ပါးလည်း လေးစားတော်မူခဲ့ကြသည်။

## တစ်ဘဝသာသနာ

# မမြင်ရသော အဘိဓမ္မာတရားတွေ

ပကတိ မျက်စိဖြင့် အထင်ကရ မမြင်ရသော ...ဓမ္မာ သဘောတရားတို့ကို မြင်ရသလိုနေအောင် ...ဆစ်–အဆစ်၊ အပိုင်း–အပိုင်း ပြု၍ ဒကာတို့အား ...င်ပေးရသည်မှာ လွယ်ကူလှသည် မဟုတ်ချေ။

"နားလည်ပြီလား၊ မလည်သေးဘူးလား"ဆိုတာ ...အောင် တစ်ဆစ်ချင်း တစ်ဆစ်ချင်း မေးခွန်း မေး ...သေး၏၊ နားလည်ပြီဆိုမှ ရှေ့ကို တက်၍ ပေးသည်၊ ...နည်းအားဖြင့် ဖြည်းဖြည်းချင်း ဟောပေး၏၊ ကြာ ...သော် သဘောပေါက်လာကြရသည်။

အခြေခံအားဖြင့် ပဋိစ္စသမုပ္ပါဒ်သဘောကို ဟော ...ပေးခြင်း ဖြစ်၏၊ ထိုစဉ်က ပဋိစ္စသမုပ္ပါဒ် စက်ဝိုင်း ...သေး၊ အထောက်အကူပြု ခွက်ကလေးများလည်း မရှိသေး၊ နေစရာ တရားဟောပလ္လင်လည်း မရှိသေး။

သို့ဖြစ်၍ တရားဟောပြီ–ဆိုလျှင် အိပ်ခုတင် ပေါ်မှနေ၍ ငုတ်တုတ်ထိုင်ကာ ဟောတော်မူရသည်၊ ပရိသတ်များ ထင်လွယ် မြင်လွယ်အောင် အနီးရှိ ကွမ်းအစ်ထဲမှ ကွမ်းသီးလုံးကလေးများကို ကောက်ယူ ကာ ချပြတတ်၏–

"ဒါက အဝိဇ္ဇာ၊ ဒါက သင်္ခါရ၊
ဒါက ဝိညာဏ်၊ ဒါက နာမ်ရုပ်၊
ဒါက သဠာယတန၊ ဒါက ဖဿ၊
ဒါက ဝေဒနာ..."

စသည်ဖြင့် ခုတင်နှုတ်ခမ်းပေါ်မှာ စဉ်တန်းပြလေ့ ရှိပါသတတ်၊ ဤသို့ ဟောတော်မူခဲ့ခြင်း ဖြစ်သည်။

# စိတ်ရှည်ရှည်နဲ့ ဖြေရှင်းပေးတော်မူ

မျက်မြင်ကိုယ်တွေ့ မြင်ခဲ့ရသော ဦးအေးမောင် က သူ့မြင်ကွင်းကို ဆက်လက်ပြောပြနေပြန်သည်

"အဲဒီလိုနဲ့ ဆရာတော်က မှန်မှန်ဟောလာတာ (၂)လလောက်ကြာတော့ မန္တလေးက စာရေး ဆရာ၊ သတင်းစာ ဆရာ ရွှေဥဒေါင်းကြီးတို့ ရောက်လာကြတယ်။

မျက်စိထဲ မြင်ယောင်နေပါသေးတယ်၊ ဘောင်းဘီအပြာကြီးနဲ့၊ ကုတ်အင်္ကျီကြီးနဲ့၊ မျက် မှန်အနက်ကြီး တပ်လို့၊ တုတ်ကောက်ကြီးနဲ့၊ ဆေးတံကြီးကိုလဲ ပါးစပ်မှာ ခဲလို့၊ ဒါတွေက သူ့ပရိက္ခရာ သူ့အမှတ်အသားတွေကိုး။

အဲဒီတုန်းက ရွှေဥဒေါင်းကြီးရဲ့ အဖော် က ဦးတင်မောင်ကြီးပေါ့၊ သူတို့ ၂–ဦး စပြီး ရောက်လာတဲ့နေ့က နောက်ကျတယ်၊ တရားပွဲ စပြီး ၅–မိနစ်လောက်ကြာမှ ရောက်လာကြ တာ–။

သည်တော့လဲ သူတို့ ၂ဦးကို ထင်း ထင်းကြီးတွေ မြင်နေကြရတော့တာပေါ့။

အဲဒီအချိန်မှာ ဆရာတော်က အိပ်ခုတင် ပေါ်ကနေပြီး ငုတ်တုတ်ထိုင်လျက် တရားဟော နေတာ၊ ပလ္လင်မရှိသေးပါဘူး၊ ဆရာတော်ကလဲ ပလ္လင်ရှိဖို့ မပူဆာပါဘူး။

ဒကာတွေကလဲ အလိုက်မသိသလို ဖြစ် နေသလား မပြောတတ်ဘူး၊ ပလ္လင်လုပ်မပေးကြ ဘူး၊ အဲလိုနဲ့ ဆရာတော်ဟာ အိပ်ခုတင်ပေါ် ငုတ်တုတ်ထိုင်၊ ခုတင်နှုတ်ခမ်းသားပေါ်မှာ ကွမ်း သီးလုံးကလေးတွေစီချပြီး တရားဟောနေတာပဲ။

အဲဒီနောက် တရားပွဲပြီးတော့ ပရိသတ် တွေ ပြန်ကုန်ကြတယ်၊ ရင်းနှီးတဲ့သူအနည်းငယ်

မျှပဲ ကျန်တယ်၊ အဲဒီမှာ သူတို့ ၂–ယောက်က မရှင်းလင်းတာ ဆက်မေးကြတယ်၊ ဆရာတော်ကလဲ စိတ်ရှည်ရှည်နှင့် ဖြေပေးပါတယ်။

ဒါတောင် သူတို့က မယုံချင်သလိုလို အမူအရာတွေ ပြနေကြသတဲ့၊ ဒီတော့ ဆရာတော်က "ကျုပ်က (၅)နှစ် ငါးနှစ် အားထုတ်ပြီးမှ ဟောတာပါဗျ"ဟု မိန့်တော်မူပါတော့သတတ်။

## ဒီတရားက လူတိုင်းနှင့် မဆိုင်

အဲဒီနေ့က ဟောတဲ့တရားကိုလဲ မှတ်မိနေပါသေးတယ်၊ ဗိုတို ကျဉ်းကျဉ်းနဲ့ တရား ရသွားတဲ့ နာမည်ကျော် ဒါရုစိရိယအကြောင်းပဲ။

ဒိဋ္ဌေ ဒိဋ္ဌမတ္တံ၊
သုတေ သုတမတ္တံ၊
မုတေ မုတမတ္တံ၊
ဝိညာတေ ဝိညာတမတ္တံ။

မြင်ရင် မြင်ကာ မတ္တ ရပ်ထား၊
ကြားရင် ကြားကာမတ္တ ရပ်ထား၊
နံတာ စားတာ ထိတာတို့လဲ အတူတူ၊
သိရင်လဲ သိကာမတ္တမျှ ရပ်ထား။

ဆိုတဲ့တရားကို ဟောနေတာ၊ ရွှေဥဒေါင်းက သဘောတွေ ကျလွန်းလို့တဲ့၊ မှတ်စုစာအုပ်ကြီးနဲ့ ရေးတယ်မှတ်တယ်၊ "ဒီတရား ကောင်းတယ်"တဲ့၊ ပါးစပ်ကလဲ ပြောသေးတယ်။

ဆရာတော်က ဆက်လက်မိန့်တယ်– "အေး... ဒီတရားကို ရှုတာက သမထမပါဘူး၊ ပညာနဲ့ တန်းတက်သွားတာ၊ ဒီလိုလူမျိုးက သိပ်မများဘူး၊ ဘုရားလက်ထက်မှာတောင် ၂–ယောက်၊ ၃–ယောက်လောက်ပဲ ရှိတာ။

သူတို့တွေက ဟိုတစ်ချိန်တုန်းက မြင့်မားမတ်စောက်တဲ့ တောင်ကလာပ်ပေါ် လှေကားနဲ့ ယောင်တက်၊ ပြီးတော့ လှေကား ဖြုတ်ချ၊ "သေ–မြေကြီး၊ ရှင်–ရွှေထီး"သဘောမျိုး အပြတ်အသတ် အားထုတ်ခဲ့ကြတာ။

အဲဒါကြောင့် သူတို့ ရှုလို့ ရတာ၊ အခုခေတ်လူတွေနဲ့ မဆိုင်ဘူး၊ မဆိုင်ဘဲနဲ့ ဘာလို့ ဟောတုံးဆိုရင် ဗဟုသုတဖြစ်အောင်လို့ ဟောတာ။

အဲဒီဟောပြောချက်တွေကို သူတို့က ပြန်ပြီးဆင်ခြေတက်နေကြတယ်၊ ဆရာတော်ကလဲ တရားပွဲပြီးလို့ ကွမ်းကလေးတစ်ယာ ငုံမယ်လို့ရှိသေး၊ လက်ထဲမှာ ကွမ်းယာကလေးကိုင်လို့၊ မစွဲ့သေးဘူး၊ သူတို့မေးတာတွေကို ဖြေရှင်းပေးနေပါတယ်။

အဲဒီအထဲ ကိုတင်မောင်ကြီးရဲ့ မေးပုံ မေးနည်းကို ဘေးကလူတွေက မကြိုက်ကြဘူး၊ သက်သက်ကတ်သီးကတ်သတ် လုပ်နေတာ၊ ရိုက်ချင်လှပြီ၊ မျက်ထောင့်တွေတောင် နီလာကုန်ပြီ၊ ဆရာတော်ကို ငဲ့နေကြလို့"ဟူ၍ ပြန်လည် ပြောပြပါ၏။

## တစ်ဘဝသာသနာ

# တဖြည်းဖြည်းနဲ့ ပရိသတ်တွေ များ၍လာ

ဤနည်းအားဖြင့် ၁၃၁၄–ခုနှစ် ဆောင်းကုန်၍ ...ပါက် (၁၉၅၃–ခု မတ်လ)လောက် ရောက်သော ...ပရိသတ်တို့မှာ အလွန် များပြားနေလေပြီ၊ လူ့ ...တင်း လူချင်းဆောင်ကာ ရောက်လာကြ၏၊ ဆရာ ...တော်ကြီး ဦးဝိမလ ဟောပြသောတရားမှာ ရှင်းလှသည်၊ ...က်တွေ့လည်း ဆန်း၏၊ ကျင့်ကြံမှုလည်း ပါသည်။

"သောတာပန် သကဒါဂါမ် စတဲ့ အရိယာတွေဟာ ဘုရားလက်ထက်မှာသာ ရှိနိုင်သလားလို့ ဟိုတုန်းက အောက်မေ့ခဲ့တာ၊ အခုတော့ ဆရာတော် ဦးဝိမလ ဟောပြချက်အရ ဆိုရင် အခုခေတ်မှာလဲ ရှိနိုင်တယ်ဆိုပဲ့လား။

သောတာပန် သကဒါဂါမ် စတဲ့အရိယာတွေ ဖြစ်နိုင်တယ်–တဲ့၊ နည်းမှန် လမ်းမှန်နဲ့ ကျင့်ရင် ကျင့်သလို ဖြစ်နိုင်တယ်–တဲ့၊ ဝမ်းသာစရာကြီးပဲ၊ အားတက်စရာကြီးတွေပေါ့"

တရားနာ ပရိသတ်တို့အထဲမှ ပွင့်အန်လာသော အသံတို့ဖြစ်သည်၊ ဟုတ်ပါ၏။ အစက ဤသို့ပင် ထင်မှတ်ခဲ့ကြသည်၊ "ယခု ရနေတဲ့ဘဝဆိုတာ ပါရမီဖြည့်ဖို့သက်သက်လောက်သာ ပေါ်ပေါက်လာတာ၊ တရားရဖို့ မဟုတ်သေး၊ နောက်ဘုရားလက်ထက်ကျမှ ရမှာ"ဟု အောက်မေ့နေခဲ့ကြသည်၊ ယခု ကြားရသည်ကား အားတက်စရာကြီး ဖြစ်တော့၏။

# ပါရမီတွေနဲ့ ခြောက်လှန့်ထား

ဤသို့ဖြစ်နေကြရသည်မှာ ပုဂံခေတ်တွင် မဟာ...ယာနဂိုဏ်း လွှမ်းမိုးခဲ့ရာမှ အငွေ့အသက်များ မကုန်ဘဲ ...န်နေခဲ့သောကြောင့် ဖြစ်သည်၊ မဟာယာနဂိုဏ်း၏ ...ဒမှာ ယောက်ျားတိုင်းပင် ဘုရားလောင်းဖြစ်ကြ၏၊ ...ရားဆုကို တောင်းကြရ ဘုရားဆုကို ပန်ကြရသည်။

ထို့ကြောင့် ပုဂံခေတ်ကောင်းမှုကျောက်စာများကို ...ကြည့်လျှင် ကျောက်စာတိုင်းလိုလိုပင် "ပုဂ္ဂိုလ်ဘုရား ...လိုသောဝ်" (ဘုရားဖြစ်ရပါလို၏)ဟူ၍ချည်း ဆု...င်းထားကြသည်ကို တွေ့ရမည်၊ ဘုရားဖြစ်လိုသူ...ျ ပါရမီ(၁၀)ပါးကို ဖြည့်ကြရမည် ဖြစ်၏၊ ထို့...င့်–

ဒါနံ သီလဥ္စ နေက္ခမ္မံ၊
ပညာ ဝီရိယ ပဥ္စမံ။

စသည်ဆိုကြပြီးလျှင် ဦးစွာ ပထမ ဒါနပါရမီကို ဖြည့်ရမည်။ ပြီးတော့ သီလပါရမီ၊ အဲဒီနောက်တော့ နေက္ခမ္မ (ကာမဂုဏ်နယ်ပယ်မှ ထွက်မြောက်တဲ့)ပါရမီ၊ ပြီးတော့ ပညာပါရမီ၊ ဝီရိယပါရမီ စသည် ဆယ်ပါး ဖြည့်ကြရမည်။

"ဒါတွေ ပြည့်တော့မှ သစ္စာတရားတွေ သိပြီး နိဗ္ဗာန်ရမည်"လို့ သိထားတော့ အဲဒီပါရမီတွေကလည်း မပြည့်သေး၊ ဒါ့ကြောင့် "ယခုဘဝဟာ တရားရနိုင်တဲ့ဘဝ မဟုတ်သေး"လို့ ထင်မှတ်နေခဲ့ကြ၏၊ ဤသို့လျှင် ပါရမီတွေနဲ့ ခြောက်လှန့်နေခဲ့ကြ၍ စိတ်ဓာတ်တွေ ဆုတ်နစ်နေခဲ့ကြရသည်။

"ပါရမီ"ဆိုတာ ဘယ်လို ပုဂ္ဂိုလ်မျိုးအတွက် ဖြည့်ဖို့လိုသလဲ လို့ မခွဲခြားနိုင်ခဲ့ကြ၍ ယောင်တီးယောင်တ ဖြစ်ခဲ့ကြရသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဆုကြီးပန်နဲ့ ရိုးရိုးနဲ့ မကွဲဘဲဖြစ်နေ

အမှန်မှာကား "ပါရမီ"ဆိုတာ ဆုကြီးပန်တွေအတွက်သာ ဖြစ်သည်၊ သမ္မာသမ္ဗုဒ္ဓအတွက်၊ ပစ္စေကဗုဒ္ဓါအတွက် ပါရမီလိုတယ်၊ လက်ယာတော်ရဲ လက်ဝဲတော်ရဲ အဂ္ဂသာဝကအတွက် ပါရမီ လိုတယ်၊ မဟာသာဝက အသီတိသာဝကတွေအတွက်လဲ ပါရမီ လိုတယ်။

ရိုးရိုးပကတိသာဝကတွေအတွက် ပါရမီ မလို၊ (နိဗ္ဗာန် ရမယ်ဆိုရင် ဘယ်အချိန် ရရ ယူမယ်ဆိုတဲ့) ရိုးရိုးပကတိသာဝကတွေအတွက် ပါရမီက ပြည့်နေပြီ၊ နောက်ထပ် ဖြည့်နေဖို့မလို။

ဤအချက်ကို မကွဲဘဲ ဖြစ်နေကြသည်၊ ရှေ့ဘက်က ဖော်ပြခဲ့ပြီး ပုဂ္ဂိုလ်ကြီးများနှင့် ရောနေ၏၊ ထို့ကြောင့်လည်း "ဒီဘဝဟာ တရားရနိုင်တဲ့ဘဝ မဟုတ်သေးဘူး" လို့ ကိုယ့်ကိုယ်ကို ထင်နေခဲ့ကြသည်၊ လျှော့တွက်ခဲ့ကြသည်။

အို... ယောဂီ၊ ဘုရားလက်ထက်က ပုနဗ္ဗသုမာတာ၊ ပိယင်္ကရမာတာဆိုတဲ့ ဆင်းရဲမွဲတေနံ့ချာလှတဲ့ ပြိတ္တာမကလေး သောတာပန် ဖြစ်ရ၏၊ သုပ္ပဗုဒ္ဓကုဋ္ဌိ (အနူကြီး) သောတာပန်ဖြစ်သွားရ၏၊ ဇေတဝန်ကျောင်းတိုက်ထဲသို့ ဘုရားကိုယ်တော်မြတ်ကြီး တရားဟောနေချိန်တွင် ယောင်လည် ယောင်လည်နဲ့ ရောက်လာကြတဲ့ ခါးပိုက်နှိုက် (၂)ဦးအနက် တစ်ဦး သောတာပန်ဖြစ်သွားရသည်၊ သူတို့တွေဟာ အသင်ယောဂီတို့ထက် ပါရမီတွေ ပြည့်စုံနေလို့ တရားရသွားကြတယ် ဆိုဦးမလား။

## သောတာပန်ဖြစ်ရန် အင်္ဂါ၄ပါး

သောတာပန်ဖြစ်ချင်ရင် အင်္ဂါလေးချက်နှင့် ညီညွတ်အောင် နေထိုင်ရမယ်၊ ကျင့်သုံးရမယ်လို့ မြတ်စွာဘုရားကိုယ်တော်တိုင် ဟောထားတာ ရှိသားပဲ၊ အင်္ဂုတ္တိုရ်ပါဠိတော်မှာ ပါတယ်။

စတ္တာရိမာနိ ဘိက္ခဝေ သောတာပတ္တိယင်္ဂါနိ၊ ကတမာနိ စတ္တာရိ၊ (က) သပ္ပုရိသသံသေဝေါ၊ (ခ) သဒ္ဓမ္မဿဝနံ (ဂ) ယောနိသောမနသိကာရော၊ (ဃ) ဓမ္မာနုဓမ္မပဋိပတ္တိ။

(အင်္ဂုတ္တိုရ်ပါဠိစတုက္က။)

၁။ သပ္ပုရိသသံသေဝေါ=သူတော်ကောင်းနှင့် ပေါင်း၊

၂။ သဒ္ဓမ္မဿဝနံ=သစ္စာတရားမျိုးကို ရွေး၍နာ၊

၃။ ယောနိသော မနသိကာရော=မှန်မှန်ကန်ကန် ကြံဆ၊ ဆင်ခြင်နှလုံးသွင်း၊

၄။ ဓမ္မာနုဓမ္မပဋိပတ္တိ=ရနိုင်လောက်အောင် ဖွဲ့သန်သန်ဖြင့် အားထုတ်။

[ဆောင်]

သူတော်ဆည်းကပ်၊ မြတ်တရားနာ၊
လျော်စွာနှလုံး၊ ကျင့်သုံးဖွဲ့သန်၊
သောတာပန်၊ ဖြစ်ရန်အကြောင်းလေး။

## တစ်ဘဝသာသနာ

# သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာဖြစ်နိုင်သော အင်္ဂါများ

သောတာပန် ဖြစ်ဖို့အတွက် အင်္ဂါ၄-ချက်နှင့် ညီရမယ်လို့ သိခဲ့ရပြီးပြီ၊ သကဒါဂါမ် အနာဂါမ် ရဟန္တာဆိုတဲ့ အထက် အဆင့်တွေကို ရဖို့ သီးသန့် နောက်ထပ် အင်္ဂါရပ်တွေ ပြည့်စုံရဦးမည်လား-ဟု ဉ်းစားစရာဖြစ်၏၊ ထို့ကြောင့် မြတ်စွာဘုရားက ဤသို့ ဟောတော်မူခြင်းဖြစ်သည်-

စတ္တာရောမေ ဘိက္ခဝေ ဓမ္မာ ဘာဝိတာ ဗဟုလီကတာ သောတာပတ္တိဖလ သစ္ဆိကိရိယာယ သံဝတ္တန္တိ၊ သကဒါဂါမိဖလ သစ္ဆိကိရိယာယ သံဝတ္တန္တိ၊ အနာဂါမိဖလ သစ္ဆိကိရိယာယ သံဝတ္တန္တိ၊ အရဟတ္တဖလ သစ္ဆိကိရိယာယ သံဝတ္တန္တိ၊ ကတမေ စတ္တာရော?

- သပ္ပုရိသသံသေဝေါ၊
- သဒ္ဓမ္မဿဝနံ၊
- ယောနိသော မနသိကာရော၊
- ဓမ္မာနုဓမ္မပဋိပတ္တိ။

[မဟာဝဂ္ဂသံယုတ်ပါဠိ-၃၀၅]

အထက်အဆင့်တွေ၊ အထက်မဂ်ဖိုလ်တွေ ရဖို့ အတွက် သီးသန့်နောက်ထပ်အင်္ဂါရပ်တွေ မရှိ၊ ဆိုခဲ့ပြီး အင်္ဂါလေးပါးနှင့်အညီ-

(၁) သူတော်ကောင်းနှင့်ပေါင်းသင်း၊
(၂) သစ္စာတရားမျိုးကို ရွေး၍နာကြား၊
(၃) နည်းမှန် လမ်းမှန် ကြံဆနှလုံးသွင်း၊
(၄) ရနိုင်လောက်အောင် ဖွဲသန်သန်ဖြင့် အားထုတ်၊

ဤအင်္ဂါရပ်လေးပါးနှင့် ညီညွတ်ဖို့ပင် လိုသည်ဟု ဆို၏၊ ညီညွတ်လျှင် အထက်မဂ်ဖိုလ်တွေကိုလည်း ရနိုင်သည် ဟု မိန့်မြွက်ထားပြီ။ အထက်မဂ်ဖိုလ်တွေ ရဖို့ အတွက် သီးသန့်အင်္ဂါရပ်တွေ နောက်ထပ် မတိုး၊ ဤ အင်္ဂါရပ်များနှင့်ညီအောင် ကျင့်သုံးကြိုးစားပါ၊ ဤတရား များကိုပင် ထပ်မံရှုပွားပါဟု ဆိုလိုသည်။

# စတင်အားထုတ်သူ၏ လုပ်ငန်းစဉ်

မြတ်စွာဘုရား သာဝတ္ထိဇေတဝန်မှာ သီတင်းသုံး ာ်မူခိုက် ဖြစ်၏၊ အရှင် ဗာဟိယ ကိုယ်တော်က ဘပည့်တော် တရား ရနိုင်လောက်အောင် တရား လေးတစ်ပုဒ် အကျဉ်းချုပ် ဟောပေးတော်မူပါဘုရား" ၍ တောင်းပန်သည်၊ ထိုအခါတွင် မြတ်စွာဘုရားက ဦးအစ ယခုမှစတင်အားထုတ်သူအတွက် အစီအစဉ် ်တကွ ဟောပြတော်မူ၏-

* "တသ္မာတိဟ တွံ ဗာဟိယ အာဒိမေဝ ဝိသောဓေဟိ ကုသလေသု ဓမ္မေသု၊ ကောစာဒိ ကုသလာနံ ဓမ္မာနံ၊ သီလဉ္စ သုဝိသုဒ္ဓံ ဒိဋ္ဌိ စ ဥဇုကာ"

"ဗာဟိယ ... ထိုသို့ တရားရလိုလျှင် သင်သည် ကုသိုလ်တရားတို့၌ ဦးစွာ အစ ဖြူလွှ စင်ကြယ်အောင် သုတ်သင်ပါဦး၊ ကုသိုလ် တရားတို့၏ ဦးစွာအစဆိုသည်ကား အဘယ် နည်း ..."

(၁) သီလစင်ကြယ်ရခြင်းနှင့်
(၂) အယူဖြောင့်မှန်ခြင်းတို့ဖြစ်၏။

"ယတော စခေါ တေ ဗာဟိယ သီလဉ္စ သုဝိသုဒ္ဓံ ဘဝိဿတိ ဒိဋ္ဌိ စ ဥဇုကာ၊

* မဟာဝဂ္ဂသံယုတ်ပါဠိ၊၁၄၃

တတော တွံ့ ဗဟိယ သီလံ နိဿာယ သီလေ ပတိဋ္ဌာယ စတ္တာရော သတိပဋ္ဌာနေ ဘာဝေယျာသိ”

ဗာဟိယ... သီလက အလွန် စင်ကြယ်၍၊ အယူကလည်း ဖြောင့်မှန်ပြီဆိုလျှင်၊ သီလကို အမှီပြု၍ သီလကို လုံခြုံစေလျက် သတိပဋ္ဌာန်လေးပါး (တစ်ပါး ပါး)ကို ပွားများအားထုတ်ရာ၏။ပေ။ ဤသို့ပွားများ ပါလျှင် ကုသိုလ်တရားတို့၌ တိုးတက်ဖို့သာ ရှိတော့၏၊ ဆုတ်ယုတ်ဖို့ မရှိတော့။

## အဆင့်တွေ ကျော်တက်၍ မရနိုင်

အရှင်ဥတ္တိယရဟန်းက ဤသဘောမျိုး သွား၍ တောင်းပန် လျှောက်ထားရာတွင်လည်း ဤလမ်းစဉ် အတိုင်းပင် ဘုရားရှင်က ဟောပြတော်မူသည်၊ ထိုမှ တဖြာ တစ်ခါတုန်းက အညတရ ရဟန်းတစ်ပါး သွား၍ လျှောက်ထားစဉ်ကလည်း ဤနည်းဤလမ်းစဉ် ကိုပင် ဟောပြတော်မူ၏။

ထို့ကြောင့် တရားရချင်သူများ အလောတကြီး ဖြင့် အဆင့်ကျော်တက်ချင်၍မရ၊ အစဉ်အတိုင်း အခြေခံ မှစ၍ ပြည့်စုံစေရပါမည်၊ သို့ဖြစ်၍ နံပါတ်(၁) အင်္ဂါ အတွက် “သီလစင်ကြယ်ရမယ်”ဆိုတာ ရှင်းပါ၏။

လူလဲ လူ့သီလ လုံခြုံရမည်၊ အနည်းဆုံး ငါး ပါး သီလ လုံရမည်၊ သီလရှင်ဆိုလျှင် (၈)ပါး၊ သာ မဏေ ဆိုလျှင် (၁၀)ပါး လုံကြရမည်၊ ရဟန်းဆိုလျှင် အကျဉ်းအားဖြင့် (၂၂၇)သွယ်၊ အကျယ်ဆိုလျှင် ကုဋေ ကိုးထောင်ကျော်လုံစေရမည်၊ ဤအတွက် ရှင်းပါ၏။

နံပါတ်(၂)အင်္ဂါအတွက် (ဒိဋ္ဌိစ ဥဇုကာ) “အယူ ဖြောင့်မှန်ရမယ်”ဆိုတာ ဘယ်လိုဖြောင့်မှန်ရမှာလဲ။ ဒိဋ္ဌိစင်ကြယ်ရမှာကို ဆိုလိုသည်။

## အရေးကြီးတဲ့ ဒိဋ္ဌိသုံးမျိုး

ဒိဋ္ဌိသည် သမ္မာဒိဋ္ဌိနှင့် မိစ္ဆာဒိဋ္ဌိဟူ၍ (၂)မျိုးရှိ၏၊ [သမ္မာ=မှန်ကန်သော၊ ဒိဋ္ဌိ=အမြင်၊ မိစ္ဆာ=မှားယွင်းသော၊ ဒိဋ္ဌိ=အမြင်] ထို၂-မျိုးတွင် ဤနေရာ၌ မိစ္ဆာဒိဋ္ဌိကို ဖော်ပြပါမည်။

မိစ္ဆာဒိဋ္ဌိအမျိုးအစား (၆၂)ပါး ရှိ၏၊ ယင်း၆၂- ပါးတို့ကို ချုံးလိုက်လျှင် သဿတဒိဋ္ဌိ၊ ဥစ္ဆေဒဒိဋ္ဌိ သက္ကာယဒိဋ္ဌိ၊ ဤ(၃)မျိုးတွင် အကုန် အကျုံးဝင်ကြ သည်၊ [၆၂-ပါးကို နောက်ဆက်တွဲတွင် လေ့လာပါ၊ ဤနေရာ၌ ၃-မျိုးသာလျှင် ဖော်ပြပါမည်။]

၁။ သဿတဒိဋ္ဌိ= ခိုင်သည် မြဲသည်ဟု ယူဆသော ဒိဋ္ဌိ။

၂။ ဥစ္ဆေဒဒိဋ္ဌိ= ပျက်စီးပြီးလျှင် လုံးဝ ပြတ်သွားသည်ဟု ယူဆသော ဒိဋ္ဌိ။

၃။ သက္ကာယဒိဋ္ဌိ=အစစ်အမှန် ရှိသော သက္ကာယအပေါ်၌ အစစ်အမှန်မရှိသော ပညတ်များ တင်စား၍ ထင်မှားနေသော ဒိဋ္ဌိ။

## တစ်ဘဝသာသနာ

## ဒိဋ္ဌိသုံးမျိုးရဲ့ သဘောအစိပ္ပာယ်

အကျယ်ချဲ့၍ ပြောပါဦးမည်၊ မိမိတို့မှာ ခန္ဓာ ငါးပါးရှိကြ၏၊ ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာတို့ ဖြစ်ကြသည်။

ဤခန္ဓာငါးပါးကို ချုံးလိုက်လျှင် ရုပ်နှင့် နာမ် ၂-ပါးသာ ဖြစ်သွား၏၊ ထို့ကြောင့် ရုပ်နာမ်၂-ပါး ဆိုတာနဲ့ ခန္ဓာငါးပါးဆိုတာ အတူတူပင် ဖြစ်သည်။

(၁) အချို့က ယူဆကြသတဲ့၊ ဤရုပ်နာမ်၂ပါး၊ ခန္ဓာငါးပါးကြီး ပျက်စီးသွားပြီဆိုလျှင် ရုပ်ခန္ဓာကြီးက ... န်ရစ်၏၊ မြေမြှုပ်ရ၏၊ မီးရှို့ရ၏၊ ရေမျှောရ၏။

နာမ်ခန္ဓာတွေကတော့ ထိုသို့ အပြုမခံ၊ ဆိုင်ရာ ... သို့ ကူးသွားကြသည်၊ အထူးအားဖြင့် ဝိညာဏ်ဆိုတဲ့ ... ကလေးက ဆိုင်ရာဘဝသို့ ကူးပြောင်းသွားသည်ဟု ... ဆကြ၏။

သို့ဖြစ်လျှင် ဝိညာဏ်ကလေးက မသေဘဲ မြဲ နေသည်ဟု အဓိပ္ပာယ်ရောက်နေသည်၊ ထိုသို့ မြဲနေသည် ခိုင်နေသည်ဟု ယူဆလျှင် သဿတဒိဋ္ဌိ ဖြစ်နေပြီ။ [သဿတ=ခိုင်မြဲနေသော၊ ဒိဋ္ဌိ=အမြင်၊ အယူအဆ။]

(၂) အချို့ပုဂ္ဂိုလ်တို့ကား ရုပ်နာမ်၂-ပါး၊ ခန္ဓာ ငါးကြီး ပျက်စီးသွားလျှင် (ဝါ) သေသွားလျှင် ... ပြီ၊ နောက်ထပ် အဆက်အစပ်မရှိ၊ သည်တစ်ဘဝ ... ပဲ၊ သစ်ရွက်ကလေးတွေ ရင့်၍ ဝါရော်လာပြီး ကြွေကျသွားလျှင် နောက်ထပ် ပြန်ပြီး မစိမ်းစိုတော့၊ ခြောက်သွေ့ပြတ်တောက်သွားတော့သည်။

ထို့အတူ ဤပုဂ္ဂိုလ်သည်လည်း ဘယ်ဘဝသို့မျှ ကူးပြောင်းသွားသည်မရှိ၊ သည်ဘဝပြီး၍ ပြတ်စဲသွားပြီ၊ နောက်ထပ်အဆက်အစပ်မရှိ၊ ဤသို့ယူဆစွဲမြဲနေလျှင် ဥစ္ဆေဒဒိဋ္ဌိဖြစ်နေပြီ။ [ဥစ္ဆေဒ=ပြတ်စဲသွားသော၊ ဒိဋ္ဌိ= အမြင်၊ အယူအဆ။]

(၃) နောက်တစ်မျိုးကား ရုပ်နာမ်၂ပါး၊ ခန္ဓာ ငါးပါးကြီးသည် ပရမတ္ထအားဖြင့် တကယ်အစစ်အမှန် ရှိ၏၊ ထို့ကြောင့် အဲဒီရုပ်နာမ်၂-ပါး ခန္ဓာငါးပါးကို ပါဠိလို "သက္ကာယ"ဟု ခေါ်ရသည်။

သန္တော ကာယော သက္ကာယော။ [သန္တော- ပရမတ္ထအားဖြင့် တကယ်အစစ်အမှန် ထင်ရှားရှိသော၊ ကာယော-ရုပ်နာမ်အပေါင်းတည်း၊ သက္ကာယော-ပရမတ္ထအားဖြင့် တကယ် အစစ်အမှန် ထင်ရှား ရှိသော ရုပ်နာမ်အပေါင်း။]

သက္ကာယေ+ဒိဋ္ဌိ=သက္ကာယဒိဋ္ဌိ။ [သက္ကာယေ- ပရမတ္ထအားဖြင့် တကယ်အစစ်အမှန် ထင်ရှားရှိသော ရုပ်နာမ်အပေါင်း၌၊ ဒိဋ္ဌိ-အထင်မှား အမြင်မှား ဖြစ်နေခြင်းတည်း၊ သက္ကာယဒိဋ္ဌိ-ပရမတ္ထအားဖြင့် တကယ် အစစ်အမှန် ထင်ရှား ရှိသော ရုပ်နာမ်အပေါင်း၌ + အထင်မှား အမြင်မှား ဖြစ်နေခြင်း။]

## အထင်မှားနေကြပုံများ

"ဘယ်လို အထင်မှား အမြင်မှား ဖြစ်နေကြ ..."ဆိုလျှင် ငါမဟုတ်ဘဲလျက် ငါထင်၊ သူမဟုတ်ဘဲ ... သူထင်၊ ယောကျ်ားမဟုတ်ဘဲလျက် ယောကျ်ား မိန်းမ-မဟုတ်ဘဲလျက် မိန်းမထင်ခြင်းများသည် ... ထင်မှား အမြင်မှားများ ဖြစ်ကြ၏။

ပုဂ္ဂိုလ် သတ္တဝါ ငါ သူတပါး၊ ယောကျ်ား မိန်းမ လူ နတ် ဗြဟ္မာ စတဲ့ နာမည်တွေ၊ မောင်ဖြူ မောင်နီ မောင်ညို၊ မပု မအု မနု စတဲ့နာမည်တွေဟာ ပညတ်တွေပဲ၊ အဲဒီပညတ်တွေဆိုတာ အပေါ်က တင် ထားတဲ့ ဆိုင်းဘုတ်တွေမျှသာ ဖြစ်တယ်၊ တကယ်

အစစ်အမှန် မရှိပါဘူး၊ တကယ်အစစ်အမှန်ရှိတာက ရုပ်နာမ်၂–ပါး၊ ခန္ဓာငါးပါးမျှသာဖြစ်တယ်။

အဲဒီ တကယ် အစစ်အမှန် ရှိတဲ့ ရုပ်နာမ် ခန္ဓာ သက္ကာယအပေါ်မှာ တကယ်အစစ်အမှန်မရှိတဲ့ နာမည် ပညတ်တွေ တင်စားပြီးတော့ တင်စားတဲ့ အတိုင်း ထင်မှားနေကြတာက ဒိဋ္ဌိ။

သက္ကာယနဲ့ ဒိဋ္ဌိနဲ့ ပေါင်းတော့ သက္ကာယဒိဋ္ဌိ ဖြစ်သွားတာပေါ့၊ သူဟာ နယ်အကျယ်ဆုံးပဲ၊ အကုန်လုံး ကို ချုံးလိုက်ရင် သက္ကာယဒိဋ္ဌိတစ်လုံးပဲ ဖြစ်သွားတော့ တယ်။

ငါမဟုတ်ဘဲနဲ့ ငါထင်နေတာ၊ သူမဟုတ်ဘဲနဲ့ သူထင်နေတာတွေဟာ သက္ကာယဒိဋ္ဌိ ဖြစ်နေတာပေါ့ ယောကျ်ား မဟုတ်ဘဲနဲ့ ယောကျ်ားလို့ ထင်၊ မိန်းမ မဟုတ်ဘဲနဲ့ မိန်းမလို့ ထင်နေတာလဲ သက္ကာယဒိဋ္ဌိပဲပေါ့

# ခတ်သားပေါ်တွင် အရိပ်ထင်သို့

အမှန်က ရုပ်နာမ်၂–ပါး၊ ခန္ဓာငါးပါးမျှသာရှိတာ၊ ငါ–သူ၊ ယောကျ်ား–မိန်းမ၊ သား သမီး မြေး မြစ်၊ တူ တူမ စသည် မရှိပါဘူး၊ မရှိဘဲလျက် အထင်မှားနေ ကြတာ။

ရှိတဲ့အပေါ်မှာ မရှိတာတွေ တင်စားပြီး ထင်မှား တာပေါ့၊ အဲဒါဟာ သက္ကာယဒိဋ္ဌိပဲ။

တရားအားထုတ်တဲ့သူဟာ အဲဒီ ဒိဋ္ဌိတွေကို ဦးစွာ ပထမ အသိဉာဏ်နဲ့ (ဥဒတပရိညာနဲ့) ဖယ်ရှား ပါဦး–တဲ့၊ ပြီးမှ တရားအားထုတ်ပါ–တဲ့။

မဖယ်ရှားဘဲနဲ့ ဒိဋ္ဌိတွေ တန်းလန်းကြီးနဲ့ အား ထုတ်နေလို့ကတော့ ဘယ်နည်းနဲ့မှ မဂ်ဖိုလ်မရနိုင်ပါ ဘူး–တဲ့။

"ဒိဋ္ဌိ မဂ္ဂါခိဂမဿ နီဝရဏံ"ဆိုတဲ့အတိုင်း ဒိဋ္ဌိအယူသည် မဂ်ရဖို့ လမ်းခရီးမှာ အဟန့်အတားပဲ။

လူတစ်ယောက်ကို ခတ်ပုံ ရိုက်လို့ ထင်လာတဲ့ အရုပ်ဟာ အလင်းတို့ အမှောင်တို့ အရောင်တို့နဲ့ အချိုးအဆ ညီမျှစွာ ပေါင်းစပ်ပြီးတော့ အစက်အပြောက် ကလေးပေါင်း များစွာတို့ဖြင့် တည်ဆောက်ထားတာ ဖြစ်တယ်။

လူတစ်ယောက်၏ မျက်နှာပြင် တစ်ကွက်ပေါ်မှာ ပင် အစက်ကလေးပေါင်း များစွာ အပြောက်ကလေး ပေါင်း များစွာတို့ဖြင့် ပေါင်းစပ်ပြီး ပုံဖော်ထားတာပါ၊ ဒီတော့ အမှန်ရှိတာက အစက်အပြောက်ကလေးတွေ မျှသာ ရှိပါတယ်။

အဲဒီအစက်အပြောက်ကလေးတွေကို မြင်အောင် ကြည့်နိုင်ရင် ယောကျ်ားပုံ မိန်းမပုံ မရှိတော့ပါဘူး၊ အစက်အပြောက်ကလေးတွေသာလျှင် ရှိပါတော့တယ်။

ထို့အတူ မျက်နှာခေါင်းခါး ခြေလက်ပုံသဏ္ဌာန် တို့လဲ မရှိတော့ပါဘူး၊ အစက်အပြောက်ကလေးတွေပဲ ရှိပါတော့တယ်။

အစက်အပြောက်ကလေးတွေ စုပေါင်းထားတာ ကိုပဲ "ဒါ– ယောကျ်ား၊ ဒါ– မိန်းမ"လို့ သတ်မှတ်ပြ တာ၊ သမုတ်ပြတာ၊ ပညတ်ပြတာပဲ ရှိတယ်၊ တကယ် ယောကျ်ား မိန်းမ ပုဂ္ဂိုလ် သတ္တဝါ မရှိပါဘူး။

အဲဒီလို စိတ်ဖြာပြီးကြည့်နိုင်လျှင် သက္ကာယဒိဋ္ဌိ စင်နိုင်တော့တာပဲ။

# ပရိသတ်နှင့် အမေး–အဖြေပြု ဟောနည်း

မိုးကုတ် ဆရာတော်ကြီး တရားဟောတဲ့အခါ ပရိသတ်နှင့် အမေး–အဖြေပြုပြီး ဟောတော်မူလေ့ရှိ၏၊ ဤသို့ဟောတော်မူသည်ကို အချို့က မနှာတတ်ဟု ဆိုကြသည်၊ "ဘာတွေမှန်းလဲ မသိဘူး၊ အသံတွေ ဝေါဝေါနဲ့၊ ဘုန်းကြီးတစ်ဝက် လူတစ်ဝက်" တဲ့၊ ဤသို့ ပြောတတ်ကြ၏။

မိုးကုတ် ဆရာတော်ကြီးကမူ "အရှင်နန္ဒက၏ နည်းကို အတုယူပြီး ဟောတာပါ"တဲ့၊ ဤသို့ မိန့်တော်မူသည်။

ဘုရားရှင် လက်ထက်တော်တုန်းက "အရှင်နန္ဒက" မည်သော ရဟန္တာတစ်ပါးရှိ၏၊ ဘိက္ခုနီမများအား အလှည့်ကျတရားဟောကြရသည်၊ အရှင်နန္ဒက၏ အလှည့်သို့ရောက်သောအခါ တရားပလ္လင်ပေါ်ကနေ၍ ဤသို့ မိန့်၏–

"ကဲ . . . နမတို့၊ အခု ငါတရားဟောတော့မယ်၊ ဟောတဲ့အခါ ငါက မေးခွန်းမေးမယ်၊ သင်တို့တွေက ဖြေကြ၊ သဘောပေါက်သလို လွတ်လွတ် လပ်လပ် ဖြေကြ"

ဟု နိဒါန်းပျိုးပြီးလျှင် လွတ်လပ်မှုကို ဖွင့်ပေးကာ စ၍ဟောတော်မူတော့၏၊ ဟောဟန်ကား–

"ရုပ်သည် မြဲသလား၊ မမြဲဘူးလား"

"မမြဲပါ ဘုရား"

"အဲဒီမမြဲတဲ့ရုပ်ဟာ ချမ်းသာလား၊ ဆင်းရဲလား"

"ဆင်းရဲပါ ဘုရား"

ဤသို့ စသည်ဖြင့် မေးလိုက် ဖြေလိုက် ရင်းရင်းနှီးနှီး ဟောသွားသောနည်းဖြစ်သည်၊ အများနှင့် မတူတတ်ချေ၊ ပရိသတ်ကို ပို၍ ကျေနပ်မှုရစေ၏။

တစ်ဖန် မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီး ဓမ္မစကြာ တရားဦး ဟောတော်မူပြီးနောက် "အနတ္တလက္ခဏာ သုတ်တော်"ကို ဆက်လက် ဟောတော်မူတုန်းကလည်း ဤနည်းပင် ဖြစ်သည်၊ ပဉ္စဝဂ္ဂီတို့နှင့် အမေး–အဖြေပြု၍ ဟောတော်မူ၏၊ ဟောဟန်ကား–

"ရူပံ နိစ္စံဝါ အနိစ္စံဝါ"တိ၊

"အနိစ္စံ ဘန္တေ"

"ယံ ပနာ နိစ္စံ ဒုက္ခံဝါ တံ သုခံဝါ"တိ၊

"ဒုက္ခံ ဘန္တေ"

စသည်ဖြင့် အမေး–အဖြေပြုပြီး ဟောတော်မူခဲ့ဖူးသည်၊ ယင်းတို့ကို နမူနာယူ၍ ဟောသည်ဟုလည်း မိန့်တော်မူ၏။

## ရနိုင်သော အကျိုးများ

ဤသို့လျှင် ပရိသတ်နှင့် အမေး–အဖြေပြု၍ ဟောခြင်းကြောင့် ရနိုင်သောအကျိုးတို့မှာ–

၁။ ပရိသတ်နားလည်–မလည်ကို စမ်းသပ်ပြီး ဖြစ်သွားခြင်း၊

၂။ အကြောင်းအရာတစ်ခု နားလည်ပြီးမှ ရှေ့သို့အသစ်တစ်ခု တက်ရသဖြင့် ပရိသတ်လည်း အမြင်ရှင်းခြင်း၊

၃။ ပရိသတ်ငိုက်မျဉ်းချိန်မရဘဲ အမြဲတမ်း လန်းဆန်းနေခြင်း၊

၄။ ပရိသတ်ကလည်း သူတို့သိသမျှ ပြန်လည်တင်ပြခွင့်ရ၍ ကျေနပ်မှုရခြင်း၊

၅။ ဟောသူနှင့် နာယူသူတို့ ရင်းနှီးမှု ရစေခြင်း–စသော အကျိုးတို့ကို ရနိုင်ပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# နားက တရားနာ၊ ဉာဏ်က ခန္ဓာလှည့်

ဘုရားရှင် ကိုယ်တော်မြတ်ကြီး တရားဟောပြီးပြီ ဆိုလျှင် တရားပွဲတိုင်းမှာ ကျွတ်တမ်းဝင်သူတွေ များစွာ ထွက်ပေါ်လာကြ၏၊ သောတာပန် မည်မျှ၊ သကဒါဂါမိ မည်မျှ၊ အနာဂါမ် မည်မျှ၊ ရဟန္တာ မည်မျှ ဟူ၍ စာရင်းတင်ကြသည်။

"အဲဒါ ဘယ်လိုလဲ၊ မကျင့်ဘဲနဲ့-တရားနာရုံနဲ့ တရားထူး ရကြတာလား"

ဤသို့ စပ်စုတတ်ကြ၏၊ မကျင့်ဘဲနဲ့ တရားထူး ရကြသည်တော့ မဟုတ်ကုန်၊ ကျင့်သောကြောင့်သာ တရားထူး ရကြသည်ဟု ဆိုရပေမည်၊ "ဘယ်အချိန်မှာ ကျင့်လိုက်တာလဲ"ဟု မေးလျှင်ကား-

*"ဒေသနာ ဉာဏာနုသာရေန ဉာဏံ ပေသေန္တ သ ဉာဏုတ္တရသ ဟောတိ"တဲ့၊

အဓိပ္ပာယ်က-

"ဒေသနာဉာဏ်ကို အစဉ်လျှောက်ပြီး ကိုယ့်ဉာဏ်ကို ကိုယ့်ခန္ဓာပေါ် စေလွှတ်လိုက်တဲ့အခါ ကိုယ့်ဉာဏ်ဟာ ရင့်ကျက်မြင့်တက်သွားပြီးလျှင် တရားထူး ရသည်အထိ မြင့်မြတ်သွားခြင်း ဖြစ်၏"တဲ့။

"တရားနာအပြီး သောတာပန် ဖြစ်ကုန်ကြတယ်၊ သကဒါဂါမိ ဖြစ်ကုန်ကြတယ်၊ အနာဂါမိ ဖြစ်ကုန်ကြတယ်"ဆိုတာ အဲဒီလို နာလို့ ဖြစ်ကြတာ။

နားက တရားသံကို နားထောင်နေရုံသာမက ဉာဏ်ကပါ ခန္ဓာပေါ်သို့ ရောက်အောင် ပို့လွှတ်ထားတာ၊ အဲဒါကြောင့် တရားထူးရကြခြင်း ဖြစ်တာပဲ၊ ဒါသည် ပင်လျှင် ကျင့်ကြံခြင်း အားထုတ်ခြင်းပဲ။

ရှေးခေတ်က တရားနာကြတယ်-ဆိုတာ အဲဒီလို နာကြတာ၊ "နားက တရားကို နာတယ်၊ ဉာဏ်ကတော့ ခန္ဓာထဲ လှည့်ထားတယ်"

ဤသဘောမျိုးပင် သုပ္ပဗုဒ္ဓဝတ္ထု၌-

** "ဒေသနာနုသာရေန ဉာဏံ ပေသေတွာ သောတာပတ္တိဖလေ ပတိဋ္ဌိတော"ဟု အဋ္ဌကထာက ဆိုထား၏။

အဓိပ္ပာယ်မှာ-

"ဟောတော်မူတဲ့ ဒေသနာတော် အတိုင်း အစဉ်လျှောက်လိုက်လာပြီး ကိုယ့်ဉာဏ်ကို ကိုယ့်ခန္ဓာထဲ လွှတ်လိုက်လို့ သောတာပန် ဖြစ်သွားတာ"တဲ့။

ဒါ့ကြောင့် ဆရာတော်ကြီးက ခဏ ခဏ သတိပေးနေတာ "နားက တရားနာပါ၊ ဉာဏ်က ခန္ဓာထဲ လှည့်ထားပါ"လို့။

# ဘယ်လောက်ကြာမှ မဂ် ရနိုင်မလဲ

အချို့သော ပုဂ္ဂိုလ်များက ရိပ်သာကို ရောက်လာလျှင် မေးခွန်းမေးတတ်ကြ၏၊ "မဂ်ရအောင် ဘယ်လောက် ကြာကြာ အားထုတ်ရမှာလဲ"တဲ့၊ "ဘယ်လောက် ကြာမှ သောတာပန် ဖြစ်မှာလဲ"တဲ့၊ မေးခွန်းက ရှေ့ပြေးပေါ်လာသည်၊ သူကိုယ်တိုင်ကား အားမထုတ်ရသေး။

ဤနေရာတွင် ဗောဓိရာဇကုမာရမင်းသားက မေးလျှောက်၍ ဘုရားကိုယ်တော်မြတ် ဖြေကြားထားသည်ကို တင်ပြလိုပါသည်။

"အရှင်ဘုရား . . . မြတ်စွာဘုရားဟူသော နည်းညွှန် လမ်းပြဆုံးမမည့်သူ ရသော ရဟန်းသည် ဘယ်လောက်ကြာမှ အရဟတ္တမဂ် အရဟတ္တဖိုလ်ကို ရနိုင်ပါမည်လဲ ဘုရား"

"မင်းသား . . . ဤအရေး၌ သင့်ကိုပင် ပြန်၍

---

* မဇ္ဈိမ၊ ဋ္ဌ၊ ၃၊ ကာလဝတ္ထု။

** သံယုတ်ဋ္ဌ၊ ပ၊ ၃၂၀

မေးရပေဦးမည်၊ သင်သည် ဆင်စီးချွန်းကိုင် အတတ်ကို တတ်မြောက်ပါ၏လော"
"မှန်ပါ၊ တတ်မြောက်ပါ၏ဘုရား"
"လူတစ်ယောက်သည် သင့်ထံသို့ ဆင်စီးချွန်းကိုင် အတတ်ကို သင်ယူမည်ဟု လာ၏၊ ထိုသူသည်–
၁။ ကိုယ့်လုပ်ငန်းအပေါ် ယုံကြည်မှုမရှိ၊
၂။ ကျန်းမာမှုလည်း မရှိ၊
၃။ ကောက်ကျစ်လိမ်လည်တတ်၏၊
၄။ ပျင်းလည်း ပျင်း၏၊
၅။ ဉာဏ်ကလည်း ထိုင်းလှ၏၊
"ထိုပုဂ္ဂိုလ်အား တတ်မြောက်ကျွမ်းကျင်အောင် သင်ကြားပေးနိုင်မည်လော"ဟု မေးတော်မူ၏၊ "မှန်ပါ ဤအင်္ဂါ၅–ပါးအနက် တစ်ပါးပါး ချွတ်ယွင်းနေလျှင်ပင် သင်ဖို့ မလွယ်ပါ၊ ငါးပါးလုံးများ ချွတ်ယွင်းနေလျှင်ကား ဆိုဖွယ် မရှိတော့ပါဘုရား"
"သည်လိုဆိုလျှင် မေးဦးမည်၊ လူတစ်ယောက်သည်ကား–
၁။ ကိုယ့်လုပ်ငန်းအပေါ် ယုံကြည်မှု အပြည့်ရှိ၏၊
၂။ ကျန်းလည်း ကျန်းမာ၏၊
၃။ စိတ်ထားလည်း ဖြောင့်စင်း၏၊
၄။ မပျင်းမရိဘဲ ကြိုးစားတတ်၏၊
၅။ ဉာဏ်ရည်ဉာဏ်စရှိသူလည်း ဖြစ်၏၊ ထိုသူမျိုးအား တတ်မြောက်အောင် သင်ကြားပေးနိုင်မည်လော"
"မှန်ပါ၊ ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကား အင်္ဂါရပ် အချို့အဝက် ပြည့်စုံကာမျှဖြင့် တတ်မြောက်အောင် သင်ကြားပေးနိုင်ပါ၏၊ ငါးပါးလုံးများ ပြည့်စုံပါမူကား ဆိုဖွယ် မရှိတော့ပြီဘုရား"
ဟူ၍ လျှောက်ထားလေသည်။
"မင်းသား... ထို့အတူပင် တရားအားထုတ်သူ၏ အင်္ဂါရပ် (ပဓာနိယင်္ဂ)ငါးပါးရှိ၏၊ ယင်းတို့ကား–
* ၁။ ဘုရားအပေါ် ယုံကြည်သော သဒ္ဓါ ရှိရမည်၊
၂။ ကျန်းမာသူလည်း ဖြစ်ရမည်၊
၃။ စိတ်ထားဖြောင့်မတ်သူလည်း ဖြစ်ရမည်၊
၄။ ခွဲသန်ကြိုးစားအားထုတ်သူလည်း ဖြစ်ရမည်၊
၅။ ဉာဏ်စွမ်းဉာဏ်စလည်း ရှိရမည်၊
"ဤအင်္ဂါငါးပါးနှင့် ပြည့်စုံခဲ့သော် မကြာမီပင် တရားထူးရနိုင်၏"ဟူ၍ မိန့်တော်မူသည်။
[ဆောင်]
ယုံကြည်–ကျန်းမာ၊ စိတ်ဖြောင့်စွာနှင့်၊ လွန်စွာအားထုတ်၊ နာမ်နှင့် ရုပ်ကို၊ ဖြစ်ချုပ်ဉာဏ်မြင်၊ ဤငါးအင်၊ အမှန်ပင် မဂ်ရကြောင်း။ ။

## နှစ်ဟောင်းကုန်၍ နှစ်သစ်ကူးတော့အံ့

သက္ကရာဇ် ၁၃၁၄–ခု နှစ်ဟောင်းကုန်၍ ၁၃၁၅–ခု နှစ်သစ်ဘက်သို့ ကူးပြောင်းလာခဲ့ပြီ၊ တရားနာ ပရိသတ်တို့ကား အဆမတန် များလာကြ၏၊ ဒေါ်ဒေါ်ဖုံ ဘို့ ဆောက်လုပ်လှူဒါန်းထားသော မိုးကုတ်ကျောင်းကြီး ပေါ်မှာ မဆံ့တော့ပေ၊ နောက်ထပ် ကျယ်ဝန်းသော ဓမ္မာရုံကြီးတစ်ခု ရှိဖို့ လိုအပ်လာတော့သည်။

ထို့ကြောင့် အမရပူရမြို့၊ အိုးတော်ရပ်၊ ပိုးကုန်သည် ဦးထွန်းကြည်နှင့် ဇနီး ဒေါ်စောဦးတို့က "ဓမ္မာရုံကြီးတစ်ဆောင် ဆောက်လုပ်လှူဒါန်းပါရစေ"ဟုပင် လျှောက်ထားနေလေပြီ။

ဆရာတော်ကား ရောက်လာသော ပရိသတ်တို့ကို ငံ့၍ နွေပိုင်းကာလတစ်ခုလုံး ချွေးတလုံးလုံးဖြင့် ဟောတော်မူ၏၊ မိုးဦးသို့ ရောက်ပြန်တော့လည်း လေတဟူးဟူးတွင် နေ့စဉ် ဟောပြသည်သာ။

* မဇ္ဈိမပဏ္ဏာသပါဠိတော်၊ နှာ–၂၉၇။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဝါတွင်းကာလကား ပရိသတ်တွေ အထူး ပိုမိုများပြားလှသည်၊ သက္ကရာဇ် ၁၃၁၅–ခု သီတင်းကျွတ် (၁၉၅၃–ခု အောက်တိုဘာလ)တွင် ဆရာတော်၏ သက်တော်မှာ ၅၄–နှစ်၊ သိက္ခာတော်က ၃၅–ဝါ ရလေပြီ။

ဆရာတော်၏ ဟောပြောချက်တို့ကို ပရိသတ်က လက်ခံကြ၏၊ နားလည်လွယ်ကြ၏၊ သဘောပေါက်လွယ်ကြ၏၊ ထို့ကြောင့် ပရိသတ်က အလျော့မရှိ၊ အတိုးသာ ရှိနေသည်။

## အသံတွေ ဖမ်းယူမထားနိုင်သေး

ဆရာတော် တရားဟောစတုန်းက ပရိသတ်က သိပ်မများသေး၊ အစိတ်–သုံးဆယ်၊ လေးဆယ်–ငါးဆယ် လောက်ဆိုတော့ ပကတိအသံနဲ့ ပေါက်အောင်ပြောနိုင်ပါတယ်၊ ယခုတော့ ပရိသတ်တွေက တဖြည်းဖြည်း များလာ၊ နှစ်ရာကျော် သုံးရာ နီးပါး၊ အားလုံးကြားလောက်အောင် အော်–အော်ပြောနေရတော့ ဆရာတော် ပင်ပန်းလာသည်။

ထိုအခါ ဒကာတွေက အသံချဲ့စက် တပ်ဆင်ပေးဖို့ စီမံကြ တိုင်ပင်ကြရတော့၏၊ တစ်ဖန် အသံချဲ့စက်ကို အသာထားဦး၊ အသံချဲ့စက်ဖွင့်ဖို့ လျှပ်စစ်မီးလိုင်း မရှိသေး၊ မီးလိုင်းဖြစ်အောင် စောင့်နေရလျှင်လည်း ကြာဦးမည်၊ ထို့ကြောင့် မြန်မြန်ဖြစ်နိုင်တဲ့နည်း အင်ဂျင်စက်တစ်လုံးကို ငှား၍ မီးမောင်းပေးလိုက်တော့၏။

ဤနည်းဖြင့် တရားဟောရာတွင် အသံချဲ့စက်ကို တပ်ဆင်ပေးလိုက်သောအခါ လွယ်ကူ သက်သာလာတော့သည်၊ ဟောသူလည်း သက်သာ၊ နာယူသူတို့လည်း ကွဲကွဲပြားပြား ကြားရ၏၊ ဤကဲ့သို့ အသံချဲ့စက်ဖြင့် ဟောရသည့် အဆင့် မြင့်နေပြီ ဖြစ်သော်လည်း အသံကိုကား ဖမ်းယူမထားသေး၊ အသံဖမ်းစက်လည်း မရှိသေး။

## လူနတ်ဗြဟ္မာ သူငါမဟုတ်

အမိဝမ်းမှာ ပဋိသန္ဓေစတည်ကတည်းက ရုပ်နှင့်နာမ် တစ်ပြိုင်နက် ဖြစ်ပေါ်လာခဲ့ကြသည်၊ ရုပ်တရားတွေက အဟောင်း–အဟောင်း ပျက်၍၊ အသစ်–အသစ် အစားဖြည့်ရင်း တရွေ့ရွေ့ တဖြည်းဖြည်း ကြီးရင့်လာခဲ့ကြ၏၊ မမြင်ရသော နာမ်တရားတို့လည်း အဆက်မပြတ် တရစပ် ဖြစ်ပေါ်၍ ကွယ်ပျောက်၍ အဟောင်း–အသစ် လဲခဲ့ကြသည်။

ပဉ္စဝေါကာရဘုံ၌ သက်ရှိပုဂ္ဂိုလ်တစ်ယောက်မှာ ရုပ်တရားနှင့် နာမ်တရား (၂)မျိုးသာလျှင် ရှိကြ၏၊ ဤ၂–မျိုးကား ဘယ်အချိန် စစ်ဆေး–စစ်ဆေး တွေ့ရမည်ဖြစ်၏၊ ထိုတွင် ရုပ်တရားကြီးက ဘာမျှ မသိတတ်၊ နာမ်တရားကသာလျှင် သိတတ်သည်။

မိမိတို့ကိုယ်တွင်လည်း စစ်ဆေးနိုင်၏၊ မသိတတ်တဲ့သဘော၊ သိတတ်တဲ့သဘောတွေ ရှိကြသည်၊ ထိုတွင် မသိတတ်တဲ့ သဘောက ရုပ်၊ သိတတ်တဲ့ သဘောက နာမ် ဖြစ်သည်။

ဤရုပ်နှင့်နာမ်ကိုပင် လူနတ်ဗြဟ္မာဟူ၍ သတ်မှတ်ထားကြ၏၊ ပုဂ္ဂိုလ် သတ္တဝါ ယောကျ်ား မိန်းမဟူ၍ သမုတ်ထားကြ၏၊ မောင်ဖြူ မောင်နီ မပု မနု စသည် နာမည်ပေးထားကြ၏၊ ထိုအားလုံးသည် ဆိုင်းဘုတ်ဆွဲထားခြင်းမျှသာ ဖြစ်သည်၊ ဆွဲသည့်အတိုင်း အထင်မှားအမှတ်မှားနေကြကုန်၏။

## တစ်ဘဝသာသနာ

အမှန်မှာကား မဟုတ်ချေ၊ ရုပ်နှင့်နာမ်သာလျှင် အစစ်ဖြစ်ချေသည်၊ ထိုတွင် ရုပ်ဟူသမျှ မသိတတ်ကြ၊ နာမ်တရားကသာလျှင် သိတတ်သည်။

၁။ ရုပ်ဟူသမျှ၊ မသိကြ၊ သိက နာမ် ခေါ်လေ။

၂။ လူနတ်ဗြဟ္မာ၊ သူငါမဟုတ်၊ နာမ်နှင့်ရုပ်၊ မုချ ဉာဏ်မြင်စေ။

## တရားအားမထုတ်မီ ဒိဋ္ဌိကို အရင်ခွာ

သက္ကရာဇ် ၁၃၁၅–ခု ဆောင်းတွင်းပိုင်း (ခရစ် ၁၉၅၄–ခု ဇန်နဝါရီလထဲ)မှာ တရားဟောမှု အရှိန်အဝါ အတော်မြင့်တက်နေပြီ၊ ပရိသတ်တို့ကလည်း များသည်ထက် များ–များပြီးလာတော့သည်၊ တရားအနံ့သင်း၍ ပန်းခင်းရှိရာ ပိတုန်းလိပ်ပြာတို့ လာကြသလိုဖြစ်၏။

ပဋိစ္စသမုပ္ပါဒ်ဒေသနာတော်သာမက ရုပ်နာမ်ခွဲပြ၊ ပညတ်–ပရမတ်တွေကိုလဲ အသေးစိတ် ခွဲပြနေပြီ၊ ရုပ်နာမ်ဓမ္မတို့ အမိဝမ်း၌ စတင်ဖြစ်ပေါ်ပုံ၊ တရွေ့ရွေ့ ကြီးပြင်းလာပုံတို့ကိုလည်း အခြေခံကျကျ ရှင်းပြနေလေပြီ။

ဤသို့ရှင်းပြခြင်းဖြင့် အနမတဂ္ဂ ဘဝသံသရာတို့က စွဲကပ်ပါလာသော ဒိဋ္ဌိတို့ကို ခွာရာတွင် များစွာအထောက်အကူဖြစ်လေသည်၊ မိုးကုတ်ဆရာတော်ကြီး၏(မူ)က "တရားအားမထုတ်မီ ဒိဋ္ဌိအယူကို အသိဉာဏ်ဖြင့် ခွာပါဦး"ဟူ၍ ဖြစ်၏။

"ဒိဋ္ဌိတန်းလန်းဖြင့် အားထုတ်နေလို့ကတော့ ဘယ်နည်းနဲ့မှ မဂ်မရနိုင်ပါဘူး"ဟူ၍ ခဏ ခဏ မိန့်တတ်သည်၊ မှန်ပါ၏၊ ဆရာတော်ကြီးကလည်း ပါဠိတော် အကိုးအကားရှိ၍ ရဲရဲကြီး မိန့်တော်မူနေခြင်းဖြစ်သည်။

ရုပ်နာမ်မကွဲလျှင်၊ ပညတ် ပရမတ်လည်း မစင်လျှင် ဒိဋ္ဌိက ဝင်တတ်၏၊ ဒိဋ္ဌိတွေ ရှိနေလို့ကတော့ အဝီစိက အမြဲဖိတ်ခေါ်လျက်ပင် ရှိနေသည်။

"နလုံးက ကျွတ်ဆတ်ဆတ်၊
ဒိဋ္ဌိကိုလဲ မခွာတတ်၊
အဝီစိမှာ အောက်ချိုးကပ်"

## မိစ္ဆာဒိဋ္ဌိဆိုတာ ဘယ်ဟာမျှ မကောင်း

"မိစ္ဆာဒိဋ္ဌိယာ ဘိက္ခဝေ သမန္နာဂတာ သတ္တာ
ကာယဿ ဘေဒါ ပရံ မရဏာ အပါယံ
ဒုဂ္ဂတိံ ဝိနိပါတံ နိရယံ ဥပပဇ္ဇန္တိ"

(အင်္ဂုတ္တိုရ်ပါဠိ)

အဓိပ္ပာယ်မှာ "မိစ္ဆာဒိဋ္ဌိအယူရှိသော ပုဂ္ဂိုလ်တို့သည် ခန္ဓာပျက်ကြွေ သေလွန်သောအခါ မကောင်းဖြင့် လားရာ ဖောက်ဖောက်ပြန်ပြန် ကျရောက်ရာဖြစ်သော အပါယ်ငရဲ၌ ဖြစ်ကြရကုန်၏"ဟု မြတ်စွာဘုရား ဟောတော်မူသည်။

ထိုမှတစ်ပါး အဋ္ဌကထာကြီးများ၌လည်း–

"အန္တမသော ဝီသတိဝတ္ထုကံ သက္ကာယဒိဋ္ဌိံ ဥပါဒါယ ဒိဋ္ဌိနာမ သဂ္ဂံ ဥပနေတုံ သမတ္ထာနာမ နတ္ထိ၊ ဧကန္တံ နိရယသ္မိံယေဝ နိမုဇ္ဇာပေတိ။"

ဟူ၍ဖွင့်ဆိုကြ၏၊ အဓိပ္ပာယ်မှာ "အောက်ထစ်ဆုံးအားဖြင့် အခြေခံ ၂၀–မျှ ရှိသော သက္ကာယဒိဋ္ဌိကို အစပြု၍ ဒိဋ္ဌိဟူသမျှ နတ်ပြည်ကို ပို့နိုင်စွမ်း မရှိ၊ စင်စစ် ငရဲ၌သာ နစ်မြုပ်စေတတ်၏"

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သက္ကာယဒိဋ္ဌိ နှစ်ဆယ်ဆိုတာ

သန္တော ကာယော သက္ကာယော။ ။သန္တော–တကယ်အစစ်အမှန်ထင်ရှားရှိသော၊ ကာယော–ရုပ်နာမ်အပေါင်းတည်း၊ သက္ကာယော–တကယ် အစစ်အမှန် ထင်ရှားရှိသော ရုပ်နာမ်အပေါင်း။

အကျဉ်းအားဖြင့် ရုပ်နာမ်နှစ်ပါး၊ အကျယ်ချဲ့လျှင် ခန္ဓာငါးပါးသည် တကယ်အစစ်အမှန်ရှိ၏၊ ထို့ကြောင့် ယင်းတို့ကို "သက္ကာယ"ဟု ခေါ်ရ၏။

သက္ကာယေ+ဒိဋ္ဌိ သက္ကာယဒိဋ္ဌိ။ ။သက္ကာယေ–တကယ်အစစ်အမှန် ထင်ရှားရှိသော ရုပ်နာမ်အပေါ်၌၊ ဒိဋ္ဌိ–အထင်မှား အမြင်မှားတည်း၊ သက္ကာယဒိဋ္ဌိ–တကယ် အစစ်အမှန် ထင်ရှားရှိသော ရုပ်နာမ်နှစ်ပါး ခန္ဓာငါးပါးအပေါ်၌ အထင်မှား အမြင်မှား။

အစစ်အမှန်ရှိတဲ့ရုပ်နာမ်အပေါ်မှာ အစစ်အမှန်မရှိတဲ့ ပုဂ္ဂိုလ် သတ္တဝါ သူ ငါ ယောကျ်ား မိန်းမများ စသည်ဖြင့် တင်စား၍ ထင်မှားနေခြင်း ဟူလို၊ ထိုသို့ထင်မှားနေမှုကို "သက္ကာယဒိဋ္ဌိ"ဟု ဆိုသည်။

ထိုသက္ကာယဒိဋ္ဌိသည် အကျယ်ဖြန့်လျှင် အမျိုးပေါင်း(၂၀)ရှိ၏၊ ခန္ဓာငါးပါးရှိရာတွင် အဦးဆုံးဖြစ်သော ရုပ်ကို အတ္တဟူ၍ ထင်စွဲခြင်းတစ်မျိုး၊ ဤကားရုပ်နှင့် အတ္တ မကွဲပြားဘဲ ယူဆသော အမျိုးအစားဖြစ်သည်။

ဒုတိယအမျိုးအစားမှာ အတ္တကလေး၌ ရုပ်ခန္ဓာရှိ၏–ဟူ၍ ထင်စွဲသော အယူအဆတစ်မျိုး၊ ဤအမျိုး၌ အတ္တနှင့်ရုပ် တစ်ခြားစီဟု ယူဆထား၏။

တတိယအမျိုးအစား၌ "အတ္တ၌ ရုပ်ရှိသည်" ဟူ၍ အတ္တကို အမှီခံထား၍ ယူဆ၏၊ စတုတ္ထ အမျိုးအစား၌မူ "ရုပ်၌ အတ္တရှိသည်"ဟု ရုပ်ကို အမှီခံထား၍ ယူဆ၏၊ ဤလေးချက်ကို မှတ်မိနေနိုင်ရန်–
[ဆောင်]

ရုပ်ကိုအတ္တ၊ ရုပ်ရှိအတ္တ၊ အတ္တ၌ရုပ်၊
ရုပ်၌အတ္တ၊ ဤလေးဝ၊ မှားကြ အတန်တန်။

ဤကဲ့သို့ ရုပ်ခန္ဓာအပေါ်၌ အစွဲ၄မျိုး ရှိသလို၊ ကျန်ခန္ဓာများအပေါ်၌လည်း ၄မျိုးစီ ရှိကြသည်၊ ထို့ကြောင့် (၅x၄=၂၀) သက္ကာယဒိဋ္ဌိ နှစ်ဆယ် ဖြစ်လေသည်။

# အနုလောမဉာဏ်တောင် မပေါ်လာနိုင်

* ကဋ္ဌိ သင်္ခါရံ နိစ္စတော သမနုပဿန္တော အနုလောမိကာယ ခန္တိယာ သမန္နာဂတော ဘဝိဿတီတိ နေတံ ဌာနံ ဝိဇ္ဇတိ၊ အနုလောမိကာယ ခန္တိယာ အသမန္နာဂတော မဂ္ဂံ ဩက္ကမိဿတီတိ နေတံ ဌာနံ ဝိဇ္ဇတိ။

အဓိပ္ပာယ်မှာ "တစ်စုံတစ်ခုသော သင်္ခါရတရားကို မြဲတယ်လို့ (သဿတဒိဋ္ဌိအနေအားဖြင့်) ရှုမှတ်စွဲမြဲနေခဲ့သော် မဂ်ရှေ့က အနုလောမဉာဏ်တောင် မပေါ်လာနိုင်ဘူး။

အနုလောမဉာဏ်မှ မပေါ်လာရလျှင် မဂ်ဉာဏ်အစစ် ဘယ်သို့ ပေါ်နိုင်တော့မည်နည်း၊ မဂ်ဉာဏ် မပေါ်နိုင်လျှင် ဖိုလ်ဉာဏ်လည်း မပေါ်နိုင်တော့ချေ။

မဂ်ဉာဏ်ဖိုလ်ဉာဏ်မပေါ်ပါက သောတာပန်မဖြစ်၊ သောတာပန်မဖြစ်လျှင် သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာတို့လည်း မဖြစ်နိုင်တော့ချေ၊ သို့ဖြစ်၍ ဒိဋ္ဌိ စင်ကြယ်မှုသည် လွန်စွာ အရေးကြီးလှကြောင်း သိနိုင်တော့၏။

* အင်္ဂုတ္တိုရ်ပါဠိ၊ဆက္က၊၃၈၄

## တစ်ဘဝသာသနာ

# ဒိဋ္ဌိခွာမှုကို ဦးစွာရှေ့ထား

ထို့ကြောင့် ဒိဋ္ဌိသည် မဂ်တား ဖိုလ်တား ဖြစ် မိမိတို့ သွားရာလမ်းခရီးတွင် အနှောင့်အယှက် ...န့်အတား ဖြစ်သည်၊ သို့ဖြစ်၍လည်း မိုးကုတ် ...တော်ကြီးက "အဟန့်အတားကို ဦးစွာ ဖယ်ရှား ...ဦး"ဟု မိန့်တော်မူလေ့ရှိ၏။

"ဒိဋ္ဌိ"ဟူသည် အပြည့်အစုံပြောလျှင် "မိစ္ဆာဒိဋ္ဌိ" ဖြစ်၏၊ (မိစ္ဆာ=မှားသော၊ ဒိဋ္ဌိ=အမြင်အယူအဆ) ...တို့ကား အကျဉ်းအားဖြင့် ၃မျိုးရှိ၏၊ သက္ကာယဒိဋ္ဌိ၊ ...သတဒိဋ္ဌိ၊ ဥစ္ဆေဒဒိဋ္ဌိတို့ဖြစ်သည်။

ထို့ကြောင့် မိုးကုတ်ဆရာတော်ကြီးက–

၁။ ဒါနကို နောက်ထားပါဦး၊

၂။ သီလကိုလဲ နောက်ထားပါဦး၊

၃။ သမထကိုလဲ နောက်ထားပါဦး၊

၄။ ဝိပဿနာကိုလဲ နောက်ထားပါဦး၊

"သူတို့အရင် ဒိဋ္ဌိခွာမှု ဒိဋ္ဌိဖြုတ်မှုကို ရှေ့ထားပါ"ဟူ၍ ခဏ ခဏ မိန့်တော်မူခြင်း ဖြစ်လေသည်။

"ဝိပဿနာ မလုပ်ခင် ဒိဋ္ဌိကို အရင်ခွာပါဦး" ဆိုတဲ့ စကားဟာ မိုးကုတ်ဆရာတော်ကြီးရဲ့ စကားပဲ၊ ဒါဟာ မူသေစကားပဲ၊ သည်စကားကို မိုးကုတ် ဆရာ တော်ကြီးက စတင်၍ ကျယ်ကျယ်လောင်လောင် ပြောနေခြင်း ဖြစ်၏။

# ပညတ်တရားနှင့် ပရမတ်တရား

မိမိတို့ သန္တာန်၌ ရှိသော ရုပ်နာမ်၂–ပါး၊ (သို့ ...ဟုတ်) ခန္ဓာငါးပါးသည် တကယ်အစစ်အမှန်ရှိသော ...ရားဖြစ်သောကြောင့် (သန္တော ကာယော သက္ကာ ...ယာ) အရ "သက္ကာယ"မည်၏၊ တစ်နည်း "ပရမတ္ထ ...ရား"လည်းမည်၏။

ဤရုပ်နာမ်၂–ပါး၊ ခန္ဓာငါးပါးကို ယောကျာ်း ...၍ မှည့်ခေါ်သတ်မှတ်၊ မိန်းမဟူ၍ မှည့်ခေါ် သတ် ...ပြီးလျှင် "ယောကျာ်း" "မိန်းမ"ဟု သိမှတ်ခံယူ ...သည်ကား အသိမှား–အမှတ်မှား ဖြစ်နေတော့၏။

အမှန်စင်စစ်ကား ယောကျာ်း–မိန်းမဆိုတာ မရှိ၊ ...နာမ်၂–ပါး၊ ခန္ဓာငါးပါးသာ ရှိသည်၊ သူ–ငါ ...ဟာလည်း မရှိ၊ ရုပ်နာမ်၂–ပါး၊ ခန္ဓာငါးပါးသာ ...သည်၊ ပုဂ္ဂိုလ်–သတ္တဝါ ဆိုတာလည်း မရှိ၊ ရုပ်နာမ် ...–ပါး၊ ခန္ဓာငါးပါးသာ ရှိသည်။

ဦးဖြူ–ဦးနီ၊ ဒေါ်ဖြူ–ဒေါ်နီ၊ မပု–မအု–မနု ...ာ မရှိ၊ ရုပ်နာမ်၂–ပါး၊ ခန္ဓာငါးပါးသာ ရှိသည်၊ ...–သမီး–မြေး–မြစ်ဆိုတာတွေလည်း မရှိ၊ ရုပ်နာမ် ...၊ ခန္ဓာငါးပါးသာ ရှိသည်။

ဤသို့အားဖြင့် တကယ် အစစ်အမှန် ရှိသော ရုပ်နာမ်၂–ပါး၊ ခန္ဓာငါးပါးတို့သည် "ပရမတ်တရား" များ ဖြစ်ကြ၏၊ ယင်းပရမတ်တရားတို့အပေါ်မှာ ခေါ်ရုံသာ ခေါ်နိုင်ဖို့ မှည့်ခေါ်သတ်မှတ်ထားသော ယောကျာ်း မိန်းမ ပုဂ္ဂိုလ် သတ္တဝါ သူ ငါ၊ ဦးဖြူ ဦးနီ၊ ဒေါ်ဖြူ ဒေါ်နီ၊ မပု မအု မနု၊ သား သမီး မြေး မြစ် စသော အမည်တို့ကား "ပညတ်တရား"တို့သာ ဖြစ် ကြပေကုန်၏၊ တကယ် အစစ် မရှိ၊ ရှာသော် မတွေ့၊ မရှိ၍ မတွေ့ခြင်း ဖြစ်သည်။

"ပရမတ်တရား"တို့ကား ရှာသော် တွေ့၏၊ ဖောက်ပြန်မှုသဘောတရားတွေကို တွေ့၏၊ ရှိ၍ တွေ့ ခြင်း ဖြစ်သည်၊ ရှိတာကို ရှုရမည်၊ မရှိတဲ့ပညတ်ကို သွားပြီး ရှုမနေနှင့်။

ဤသို့လျှင် ပညတ်နှင့် ပရမတ် ကွဲပြားစွာ သိ မှ အလုပ် လုပ်၍ လမ်းစဉ်တည့်မည်၊ မကွဲပြားလျှင် ပရမတ်ကို သိတဲ့ဉာဏ် မဝင်၊ ပရမတ်ဉာဏ် မဝင်လို့ ကတော့ ဒုတိယ မုံရွေးဆရာတော်၏ မေတ္တာစာလို ဖြစ်ကုန်ဖွယ် ရှိတော့၏–

"ပရမတ်ဉာဏ်မဝင်၍၊ သူတော်စင် မဟုတ်ကြလျှင်၊ မြုပ်ရမည် စုန်းစုန်း၊ စိတ်ချတော့ ဒုန်းဒုန်း၊ သေမင်းကလဲ မြင်တိုင်း မုန်း"တဲ့၊ ပြီးတော့–

"နှလုံးက ကျွတ်ဆတ်ဆတ်၊ ဒိဋ္ဌိကိုလဲ မခွာတတ်၊ အဝိဇ်မှာ အောက်ချီး ကပ်"တဲ့၊ အဲဒီလို ဖြစ်ကုန်မယ်၊ ဒါ့ကြောင့်မို့–

"ပရမတ်ကို ကြပ်ကြပ်ကြည့်၊ ချိန်ခွင်ကြီးလို မတ်မတ် တည့်၊ အရှုခံ–ရှုဉာဏ် ထပ်ထပ်မိ"တဲ့။

## ဝ–မရှိပါက ဝိလည်းမဖြစ်နိုင်

၁။ ပရမတ်မသိ၊ (ဝ)မရှိ၊ (ဝိ)လည်းမဖြစ်နိုင်။
၂။ ဝိမဖြစ်က၊ အနတ္တ၊ မုချ ဉာဏ်မပိုင်။
၃။ ဉာဏ်မြင်မရ၊ သံသာရ၊ ဒုက္ခမဆုံးနိုင်။
၄။ ဒုက္ခဆုံးရန်၊ အလုပ်မှန်၊ ကျင့်ကြံဖွဲ့ခိုင်ခိုင်။

အဓိပ္ပာယ်မှာ ပရမတ်သဘောကို ကောင်းစွာမသိလျှင် (ဝ)ဆိုတဲ့ ဝဝတ္ထာန=ပိုင်းခြားနိုင်မှုမရှိ၊ "ဒါက ပညတ်၊ ဒါက ပရမတ်"ဟူ၍ ပိုင်းခြားနိုင်မှု မရှိ။

ပိုင်းခြားနိုင်မှုမရှိလျှင် (ဝိ)ဆိုတဲ့ ဝိပဿနာလည်း မဖြစ်နိုင်၊ ပညတ်နဲ့ ပရမတ်ကို ပိုင်းခြားနိုင်မှု ခွဲခြားနိုင်မှုမရှိတော့ ဘယ်ဟာကို ရှုရမှန်းမသိ၊ စင်စစ် ပရမတ်ကို ရှုရမှာ ပညတ်ကြီးကို ရှုမိနေတဲ့အတွက် ဝိပဿနာ မဖြစ်နိုင်တော့ ဟူလို။

ဝိပဿနာမဖြစ်တော့ အနတ္တဉာဏ်လည်း မရ၊ အနတ္တဉာဏ်မရတော့ သံသရာမဆုံးနိုင် ဖြစ်ကြရတော့သည်ဟု ဆိုလို၏။ သို့ဖြစ်၍ ပိုမိုပြီး ကွဲကွဲပြားပြား ဖြစ်အောင် အမေး–အဖြေ ပြုလုပ်ပါအံ့။

မေး– ပညတ် ပရမတ်၊ ထိုနှစ်ရပ်တွင်၊ ဘယ်အရာကို ဝိပဿနာ ရှုရမည်နည်း။

ဖြေ– (ပညတ္တိံ ဌပေတွာ)အရ ပညတ်ကို ခွာထားခဲ့၍၊ ပရမတ်သားသို့ ရောက်အောင် ဉာဏ်ဖြင့် ထောက်လျက်၊ ဖောက်ပြီး သိရမည်။

ပရမတ် တရားတို့၏ (အနိစ္စ ဒုက္ခ အနတ္တ) ဖြစ်–ပျက် ဖောက်ပြန်မှုတွေကို မြင်အောင် ရှုရပါမည်။

မေး– ဘာ့ကြောင့် ပညတ်တွေကို ခွာထားခဲ့ရပါသလဲ။

ဖြေ– ပညတ်ကို ဝိပဿနာ မရှုရ၊ ပညတ်သည် ဝိပဿနာ၏ အာရုံလည်း မဟုတ်၊ ပညတ်သည် ရှိလည်း မရှိ၊ မရှိသောအရာကို ရှုနေရန် မလို၊ ရှိသော ပရမတ်ကိုသာ ရှုရမည်ဖြစ်၍၊ ထို့ကြောင့် မရှိဘဲလျက် ထင်ဓွဲနေခဲ့သောပညတ်ကို ခွာထားခဲ့ရမည်။

## တရားတော်အသံ ဖမ်းယူကြမည်

သက္ကရာဇ် ၁၃၁၅–ခု တပို့တွဲလ (ခရစ် ၁၉၅၄–ခု ဖေဖော်ဝါရီလ)တွင် ရင်းနှီးသော ဒကာများက စဉ်းစားတိုင်ပင်လာကြရတော့၏။

ဆရာတော် ဟောလာခဲ့တဲ့တရားပွဲပေါင်း မနည်းတော့ပြီ၊ ဟောပြီးသမျှ ပျောက် ပျောက်ကုန်ခဲ့ကြရသည်၊ ဆရာတော်၏ တရားတို့ကလည်း သစ္စာတရားများ ဖြစ်ကြသဖြင့် အဆီတစ်ထပ်–အသားတစ်ထပ်။

ဤမျှ အဖိုးမဖြတ်နိုင်သော တရားတော်တို့သည် ဟောပြီးလျှင် ပျောက်သွား၊ နာပြီးလျှင် ပျောက်သွား မဖြစ်ထိုက်။

ယခုအခါ အသံဖမ်းစက်များ အထိုက်အလျောက် ယူရရှိနိုင်ကြပြီ၊ အသံဖမ်းစက်ဖြင့် တရားတော် ကို ဖမ်းယူထားရပါမူကား ခဏ ခဏ ဖွင့်၍လည်း ဆောင်နိုင်၏။

ဤတရားပွဲသို့ မရောက်လာနိုင်ကြသော အဘိုး ားများ၊ ရပ်ဝေးပုဂ္ဂိုလ်များလည်း နာလို့ ရနိုင်၏၊ အချိန်မဆို ဆရာတော်ရှိနေသလိုလည်း ဖြစ်နိုင်၏၊ ကြောင့် အသံဖမ်းစက်ဖြင့် ဖမ်းယူထားနိုင်အောင် ားကြပါစို့. . . ”

ဤသို့တိုင်ပင်ကြကာ ထိုအချိန်မှစတင်၍ ကြိုး ကြတော့သည်၊ စက်ဝယ်ယူရရှိရေး၊ ရရှိလာသော အသံဖမ်းယူတတ်ရေးတို့ပါ စီမံကြတော့၏။

မှတ်ချက်။ ။ထိုအချိန်က "အသံဖမ်းစက်" သည်မှာ တိပ်ရီကော်ဒါကြီးများဖြစ်ကြသည်၊ အသံ ဖမ်း ကြိုးခွေကြီးများ အဝိုင်းကြီးများ ဖြစ်၏၊ တစ်ဘက် လျှင် (၁)နာရီ ကြာ၊ နှစ်ဘက်ဆိုတော့ (၂)နာရီ ကြာ အသုံးပြုနိုင်သည်။

အသံဖမ်းကြိုးမှာ အစပိုင်းက အလုံးဖြစ်သည် ဟူ၏၊ နောက်မှ အပြား ဖြစ်လာသည်၊ ဤသို့လျှင် အစပိုင်းတွင် မကျွမ်းကျင်၍ တိပ်ခွေများ ပျက်စီးကုန် ရသည်လည်း ရှိ၏၊ ၁၉၅၅–ခုဘက်သို့ ကူးပြောင်းလာ ကာမှ ကျွမ်းကျွမ်းကျင်ကျင် ဖြစ်လာကြသည်။

တစ်ခါတွင် အမရပူရမှ ဦးထွန်းတင်အား ဆရာ တော်က အမိန့်ရှိဖူးသည်ဆို၏၊ "မောင်ထွန်းတင်ရေ. . . ယခုလို သိပ္ပံတွေ ထွန်းကားလာပြီးတော့ အသံတွေ ဖမ်းယူထားနိုင်တယ်ဆိုတာ သုံးတတ်ရင် နိဗ္ဗာန်အထိ ရောက်နိုင်တယ်ကွ၊ မသုံးတတ်ရင်လဲ ဒယ်အိုးထဲ သွားကြမှာပဲ" တဲ့။

# ဓမ္မသုခရိပ်သာ ဓမ္မာရုံကြီး

အမရပူရမြို့၊ အိုးတော်ရပ်မှ ပိုးကုန်သည် ထွန်းကြည်+ဇနီး ဒေါ်စောဦးတို့က ဓမ္မာရုံ ဆောက် လှူဒါန်းရေး ကိစ္စကို စောစောကပင် ကြိုတင် ာက်ထားခဲ့ဖူး၏။

ထိုအစီအစဉ်အရ လိုအပ်သော ပစ္စည်းများကို ယူစုဆောင်းရာ ယခုအခါ ပြည့်စုံနေပြီ ဖြစ်လေ သည်၊ သို့ဖြစ်၍ ၁၃၁၆–ခုနှစ်သို့အကူး (၁၉၅၄–ခု ပြီလထဲ)တွင် [လက်ရှိ ဒေါ်ဒေါ်ဖုံကျောင်းကြီး၏ ဆောင်ဘက်က ကပ်လျက်] တရားဟောရဋ္ဌာန ဓမ္မာ ကြီးတစ်ခု ဆောက်လုပ်ကြတော့၏။

ယင်းဓမ္မာရုံကြီးကို "ဓမ္မသုခရိပ်သာ" ဟု အမည် ထားလေသည်၊ ဓမ္မာရုံကြီးသည် ကျယ်ဝန်းသန့်ရှင်း ပေ၏၊ နောက်ပိုင်းတွင် ယင်းဓမ္မာရုံကြီးပေါ်သို့ သတ်များ ပြောင်းစေ၍ ဆရာတော်က တရားဟော းတော်မူသည်။

နေ့စဉ် နေ့တိုင်း ညနေပိုင်း၌ တရားပွဲ ရှိ၏၊ ဝိပဿနာတရားပွဲ ဖြစ်သည်၊ အချိန်နီးပြီဆိုလျှင် ဟိုက ဒီက ပရိသတ်တွေ တဖွဲဖွဲ ရောက်လာကြတော့၏၊ လူ တို့သည်လည်း ယခုအခါ အကြိုက်တစ်မျိုး ပြောင်းလာ သလို ဖြစ်ကြသည်။

ရှေးတုန်းက တရားပွဲ ဆိုလျှင် အသံ ကောင်း ကောင်း အပြော ကောင်းကောင်းနှင့် ဟောပြသော ယပ်လှဲ့ တရားများသာ ဖြစ်ကြ၏၊ လူတို့ကလည်း ယပ်လှဲ့တရားကိုမှ အကြိုက်များကြသည်။

ယခု မိုးကုတ်ဆရာတော် ဦးဝိမလ ဟောပြနေ သည်ကား ထိုသို့မဟုတ်ချေ၊ အသံကောင်းကောင်းလည်း မဟုတ်၊ အပြောကောင်းကောင်းလည်း မဟုတ်၊ တုတ် ထိုးဒုတ်ရိုက်၊ မဝိုက်မသွယ်၊ ပရိယာယ်မပါ၊ မှန်ရာကို တည့်တည့်ကြီး ပြောပြ ဟောပြနေခြင်းမျိုး ဖြစ်သည်။ ထင်းထင်းကြီး ဖြစ်၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဘဝဖြစ်စဉ်ကိုက် သစ္စာဆိုက်အောင် ဟောပြခြင်းမျိုး ဖြစ်၏၊ ဤသည်ကိုပင် လူတို့ကလည်း ကြိုက်နေကြပြန်သည်၊ ဤနည်းအားဖြင့် မင်္ဂလာတိုက်ဟောင်းတွင် နေ့စဉ်နေ့တိုင်း တရားပွဲတွေ တခြိမ့်ခြိမ့်နှင့် စည်ကားနေတော့၏။ ထိုစဉ်တုန်းကမူ ညနေဆည်းဆာတွင် "ဘယ်က ပြန်လာသလဲ"ဟု မေးပါက "ဆရာတော် ဦးဝိမလ တရားပွဲက ပြန်ခဲ့တယ်" ဟု ဂုဏ်ယူ ဝင့်ကြွား ပြောဆိုကြပါသတတ်။

## ဆဋ္ဌသင်္ဂါယနာတင်ပွဲ ခြိမ့်ခြိမ့်သဲ

မြန်မာပြည် လွတ်လပ်ရေးရပြီးနောက် ပြန်လည် ထူထောင်ရေးတွေ ပြုပြင်ရေးတွေ လုပ်ကြရာတွင် နိုင်ငံတော်အစိုးရက သာသနာတော်ကိုလည်း အားပေးခဲ့၏၊ သာသနာတော်တွင် လိုအပ်နေသော ဆဋ္ဌ သင်္ဂါယနာတင်ပွဲကြီးကိုလည်း ကျင်းပပေးရန် ပြင်ဆင်နေကြလေပြီ။

သတ်မှတ်ထားသည်မှာ သက္ကရာဇ် ၁၃၁၆–ခု ကဆုန်လပြည့်နေ့ (ခရစ် ၁၉၅၄ခု မေလ ၁၇ ရက်နေ့)တွင် စတင် ကျင်းပ၍ သက္ကရာဇ် ၁၃၁၈–ခု ကဆုန်လပြည့်နေ့ (ခရစ် ၁၉၅၆–ခု မေလ ၂၄–ရက်နေ့)တွင် ပြီးစီးရန် ဖြစ်သည်။

ထိုပြီးစီးချိန်သည် သာသနာတော် ၂၅၀၀ပြည့်ချိန် (သာသနာတော် ၅၀၀၀၏ တစ်ဝက်လဲချိန်)နှင့် အံကိုက်၍ ပြီးစီးအောင် စီမံကြခြင်း ဖြစ်၏။ (၂)နှစ်တိတိ ကြာလျှင် ပြီးရမည် ဖြစ်သည်။

မြန်မာပြည်တွင်းရှိ ဆရာတော်ကြီးများ၊ သံဃာတော်များနှင့် ထေရဝါဒ(၅)နိုင်ငံမှ ပင့်ဖိတ်ထားသော ဆရာတော်ကြီးများသည် ဤဆဋ္ဌသင်္ဂါယနာ (ဆဋ္ဌ– ကြိမ်မြောက် သင်္ဂါယနာတင်)ပွဲကြီးကို အာရုံ စူးစိုက်နေတော်မူကြ၏။

အချိန်ရောက်သောအခါ ဆရာတော် သံဃာတော်များနှင့် ဒါယကာ ဒါယိကာမများသည် စည်းလုံး ညီညွတ်ကြကာ ရန်ကုန်မြို့၊ ကမ္ဘာအေးကုန်းမြေ၊ မဟာပါသာဏလိုဏ်ဂူကြီးအတွင်း၌ "ဆဋ္ဌသင်္ဂါယနာ တင်ပွဲကြီး"ကို ခြိမ့်ခြိမ့်သဲမျှ စတင် ကျင်းပနိုင်ကြလေသည်။

ထိုအချိန်တွင် မိုးကုတ်ဆရာတော်ကြီး ဦးဝိမလကား အမရပူရမြို့၌ နေ့စဉ်မပျက် ဝိပဿနာတရားပွဲတို့ဖြင့် ခြိမ့်ခြိမ့်သဲကျင်းပကာ သစ္စာတရားရေမိုး သွန်းဖြိုးရွာချနေလေသည်။

## "ဟာ"နေသော ကွက်လပ်ကြီး

ဓမ္မပဒ အဋ္ဌကထာ၊ ထေရာထေရီ အဋ္ဌကထာ၊ ဇာတကအဋ္ဌကထာများ၊ ငါးရာငါးဆယ်ဝတ္ထု အကုန်လုံးကို လှန်လှောကြည့်လျှင် ဝတ္ထုဇာတ်လမ်း၌ အမွှမ်းတင်ထားကြသည်ကို တွေ့ရမည်ဖြစ်၏၊ လက်တွေ့ဘာဝနာစခန်း လုပ်ငန်းခွင်အတွက် ပီပီပြင်ပြင် မပါချေ။

ဇာတ်အိမ်တစ်ခုကို သိုင်းသိုင်း ဝိုင်းဝိုင်း တည်ဆောက်ပြ၏၊ ဝေဝေဆာဆာ ခြယ်မှုန်းထားသည်၊ ရှင်လန်းရမည့်နေရာ ရှင်လန်းဖွယ်၊ လွမ်းဆွတ်ရမည့်နေရာ လွမ်းဆွတ်ဖွယ်တွေ အပြည့်ပါ၏။

"နောက်ဆုံးတွင် တရားတော်ကို နာရ၍ သောတာပန် ဖြစ်လေသတည်း၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာဖြစ်လေသတည်း"ဟူ၍မျှသာ ပါရှိသည်။

"ဘယ်လို ကျင့်၍ ဘယ်လို အားထုတ်ရတယ်" ဆိုတာ ကျင့်စဉ်ကို မဖော်ပြ၊ လုပ်ငန်းခွင်ကို မထည့်

ှ၊ လုပ်နည်းလုပ်ဟန် မပါပေ၊ "ဟာ"နေခဲ့သည်။

သူ့ခေတ်နှင့် သူ့ခါတော့လည်း မှန်ခဲ့၏၊ ထို ဌကထာများ ရေးကြစဉ်က ဆိုလျှင် လူတို့သည် ဒ္ဒါတရားလျော့ပါးလာကုန်ကြပြီ၊ သာသနာအပေါ်မှာ လေးစားဖို့ သဒ္ဒါတရားဖြစ်ဖို့က ပို၍ အရေးကြီးနေ၏။

ထို့ကြောင့် သဒ္ဒါတရားဖြစ်ဖို့ရာ ဝတ္ထု ဇာတ် ကြောင်းကို ဝေဝေဆာဆာ အသားပေးလာခဲ့ကြရသည်၊ တရား လုပ်ငန်းခွင်အတွက် နေရာ မပေးနိုင်ခဲ့၊ သို့ အတွက်ကြောင့် "ဟာ"နေခဲ့ရခြင်း ဖြစ်လေသည်။

# လုပ်ငန်းခွင် ဦးစားပေး တရား

ယင်း"ဟာ"ကွက်ကို မိုးကုတ်ဆရာတော်ကြီး ဝိမလက သိနေ၏၊ ထိုဟာကွက်ကို ဖြည့်သိပ်ဖို့ရန် ည်း လိုအပ်နေသည်၊ ထို့ကြောင့် ဆရာတော်ကြီးက ္ထုဇာတ်ကြောင်းကို ဦးစားမပေး၊ သာမန်မျှသာ ာ်ပြ၏၊ အတွင်းသားလုပ်ငန်းပိုင်းကိုမှ ဦးစားပေး ကျယ်ချဲ့ ဟောပြောတော်မူသည်။

ရှေးအစဉ်အလာက ဟောပြောခဲ့ကြသောနည်း မှာ အကြမ်းအားဖြင့် ၂–မျိုး ရှိသည်၊ ယင်းတို့မှာ–

၁။ စာတွေ နှုတ်တက်အရကျက်ပြီး (ရိုးရိုး ကြီးအသံဖြင့်) အလွတ် ရွတ်ဆို ဟော ပြောရသော ယပ်ထောင်ဟောနည်း။

၂။ စာတွေ နှုတ်တက် အလွတ် မကျက် တော့ဘဲ အကြောင်းအရာမျှကိုသာ မှတ် သားပြီး (အသံနေ အသံထား၊ အနိမ့် အမြင့်၊ အပင့် အရှိက်တို့ဖြင့်) တင်ပြ သော ယပ်လှဲဟောနည်း–ဟူ၍ (၂)မျိုး ရှိသည်။

မိုးကုတ် ဆရာတော်ကြီးက ယင်း၂–မျိုးတို့ကို ရှောင်လွှဲ၍ ဖယ်ထွက်ခြင်း ဖြစ်တော်မူသည်၊ မိုးကုတ် ဆရာတော်ကြီးက နည်းတစ်မျိုးဖြင့် ဝိမုတ္တိယုဂခေတ် နှင့် လိုက်အောင် လုပ်ငန်းခွင်ကို ဦးစားပေး ဟောပြော ခြင်းမျိုး ဖြစ်၏။

ဤကဲ့သို့ အတွင်းပိုင်းလုပ်ငန်းခွင်ကို ပီပီပြင်ပြင် ဟောပြမှု၊ လက်တွေ့ကျင့်သုံးရပုံကို နားလည်အောင် ထောက်ပြမှုသည် မိုးကုတ်ဆရာတော်ကြီး၏ ဟောပြော မှုတွင် အဓိက အနှစ်သာရပိုင်း ဖြစ်သည်၊ အများနှင့် မတူသော ဟောပြောနည်းမျိုး ဖြစ်၏။

နောက်ဆုံးတွင်မှ "ဤကဲ့သို့ အလုပ် လုပ်သော ကြောင့် တရားထူးရလေသတည်း" ဤသို့ ဖော်ပြတော် မူလေ့ရှိသည်၊

"အလုပ် လုပ်မှသာ တရားထူးရခြင်း" ဆိုတဲ့ အကျိုးအမြတ်ထွက်ပုံကို တင်ပြတော်မူလေ့ရှိ၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဝိပဿနာလေးပါ ထည့်ပြီး ဟောပါ–တဲ့

ယခုခေတ်တွင် လူပုဂ္ဂိုလ်တော်တော်များများက ဝိပဿနာကို စိတ်ဝင်စားလာကြပြီ၊ ခန္ဓာဉာဏ်ရောက် လက်တွေ့ လုပ်ငန်းစဉ်တို့ကိုမှ လက်ခံချင်လာသည်၊ မြို့ပေါ်ရှိ လူများသာမက တောလက်ကျေးရွာများမှာ ရှိကြတဲ့လူတွေပါ ဝိပဿနာအလုပ်ကို စိတ်ဝင်စားလာကြပြီ။

စာရေးသူ၏ မိတ်ဆွေ ဓမ္မကထိက ဘုန်းတော်ကြီး တစ်ပါးက ပြောဖူး၏၊ သူ့ကို တောလက်ကျေးရွာများက ပင့်ကြသဖြင့် သူသည် နေရာအနှံ့ ရောက်ပါသတဲ့၊ တရားဓမ္မများကိုလဲ ဟောကြားပေးရပါသတဲ့။

ဟောကြားပေးသောတရားတို့မှာ ယဉ်ကျေးဖို့ရာ အတွက် သုတ္တန်တရားများသာ ဖြစ်ကြ၏၊ ဒါန အကြောင်း သီလအကြောင်းတို့လည်း ပါကြ၏၊ ယဉ်ကျေးဖို့က အဓိက လိုအပ်သည် မဟုတ်ပါလော၊ ထို့ကြောင့် သုတ္တန်တရားများကိုပင် ဖိ၍ ဟောပေးပါသတတ်။

သို့ရာတွင် ယခု နောက်ပိုင်း၌ကား ဒကာ ဒကာမတို့က တောင်းဆိုလာကြပါသတဲ့၊ သူတို့ တောင်းဆိုချက်ကား "အရှင်ဘုရား... ဝိပဿနာကလေးပါ ထည့်ပြီး ဟောပေးပါ"တဲ့။

## လက်တွေ့ လုပ်ငန်းခွင် ဝင်လိုလာကြပြီ

ဤသို့တောင်းဆိုလာသောကြောင့် ပထမတွင် တရားတစ်ပွဲလုံး၏ ၃ပုံ ၁ပုံခန့်မျှ ဝိပဿနာ ထည့်ဟောပေးသည်၊ သူတို့ ကျေနပ်ကြလတဲ့၊ နောက်ပိုင်းတွင် ထပ်မံ တောင်းဆိုလာကြပြန်သဖြင့် ယခုအခါ တစ်ဝက်ခန့်မျှ ဝိပဿနာကို ထည့်–ထည့်ပြီး ဟောပေးနေရပြီ ဟု ဆိုပါသည်။

ဤသို့လျှင် လူအများစုက သဘာဝကျကျ ဟောပြပေးသော ခန္ဓာဉာဏ်ရောက် သစ္စာတရားများကို တောင့်တနေကြလေပြီ။

ရှေးခေတ်ကလို ပုံပြင် သဘော ဝတ္ထု ဇာတ်ကြောင်းတွေကို ပြောပေးရုံမျှဖြင့် အား မရကြတော့၊ တင်းမတိမ်နိုင်ကြတော့၊ လက်တွေ့လုပ်ငန်းခွင် ဝင်လိုလာကြပြီ၊ ဝိမုတ္တိယုဂခေတ်သို့ တစ်ပတ်ပြန်၍ လည်လာပြီ မဟုတ်ပါလော။

သို့ဖြစ်၍ အသံကို ဦးစားပေးသော အဟောမျိုး၊ ဝတ္ထုကြောင်းဇာတ်လမ်းကို ရှေ့တန်းတင်သော အဟောမျိုး အပြောမျိုးကို လက်မခံလိုကြတော့ပြီ–ဟု သိနိုင်တော့၏။

* နိဒါနဝဂ္ဂသံယုတ်ပါဠိတော်၊ ၂၅၉

# အစေလ ကဿပသုတ်

* မြတ်စွာဘုရားသည် ရာဇဂြိုဟ်မြို့မှာ သီတင်းသုံးတော်မူနေခိုက်ဖြစ်၏၊ တစ်နေ့သော နံနက်ပိုင်း၌ ရာဇဂြိုဟ်မြို့ထဲသို့ မြတ်စွာဘုရား ဆွမ်းခံကြွနေချိန်ဖြစ်သည်၊ အဝတ်မဆီး ကိုယ်တည်းဗလာဖြစ်သော အစေလကဿပသည် ဘုရားထံသို့ ချဉ်းကပ်လာ၏၊ ပြီးလျှင်–

"အရှင်ဂေါတမ... မေးစရာကလေး နည်းနည်း ရှိလို့ မေးပါရစေ၊"

"ကဿပ၊ ဒီအချိန်ဟာ မေးခွန်း ပုစ္ဆာ မေးဖို့ အချိန် မဟုတ်ဘူး၊ ဆွမ်းခံ ဝင်နေတုန်း ဖြစ်တယ်"

နှစ်ကြိမ်မြောက် မေးပါရစေ တောင်းပန်၏၊ နှစ်ကြိမ်မြောက် ပယ်ချတော်မူ၏၊ သုံးကြိမ်မြောက် မေးပါရစေ တောင်းပန်ပြန်၏၊ သုံးကြိမ်မြောက်လည်း ပယ်ချတော်မူပြန်၏။

သည်တော့ အစေလကဿပက ပြောသည်၊ "အရှင် ဂေါတမရယ်... မေးခွန်းတွေ အများကြီး မေးမှာ မဟုတ်ပါဘူး၊ နည်းနည်းပါ" ထိုအခါကျမှ မြတ်စွာဘုရားက "ကဲ... သည်လောက်မျှ မေးချင်လျှင် မေးတော့"ဟု ခွင့်ပြုတော်မူသည်။

၁။ အရှင်ဂေါတမ... ဒုက္ခတွေ ဖြစ်ပေါ်လာအောင် မိမိ ပြုတာလား။
"မဟုတ်ဘူး ကဿပ"

၂။ ဒါဖြင့် သူတစ်ပါးတွေ ပြုတာလား။
"သူတစ်ပါးတွေ ပြုတာလဲ မဟုတ်ဘူး ကဿပ"

၃။ ဒါဖြင့် မိမိရော သူတစ်ပါးရော နှစ်ဦးသား ပေါင်းပြီး ပြုတာလား၊
"အဲဒါလဲ မဟုတ်ဘူး ကဿပ"

၄။ သည်လိုဆို အလိုလို ဖြစ်လာတာလား။
"အလိုလို ဖြစ်လာတာလဲ မဟုတ်ဘူး–ဟဲ့"

၅။ အို... အရှင်ဂေါတမ (ဘယ်လို မှတ်ရမှာလဲ) ဒုက္ခဆိုတာ မရှိဘူးလား၊
"မရှိဘူးလဲ မဟုတ်၊ ရှိတယ်–ဟဲ့"

၆။ အဲဒီဒုက္ခကို အရှင်ဂေါတမက မသိဘူးလား မမြင်ဘူးလား၊
"မသိဘူး မဟုတ်၊ သိတယ်–ဟဲ့၊ မမြင်ဘူး မဟုတ်၊ မြင်တယ်–ဟဲ့"

# အကျယ် ဖြေရှင်းပြချက်များ

၁။ အို... အရှင်ဂေါတမ "ဒုက္ခကို မိမိပြုတာလား"လို့ မေးတော့ အရှင်ဂေါတမက "မဟုတ်ဘူး ကဿပ"လို့ ဖြေတယ်၊ ဘယ်လိုရည်ရွယ်ပြီး ဖြေတာလဲ၊ မိန့်ပါဦး။

"ကဿပ... ယခု ဖြစ်ပေါ် တွေ့ကြုံနေရတဲ့ ဒုက္ခတွေကို မိမိပဲ ပြုတယ်–ဆိုရင် "မိမိပြုခဲ့တဲ့ဒုက္ခကို မိမိပဲ ခံစားရတယ်"ဆိုတဲ့ အမြင်ဟာယ်ရောက်တယ်၊ ပြုသူလဲ ကိုယ်ပဲ၊ ယခု ခံစားရသူလဲ ကိုယ်ပဲ–ဆိုတဲ့ အမြင်ဟာယ်ရောက်နေတယ်။

အဲလို ရောက်နေတော့ "တစ်ယောက်တည်း" ဆိုတဲ့ အမြင်ဟာယ် ဖြစ်သွားတယ်၊ ("ကိုယ်ပြု ကိုယ်ခံ၊ ကိုယ်ပြု ကိုယ်စံ"ဆိုတဲ့ စကားပုံလိုပဲ) ဒီအယူအဆဟာ မှားတာပဲ၊ "ခိုင်တယ် မြဲတယ်"ဆိုတဲ့ သဿတဒိဋ္ဌိအယူ ဖြစ်သွားတယ်၊ ဒါ့ကြောင့် "မဟုတ်ဘူး"လို့ ဖြေခဲ့တာ။

• နိဒါနဝဂ္ဂသံယုတ်ပါဠိတော်၊ ၂၅၉

၂။ အို … အရှင်ဂေါတမ၊ "ဒီဒုက္ခတွေဟာ သူတစ်ပါးတွေက ပြုလို့ ဖြစ်ပေါ်လာတာလား"လို့ မေးပြန်တော့လဲ "မဟုတ်ဘူး"လို့ အရှင်ဂေါတမက ဖြေခဲ့ပြန်တယ်၊ အဲဒါကရော ဘယ်လို ရည်ရွယ်ပြီးတော့ ဖြေခဲ့တာလဲ။

"ကဿပ … ပြုလုပ်သူက တစ်ယောက်၊ ခံရတော့ တစ်ယောက်"ဆိုပြန်တော့လဲ မဟုတ်သေးဘူး။

သူများက ပြုလုပ်ထားလို့ ကိုယ်က ခံရတယ်ဆိုတာ မဟုတ်သေးဘူး-ဟဲ့၊ ဘာပြုလို့လဲ ဆိုတော့ ပြုလုပ်သူက ချုပ်ပျောက်သွားခဲ့ပြီ၊ ပြတ်ခဲ့ပြီ။ ကုန်ခဲ့ပြီ။ သူလုပ်ခဲ့လို့ ဖြစ်ပေါ်လာတဲ့အကျိုးကို ကိုယ်က ခံစားရတယ် ဆိုတော့ ဒါက တခြားစီ ဖြစ်နေပြီ၊ ပြတ်နေပြီ၊ ဥစ္ဆေဒဒိဋ္ဌိဖြစ်သွားပြီ၊ ဒါ့ကြောင့် ဒါလဲ မဟုတ်ဘူး-ဟဲ့။

ငါဘုရားက အဲဒီသဿတဒိဋ္ဌိ ဥစ္ဆေဒဒိဋ္ဌိ ၂-မျိုးတို့ကို ကွင်းရှောင်၍ အလယ်ကောင်က သွားနေတယ်၊ မဇ္ဈိမာပဋိပဒါလမ်းစဉ်အတိုင်း တရားဟောပြနေတယ်၊ ဘယ်လို ဟောသလဲဆိုတော့-

"အဝိဇ္ဇာပစ္စယာ သင်္ခါရာ၊
သင်္ခါရပစ္စယာ ဝိညာဏံ၊
။ပေ။ နိရောဓော ဟောတီတိ။

# ဘာ့ကြောင့် ဒိဋ္ဌိအယူတွေ ဝင်တာလဲ

* သာဝတ္ထိ ဇေတဝန်မှာ မြတ်စွာဘုရား သီတင်း သုံးတော်မူခိုက်ဖြစ်၏၊ ဝစ္ဆအနွယ် ပရိဗိုဇ်တစ်ဦး ရောက်လာပြီး မြတ်စွာဘုရားအား မေးလျှောက်သည်။

"အရှင်ဂေါတမ … လောကကြီးထဲမှာ ဒိဋ္ဌိအယူတွေ အမျိုးမျိုး ပေါ်ပေါက်နေပါတယ်၊

(၁) လောကကြီးဟာ မြဲတယ်၊
(၂) လောကကြီးဟာ မမြဲဘူး၊
(၃) လောကကြီးဟာ အဆုံးရှိတယ်၊
(၄) လောကကြီးဟာ အဆုံးမရှိဘူး၊
(၅) အသက်နဲ့ကိုယ် အတူတူပဲ၊
(၆) အသက်နဲ့ကိုယ် တခြားစီပဲ၊
(၇) သတ္တဝါသေပြီးရင် ဖြစ်သေးတယ်၊
(၈) သတ္တဝါသေပြီးရင် မဖြစ်တော့ဘူး၊
(၉) သတ္တဝါ သေပြီးရင် တချို့ ဖြစ်သေးတယ်၊ တချို့ မဖြစ်တော့ဘူး၊
(၁၀) သတ္တဝါသေပြီးရင် မဖြစ်သည်လည်း မဟုတ်၊ ဖြစ်သည်လည်း မဟုတ်။

အဲဒီ ဒိဋ္ဌိအယူတွေဟာ ဘာ့ကြောင့် ဝင်တာလဲ အရှင်ဂေါတမ …

ဤသို့မေးလျှောက်သောအခါ မြတ်စွာဘုရားက ဖြေကြားတော်မူ၏ –

"ဝစ္ဆ … ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ (ဆိုတဲ့ခန္ဓာငါးပါး)တို့ကို မသိခြင်းကြောင့်၊ ယင်းတို့၏အဖြစ်ကိုလည်း မသိခြင်းကြောင့်၊ ယင်းတို့၏အပျက်ကိုလည်း မသိခြင်းကြောင့်၊ ယင်းတို့ ချုပ်ကြောင်း အကျင့်ကောင်းကိုလည်း မသိခြင်းကြောင့် ဤဒိဋ္ဌိအယူများ ဝင်လာရသည်။

* ခန္ဓဝဂ္ဂသံယုတ်ပါဠိ၊၂၁၈၊၂၂၀

## တစ်ဘဝသာသနာ

## ကောကနုဒ ပရိဗိုဇ်က မေး

*တစ်ခါတုန်းက ကောကနုဒ ပရိဗိုဇ်က အရှင်အာနန္ဒာနှင့် တွေ့၍ မေးဖူး၏၊ ဖော်ပြခဲ့ပြီး (၁၀)မျိုးကို ဖော်ပြပြီးလျှင် "အဲဒီအထဲက ဘယ်အယူ ယူပါသလဲ" အရှင်အာနန္ဒာက "အဲဒါတွေ တစ်ခုမျှ မယူဘူး"လို့ ဖြေလိုက်တယ်။

"ဒါဖြင့် သင်ဟာ ဒါတွေကို မသိဘူးလား မြင်ဘူးလား"ဟု ပရိဗိုဇ်က ထပ်မေး၏၊ "မသိမဟုတ် မမြင်မဟုတ်၊ သိပါ၏ မြင်ပါ၏"ဟု အရှင်အာနန္ဒာက ဖြေသည်။

"ဒါဖြင့် ဘာပြုလို့ ဒီအယူတွေကို မယူတာလဲ" ဟု ထပ်ဆင့် မေးပြန်၏၊ "ဒိဋ္ဌိအယူတွေ ဖြစ်နေလို့၊ ငါက အဲဒီဒိဋ္ဌိအမျိုးအစား (၆၂)ပါးကိုလဲ သိတယ်၊ အဲဒီဒိဋ္ဌိတွေ ဖြစ်ခြင်း၏အကြောင်းရင်းတရားတွေကိုလဲ သိထားတယ်"ဟု အရှင်အာနန္ဒာက ဖြေတော်မူသည်။

## ဒိဋ္ဌိဖြစ်ခြင်းရဲ့ အကြောင်းရင်း (၈)ပါး

** ခန္ဓာ အဝိဇ္ဇာ ဖဿောစ၊
သညာ ဝိတက္ကော အယောနိသော။
ဒုမ္မိတ္တော ပရတော ဃောသော၊
ဒိဋ္ဌိဋ္ဌာနာနိ အဋ္ဌမာ။ ။

၁။ ခန္ဓာ၏ သဘောကို မသိခြင်းကြောင့် ဒိဋ္ဌိဝင်တယ်၊ ခန္ဓာငါးပါးထဲက ဘယ်ဟာကိုပဲရှုရှု၊ တစ်ခုခုကို ရွေးရှုပါ၊ ဥပမာ ရုပ်ကို ရှုတယ်ဆိုရင် ရုပ်ကလေးတွေ ပေါ်လာတာလဲ သိအောင်၊ ပျောက်သွားတာလဲ သိအောင် ရှုပါ၊ ပြောနေကျ စကားလုံးနဲ့ ပြောရရင် ဖြစ်လာတာလဲ သိအောင်၊ ပျက်သွားတာလဲ သိအောင် ရှုပါ၊ ရုပ်ကို တွေ့နေရုံနဲ့ မပြီးသေး။

အလားတူပဲ ဝေဒနာကို ရှုတဲ့အခါမှာလဲ ဝေဒနာ တွေ့နေရုံနဲ့ မပြီးသေး၊ ဝေဒနာရဲ့ အဖြစ်အပျက်ကို တွေ့သည်အထိ ရှုပါ။

သညာ၊ သင်္ခါရ၊ စိတ်တို့ကို ရှုတဲ့အခါမှာလဲ ဖြစ်အပျက် တွေ့သည်အထိ ရှုပါ၊ ဖြစ်တိုင်း သိ ပျက်တိုင်း သိအောင် ရှုပါ။

အဲလိုသိလာရင် သိတိုင်း – သိတိုင်း ပုဂ္ဂိုလ် သတ္တဝါ ယောကျ်ား မိန်းမ ပျောက်နေတယ်။

ဘာလို့လဲဆိုတော့ ဖြစ်တာ ပျက်တာက ပုဂ္ဂိုလ် သတ္တဝါမှ မဟုတ်ဘဲ၊ (မှန်ပါ) ဒုက္ခတွေဖြစ်၍ ဒုက္ခတွေ ပျက်နေတာပဲဟာ (မှန်ပါဘုရား) အဲလိုသိလာတော့ ဒိဋ္ဌိ ကွာတာပေါ့ (မှန်ပါ)

အဲသည်လို ခန္ဓာရဲ့ဖြစ်တာ ပျက်တာကို မမြင်ရင်၊ ခန္ဓာအကြောင်းကို မသိရင် ပုဂ္ဂိုလ် သတ္တဝါ ထင်နေမယ်၊ ပုဂ္ဂိုလ် သတ္တဝါ ထင်ရင် ဒိဋ္ဌိဝင်တာပေါ့ (မှန်ပါဘုရား)

အချုပ်ပြောကြစို့ဆိုတော့ ခန္ဓာဖြစ်၍ ခန္ဓာပျက်တာကို မသိရင် ဒိဋ္ဌိဝင်တယ်၊ ဒိဋ္ဌိဝင်ခြင်းရဲ့အကြောင်း တစ်ခုပေါ့ (မှန်ပါဘုရား)

၂။ နောက်တစ်ခုက အဝိဇ္ဇာကြောင့်လည်း ဒိဋ္ဌိဖြစ်တယ် (မှန်ပါ) ရုပ်ပေါ်တာ ရုပ်ပျက်တာ မသိ၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ စိတ်တွေ ပေါ်တာ စိတ်တွေ ပျက်တာ မသိယင် ဒိဋ္ဌိ ဝင်တယ်။

* အင်္ဂုတ္တရပါဠိ၊ဒသက၊၄၁၅

** အင်္ဂုတ္တရ၊ဒသက၊၄၃၂

၃။ ဖဿကြောင့်လည်း ဒိဋ္ဌိဖြစ်တယ်၊ အခံဓာတ် + အတိုက်ဓာတ် + အပွင့်ဓာတ်တွေ ဆုံကြတာဟာ ဖဿပေါ့၊ အဲဒီဖဿဖြစ်တာ တွေ့ထိတာကိုပဲ ငါတွေ့ထိတယ်၊ သူတွေ့ထိတယ် လုပ်နေတော့ ဒိဋ္ဌိဝင်တာပေါ့ (မှန်ပါ) အမှန်က ဓာတ်တွေ ဆုံကြ ကြုံကြခြင်းမျှသာ ဖြစ်တယ် (မှန်ပါဘုရား)

၄။ သညာမှား အမှတ်မှားလို့လဲ ဒိဋ္ဌိဖြစ်၊ ခန္ဓာတွေ ရုပ်နာမ်တွေကို သူပဲ ငါပဲ၊ ယောကျ်ား မိန်းမပဲလို့ အမှတ်မှားသောကြောင့်လည်း ဒိဋ္ဌိဖြစ်တယ် (မှန်ပါ)

၅။ ဝိတက်ကြောင့်လည်း ဒိဋ္ဌိဖြစ်တယ်၊ မျက်စိ နား နှာ စတဲ့ ခန္ဓာကိုယ် တစ်ခုလုံးကို "ငါပိုင် ငါစိုး" ဟု ကြံစည်မှားသောကြောင့် ဒိဋ္ဌိဖြစ်ရတယ်၊

၆။ (အယောနိသော) နှလုံးသွင်းမှားလို့လဲ ဒိဋ္ဌိဖြစ်ရတယ်၊ ဖြစ်လိုက် ပျက်လိုက်နဲ့ ရုပ်နာမ်ခန္ဓာတွေကိုပဲ ယောကျ်ားလို့ နှလုံးသွင်း၊ မိန်းမလို့ နှလုံးသွင်း၊ သမီးလို့ သားလို့ စသည် နှလုံးသွင်းမှားသောကြောင့်လည်း ဒိဋ္ဌိ ဖြစ်ရတယ်။

၇။ (ဒုမ္မိတ္တ) မိတ်ဆွေမှားနဲ့ ပေါင်းသင်းမိလို့လဲ ဒိဋ္ဌိဖြစ်ရတယ်၊ ခရစ်ယာန်နဲ့ ပေါင်းလို့ ခရစ်ယာန်ဖြစ်၊ မူဆလင်နဲ့ပေါင်းလို့ မူဆလင်ဖြစ်ရ (မှန်ပါ)

၈။ (ပရတော ဃောသ) မှားတဲ့တရားကို နာမိလို့လဲ ဒိဋ္ဌိဖြစ်ရ၊ သူတပါးထံမှ ဒိဋ္ဌိမကွာတဲ့တရားကို နာရလို့လဲ ဒိဋ္ဌိဖြစ်ရတယ် (မှန်ပါဘုရား)

ဤနည်းအားဖြင့် ဒိဋ္ဌိ (မိစ္ဆာဒိဋ္ဌိ) ဖြစ်ခြင်း၏ အကြောင်းရင်း (၈)ပါးကို မြတ်စွာဘုရား ဟောပြထားတော်မူတယ် (မှန်ပါဘုရား)
[ဆောင်]

၁။ ခန္ဓာမသိ–အဝိဇ္ဇာရှိ၊ တွေ့ထိ–အမှတ်မှား။
၂။ ကြံစည်–နှလုံးသွင်း၊ မိတ်ပေါင်းသင်း၊ ပျက်ယွင်း နာတရား။
၃။ ဤရှစ်ပါးတွင်၊ တစ်အင်အင်ကြောင့်၊ အမြင်ယွင်းဖောက်၊ ဒိဋ္ဌိရောက်၊ တောက်လျှောက် အပါယ်သွား။ ။

ဤသို့အားဖြင့် ဒိဋ္ဌိ ဖြစ်ခြင်း၏ အကြောင်းတရား (၈)ပါး ရှိကြောင်းကို အဋ္ဌကထာ၌ ဖွင့်ဆိုပြလေသည်။

## ဂဒ္ဒုလဗဒ္ဓသုတ်

[ဂဒ္ဒုလ=ခွေးကိုချည်သောကြိုး၊
(သားရေကြိုး)၊ ဗဒ္ဓ=ဖွဲ့ချည်အပ်။]

ဘုရားရှင်ကိုယ်တော်မြတ်ကြီးက ဤသို့ ဟောတော်မူသည်–

"သံသရာကြီးက ရှည်လျားလှ၏၊ အစတောင် မထင်နိုင်အောင်ဖြစ်သည်၊ အဝိဇ္ဇာအပိတ်အကာနှင့် တဏှာသံယောဇဉ်တွေ ရှိပြီး သံသရာထဲ တဝဲလယ်လယ် နေကြရသူတို့အတွက် ဘယ်တုန်းက စခဲ့သည်ဟူ၍ပင် မမြင်နိုင်လောက်အောင် ရှည်လျားလှသည်"

* "သေယျထာပိ ဘိက္ခဝေ သာ ဂဒ္ဒုလဗဒ္ဓေါ ဒဠှေ ခီလေဝါ ထမ္ဘေဝါ ဥပနိဗဒ္ဓေါ၊ တမေဝ ခီလံဝါ ထမ္ဘံဝါ အနုပရိဓာဝတိ အနုပရိဝတ္တတိ"

ရဟန်းတို့... ဥပမာဖြင့် ပြောရလျှင် သားရေလွန်ကြိုးဖြင့် ဖွဲ့ချည်ထားအပ်သော ခွေးသည် ခိုင်မြဲသော ငုတ်၊ ခိုင်မြဲသောတိုင်၌ မြဲမြံစွာ ချည်နှောင်ထားအပ်သည် ရှိသော် (ထိုခွေးသည် နှောင်ကြိုးတည်း ထားသည်ဖြစ်၍ အဝေးသို့ မသွားနိုင်ဘဲ) ထိုငုတ်၊ ထိုတိုင်သို့သာလျှင် လှည့်ပတ် ပြေးလွှား သွားလာနေရရာသကဲ့သို့–

* ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်–၁၂၁။

ထို့အတူပင် အကြားအမြင် ဗဟုသုတမရှိသော ပုထုဇဉ်သည်လည်း ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏတို့ကို (ငါ) ခန္ဓာငါးပါးတို့ကို အတ္တဟူ၍ ဒိဋ္ဌိဖြင့်ယူမှတ်သားထားနေအံ့၊ ထိုရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏသို့ပင် (ငါ) ခန္ဓာငါးပါးသို့ပင် လှည့်ပတ်ပြေးလွှား သွားလာရစ်ဝဲနေရာ၏။

ရစ်ဝဲနေရလျှင် ဇာတိ၊ ဇရာမရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသတို့မှ မလွတ်မြောက်နိုင်၊ ထိုအရာတို့မှ မလွတ်မြောက်နိုင်သေးလျှင် ဒုက္ခအပေါင်းမှလည်း မလွတ်မြောက်နိုင်သေး၊ ဤသို့ ဟောတော်မူသည်။

**မှတ်ချက်။** ။ဤသုတ်တော်အရ ဆိုလျှင် ခန္ဓာကို တဏှာ ဒိဋ္ဌိတို့ဖြင့် စွဲသဖြင့် တရစ်ဝဲဝဲ ဖြစ်နေရပုံကို သိရ၏၊ ဘာဖြင့် စွဲသလဲ၊ ဒိဋ္ဌိဖြင့် စွဲ၏၊ ဘာ့ကြောင့် စွဲသလဲ၊ ငါလို့ ထင်မှတ်နေသောကြောင့်။

သို့ဖြစ်၍ ခန္ဓာက တိုင်ကြီး၊ တဏှာက ကြိုး၊ ဒိဋ္ဌိက လည်ပတ်၊ စွဲလမ်းနေသူ ပုထုဇဉ်က ခွေးနှင့်တူ၏–ဟု ဆိုလိုသည်။

[ခန္ဓဝဂ္ဂသံယုတ် ပါဠိတော်မှာပင် နှာ–၁၂၃၊ ဒုတိယ ဂဒ္ဒုလဗဒ္ဓသုတ်တွင်လည်း ခန္ဓာငါးပါးတို့အပေါ်၌ "ဧတံ မမ၊ ဧသောဟမသ္မိ၊ ဧသော မေ အတ္တာ"ဟူ၍ တဏှာ မာန ဒိဋ္ဌိတို့ဖြင့် ရှုပုံ စွဲယူပုံမှုသာ ထူးသည်၊ အတူတူပင် ဖြစ်၏။]

## ခန္ဓာချည်တိုင်၊ တဏှာကြိုး၊ ဒိဋ္ဌိလည်ပတ်

[မိုးကုတ်(၇)နှာ–၂၈မှ၄၃အထိ]

ဘုရားရှင် ကိုယ်တော်မြတ်ကြီး၏ အထက်ပါ ဟောမိန့်ချက်ကို မိုးကုတ်ဆရာတော်ကြီးက ပုံပေါ်လာအောင် ဤသို့ ဖော်၍ ဟောပြတော်မူသည်။

"လူတွေဟာ သေခါနီးကျရင် ငါတော့ဖြင့် ခက်ပြီ၊ ငါ သေရတော့မယ်၊ ငါ့ခန္ဓာကြီးနဲ့ ခွဲရတော့မယ်–လို့ ညည်းပြီး သေတတ်ကြသတဲ့၊ အဲသည်လိုဆိုတော့ တဏှာ ဒိဋ္ဌိနဲ့ သေသွားကြတာပေါ့" (မှန်ပါဘုရား)

ဒုက္ခသစ္စာကြီးကို ငါ ငါ့ဥစ္စာလုပ်ပြီး သေကြတာနော် (မှန်ပါဘုရား) ငါဆိုတာက ဒိဋ္ဌိ၊ ငါ့ဥစ္စာဆိုတာက တဏှာ (မှန်ပါ) ဒါဖြင့် ဒကာကြွယ်... တဏှာ ဒိဋ္ဌိတို့နဲ့ သေသွားကြတယ်လို့ ပြောရင် မှားမလား (မမှားပါ ဘုရား)

ဒီခန္ဓာကြီးကို တဏှာ ဒိဋ္ဌိနဲ့ စွဲပြီး သေကြတယ် ဒကာသစ်ရ... (မှန်ပါဘုရား) ဒါဖြင့် ဒီခန္ဓာကြီးကို ဒိဋ္ဌုပါဒါန်–ကာမုပါဒါန်တို့ဖြင့် စွဲကြတယ် (မှန်ပါ) ငါဆိုတာက ဒိဋ္ဌုပါဒါန်၊ ငါ့ဥစ္စာဆိုတာက ကာမုပါဒါန်၊ (မှန်ပါဘုရား)

ဒါဖြင့် ဒီပုဂ္ဂိုလ်ဟာ ဉပါဒါန်တန်းလန်းနဲ့ သေသွားတယ် ဆိုရင် ဉပါဒါနပစ္စယာ (ကမ္မဘဝေါ–ပါဘုရား) ကမ္မဘဝပစ္စယာ (ဇာတိပါဘုရား) ဇာတိပစ္စယာ (ဇရာမရဏံပါ ဘုရား)

အဲ... သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသတို့နဲ့ ဒကာကြွယ်ရေ... စုံလို့ပေါ့ဗျာ (မှန်ပါ) မကောင်းတာတွေဟူသမျှ စုံနေတယ် (မှန်ပါဘုရား)

ဒါဖြင့် ဒီလူ ခန္ဓာချည်တိုင်မှာ ခေါင်းစင်းပြီး သေသွားတယ် (မှန်ပါ) ခန္ဓာကို ငါထင်သွားတာကိုး (မှန်ပါ) ပြီးတော့ ငါ့ခန္ဓာကြီး စွန့်ရတော့မယ်ဆိုတော့ "ငါ့ဥစ္စာ"လို့ စွဲတဲ့အတွက် တဏှာ (မှန်ပါဘုရား)

ဒါဖြင့် ဒီလို မှတ်တော့၊ ခန္ဓာက ချည်တိုင် (မှန်ပါ) ငါ့ဥစ္စာထင်တာက တဏှာကြိုးပဲ (မှန်ပါ) မသိတဲ့ပုဂ္ဂိုလ်က ပုထုဇဉ် (မှန်ပါဘုရား) ဒိဋ္ဌုပါဒါန် ကာမုပါဒါန်ကို မသိတဲ့ ပုဂ္ဂိုလ်က ပုထုဇဉ် (မှန်ပါဘုရား)

အဲဒီပုထုဇဉ်ဟာတဲ့ ခန္ဓာချည်တိုင်မှာ တဏှာကြိုးနဲ့ ချည်ထားခံရ (မှန်ပါ) ခွေးနဲ့တူတဲ့ ပုထုဇဉ်ကို (မှန်ပါဘုရား) ဘုရားဟောတာနော် (မှန်ပါဘုရား)

ဒီပုထုဇဉ်ကလဲ ဘာမှမသိ၊ ခန္ဓာကို ငါပဲ ထင်နေတာ (မှန်ပါ) ငါလို့ ထင်တဲ့ ဒိဋ္ဌိ (မှန်ပါ) အဲဒါက လည်ပတ်ပေါ့ဗျာ (မှန်ပါဘုရား)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# လူ နတ် ဗြဟ္မာ ခန္ဓာချည်တိုင်တွေ

ဒီခန္ဓာကိုယ်ကြီးကို ခင်မင်တတ်တဲ့ တဏှာကြိုးနဲ့ ချည်ထားတယ်၊ ဒါဖြင့် ဒိဋ္ဌိလည်ပတ်၊ တဏှာကြိုးဖြင့် ခွေးနဲ့ တူတဲ့ ပုထုဇဉ်ကို ခန္ဓာတိုင်မှာ ချည်ထားတာ၊ (မှန်ပါဘုရား)

ဒီခန္ဓာကြီးကို ခင်ဗျားတို့က ငါပဲ ထင်နေတော့ ဒိဋ္ဌိကလဲ ပါနေတယ်၊ (ပါ ပါတယ်ဘုရား) ငါ့ဥစ္စာလို့လဲ ထင်နေတော့ တဏှာကော (ပါ-ပါတယ်ဘုရား) ဘယ်သူက ထင်တာတုံး (ပုထုဇဉ်လူမိုက်ကပါဘုရား) ဘယ်အပေါ်မှာ ထင်တာတုံး (ခန္ဓာပေါ်မှာပါ)

ပုထုဇဉ်က ခန္ဓာငါးပါးအပေါ် ဘယ်လို ထင်တာတုံး (ငါ-ငါ့ဥစ္စာ ထင်ပါတယ်ဘုရား) အေး... ငါ ငါ့ဥစ္စာ ၂-ချက် ထင်တယ်နော် (မှန်ပါဘုရား)

ဒါဖြင့် ခန္ဓာငါးပါးက ဘာနဲ့တူသတုံး၊ (ချည်တိုင်နဲ့ တူပါတယ်ဘုရား) ငါ့ဥစ္စာဆိုတာက တဏှာပဲ၊ ဘာနဲ့တူတုံး (ကြိုးနဲ့ တူပါတယ်ဘုရား) ပုထုဇဉ်က ဘာနဲ့တူသတုံး (ခွေးနဲ့တူပါတယ်ဘုရား) ဒီခွေးကလဲ သူ့ကိုယ်သူ ငါလို့ထင်နေတော့ ဒိဋ္ဌိ (မှန်ပါ) အဲဒါက လည်ပတ် (မှန်ပါဘုရား)

ဒါဖြင့် ကျုပ်တို့တစ်တွေမှာ ဘယ်နှယ်ဖြစ်နေတုံး ဆိုတော့ ခန္ဓာငါးပါးချည်တိုင်၌ တဏှာတည်းဟူသောကြိုး၊ ဒိဋ္ဌိတည်းဟူသော လည်ပတ်နဲ့ ပုထုဇဉ်အမိုက်သည် ခွေးကဲ့သို့ လည်ပတ်နေတယ် (မှန်ပါ) တိုင်ကို လှည့်ပတ်ပြေးနေတယ်၊ (မှန်ပါဘုရား)

လူ့ခန္ဓာတိုင်မှာ မချည်ရရလို့ ရှိရင် နတ်ခန္ဓာဖြစ်ရပါလို၏ဆိုတော့ ဟိုခန္ဓာသွားချည်တယ် (မှန်ပါ) ဗြဟ္မာခန္ဓာဖြစ်ရပါလို၏ဆိုတော့ ဗြဟ္မာခန္ဓာကို သွားချည်တယ် (မှန်ပါ) ဗြဟ္မာခန္ဓာ၌ တဏှာကြိုးနဲ့ ဒိဋ္ဌိလည်ပတ်နဲ့ သွားချည်နေတယ် (မှန်ပါဘုရား)

ဝိပဿနာမလုပ်တဲ့သူမှာဖြင့် ငါ-ငါ့ဥစ္စာ ပြုတ်ပါ့မလား (မပြုတ်ပါဘုရား) မပြုတ်တော့ကို ခန္ဓာချည်တိုင်မှာ မြဲနေမှာပဲ (မှန်ပါ) ငါ့ဥစ္စာဆိုတဲ့ ကြိုးကြီးကရော ပြုတ်ပါ့မလား (မပြုတ်ပါဘုရား) ငါဆိုတဲ့ ဒိဋ္ဌိလည်ပတ်ကြီးကရော ပြုတ်ပါ့မလား (မပြုတ်ပါဘုရား)

# တိုင်ကျိုး၊ ကြိုးပြတ်၊ လည်ပတ်ပြုတ်

အဲဒါကြောင့် ဒီကနေ့ ဒီတိုင်၊ ဒီကြိုးနဲ့ ဒီလည်ပတ်ကို ဖြတ်ပေးပါ့မယ် (မှန်ပါဘုရား) ဖြတ်ပေးပြီးရင် နိဗ္ဗာန်တည်းဟူသော လွတ်လပ်ရေးကို ရမယ် (မှန်ပါဘုရား)

ကိုင်း... ဒါဖြင့် ဒီတိုင်ခြေက လွတ်သွားရင် သက္ကာယနယ်မှ လွတ်သွားမယ်၊ သက္ကာယဆိုတာ ခန္ဓာငါးပါး (မှန်ပါ) သက္ကာယချုပ်တဲ့ နိဗ္ဗာန်ကို ဆိုက်သွားမယ် (မှန်ပါဘုရား)

ဒါဖြင့် ဒီနေ့ တိုင်ရယ်၊ ကြိုးနဲ့ လည်ပတ်ရယ် ဖြတ်ကြစို့၊ ခန္ဓာက ဘယ်နှစ်ပါးလဲ (ငါးပါးပါဘုရား) ဘယ်ဟာတွေလဲ (ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာတို့ပါဘုရား)

အဲဒါတွေကို ဉာဏ်နဲ့ကြည့်လိုက်ကြစမ်းပါ၊ ဟိုနားက ယား၊ ဒီနားက နာ၊ ဟိုနားက ကိုက်၊ ဒီနားက ခဲ၊ ဟိုနားက ကျင် – ဆိုတာတွေဟာ ဝေဒနာတွေပဲ (မှန်ပါ) ကြည့်လိုက်တော့ ပျောက် ပျောက် ကုန်

ဘယ် (မှန်ပါ) ဒါဖြင့် ဖြစ်ပြီးတော့ ပျက်သွားတဲ့အနိစ္စပဲ၊ (မှန်ပါဘုရား) ဝေဒနာကလေးတွေက ဖြစ်-ပျက်ဆို တော့ ငါ ဟုတ်သေးရဲ့လား (မဟုတ်တော့ပါ ဘုရား) အနိစ္စပဲဟာ (မှန်ပါ) အနိစ္စဖြစ်သွားတော့ ဒိဋ္ဌိလည်ပတ် ပြုတ်ပြီ (မှန်ပါဘုရား)

ငါ့ဥစ္စာကော ဟုတ်သေးရဲ့လား (မဟုတ်တော့ ပါ ဘုရား) မဟုတ်ရင် တဏှာကြိုးလဲပြတ်ပြီ (မှန်ပါ) ဒါဖြင့် ဒကာ ဒကာမတို့ ဖြစ်ပျက်ကလေး တစ်လုံးသည် လည်ပတ်နဲ့ ကြိုးပြတ်တယ် (မှန်ပါ)

ဒါတွင် ဘယ်ကအုံးမလဲ ဖြစ်ပျက် တွေချည်း မြင်နေတော့ ခန္ဓာလဲ ပျောက်မနေဘူးလား (ပျောက်နေပါ တယ် ဘုရား) ဒါဆိုရင် တိုင်လဲ ကျိုးတော့တာပေါ့ (မှန်ပါဘုရား)

ဒါဖြင့် ခွေးဘဝလက်စသိမ်းမယ် (မှန်ပါဘုရား) နို့မဟုတ်ရင် သံသရာထဲမှာ ပုံစံအမျိုးမျိုးနဲ့ ခွေးကြီး ဘဝတွေ ခွေးငယ်ဘဝတွေ လုပ်နေရအုံးမယ်၊ (မှန်ပါ ဘုရား)

စိတ်ကလေးတွေ ရှုမယ်ဆိုရင်လဲ ရှုနိုင်ပါတယ် (မှန်ပါ) ဘယ်စိတ်လာလာ၊ ဖြစ်ပျက်သာရှုချ (မှန်ပါ) ဖြစ်ပျက်မြင်တဲ့အခါ ငါဟုတ်သေးလား (မဟုတ်ပါ)

ငါမဟုတ်တော့ဘူးဆိုတော့ လည်ပတ်ပြုတ်ပြီ၊ (မှန်ပါ) ငါ့ဥစ္စာကော ဟုတ်သေးလား (မဟုတ်တော့ပါ) ဒါဖြင့် ချည်တဲ့ကြိုးလဲ ပြတ်ပြီ (မှန်ပါဘုရား)

ဒါဖြင့် ဒိဋ္ဌိလည်ပတ်နဲ့တဏှာကြိုးပြတ်တော့ကို ပုထုဇဉ်ပဲ ဖြစ်နေသေးသလား၊ အရိယာဖြစ်သွားသလား (အရိယာဖြစ်သွားပါတယ်ဘုရား) ဒါဆို လွတ်လပ်ရေး ရပြီ။

ဒိဋ္ဌုပါဒါန် ကာမုပါဒါန်ဆိုတဲ့ ဥပါဒါန်ကြီးတွေ အကုန်ပြတ်ပြီးတော့ ဥပါဒါန်တို့၏ ချုပ်ရာ ငြိမ်းရာ နိဗ္ဗာန်သို့ ရောက်တော့တယ် (မှန်ပါဘုရား)

## အထက်ဘဝဂ်၊ အောက်အဝီစိ

ဒီလိုသာ ဝိပဿနာ မရှုလို့ကတော့ ဒိဋ္ဌိမပြုတ်၊ ဒိဋ္ဌိမပြုတ်ရင် (၃၁)ဘုံအတွင်းမှာ တပြောင်းပြန်ပြန်၊ နိမ့်ချည်မြင့်ချည် အတည်မကျ ဘဝအမျိုးမျိုး ဖြစ်ရပေ ဦးမည်၊ ဤသဘောကို ဒုတိယ မုံရွေးဆရာတော်က မေတ္တာစာဖြင့် အောက်ပါအတိုင်း သတိပေးထားသည်။

"ဇမ္ဗူဒီ စိုးအုပ်၍၊ မင်းလုပ်သည့် အို ဘယ့်လူ၊ ထီးဖြူနှင့် တလျှပ်လျှပ်၊ မြွေကြောရှည် စပါးကြီး မှာ၊ အမြီးနှင့် တခတ်ခတ်...

ဥဒ္ဓံယာဝ ဘဝဂ္ဂါစ၊ အဓောယာဝ အဝီစိ တော၊ တရိခေတ်လုံး၊ ဗရုန်းဗရင်း၊ ဆင်းသူ ဆင်း၊ တက်သူတက်၊ လူဖြစ်ချည် နတ်ဖြစ်ချည်၊ အတည်မဲ့မျိုး၊ အစိုးမရ။

ဂေါဏ ကုက္ကုရ ဥဋ္ဌနာဘိ သရဖု၊ တက်တူအိမ်မြှောင်၊ အတောင်ပေါက် အမြီး ရောက်၊ အမောက်နှင့် ဆောင်းဆောင်း။

ခြေနှစ်ချောင်း ခြေလေးချောင်း၊ သောင်း ပြောင်း ရောရာ၊ ခြေမရှိပဲ အခါခါ၊ ခြေများစွာနှင့် အကြိမ်ကြိမ်။

တာဝတိံသာ ဘုံဖျားမှာ၊ သိကြားဖြစ်၍ သူ့ ထက်ကဲ၊ အောက်ငရဲမှာ သေနာနာ၊ ဗြဟ္မာဖြစ် လို့ ပြောင်ပြောင်ဝင်း၊ ဝက်စားကျင်းမှာ တရှုပ် ရှုပ်..."တဲ့။

စာကလည်း ပြောင်မြောက်ပါ့၊ သူ့အဓိပ္ပာယ်ကလည်း ရှင်းလှပါသည်။

# ဆုကြီးပန်မှ မဟုတ်လျှင် ရတယ်

မိုးကုတ်ဆရာတော်ကြီးက သူ့ထံသို့ တရားအား ထုတ်ရန် ချဉ်းကပ်လာသူတို့အား မေးလေ့မေးထရှိတဲ့ မေးခွန်းတစ်ခု ရှိသည်၊ အဲဒါက "ခင်ဗျား... ဆုကြီး ပန်လား"တဲ့၊

"တပည့်တော် ဆုကြီးပန် မဟုတ်ပါ ဘုရား" ဟူ၍ လျှောက်ထားလျှင် တရားရနိုင်တဲ့ အင်္ဂါနှစ်ချက်ကို မိန့်တော်မူလေ့ရှိ၏

"အေး... ဆုကြီးပန်မှ မဟုတ်လျှင် ပဋ္ဌာနဠ္ဌ ရိယက်သာ မထိုက်ခဲ့စေနဲ့၊ ရတယ်ဗျ၊ "တရား ရတယ်"ဆိုတာ အင်္ဂါ ၂-ချက်ညီရင် ရတာပဲ၊ ပေဋကောပဒေသမှာ ဆိုထားတယ်၊ ဥပရိ ပဏ္ဏါသ ပါဠိတော်မှာလဲ ဟောထားတာပဲ။

နံပါတ်(၁) သစ္စာတရားကို နာကြားမှု၊ နံပါတ်(၂) ခန္ဓာကိုယ်တွင်း၌ မှန်ကန်စွာ ဉာဏ်ဖြင့် နှလုံးသွင်းမှု၊ သည်နှစ်ချက်ပြည့်စုံရင် လုံလောက်ပြီ၊ ဒါ သာဝက အင်္ဂါပဲ..."

ဤသို့လျှင် ရဲရဲကြီး မိန့်တော်မူလေ့ရှိ၏၊ ဆရာတော်ကလည်း အားကိုးသာကေရှိ၍ မိန့်တော်မူခြင်း ဖြစ်သည်။

* ဒွေ ဟေတူ ဒွေ ပစ္စယာ
သာဝကဿ သမ္မာဒိဋ္ဌိယာ ဥပ္ပါဒါယ၊
ပရတော စ ဃောသော သစ္စာနုသန္ဓိ၊
အဇ္ဈတ္တဉ္စ ယောနိသော မနသိကာရော။

သူ့အဓိပ္ပာယ်က-

သာဝကအတွက် မှန်ကန်တဲ့ဉာဏ်အမြင်ရဖို့ရာ အကြောင်း(၂)မျိုးသာ ရှိ၏၊ တစ်မျိုးမှာ သစ္စာနှင့် စပ်သောတရား သူတစ်ပါးထံမှ နာကြားရခြင်း၊ နောက်တစ်မျိုးမှာ ကိုယ်တွင်းသန္တာန်၌ မှန်ကန်သော နှလုံးသွင်းမှု (တရားရှုမှတ်မှု) ရှိခြင်း၊ ဤ၂-မျိုးပင်ဖြစ်သည်။

လိုရင်းကို ချုံး၍ ပြောရလျှင်-

(၁) သစ္စာတရား နာကြားခြင်း၊
(၂) ဉာဏ်က ခန္ဓာပေါ်သို့ လှည့်၍ နှလုံးသွင်းခြင်း၊ ဤနှစ်ပါးပင် ဖြစ်သည်။

သာဝကဿ-သာဝက၏၊ (ဝါ) သာဝက အတွက်၊ သမ္မာဒိဋ္ဌိယာ-မှန်ကန်သော ဉာဏ်အမြင်၏၊ ဥပ္ပါဒါယ-ဖြစ်ပေါ်ခြင်းငှါ၊ (က) ပရတော-သူတစ်ပါးထံမှ၊ သစ္စာနုသန္ဓိ-သစ္စာနှင့် စပ်သော၊ ဃောသောစ-တရားသံလည်းကောင်း၊ (ခ) အဇ္ဈတ္တံ-ကိုယ်တွင်းသန္တာန်၌၊ (ဝါ) ခန္ဓာပေါ်၌၊ ယောနိသော-သင့်သော အကြောင်းအားဖြင့် (ဝါ) နည်းမှန်လမ်းမှန်၊ မနသိကာရောစ-နှလုံး သွင်းခြင်း (တရား ရှုမှတ်ခြင်း) လည်းကောင်း၊ (ဣတိ-ဤသို့) ဟေတူ-အကြောင်းရင်းတို့သည်၊ ဒွေ-နှစ်မျိုးတို့သာတည်း၊ ပစ္စယာ-အကြောင်းဖွားတို့သည်၊ ဒွေ-နှစ်မျိုးတို့သာတည်း။

[ဆောင်]

၁။ သစ္စာနှင့်စပ်၊ တရားမြတ်၊ ချဉ်းကပ် သိအောင် နာ။
၂။ သစ္စာအသိ၊ ဉာဏ်နှင့်ညှိ၊ ရှုကြည့် ကိုယ်ခန္ဓာ။
၃။ အင်္ဂါ နှစ်တန်၊ ပြည့်စုံပြန်၊ ရရန် တရားသာ။
၄။ ပေဋကောပဒေသ၊ ပါဠိပြ၊ မိန့်ဟ ကျမ်းတော်လာ။

* ပေဋကောပဒေသပါဠိ၊၁၆၇

## တစ်ဘဝသာသနာ

# ပါရမီတွေ ပြည့်နေကြပြီ

"လူတွေက ပြောတတ်ကြတယ်၊ "ပါရမီ" "ပါရမီ"နဲ့၊ ပါရမီပြည့်မှ တရားရမှာပေါ့"တဲ့၊ တို့တော့ ပါရမီ လိုပါသေးတယ်၊ တရားရမှာ မဟုတ်သေးပါဘူး"တဲ့၊ အလကား နားမလည်ဘဲနဲ့ လျှောက်ပြောနေကြတာ"

ဤသို့လျှင် မိုးကုတ် ဆရာတော်ကြီးက မိန့်တော်မူဖူးသည်၊ နားမလည်သူများအတွက် သတိပေးတော်မူခြင်း ဖြစ်၏။

"ပါရမီ" ဆိုတာ ဘုရား အတွက် လိုတယ်၊ ပစ္စေကဗုဒ္ဓါအတွက် လိုတယ်၊ လက်ယာတော်ရံ လက်ဝဲတော်ရံအတွက် လိုတယ်၊ အသီတိသာဝကတွေ အတွက်လဲ လိုတယ်၊ ဒါတွေဟာ ဆုကြီးတွေပေါ့။

အဲ... အဲဒီဆုကြီးတွေကို မမက်ဘူး၊ အဲဒီ ဆုကြီးတွေကို မပန်ဘူး၊ ရိုးရိုးသာဝကအဖြစ်နဲ့ နိဗ္ဗာန်ကို ယူမယ်ဆိုတဲ့သူတွေအတွက် ပါရမီတွေ နောက်ထပ်ဖြည့်ဖို့ မလိုဘူး၊ ပြည့်နေပြီ၊ အလုပ် လုပ်တော့"ဟူ၍ မိန့်တော်မူတတ်၏။

# ဘုရားဖူးချင်သေးလို့–တဲ့

သီရိလင်္ကာ (သီဟိုဠ်ကျွန်း)၌ စူဠသံဃရက္ခိတ မထေရ်ကြီးတစ်ပါးရှိ၏၊ သီလသမာဓိပညာဂုဏ်တို့ဖြင့် အရှိန်အဝါကြီးမားလှသည်၊ အများက ကြည်ညိုကြ၏၊ သက်တော်က ၈၀၊ သိက္ခာတော်က ၆၀ ရှိလာသောအခါ အိုပြီဖြစ်၍ သေရာညောင်စောင်းထက်၌ လျောင်းရင်း ညည်းတွားနေရလေပြီ၊ အလုပ်အကျွေးရဟန်းငယ်တို့က မေးလျှောက်ကြ၏ -

"အရှင်ဘုရား... အားကိုးစရာ တစ်စုံ တစ်ခုသော လောကုတ္တရာတရားများ ရရှိပါပြီလား ဘုရား"

"ဟင့်အင်– ငါ့မှာ လောကုတ္တရာတရား တစ်စုံတစ်ခုမျှ မရှိ"

"အို... အရှင်ဘုရား၊ တက်ဝန်းကျင် ပတ်ပတ်လည် ၁၂–ယူဇနာခန့်မှစ၍ ဒကာ ဒကာမတွေက အရှင်ဘုရား ပရိနိဗ္ဗာန်ပြုတော့မည်–ဆိုပြီး စုဝေးနေကြပါပြီ။

ဒီလိုဆိုရင် ပုထုဇဉ်ဘဝဖြင့် အရှင်ဘုရားက သေရတော့မယ်–ဆိုတော့ လူတွေအဖို့ အထင်ကြီးရသလောက် စိတ်မကောင်းစရာပဲ ဘုရား"

"ဩော်... ဒီလိုလား၊ ကဲ–ကဲ–ကဲ... ဒါဖြင့် ငါ့ကို ထူပေးစမ်း၊ ခဏကလေး ငါ့ကို ထူပေးစမ်း"

ဤသို့ အမိန့် ရှိသဖြင့် ညောင်စောင်းထက်တွင် လဲလျောင်းနေရာမှ ငုတ်တုတ်ထိုင်၍ ပေးလိုက်ကြလေသည်။

"ကဲ... အပြင်ထွက်ကြ" ဟု အမိန့် ရှိသဖြင့် အလုပ် အကျွေး ရဟန်းငယ်များ အပြင်သို့ ထွက်ကြရ၏၊ အပြင်သို့ ရောက်ခါရှိသေး၊ မထေရ်ကြီးက လက်ဖျောက်တီး၍ ခေါ်တော့၏၊ "ကိစ္စပြီးပြီ"–ဟု သိလိုက်ကြရသည်။

"အရှင်ဘုရား... ဤမျှ လျင်မြန်စွာ လောကုတ္တရာ တရားကို လက်ဝယ်ပိုင်ပိုင် ရရှိစေနိုင်သည်မှာ အံ့ဩစရာပဲ ဘုရား..."

ဤသို့ လျှောက်ထားကြသောအခါ မထေရ်ကြီးက–

"အိမ်း... ငါက လာမည့် အရိမေတ္တေယျဘုရားကို ဖူးချင်သေးလို့ ဝိပဿနာ မလုပ်သေးဘဲ ထားတာပါ။

နိဗ္ဗာန်ကို အခု လိုချင် အခု ရပါတယ်၊ အဲလို မြန်မြန်ရတာကလဲ သီလတွေ စင်စင်ကြယ်ကြယ် နေခဲ့လို့"

ဤသို့ ပြန်လည် အမိန့်ရှိပါသည်။

**မှတ်ချက်**။ ။ဤမထေရ်ကြီးကား ဘုရားဖူးချင်၍ စောင့်နေခြင်းဖြစ်၏၊ ဘုရားဖူးလိုသောဆန္ဒကို ဒုက္ခတွေ တနင့်တပိုးကြီးနှင့်လဲ၍ ဖြည့်တင်းနေခြင်းဖြစ်သည်။

## ဆန္ဒအတိုင်း ဖြစ်လာကြရတာ

ရှေးတုန်းက ပိဋကတ်ပါဠိအက္ခရာတွေကို ပေရွက်တို့ဖြင့် ရေးသားလာခဲ့ကြ၏၊ မူပွားသောအခါတွင်လည်း ပေရွက်၊ ကျမ်းပြုသောအခါတွင်လည်း ပေရွက်တို့ဖြင့်ပင် ရေးသားကြရလေသည်၊ ပေထုပ်**အဆုံး အဆုံး**၌ ဆုတောင်းကလေးများလည်း ပါတတ်၏။

"ဤကဲ့သို့ ရေးသားရသော ကောင်းမှုကြောင့် ရက္ခစိုးကြီး ဖြစ်ရပါလို၏"တဲ့။

ဤဆုတောင်းမျိုးလည်း တွေ့ရတတ်၏၊ ရည်ရွယ်ချက်ကို မေးမြန်းစုံစမ်းကြည့်သောအခါ–

"ရက္ခစိုးတို့က လူတွေထက် အသက်ရှည်တယ်၊ သူတို့က စတုမဟာရာဇ်နတ်အမျိုးအစားထဲကပဲ–တဲ့။

အထက်တာဝတိံသာနှင့် အောက် လူ့ပြည်ကြားထဲမှာ နေကြတာ၊ အထက်နှင့်အောက် ကူးလူးဆက်ဆံလို့ ရတယ်။

အဲ... နောင်အနာဂတ် လူ့ပြည်မှာ ဘုရားပွင့်ရင် လွယ်လွယ်နဲ့ သိရပြီးတော့ ဘုရားဖူးရအောင်လို့"တဲ့။

ကြုံကြုံဖန်ဖန် ဤသို့သောအလိုဆန္ဒများလည်း ရှိရသေးသည်၊ သတ္တဝါတို့ မည်သည်ကား မိမိတို့ ဆန္ဒအတိုင်းပင် ဖြစ်နေကြရ၏၊ အကျိုးတရားတို့ကလည်း **သူ့တို့ဆန္ဒ**အတိုင်းပင် ဖြစ်ပေါ်ပေးရလေသည်၊ ဤသဘောကို မိုးကုတ်ဆရာတော်ကြီးက အောက်ပါအတိုင်း မိန့်မြွက်တော်မူ၏၊ ကောက်ချက်ချပြတော်မူ၏–

"ယသော်ရောသည်ပင် သူ့ဘာသာသူဆိုပါက တစ်သချိုးနှင့် ကမ္ဘာတစ်သိန်းမှာ ကျွတ်တမ်းဝင်ရမှာ၊ ပါရမီ လုံလောက်ပြီ။

ခုတော့ သူက မဟုတ်၊ "မောင်တော်နှင့်မှ အတူ ကျွတ်တမ်းဝင်မယ်"ဆိုတော့ မောင်တော့်လိုပဲ လေးသချိုးနဲ့ ကမ္ဘာတစ်သိန်းအထိ ကြာသွားရတော့တာပေါ့၊ ဒါ **သူ့ဆန္ဒ**အတိုင်း ဖြစ်ပေးရတာ"တဲ့။

## ဘုရားမဆုံး၊ နောက်မဆုံးသေး

မိုးကုတ် ဆရာတော်ကြီးက ဆက်လက်၍ မိန့်ကြော်မူသေး၏၊ "မင်းတို့ လိုချင်တဲ့ နိဗ္ဗာန်၊ ခဏ ခဏ နိဗ္ဗာန်ရရပါလို၏–လို့ ဆုတောင်းတဲ့ နိဗ္ဗာန်ဟာ ဒီဘုရားသာသနာမှာ ရနိုင်တယ်ကွ၊ အားထုတ်ရင် ရနိုင်တယ်၊ ဒီဘုရားသာသနာက ပေးနိုင်ပါတယ် ဆို ကာသားနဲ့ နောက်ဘုရားသာသနာကျမှ ယူမယ်–ဆို တာကတော့ ဒီဘုရားကို စော်ကားရာကျတာပေါ့"တဲ့။

ဤနည်းအားဖြင့် ဒါန သီလကလေးတို့ကို ခပ်စိုစို ပြုလုပ်ကြပြီးလျှင် နောက်ဘုရား– နောက် သာသနာ နောက်အခါတွေကို မျှော်မျှော်ပြီးလာခဲ့ကြတာ ကြာပြီ၊ နောက်ဘုရားတွေလဲ မဆုံးသေး၊ နောက်– နောက်တွေလဲ မကုန်သေး၊ ဤသဘောကို လယ်တီ ဆရာတော်ဘုရားကြီးကလည်း ဤသို့ ရေးသားသတိ ပေးတော်မူသည်။

"ဒါန သီလ၊ လက်စ ဖွားဖွား၊
ပြုလုပ်ငြား၍၊ နောက်ဘုရားမှ၊
အများငါတို့၊ ပါကြစို့လား၊ ဘုရား
မဆုံး၊ နောက်မဆုံးဘဲ၊ အနှုန်း
ရှည်ကြာ၊ သံသရာဝယ်…"တဲ့။

## ငါတို့ဘုရားမှ အားမနာကြ

ဤနေရာတွင် စတုဂီရိဝိပဿနာကျမ်းကြီးကို ရေးသားတော်မူသော ကုန်းဘောင်ခေတ်ဦးက ပေါ် ပေါက်ခဲ့သော တောင်လေးလုံးဆရာတော်ဘုရားကြီး ကလည်း ဤသို့ မိန့်တော်မူဖူး၏။

"ဘဝအတန်တန်၊ အဖန်ဖန်အထပ်ထပ်၊
ပဋိသန္ဓေ မနေရစေကုန်လင့်"ဟူ၍
မြတ်စွာဘုရားက နည်းအမျိုးမျိုး၊ ပရိယာယ် အသွယ် သွယ်တို့ဖြင့် ဟောပြသတိပေးနေသည့်ကြားထဲက ကျူး ကျော် စော်ကားပြီးလျှင် အချို့သောပုဂ္ဂိုလ်တို့က–

"အရိမေတ္တေယျဘုရားလက်ထက်တွင်
ကျွတ်တမ်းဝင်ရပါလို၏"ဟု ပတ္ထနာဆု
ပြုကြကုန်သေး၏၊ ထိုသူတို့သည် ငါတို့
ဘုရားရှင်ကို အားနာခြင်းလည်း မရှိ၊
ထောက်ထားငဲ့ကွက်ခြင်းလည်း မပြုသူ
များသာ ဖြစ်ကြ၏"–တဲ့။

အတော်ခက်သောသူများပေတကား၊ အရှေ့အရပ်ကို ရောက်လိုပါလျက် အနောက် အရပ်သို့ မနေ မနား တစိုက်မတ်မတ် သွားနေသူကဲ့သို့ပါတကား၊ ပါးစပ် ကတော့လည်း "နိဗ္ဗာန်ကို မြန်မြန်ရရပါလို၏" ဆိုနေ ပြီးလျှင် လက်တွေ့ လုပ်ငန်းခွင်၌မူ နိဗ္ဗာန်နှင့် ဆန့် ကျင်ဘက်ကိုချည်း လုပ်နေသူကဲ့သို့တည်း။

### မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဂဗ္ဘသေယျက ကြောက်လို့တဲ့

"ရက္ခစိုး" ဆိုတာ [ရက္ခ=သစ်ပင်ကို+စိုး=စိုးပိုင်ရသူ။] သစ်ပင်စောင့်နတ်ပေါ့၊ သစ်ပင်မှာ နေထိုင်ကြရသော နတ်များ–လို့ အဓိပ္ပာယ်ရပါတယ်။

အဲဒီ "ရက္ခစိုးဆု" တောင်းသည်ကိုပင် အချို့က ဖာဖာထေးထေး ပြောဆို၍ ချီးမွမ်းကြသေး၏၊ "လူ့ဘဝဆိုတာ ဂဗ္ဘေသေယျက ပဋိသန္ဓေနေရတာ" တဲ့၊ "ရက္ခစိုး" ဆိုတာကတော့ ဥပပတ်ပဋိသန္ဓေနေရတဲ့အတွက် သက်သာတာပေါ့" တဲ့။

အဲဒါကြောင့် ဂဗ္ဘသေယျကပဋိသန္ဓေကို ကြောက်လို့ ရက္ခစိုးဆုတောင်းတာ" တဲ့။

အံမယ်လေး... ဥပပတ်ပဋိသန္ဓေရော ဘာသစ္စာတဲ့တုံး၊ ဒုက္ခသစ္စာကြီး မဟုတ်လား၊ ဒုက္ခသစ္စာကြီးကို မေ့နေဟန်တူပါရဲ့–။

[ဂဗ္ဘသေယျက=အမိဝမ်း၌ဆယ်လကြာမျှ နေရသော ပဋိသန္ဓေ။ ။ဥပပတ္တိ=ခုန်ပျံကျလာသလို "ဘွား" ခနဲ ကြီးကြီးမားမား ဖြစ်လာရသော ပဋိသန္ဓေ။]

## စွဲလမ်း အားကြီးတဲ့နေရာ၌ ဖြစ်ရ

ဗိမ္ဗိသာရမင်းကြီးသည် ဘုရားရှင်၏ အဦးဆုံး ကျောင်းဒကာကြီး ဖြစ်၏၊ ဘုရားနှင့်လည်း အရင်းနှီးဆုံး ဖြစ်သည်၊ သောတာပန်ပုဂ္ဂိုလ်ကြီးလည်း ဖြစ်၏၊ ဘုရားမဖြစ်ခင် အလောင်းတော်ဘဝကပင် တွေ့ခဲ့ရ၍လည်း ဘုရားအပေါ် ကြည်ညိုရင်းစွဲရှိသူ ဖြစ်သည်၊ ဤပုဂ္ဂိုလ်ကြီး ကွယ်လွန်သောအခါ စတုမဟာရာဇ်ဘုံ၌သာ ဖြစ်ရ၏၊ နတ် ၆–ဘုံတွင် အနိမ့်ဆုံးဘုံဖြစ်သည်။

အဘယ့်ကြောင့်နည်း၊ ဤပုဂ္ဂိုလ်ကြီး၏ သဒ္ဓါတရား၊ အသိအလိမ္မာဉာဏ်ပညာ၊ အရည်အချင်း၊ သီလ သမာဓိ၊ သာသနာကို ကြည်ညိုမှုတို့အရဆိုလျှင် တာဝတိံသာ– ယာမာ စသော အထက်နတ်ဘုံတို့၌ မော်မော်ကြွားကြွား ဖြစ်နိုင်စွမ်းရှိပါ၏၊ သို့ပါလျက် အဘယ့်ကြောင့် အနိမ့်စားအောက်နတ်ဘုံမှာ ဖြစ်နေရပါသနည်း။

အဖြေမှာ မင်းကြီးကိုက ထိုဘုံ၌ ဖြစ်ချင်သောကြောင့် ဖြစ်ရသည်၊ ဘာ့ကြောင့် ဖြစ်ချင်ရသနည်း၊ ရှေးတုန်းက ထိုစတုမဟာရာဇ်ဘုံ၌ (၇)ကြိမ်တိတိ ဖြစ်ခဲ့ဖူး နေခဲ့ဖူး၍ စွဲလမ်းခြင်းဖြစ်နေသောကြောင့်ဟူ၏။

## ယနေ့အထိ ဇနီးမရသေး–တဲ့

ရှမ်းပြည်မှာ လူရွယ်တစ်ဦး တွေ့ခဲ့ဖူး၏၊ စီးပွားဥစ္စာ ပြည့်စုံတောင့်တင်းသည်၊ ရုပ်ရည်လည်း ဖြောင့်ပါ၏၊ ခေတ်ပညာတတ်ဘွဲ့ရတစ်ဦးလည်း ဖြစ်သည်၊ သူက ဘုရားဖြစ်ချင်၏၊ ထို့ကြောင့် ကောင်းမှုကုသိုလ် ပြုလုပ်တိုင်း–

> "ဣဒံ မေ ပုညံ သဗ္ဗညုတဉာဏဿ ပစ္စယော ဟောတု"
>
> "ဤကောင်းမှုသည် သဗ္ဗညုတဉာဏ်

ရဖို့အကြောင်း ဖြစ်ပါစေ"

ချည်း ဆုတောင်းလေ့ရှိ၍၊ သူ့ဝါဒကို လူစုစု ...င်းလည်း ထုတ်ဖော်ဝင့်ကြွားတတ်သည်၊ ထို့ပြင် ...က အိမ်ထောင်ဖက် ဇနီးလည်း မရှိသေးသဖြင့် ...ရပ်တွေ သတ်မှတ်ပြီး ကြင်ဖက်ရွေးသတဲ့။ ထို ...ရပ်တွေထဲတွင်–

"ကျွန်ုပ်ပါရမီတွေ ဖြည့်နေသမျှ
ကာလပတ်လုံး ရေပူ–ရေချမ်း
နောက်က ကမ်းလှမ်းပြီး အမြဲတမ်း
လိုက်ပါရမည်"

...သောအချက်ပါသည်၊ အမျိုးသမီးငယ်များအုပ်စုက ...ဘင်ပြထားသော အချက်အလက်တို့ကို ကြည့်ပြီး ...ရွှေရတနာ၊ တိုက်တာ၊ မော်တော်ကား စတဲ့ ပစ္စည်းဥစ္စာများရမည်ကို သဘောကျကြပါ၏၊ အားလုံး ကို လက်ခံနိုင်ကြပါ၏–တဲ့၊ သို့သော်–

"ရေပူရေချမ်း နောက်က ကမ်းလှမ်းပြီး
အမြဲတမ်း လိုက်ပါရမည်"

ဆိုသည့်အချက်ကိုကား မည်သူမျှ မလိုက်ပါလိုကြပါ–တဲ့၊ ဟော... ခက်ကပြီ၊ ဘယ့်နှယ်လုပ်ရပါ့၊ သူ့ဥစ္စာက ယခုတစ်ဘဝအတွက်သာ ရည်ရွယ်တာ မဟုတ်ဘဲကိုး။

ဘဝ သံသရာကြီး တစ်လျှောက်လုံးအတွက် "နောက်က လိုက်ပါရမည်"ဆိုတော့ မည်သူမျှ သံသရာ မရှည်လိုကြပါ–တဲ့၊ နောက်က လိုက်ပါမနေလိုကြပါ–တဲ့၊ ဟော... ပြောကုန်ပြီ။

ဤအချက်နှင့်ပင် လန်လန်ကုန်ကြရပါသတတ်၊ သို့ဖြစ်၍ ထိုလူရွယ်သည်လည်း ယနေ့အထိပင် ဇနီး မရသေး–တဲ့။

# အမောပြေတာ လူမမြင်နိုင်ဘူး

အီတလီလူမျိုး ဘုန်းကြီး ဦးလောကနာထသည် မြန်မာပြည်တွင် အတော်ကြာကြာ နေထိုင်သွား၏၊ မြန်မာပြည်အတွင်း အထက်–အောက် အနှံ့အပြား သွည့်လည်သွားသည်၊ ထင်ရှားသော ဆရာတော် ဘုရား ကြီးများထံသို့ ဝင်၍ ဖူးမြော်၏၊ တရားဓမ္မများကိုလည်း ...မေးမြန်း လျှောက်ထားသည်။

ကျောက်ဆည် ဝေဘူ ဆရာတော်ဘုရားကြီး အထံတော်သို့ ရောက်၍ တိုက်ရိုက်ပင် လျှောက်ထား ...မြန်းမိတော့၏–

"အရှင်ဘုရား... ရဟန်းကိစ္စ
ပြီးပါပြီလား ဘုရား..."

ဆိုအခါ ဝေဘူ ဆရာတော်ဘုရားကြီးက ကောက်ကာ ငင်ကာ မတုံ့မဆိုင်း ဖြေတော့သည်–

"အေး– ဗျား... မောတော့
ရေသောက်ကြတယ်ဗျ၊
ရေသောက်တာကို လူမြင်တယ်၊
အမောပြေတာ လူမမြင်ဘူးဗျ..."

ဤမျှသာ ဖြေဆိုတော်မူ၏၊ ဆိုလိုတာက တော လှို့ မြိုင်ကြားသွားပြီး တရားအားထုတ်တာကို မြင်နိုင် ကြတယ်၊ အတွင်းပိုင်း တရားရမှု နှလုံးသား ငြိမ်းအေးမှု တို့ကိုကျတော့ လူမမြင်နိုင်ဘူး–ဟူ၍ ပရိယာယ်ဖြင့် ဖြေတော်မူခြင်း ဖြစ်သည်။

အင်မတန် လှပ၍ ပြည့်ဝသော အဖြေပင် ဖြစ် တော့၏၊ ရတ်တရက်ဉာဏ် အမြင်သန်ပါပေ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# တယ်... သတ္တိကောင်းပါလား

တစ်ဖန် ဘုန်းတော်ကြီး ဦးလောကနာထသည် မြင်းခြံမြို့ စွန်းလွန်းဆရာတော်ဘုရားကြီးအထံတော်သို့ ရောက်ပြန်၏၊ ဤအကြိမ်တွင်ကား ပါးသွားပြီ၊ တိုက်ရိုက် မလျှောက်တော့ချေ၊ ပရိယာယ်ဖြင့်သာ လျှောက်တော့သည်-

အရှင်ဘုရား... တပည့်တော်က ဘုရားဆုပန်ထားပါတယ်၊ ဆုကြီးပန်ပါ၊ ဒီတော့ နောင်ဘဝတွေမှာ အရှင်ဘုရားနဲ့ တပည့်တော်နဲ့ တွေ့နိုင်ခွင့် ရှိပါသေးသလား"

ထိုအခါ စွန်းလွန်းဆရာတော်ဘုရားကြီးက ပြုံးယောင်ယောင်ဖြင့် ဖြေတော်မူပါသတဲ့၊ အဖြေကလည်း အလွန်သိမ်မွေ့ညက်ညောလှပါပေသည်၊

"အင်း... ခင်ဗျားက တယ်... သတ္တိကောင်းတဲ့ ပုဂ္ဂိုလ်ပဲ၊ ကြည်ညိုပါရဲ့၊ ကျုပ်တို့တော့ ခင်ဗျားလောက် သတ္တိ မကောင်းနိုင်ဘူးဗျား..."

ဆရာတော်ဘုရားကြီး၏အဖြေမှာ ပြည့်စုံပါသည်၊ ဆရာတော် ဘုရားကြီး ဖြေဆိုရာ၌ "ကျုပ်တို့တော့ ခင်ဗျားလောက် သတ္တိ မကောင်းနိုင်ဘူးဗျား" အဖြေထဲတွင် သိလိုသော အဓိပ္ပာယ်တွေ ပါဝင်သွားလေပြီ။

ထို့ပြင် ဦးလောကနာထ ဘုရားဆုပန်သည်ကို အပြစ်မဆိုဘဲ ချီးကျူးသလိုပင် မိန့်တော်မူလိုက်သေး၏၊ "ကြည်ညိုပါရဲ့"တဲ့။

သို့ရာတွင် "ခင်ဗျားက တယ် သတ္တိကောင်းတဲ့ ပုဂ္ဂိုလ်ပဲ"ဟူသော စကားလုံးကား ဘာလိုလိုနဲ့ ကလိလိုက်သလို ထင်ရသည်။

ဆိုလိုတာက ဘုရားဖြစ်ချင်၍ ဘုရားဆုပန်ထားလျှင် ဘုရားဖြစ်နိုင်လောက်အောင် ပါရမီတွေ ဖြည့်ရပေဦးမည်။

ထိုသို့ ပါရမီတွေ ဖြည့်နေသည့်အတောအတွင်း ဘဝသံသရာထဲ၌ ဘဝအမျိုးမျိုးဖြင့် ဒုက္ခအထွေထွေကို တစ်နင့်တစ်ပိုးကြီး ခံယူရပေဦးမည်။

ခင်ဗျားက အဲဒီဒုက္ခတွေကို လှလှကြီး မြိန်မြိန်ရှက်ရှက်ကြီး ခံယူဦးမည့်သူဆိုတော့ သတ္တိကောင်းတာပေါ့၊ အဲဒါကြောင့် "ခင်ဗျားက တယ် သတ္တိကောင်းတဲ့ ပုဂ္ဂိုလ်ပဲ"လို့ မိန့်တော်မူလိုက်ခြင်းဖြစ်သတတ်။

**မှတ်ချက်။** ။ ဤအကြောင်းအရာများကို ရန်ကုန်မြို့၊ ငွေပန်းထိမ် ဒကာ ဦးညီလေးက ပြန်လည် ပြောပြခြင်း ဖြစ်ပါသည်။

# သံသရာ၏အစ ဝေးလွန်းလှ

*အနမတဂ္ဂေါယံ ဘိက္ခဝေ သံသာရော၊ ပုဗ္ဗာကောဋိ န ပညာယတိ အဝိဇ္ဇာ နီဝရဏာနံ သတ္တာနံ တဏှာသံယောဇနာနံ သန္ဓာဝတံ သံသရတံ။

ဘိက္ခဝေ-ရဟန်းတို့၊ အယံ သံသာရော-ဤသံသရာကြီးသည်၊ အနမတဂ္ဂေါ-မသိအပ်သောအစရှိ၏ (ဝါ) ဝေးလွန်းလို့အစကိုပင်မသိနိုင်၊ (ဝါ) သိဖို့မလွယ်။

အဝိဇ္ဇာနီဝရဏာနံ-အဝိဇ္ဇာ အဖုံးအကာ ရှိကြကုန်သည်ဖြစ်၍၊ (ဝါ) အဝိဇ္ဇာဖုံးနေကြကုန်သည်ဖြစ်၍၊ တဏှာသံယောဇနာနံ-တဏှာ သံယောဇဉ် ရှိကြကုန်သည် ဖြစ်၍၊ [အဝိဇ္ဇာနှင့် တဏှာ ၂-မျိုးပါပြီးလျှင် ဟူလို။]

သန္ဓာဝတံ-သံသရာထဲ၌ ပြေးသွားကြရကုန်သော၊ သံသရတံ-သံသရာထဲ၌ ကျင်လည်ကြရကုန်သော၊ သတ္တာနံ-သတ္တဝါတို့၏၊ ပုဗ္ဗာ ကောဋိ-ရှေ့အစွန်းအစကို၊ န ပညာယတိ-မသိအပ် မသိနိုင်၊ (ဝါ)-ဝေးလွန်းလို့ အစကို လိုက်နေခြင်းဖြင့် အချိန်ကုန်ရုံပဲ သိနေဖို့ပင် မလိုအပ်၊ (ဝါ) သိမနေချင်ပါနဲ့၊ အကျိုးမရှိ၊ လုပ်စရာရှိတာ မြန်မြန် လုပ်ပါ ဟူလို။

* နိဒါနဝဂ္ဂသံယုတ်ပါဠိ၊ ၃၈၇

## မြေကြီးတွေထက် ဘဝတွေက ပို၍များ

* သေယျထာပိ ဘိက္ခဝေ ပုရိသော ဣမံ မဟာ ဆဝိံ ကောလဋ္ဌိမတ္တံ ကောလဋ္ဌိမတ္တံ မတ္တိကာဂုဠိကံ ရိတွာ နိက္ခိပေယျ– "အယံ မေ ပိတာ၊ တဿ မေ ာ အယံ ပိတာ"တိ။

ရဟန်းတို့… ဥပမာအားဖြင့် ပြောရလျှင် လူ စ်ယောက်သည် ဤမဟာပထဝီမြေပြင်ကြီး တစ်ခု းမှာ ရှိတဲ့မြေတွေကို ပေါက်ပြားဖြင့် ပေါက် စုရုံး၍၊ မ္ဒရာ ၄–စင်းထဲက ရေတွေဖြင့် ခပ်ထန့်ထန့်ဖျော်၊ ာလဋ္ဌိ (ကောလ+အဋ္ဌိ)မတ္တံ] ဆီးစေ့လောက် ဆီး ေလောက် လုံးပြီးလျှင် တစ်လုံးချင်း တစ်လုံးချင်း းစပ်က ဆို၍ ချ…

> "ဟောဒါက ယခုဘဝ ကျွန်တော့် အဖေ၊ ဟောဒီ အလုံးက ကျွန်တော့်အဖေရဲ့ လွန်ခဲ့တဲ့ ဒုတိယ ဘဝအတွက် အဖေ၊ ဟောဒီ နောက် တစ်လုံးက လွန်ခဲ့တဲ့ တတိယ ဘဝ အတွက် အဖေ၊ ဟော လာပြန်ပြီ၊ ဒါက စတုတ္ထ ဘဝ အတွက် အဖေ၊ ပဥ္စမဘဝအတွက် အဖေ၊ ဆဋ္ဌမ၊ သတ္တမ၊ အဋ္ဌမ၊ နဝမ၊ ဒသမ ဘဝ အတွက် အဖေ–စသည်ဖြင့် ဆို၍ ချသွား၊

မြေကြီးတွေသာ ကုန်မယ်–တဲ့၊ အဖေဆက်က မကုန်သေး၊ ဟို့ဘက်–ဟို့ဘက်က စခဲ့တာ၊ အဲဒီလောက် ဘဝတွေ များခဲ့ပြီ။

ထို့အတူ အမေ့အတွက်လဲ ဒီအတိုင်း ချသွား၊ သားလဲ ဒီအတိုင်း၊ သမီးလဲ ဒီအတိုင်း၊ မြေးလဲ ဒီ အတိုင်း၊ မြစ်လဲ ဒီအတိုင်း၊ တူ–တူမ စသည်လဲ ဒီ အတိုင်း ချသွား၊ မြေကြီးတွေသာ ကုန်မယ်၊ ဆိုင်ရာ အဆက်က မကုန်သေး–တဲ့၊ အဲသည်လောက်ပင် ဘဝ တွေက မြေကြီးတွေထက် များပါသတဲ့။

ထို့ကြောင့်ပင် တစ်ဘဝပြီး တစ်ဘဝ၊ တစ်ဘဝ ပြီး တစ်ဘဝ၊ ခဏ ခဏ ပဋိသန္ဓေနေရ၊ တပေပေ တတေတေနှင့် ဒုက္ခညွန်ထဲမှ မထွက်နိုင်အောင် ဖြစ် ကြရပုံကို ရှေးပညာရှိကြီးများက ဤသို့ သရုပ်ဖော် ထားကြသည်–

> တသန္ဓေခေ၊ တပေ လျှဉ်းလျှဉ်း
> တညှင်းဆိုးဆိုး၊ တညှိုးလျှလျှ
> တတ လွမ်းလွမ်း၊ တသမ်းဟယ်ဟယ်
> တတွယ်တာတာ၊ တဟာလိုက်လိုက်
> တရှိုက်ငင်ငင်၊ တပင်ပန်းပန်း
> တဝမ်းလျားလျား…

## နောက်တစ်ယောက်သာ ရှာပေတော့

တစ်နေရာတွင် ဘုရားလောင်း လမ်းစဉ်ကို က်နေသော "ဦးသာဦး"က ပြောသည်– "လောက 'ဘုရား' ဆိုတဲ့ ပုဂ္ဂိုလ်ထူးက အင်မတန် နည်းပါးပါ ၊ ဘုရားတွေ ပွင့်ဖို့ အများကြီး လိုတယ်၊ ချွတ်ဖို့ ဝါတွေကလဲ အများကြီး မဟုတ်လား–တဲ့၊ ာင့် ဘုရားလောင်းသင်တန်းများ ဖွင့်ရင်တောင် င်းမယ်"တဲ့။

သို့သော် သူ၏ဇနီး "ဒေါ်ချစ်ဥ"ကမူ မိုးကုတ် ဆရာတော်ဘုရားကြီး၏ တရားတွေကို နာထားသူဖြစ်၍ ဘဝရှည်လျားမည်ကို မကြိုက်၊ "ယခု ပြတ်ရင် ယခု ကောင်းတာဘဲ"တဲ့၊ ဤသို့ ခံယူထားး၏။

ဦးသာဦးက ဘုရားဆု ပန်ထားသည်၊ "သူ ပါရမီတွေ ဖြည့်နေသမျှကာလပတ်လုံး သူ့နောက်က ရေပူ–ရေချမ်း ကမ်းလှမ်းပြီး လိုက်စမ်းပါ"ဟု ဇနီးအား

---

ါနဝဂ္ဂသံယုတ်၊ ပါဠိ၊ ၃၈၇

စည်းရုံးကြည့်၏။

ဒေါ်ချစ်ဥက "မလိုက်ချင်ပါဘူးတော်... သူ့လမ်းစဉ်ကြီးက အရှည်ကြီး"ဟု ဆိုသည်၊ ပြောမရ၍ ဦးသာဦးက ရွာဦးကျောင်း ဘုန်းတော်ကြီး ဦးနန္ဒိယကို အကူအညီ တောင်း၏၊ ဘုန်းတော်ကြီးကလည်း ဦးသာဦး ဘက်က ကူညီပြီး ဟောပေးရှာသည်၊ သို့သော် မရ။

ထိုအခါ ရွာဦးကျောင်းဘုန်းတော်ကြီးက "ဒကာကြီးရေ... ဟောမရဘူး၊ နောက်တစ်ယောက်သာ ရှာပေတော့"ဟု မိန့်တော်မူရသတတ်။

# ခင်ကြီးပေါက် စိတ်ပျက်သွားခြင်း

ရှေးခေတ်က ဘုန်းတော်ကြီးများကို "အရှင်ကြီး"၊ "သခင်ကြီး"ဟု ခေါ်ရာမှ အတိုကောက် "ခင်ကြီး"ဟု ခေါ်ကြသည်၊ ပါဠိဘွဲ့မည်ပေးထားသော်လည်း လူနာမည်ပင် တွင်တတ်၏၊ လူနာမည်၏ ရှေ့က "ခင်ကြီး" တပ်၍ ခေါ်တတ်ကြသည်။

ဥပမာ ဦးလုံးဆိုလျှင် "ခင်ကြီးလုံး"၊ ဦးခိုင်ဆိုလျှင် "ခင်ကြီးခိုင်"၊ ဦးမှတ်ဆိုလျှင် "ခင်ကြီးမှတ်" စသည် ခေါ်ကြ၏၊ တောရွာတစ်ရွာတွင် "ခင်ကြီးပေါက်" ကျောင်းထိုင်လျက် နေသည်၊ စာပေလည်း တတ်ကျွမ်း၏၊ ဗဟုသုတလည်း ပြည့်စုံ၏၊ သီလလည်း လုံခြုံသည်၊ ဘုရားဆုပန်ကြီးတည်း။

ထန်းရည်မူးသမားတို့သည် ခင်ကြီးပေါက်၏ ကျောင်းနားမှ ဖြတ်သန်း၍ ထန်းတောသို့ သွားလေ့ ပြန်လေ့ရှိကြ၏၊ တစ်နေ့တွင် ထန်းရည်မူးသမား နှစ်ယောက်တို့က ထန်းတောမှ အပြန် မူးရူးလာကြပြီးလျှင် ကျောင်းနားမှ ဖြတ်သန်းသွားရင်း အသံကွဲကြီးများဖြင့် သံပြိုင်ဟစ်အော်ရွတ်ဆိုသွားကြသတတ်-

> **"နှမှာ ငါးရာ၊ ရင့်မာ တစ်ကျိပ်၊**
> နောင်လာရှစ်သောင်း-ဘုရားပေါင်း။
> ဘုရားပေါင်းနောက်-
> တို့နှစ်ယောက်။
> တို့နှစ်ယောက်နောက်-
> ခင်ကြီးပေါက်ဟ"

ဟူ၍ ဆိုသွားကြသည်၊ အဓိပ္ပာယ်ကား- နောင်အနာဂတ်တွင် ပွင့်ကြမည့် ဘုရားလောင်းများမှာ ပါရမီနုသူများပင် ဦးရေ(၅၀၀)ငါးရာရှိလေသည်။

ပါရမီရင့်ပြီး ပွင့်လုခါနီး ဘုရားလောင်းတွေက တစ်ကျိပ်ရှိ၏၊ (၁၀-ဦးရှိ၏၊) ထို့ပြင် ဘုရားဆုပန်ကြ၍ ဘုရားလောင်း စာရင်းဝင်သူတို့လည်း ရှစ်သောင်းမျှ ရှိလေသည်။

ထိုပုဂ္ဂိုလ်တွေ ပြီးလျှင် ထန်းရည်မူးသမား နှစ်ယောက် ပွင့်ကြမည်၊ ပြီးမှ ခင်ကြီးပေါက် အလှည့်-ဟု ဆိုလို၏၊ ထိုအခါတွင် ခင်ကြီးပေါက်က-

> "သြော်... ငါ့နောင်တော်တွေတောင် ခုမှ မူးတုန်း-ရူးတုန်း၊ ပေတုန်း- ဘတုန်း ရှိပါသေးကလား၊ ငါ့ဖြင့် ဘုရား မြန်မြန် ဖြစ်ချင်လွန်းလို့ ဒါနတွေ ပြု၊ သီလတွေ စောင့်နဲ့၊ ပါရမီတွေ ဖြည့်လိုက်ရတာ..."

ဟူ၍ မြည်တွန်ညည်းတွားကာ စိတ်ပျက်သွားမိပါသတတ်၊ ဤသို့လျှင် နောင်အနာဂတ်ကို မျှော်သူတို့မှာ မပြီးနိုင်-မဆုံးနိုင်နှင့် မရေမရာ ရှိကြသည်တကား၊

## တစ်ဘ၀သာသနာ

# မြို့ရွာအနှံ့ အဘိဓမ္မာတွေ ပြန့်ပြီ

သက္ကရာဇ် ၁၃၁၆–ခု သီတင်းကျွတ်လ (၁၉၅၄– အောက်တိုဘာလ)တွင် ဆရာတော်မှာ သက်တော် ၅–နှစ်၊ သိက္ခာတော် ၃၆–ဝါ ရရှိနေပြီ၊ ဒုတိယကမ္ဘာ ် မဖြစ်မီတုန်းက နယ်လေးရပ်က ရောက်လာကြတဲ့ ယာတော်များအား အဘိဓမ္မာညဝါတွေ ပို့ချပေးခဲ့၍၊ စဉ်တုန်းကလည်း စာချကောင်း၍ နာမည်ကြီးခဲ့သည်။

ယခု ဒုတိယ ကမ္ဘာစစ်အပြီး လူပုဂ္ဂိုလ်တို့အား ပဿနာတရား ဟောကြားသောအခါတွင်လည်း ရိသတ်တို့က အဆမတန် များသဖြင့် နာမည်ကြီး ၏၊ ဤကဲ့သို့ ပရိယတ်–ပဋိပတ်(၂)မျိုးလုံးမှာပင် ဆရာတော်က လှုပ်ချောက်ချားနိုင်သည်။

သို့သော်လည်း ယခုအခါ စဉ်းစားလာရ သုံးသပ်လာရတော့၍၊ "လာမည့် အနာဂတ်တွင် မိမိအနေဖြင့် ပရိယတ်ကိုပဲ ဆက်လက် ကိုင်သွားရမည်လော၊ သို့မဟုတ် ပဋိပတ်ကိုပဲ ကိုင်သွားရမည်လော"

ဒုတိယကမ္ဘာစစ်မတိုင်မီ ရှေးတုန်းက "အဘိဓမ္မာ ညဝါ တတ်ချင်လျှင် တောင်မြို့ကိုသွား"ဟူ၍ပင် ဆိုရိုး စကား ရှိခဲ့ဖူး၏၊ ယခုခေတ်တွင်ကား ထိုသို့ မဟုတ်တော့ချေ၊ မြန်မာပြည်အရပ်ရပ် အဘိဓမ္မာတွေ ပြန့်ကုန်ပြီ၊ တောင်မြို့နည်းတွေ နှံ့ကုန်ပြီ။

# ပရိယတ်မှ ပဋိပတ် သာသနာပြုဖြစ်လာ

တောင်မြို့က ရခဲ့သောနည်းကို အခြေခံလျက် ည်းသစ်များ ထွင်ကြ ကြံဆကြ၍၊ ပို၍ လွယ်ကူလာ အောင် ပို၍ အချိန်တိုတိုနှင့် ပြီးအောင် ကြိုးစားတီထွင် ကြသည်၊ သို့ဖြစ်၍ တောင်မြို့ထိအောင် သွားဖို့ လိုတော့။

ရှေးခေတ်တုန်းက ပဌာန်းကို ကုန်အောင် ၃–နှစ် င်ရသည်ဟု ဆို၏၊ ထို့နောက် ၂နှစ်ခွဲ၊ ၂–နှစ်၊ နှစ်ခွဲ၊ ၁–နှစ် သင်ယူလာရာမှ တောင်မြို့ဆရာကြီး အုန်းတို့ခေတ်တွင် ၆–လနှင့်အပြီး သင်ပေးနိုင်သည်၊ ကြောင့်လည်း နာမည်ကြီးခြင်း ဖြစ်၏။

ထိုမှတစ်ဆင့် တောင်မြို့နည်းကို အခြေခံ၍ ဆတီထွင်လာကြရာ ၅လ၊ ၄လ၊ ၃လမှ ယခုအခါ ၄၅–ရက်ဖြင့် အပြီးသင်ပေးနေကြပြီဟု ဆိုကြသည်။

ထို့ကြောင့်ပင် စစ်ပြီးခေတ်၌ မင်္ဂလာတိုက်ထဲတွင် လက်ရှိချပို့ပေးနေကြသော အဘိဓမ္မာညဝါတို့သည် ခပ်ပါးပါး ဖြစ်လာကြ၍၊ မိုးကုတ်မှအပြန် ဆရာတော် ဦးဝိမလ ကိုယ်တော်တိုင် ချပို့ပေးသော ပဌာန်းစာဝါသည်ပင် ရှေးတုန်းကလောက် ပရိသတ်မများလှတော့ပေ။

ဤကဲ့သို့ သုံးသပ်ပြီးလျှင် အဘိဓမ္မာညဝါချပို့မှုတို့ကို တပည့်ကြီးများဖြစ်ကြသည့် ဘုန်းကြီး ဦးပဏ္ဍိတ၊ ဘုန်းကြီး ဦးဇောတိကကြီးတို့အား လွှဲအပ်လိုက်တော့၍၊ မိမိကိုယ်တိုင်ကား ဝိပဿနာတရားသက်သက်ကိုသာ ဟောတော်မူတော့သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## မင်္ဂလာမဂ္ဂင်ရိပ်သာ ပေါ်ပေါက်လာ

မိုးကုတ်ဆရာတော်ဦးဝိမလ တရားဟောပြီ ဆိုလျှင် ရောက်လာကြသောပရိသတ်တို့မှာ ဝက်ဝက်ကွဲမျှ ဖြစ်ကြ၏၊ အမရပူရမြို့မှသာမက အခြားသော စစ်ကိုင်း မုံရွာ၊ ရွှေဘို၊ မန္တလေး၊ မြစ်ငယ်၊ ကျောက်ဆည်၊ မိတ္ထီလာ၊ မြင်းခြံ စသည်တို့ကပါ ကားကြီးကားငယ်တို့ဖြင့် လာကြ၏၊ ဤသည်ကား နေ့စဉ် နေ့တိုင်း လာနေကျ ကားတန်းကြီး ဖြစ်သည်။

အခြားမြို့များထားဘိဦး၊ မန္တလေးမြို့မှ ပရိသတ်သည်ပင် လွန်လွန်ကဲကဲဖြစ်၏၊ မိတ်ဆွေ ဘုန်းကြီးတစ်ပါးက ပြောပြဖူးသည်၊ ထိုစဉ်က တစ်နေ့တွင် နေဝင်ရီတရောအချိန်၌ မန္တလေး တောင်ပြင် မဟာမြတ်မုနိ ဘုရားကြီး အနောက်မုခ်သို့ ကိစ္စတစ်ခုဖြင့် ရောက်သွားမိပါသတတ်။

မဆုံးနိုင်သော ကားတန်းကြီးကို တွေ့နေရသည် ဆို၏၊ သို့ဖြစ်၍ "ဘယ်မှာ ဘာပွဲရှိသလဲ၊ ဘယ်က ပြန်လာတဲ့ ကားတန်းကြီးလဲ"ဟု မေးကြည့်ရာ "မိုးကုတ်ဆရာတော် ဦးဝိမလ၏ တရားပွဲက ပြန်လာကြတဲ့ ကားတန်းကြီး"ဟူ၍ အနီးအနားက လူတွေက ဖြေကြပါသတဲ့၊ ပရိသတ်တို့ကား ဤမျှပင် များပြားလှချေသည်။

ဤသို့အားဖြင့် ပရိသတ်တွေက များသည်ထက်များ–များလာသောကြောင့် ဦးထွန်းကြည်+ဒေါ်စောဦးတို့၏ ဓမ္မာရုံကြီးပင် မဆံ့အောင် ဖြစ်လာရတော့သည်

တစ်နည်းအားဖြင့် ကြည့်လျှင် တရားဟော ဌာန ဒေါ်ဒေါ်ဖုံ၏ မိုးကုတ်ကျောင်းကြီးသည်လည်း ကောင်း၊ ဦးထွန်းကြည်+ဒေါ်စောဦးတို့၏ ဓမ္မာရုံကြီး သည်လည်းကောင်း မင်္ဂလာတိုက်ဟောင်း ကျောင်းတိုက် အတွင်း ဖြစ်နေကြ၍ သံဃာတော်တို့နှင့် ရောပြွမ်းနေကြ၏၊ လူပုဂ္ဂိုလ်တို့နှင့် သံဃာတော်များ မရောဘဲ ဖြစ်နိုင်လျှင် ပို၍ ကောင်းမည်၊ ထို့ကြောင့် သီးသန့် နေရာများ ရှိဖို့ လိုအပ်လာသည်။

သို့ဖြစ်၍ သက္ကရာဇ် ၁၃၁၆–ခု တန်ဆောင်မုန်းလ (ခရစ် ၁၉၅၄ခု နိုဝင်ဘာလ)အတွင်းက မင်္ဂလာတိုက်ဟောင်း၏ အနောက်မြောက်ဘက်၊ (မင်္ဂလာတိုက်သစ်၏ မြောက်ဘက်က) မြေကွက်လပ်ကို မန္တလေးမြို့ ရွှေမြင်းလက်ဖက်ခြောက် ဦးထွန်းလှိုင် စသော ဒါယကာတို့က စုပေါင်း ဝယ်ယူပြီးလျှင် ဆရာတော်အား လှူလိုက်ကြတော့သည်။

ထိုအခါ ဆရာတော်က ယင်းမြေကွက်ပေါ်မှာ (ပဋိပတ္တိသာသနာ) ဝိပဿနာသက်သက် အလုပ်လုပ်နိုင်ရန် ရည်ရွယ်၍ "မင်္ဂလာ မဂ္ဂင်ရိပ်သာ"ဟု အမည်ပေးလိုက်လေတော့သည်။

## ဝိပဿနာဆိုတာ အာစိတာမျိုးပဲ

မိုးကုတ်ဆရာတော် ဦးဝိမလသည် ယခုအခါ ဘုန်းကံကြီးမားတော်မူလှ၏၊ နေစရာ ကျောင်းကန် အဆောက်အအုံလည်း မရှား၊ ဝတ်စရာ သင်္ကန်းဆို၍လည်း ရိုးရိုးပိတ်သင်္ကန်း ဗောင်းတံဆိပ် ရွှေလိပ်ပြာ ဗန္ဓုလတို့ မဆိုထားဘိ၊ ထိုအချိန် ထိုအခါက ခေတ်စားခဲ့ကြသည့် ပိုးသင်္ကန်း ဖဲသင်္ကန်း ဗန်ကောက်သင်္ကန်းတို့ပင် အထပ်လိုက် အပုံလိုက် ရှိသည်။

ဆွမ်းပွဲကို ကြည့်လျှင်လည်း ဧရာမ စားပွဲဝိုင်းကြီးနှင့် ဆွမ်းဟင်းချိုင့်တွေ၊ ဆွမ်းဟင်းခွက်တွေ အပြည့်အလျှံ၊ မုန့်ပဲသရေစာတွေဆို တင်စရာ နေရာ မရှိ၊

စားမကုန် သောက်မကုန် မောက်မောက်ဖြိုးဖြိုး၊ ဤသို့ အကျိုးပေးနေသည်ကို တစ်ပါးတည်း ဘုဉ်းပေးသည်တော့ မဟုတ်ချေ၊ စာချဘုန်းကြီးများကို ခေါ်၍ ကျွေးဘတ်၏၊ တိုက်တွင်းမှ အကြီးပိုင်း ဘုန်းတော်ကြီးများကိုလည်း ပင့်၍ ကပ်တတ်သည်။

ဆရာတော်၏ တပည့်ကြီး (ဦးဇောကြီး–ခေါ်) ဦးဇောတိကသည် ဆရာတော်နှင့် ရင်းနှီး၏၊ ဆရာတော်၏ အနားကိုလည်း အချိန်မရွေး ကပ်ရဲသည်၊ ငယ်စဉ်ကစ၍ ဆရာတော်၏ အနွံအတာကို ခံခဲ့သူလည်း ဖြစ်၏၊ ဆရာတော်အား ပြောရဲဆိုရဲလျှောက်ရဲသူလည်း ဖြစ်သည်၊ ထို့ကြောင့် ပြည့်လျှံမောက်ဖြိုးနေသော ဆွမ်းပွဲကြီးကို ကြည့်ပြီးလျှင်–

"ဘုန်းကြီး . . . ဟိုတုန်းက တပည့်တော်တို့ဘုန်းကြီးတို့ ဆရာတပည့်တွေ စာချနေကြတုန်းက စားစရာဆိုလို့လဲ ဟုတ်တိပတ်တိ မရှိ၊ ဝတ်စရာလဲ အနိုင်နိုင်ပါပဲ၊ ကိုယ့်ဆွမ်း ကိုယ် ချက်စားလာခဲ့ကြရတာ၊ ဟိုတုန်းက ပရိယတ်ကိုး။

အခုတော့ "ပဋိပတ်"ဆိုပြီး ဘုန်းကြီးက ဝိပဿနာတွေ ဟောလာတော့ ပေါလိုက်တဲ့ဖြစ်ခြင်း၊ စားမကုန် သောက်မကုန်၊ ပြည့်ဖြိုးမောက်လျှံ၊ ဝိပဿနာဆိုတော့ "အာစို" လိုက်တာနော် . . ."

ဟူ၍ ရဲရဲတင်းတင်းပင် လျှောက်လိုက်တော့၏၊ ဆရာတော့်ကိုလည်း လှမ်း၍ အကဲခတ်နေမိသည် ဟူ၏၊ ထိုအခါ ဆရာတော်၏ မျက်နှာမှာ ပြုံးယောင်ယောင်ဖြစ်လာပြီးလျှင်–

"အင်း . . . ဝိပဿနာဆိုတာ အာစိုတာမျိုးပဲ" ဟူ၍ တစ်လုံးတည်း ပြန်၍ မိန့်သည်ဟူသတတ်။

---

**မှတ်ချက်။** ။ဤ အကြောင်းအရာများကို သက်တော် (၈၀)ပြည့်နေပြီဖြစ်သော ဦးဇောကြီး ကိုယ်တိုင် ၁၃၅၀–ခုနှစ်က ပြန်လည် ပြောပြခြင်း ဖြစ်ပါသည်။

## အာစိုခြင်းရဲ့ အကြောင်းရင်းခံ

ဟုတ်ပါသည်၊ "မိုးကုတ်ဆရာတော် ဦးဝိမလဘုန်းကံ ကြီးမားသည်၊ ဘုန်းကြီးသည်" ဆိုသော်လည်း ငယ်စဉ်က စ၍ တစ်သက်စလုံး ဘုန်းကြီးလာသည် မဟုတ်ပါ၊ ပရိယတ်တွေကို ပို့ချနေစဉ်တုန်းက ထုံးစံအတိုင်း သူများတွေလိုပဲ ငတ်ခဲ့ကြသည်သာ၊ ကိုယ့်ဆွမ်းကိုယ် ချက်စားပြီး စာချလာခဲ့ကြ၏၊ စေတနာ သဒ္ဓါတရား ကြီးမားလွန်း၍သာ အဆင်းရဲခံပြီး ပရိယတ်သာသနာ့ ဘက်ကို ထမ်းဆောင်နိုင်ခဲ့ခြင်း ဖြစ်လေသည်။

"ပရိယတ်"ဆိုတာ ရဟန်းလောကမှာ ကိုယ့်ဟာ ကိုယ် သင်အံပို့ချနေကြတာ ဆိုတော့ လူတွေနဲ့ မဆက်စပ်ပါဘူး၊ လူတွေမှာလဲ အရသာ မပေါ်ပါဘူး၊ ဒါကြောင့် လူတွေကလဲ ကျေးဇူးတတင် မရှိပါဘူး၊ ပရိယတ်ဟာ ဘယ်လောက် အရေးကြီးတယ်ဆိုတာလဲ သူတို့ မသိကြပါဘူး၊ ကုသိုလ် ရချင်လို့ လှူတာ တန်းတာလောက်ပဲ ရှိပါတယ်။

ဟော . . . "ပဋိပတ်"ဆိုတဲ့ ဝိပဿနာအလုပ်ကျတော့ လူတွေက သူတို့ ကိုယ်တိုင် ကျင့်ကြံကြရတယ်၊ ဒီတော့ အထိုက်အလျောက် စိတ်ငြိမ်းချမ်းမှု ရကြတယ်၊ အပူတွေ အေးတယ်၊ အိမ်တွင်းသောကမီးတွေကိုလဲ နှိမ်နိုင်တယ်၊ အဲဒီက တစ်ဆင့် တချို့မှာ တရားထူးတွေ ရကြတဲ့အထိ ဖြစ်ကုန်ကြတယ်၊ အဲဒီတော့ သူတို့နဲ့ တိုက်ရိုက်ထိတွေ့မှု ရှိတာပေါ့၊ ဒါ့ကြောင့် ကျေးဇူးတတင် ဖြစ်ကြတယ်၊ ကျေးဇူးတင်တော့လဲ သူတို့ ရှိတာ ဖွဲ့ပြီး လှူကြ တန်းကြတော့တာပေါ့၊ ဒါ့ကြောင့် ဝိပဿနာတွေ အာစိုကြတာ။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# "ယတ်"မနေနဲ့၊ "ပတ်"လိုက်ပေါ့

မိတ်ဆွေ ဘုန်းကြီးတစ်ပါးက စာသင်တိုက် ကလေးတစ်ခု တည်ထောင်ထားသည်၊ သံဃာအပါး ၂၀ကျော်၊ ၃၀–ခန့်မျှဖြင့် စာချစာသင် ရီးရီးကလေး ရွက်ဆောင်နေပါ၏၊ "ပရိယတ္တိ စာသင်တိုက်"ဆိုတာ ထုံးစံအတိုင်းပဲပေါ့၊ စားဝတ်နေရေးကိစ္စ မျှတရုံပင် ရှိပါသည်။

သူ၏ပတ်ဝန်းကျင် လက်လှမ်းမီသမျှ လှမ်းမျှော် ကြည့်သောအခါ ဝိပဿနာရိပ်သာတွေကို တွေ့နေရ၏၊ အကြောင်းအားလျော်စွာလည်း ရောက်ရှိသွားတတ်သည်၊ ထိုအခါမျိုးတွင် ဆူဖြိုးမောက်လျှံနေသော ရိပ်သာတို့ကို တွေ့နေရသဖြင့် နှုတ်မှ ထုတ်ဖော် ဤသို့ မိန့်တော်မူနေ၏ –

"တို့က ပရိယတ်၊ နေ့တစာစာ၊ ညတစာစာ ကျက်လိုက်ရ အန်လိုက်ရ ပြန်လိုက်ရတာ ရင်တွေကို ပူလို့၊ ဒါပေမယ့် စားသောက်ရေး ကျတော့ ဦးပုညစာလိုပဲ "ထမင်းရက်ချန် ရေရက်မှန်"နှင့်။

ဝတ်ရေးကျတော့လဲ လုံရုံပါပဲ၊ နေရေး တော့ကော "အင်ဖက်အမိုး၊ ကျူရိုးတိုင်ထူ" ဦးပုညစာနဲ့ တို့နဲ့ကတော့ လိုက်ပါ့–တဲ့။

သူတို့ဆွမ်းပွဲတွေများ ကြည့်လိုက်ရင် ပြည့်လို့ လျှံလို့ လန်လို့၊ တင်စရာ နေရာတောင် မရှိဘူး၊ ဝိ ပဿနာတွေ၊ ပဋိပတ်တွေ၊ တယ်... စားသာနေကြသကိုး။ အင်း... အပတ်တွေ အပတ်တွေ၊ သူတို့က အပတ်တွေ၊ တို့က အယတ်တွေ"

ဤသို့ ညည်းညည်းညူညူ မကျေမနပ် တရစပ် ပြောနေရာ၏၊ ထိုအခါ ရင်းနှီးသော မိတ်ဆွေကြီး ဖြစ်နေသဖြင့် ရဲရဲပင် ဝင်၍ သတိပေးရတော့သည်။

"အေး... ကိုယ်တော်က သူတို့ကို မနာ[illegible] ဖြစ်မနေနဲ့၊ သူတို့လို ဘုန်းကံကြီးမားချင်[illegible] ကိုယ်တော်လဲ "ယတ်"မနေနဲ့၊ "ပတ်"လို[illegible] ပေါ့"

ဟူ၍ ပြောသောအခါ "ဟာ... ကျုပ်တို့က သာသန[illegible] တော်ရဲ့ အခြေခံပဲ၊ ကန်ဘောင်ဆည်နေတာပဲ"တဲ့ သူ့စကားလည်း ဟုတ်ပါသည်၊ သို့ရာတွင် တစ်သ[illegible] စလုံး ကန်ဘောင်ဆည်နေ၏၊ ကန်ဘောင်ဆည်ရင်[illegible] ဖြင့် သေသွားသည်၊ နောက်ပုဂ္ဂိုလ်ကလည်း ဆက်[illegible] ဆည်၏၊ ဆည်ရင်း သေသွားပြန်သည်။

ကန်ထဲက ကြာစွယ်ကြာရိုး ကြာပွင့်ကြာဖူး[illegible] ကို သုံးဆောင်ရတယ်လို့ကို မရှိဘူး၊ သူများအတွက် ချည်း လုပ်နေရသလို ဖြစ်နေသည်၊ ထို့ကြောင့် ဖြ[illegible] သင့်သည်ကား ငယ်ရွယ်သည့် အပိုင်းနှင့်၊ အလယ် အလတ်ပိုင်းမှာ ပရိယတ်ကို ရွက်ဆောင်ကြ၍၊ အသက် အရွယ် ထောက်လာသည့်အခါ ပဋိပတ်အထိ ကိုယ်[illegible] ကိုယ်င တက်သင့်ကြတော့သည်။

နောက်တစ်နည်း စဉ်းစားစရာ တစ်ချက်လည်း ရှိသေး၏၊ "ဘုရားရှင် ကိုယ်တော်မြတ်ကြီးက လေ သင်္ချေနှင့် ကမ္ဘာတစ်သိန်းကာလပတ်လုံး အနစ်နာခံပြီ ပါရမီဖြည့်၍ ဘုရားဖြစ်လာခြင်းသည် ပရိယတ်အတွက် သက်သက်မျှ မဟုတ်တန်ရာ၊ ပဋိပတ်အထိ သွားစေလို၍ ပွင့်တော်မူလာခြင်း ဖြစ်ရာ၏။

ဆိုလိုသည်မှာ ပဋိပတ်အထိ သွားကြ၍၊ ကျင့်ကြံ ကြ၍ သတ္တဝါတွေ သံသရာဝဋ်မှ လွတ်မြောက်ကြပါစေ ရည်ရွယ်ချက်ဖြင့် ပွင့်တော်မူလာခြင်း ဖြစ်သည်–ဟု ဆိုလိုပါ၏။

## တစ်ဘဝသာသနာ

# ရှီးရာချည်းလဲ မလုပ်စမ်းပါနဲ့

ဆရာတော်ကလေး ဦးဝိမလ အဘိဓမ္မာ ညဝါ
ဘွ ပို့ချနေစဉ်တုန်းက နီးစပ်ရာ ဒကာ ဒကာမတွေ၊
ာန်းဒကာ ရဟန်းအမတွေက ဆွမ်းချိုင့်ပို့ကြပါ၏၊
သော် အခြားသော စာချဘုန်းကြီးတို့နှင့်အတူ မျှတ
၍ ဘုဉ်းပေးကြရသည်ဆိုတော့ ပေါပေါများများကြီး
တ်လုပါ၊ သို့ဖြစ်၍ ဆွမ်း ဆွမ်းဟင်းများ ထပ်မံ၍
ချက်ပြုတ်ကြရသေးသည် ဆို၏။

ဆွမ်းဟင်း စီမံသောအခါ ဦးဇောကြီးက စီမံပေး
ည်၊ ဆွမ်းချက်သူ ကပ္ပိယကာရက တစ်ယောက်
ထား၏၊ ထိုစဉ်တုန်းက တစ်လ ၅-ကျပ် ပေးရ
သ်ဟူ၏၊ တစ်နှစ်စာအတွက် မိုးကုတ်မြို့မှ ဒကာ
ာမများက ဝတ္ထုငွေကြေး ထောက်ပံ့ကြသည်။

အောက်ပြည်အောက်ရွာ ညောင်လေးပင်မှ ငါးပိ
ခြောက် ငံပြာရည်နှင့် ဆွမ်းဆန်ကို ပို့လှူရှိကြ၏၊
ာ် ကြက်သွန် မန်ကျည်းသီးမှည့်တို့ကား အညာ
သမှာပင် ရနိုင်၏၊ အထူးအားဖြင့် ရမည်းသင်းက
ရသည်။ ရမည်းသင်းကား ငရုတ်သီးနီနီရဲရဲတွေ ပေါ
လှပါ၏။

အညာမန်ကျည်းသီးမှည့်နှင့် ညောင်လေးပင်မှ
ငါးခြောက်ကို ထုပြီး ခရမ်းချဉ်သီးမှည့်နီနီကို ဖျစ်ခြေ
ကာ ငါးပိ ငံပြာရည် ငရုတ်သီးစပ်စပ်ရောချက်၊ တစ်
ရက် နှစ်ရက် သုံးလေးငါးရက်အထိ "ကောင်းတယ်"
ဟု ပြောကြပါသတတ်။

နေ့စဉ်နေ့တိုင်း ဤနည်းချည်း ဦးဇောကြီးက
စီစဉ်ပေးသောအခါ ရက်တွေ ကြာလာသဖြင့် ဆရာ
တော် ဦးဝိမလက ပြုံးစပ်စပ်ကြီး လုပ်ကာ-

"ဦးဇောတိကရဲ့ . . . ရှီးရာချည်းလဲ မလုပ်စမ်း
ပါနဲ့၊ နည်းနည်း ပြင်စမ်းပါဦး"

ဟူ၍ မိန့်ပါတော့သတတ်။

**မှတ်ချက်။** ။ဤအကြောင်းအရာများကို (ဦးဇောကြီး ခေါ်) ဆရာတော်ကြီး ဦးဇောတိက ကိုယ်တိုင် ပြန်လည် ပြောပြ၍ သိရပါသည်။

# ကျုပ်တို့က အလုပ်နဲ့ နေတာဗျ

တစ်ခါသော် ကျောက်ဆည်တောင်ပေါ်မှ ဝေဘူ
ာတော်ဘုရားကြီး ရန်ကုန်မြို့၊ သိမ်ဖြူလမ်းသို့
ဇော်ခံ ကြွလာတော်မူသည်၊ အိမ်တစ်အိမ်မှ ရွှေ
ားဖြင့် သောက်တော်ရေ ဆက်ကပ်လှူဒါန်း၏၊
တော် ဘုရားကြီးကလည်း မည်သို့မျှ မမိန့် မတား
လက်ခံ၍ ကိုင်တွယ် သုံးစွဲတော်မူသည်။

ထိုအခြင်းအရာကို မြင်ရ၍ နောက်က အမြဲ
ရှိသော မီးရထားမင်းကြီး ဦးသိန်းညွန့်က ဘဝင်
ဖြစ်နေ၏၊ သို့ဖြစ်၍ ဆရာ တပည့်၂-ဦးတည်း
ာအခါ လျှောက်ထားတော့သည်။

"အရှင်ဘုရား . . . ရွှေခွက်ကြီးကို ကိုင်တွယ်
အသုံးပြုတယ်ဆိုတော့ အပြစ် မသင့်ဘူးလား
ဘုရာ့"

ထိုအခါ ဝေဘူဆရာတော်ဘုရားကြီးက ပြန်လည်၍
အမိန့်ရှိပါသတတ်၊ မိန့်ဆိုပုံမှာ-

"ကျုပ်တို့က အလုပ်နဲ့ နေတာဗျ"တဲ့။

**မှတ်ချက်။** ။ဆရာတော် ဘုရားကြီး ဆိုလို သည်မှာ "အနာမရှိသောလက် အဆိပ်မတက်" ဆိုတဲ့ သဘောကို ပြလိုဟန်တူသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အနာမရှိသောလက် အဆိပ်မတက်

ကုက္ကုဋ္ဌမိတ္တမုဆိုးကြီး၏ ဇနီးသည် အိမ်ရှင်မ ကောင်း ပီသ၏၊ သောတာပန်တည်ပြီးသူလည်း ဖြစ်သည်၊ မုဆိုးကြီးက သားကောင် ငှက်ကောင်တို့ကို ထောင်၍ ကျေး၏။

မုဆိုးကြီး တောလည်ထွက်ခါနီးတွင် ဇနီးက လေးယူပေးရ၊ မြားယူပေးရ၊ ဓားယူပေးရ၊ ကျော့ကွင်းတွေ ယူပေးရ စတဲ့အလုပ်တွေ လုပ်ကိုင်ပေးရသည်။

"ဤကိစ္စ၌ သောတာပန်မ အပြစ်မရှိဘူးလား" ဟု စာဒက တက်ကြ၏၊ အဖြေကတော့ "အပြစ် မရှိပါ"တဲ့။

အဘယ်ကြောင့်ဆိုသော် အိမ်သူမတို့၏ ဝတ္တရား အရ ပြုလုပ်ပေးခြင်းသာ ဖြစ်၏၊ သားငှက်တိရစ္ဆာန်တွေ သေစေလိုသော စိတ်ထား သူမမှာ မရှိပါ–တဲ့၊ ဥပမာနဲ့ ပြောရလျှင် "အနာမရှိသောလက် အဆိပ် မတက် သကဲ့သို့" ဖြစ်တော့သည်–တဲ့။

## စိတ်သာ ပဓာနပါဗျာ–တဲ့

ဤသဘောမျိုးပင် တစ်ခါတွင်လည်း ကြုံဖူး၏၊ အမရပူရမြို့၊ သင်ပန်းကုန်းရပ်မှ ဒကာကြွယ်သည် ဖန်ကောက် အထည်စက် ပိုင်ရှင် ဖြစ်၏၊ မိုးကုတ် ဆရာတော်ကြီးအတွက် ရည်ရွယ်၍ ဖန်ကောက် သင်္ကန်းတစ်စုံ ယူလာ ဆက်ကပ်လှူဒါန်းသည်။

ထိုအခါ ဆရာတော့်အနီးတွင် ရင်းရင်းနှီးနှီးဖြင့် ဝိုင်းထိုင်၍ စကားပြောနေကြသော ဒကာ လေးငါးဦး ရှိကြသည်၊ ထိုအထဲမှ ဒကာတစ်ယောက်က ဝင်၍ လျှောက်တော့၏ –

"ဒါမျိုးဆိုရင် မဟာဂန္ဓာရုံဆရာတော် အရှင် ဇနကာဘိဝံသတို့ကတော့ လက်မခံဘူး ဘုရား"

စမ်းလို၍ လျှောက်သလား မပြောတတ်၊ ထိုစကား ဆုံးလျှင်ပင် မိုးကုတ်ဆရာတော်ကြီးက–

"ဒါက စိတ်သာ ပဓာနပါဗျာ...၊

ကဲ... ခြေစမ်း၊ ဒကာကြွယ်"

ဟု မိန့်တော့၏၊ အသစ်ကျပ်ချွတ်ကြီး ဖြစ်နေသော ကြောင့် မာကျောကျော ဂေါက်ဂက်ကြီး ဖြစ်နေ၍ ခြေပေးရသည်၊ ခြေပြီးသောအခါ ဆရာတော်ကြီး ဦးဝိမလက ထတဲ့ပြီး လဲဝတ်တော့သည်။

**မှတ်ချက်။** ။အမှတ်တမဲ့ ကြည့်လျှင် ဆန့် ကျင်ဘက် "ရွဲ့"သလို လုပ်သည်ဟု ထင်စရာ ရှိ၏၊ သို့သော် မဟုတ်ချေ၊ ဤနေရာတွင်လည်း မိုးကုတ် ဆရာတော်ကြီး၏ ရည်ရွယ်ချက်မှာ "အနာမရှိသော လက် အဆိပ်မတက်သလို"ဆိုတဲ့ သဘောကို ပြလိုချင် ဟန် တူပါသည်။

ဆရာတော် အရှင်ဇနကာဘိဝံသ၏ ဆိုလိုရင်းကား ကျောင်းတိုက်တာကြီးတစ်ခုရဲ့ ဦးစီးဆရာတော် ကြီးကိုယ်တိုင်က ဖန်ကောက်သင်္ကန်းကြီး တရွှမ်းရွှမ်းနဲ့ ဝတ်နေလျှင် ကိုယ့်လက်အောက်က ကျောင်းဘုန်းကြီးတွေ၊ စာချဘုန်းကြီးတွေ၊ စာသင်သားတွေပါ လိုက်ပြီး ဝတ်ကုန်ကြတော့မယ်။

အဲဒီအခါမှာ သူတို့ဆိုင်ရာ ဒ.ကာ ဒကာမတွေက ဖန်ကောက်သင်္ကန်း၊ ပိုးသင်္ကန်း၊ ဖဲသင်္ကန်းတွေ မရ ရအောင် ဝယ်၍ လှူကြရတော့မယ်၊ သူများနည်းတူ အောင် လိုက်ကြတော့မယ်၊ ဒါဟာ ကုန်သင့်တဲ့အတိုင်း အဆထက် ပို၍ ကုန်သွားခြင်းပဲ။

ဒါဟာ တိုင်းပြည်အတွက် ငွေယိုပေါက်တွေပဲ၊ တိုင်းပြည်အတွက်ပါ နစ်နာတယ်–ဟု မိန့်လေ့ရှိ၏၊ ဤသို့သော ရည်ရွယ်ချက်ကြောင့် လက်မခံခြင်း ဖြစ် လေသည်၊ သူ့နည်းနှင့်သူ မှန်ကြသည်ချည်းပင် ဖြစ်၏။

## တစ်ဘဝသာသနာ

# ဒုဗ္ဗလဝိပဿနာ ဖြစ်နေလျှင်

"ဝိပဿနာ– ဝိပဿနာ"နဲ့ လူပြောများလို့ "ကဲ . . . ငါလဲ စမ်းကြည့်အုံးမယ်"ဆိုတဲ့အနေနဲ့ ထပြီး ကြိုးစားတိုင်း ထမြောက်အောင်မြင်သည်ကား မဟုတ်ချေ၊ စနစ်ကျမှ အောင်မြင်နိုင်သည်၊ သို့ဖြစ်လျှင် စနစ်ကျအောင် မည်သို့ ရွက်ဆောင်ရမည်နည်း။

ဝိပဿနာအလုပ် မလုပ်ခင် ရှေ့ဘက်က အဟန့်အတား အနှောင့်အယှက်တို့ကို ရှေးဦးစွာ ဖယ်ရှားရသေးသည်၊ ဖယ်ရှားပါဦး၊ "အဟန့်အတား အနှောင့်အယှက်တို့"ဆိုသည်ကား ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာတို့ပင် ဖြစ်၏။

ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာတို့ကို ရှေးဦးစွာ အသိဉာဏ်ဖြင့် ခွာပါဦး၊ [မဂ်ဉာဏ်ဖြင့် ပယ်ခွာသည်ကို မဆိုလို၊ "ဉာတပရိညာ"ဆိုတဲ့ အသိဉာဏ်သဘောအားဖြင့် ခွာပါဦး–ဟု ဆိုလိုသည်။]

ထိုသို့ မခွာဘဲ အလုပ် လုပ်နေလျှင် ယင်း ဝိပဿနာသည် ဒုဗ္ဗလဝိပဿနာဖြစ်နေ၏၊ "အားနည်းတဲ့ ဝိပဿနာ၊ အင်အားချည့်နဲ့တဲ့ ဝိပဿနာဖြစ်နေ၏" ဟု ဆိုလိုသည်၊ ဒုဗ္ဗလဝိပဿနာ ဖြစ်နေခဲ့လို့ရှိရင် ထမြောက်အောင်မြင်မှု မရနိုင်တော့ချေ။

# ပရိညာ အမျိုးအစား ၃–ပါး

"ပရိညာ=ပိုင်းခြား၍ သိခြင်း"ဟု အဓိပ္ပာယ်ရ၏၊ ထိုပရိညာသည် ၃–မျိုးရှိ၏၊ ယင်းတို့မှာ–

၁။ ဉာတပရိညာ၊
၂။ တီရဏ ပရိညာ၊
၃။ ပဟာန ပရိညာ တို့ဖြစ်ကြသည်။

**၁။** ဉာတပရိညာ=သိသင့်သိထိုက်တဲ့ ရုပ်နာမ်ဓမ္မ **အ**ပေါ် အခြေခံကျကျ လက္ခဏာ–ရသ–ပစ္စုပဋ္ဌာန် ပဒဋ္ဌာန်တို့ဖြင့် ပိုင်းခြား၍ သိခြင်း။

၂။ တီရဏပရိညာ=ရုပ်နာမ်ဓမ္မအပေါ် အနိစ္စ ဒုက္ခ အနတ္တ လက္ခဏာရေး ၃–ပါး တင်ပြီး ဆင်ခြင် ကူး[illegible]ဘက်မှု၌ ပိုင်းခြား၍ သိခြင်း။

ပဟာနပရိညာ=မဂ်၄တန်ဖြင့် ဆိုင်ရာကိလေသာ[illegible]ကို ပယ်သတ်ခြင်း၌ ပိုင်းခြား၍ သိခြင်း။ [အကျယ်ကို[illegible]က်ဆက်တွဲမှာ လေ့လာပါ။]

ထိုသုံးမျိုးတွင် ဤနေရာ၌ ဉာတပရိညာဖြင့် ခွာမှုကို ဆိုလို၏၊ ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာတို့ကို ဉာတပရိညာ သဘော (အသိဉာဏ်သဘော)ဖြင့် ကွဲကွဲပြားပြား ပိုင်ပိုင် နိုင်နိုင် သိမှုကို ဆိုလိုသည်၊ ထိုသို့ ကွဲကွဲပြားပြား သိလျှင်ပင် ဒိဋ္ဌိအစွဲ ဒိဋ္ဌိအယူတွေ ထိုက်သလောက် တဒင်္ဂအနေ ကွာကျကုန်လေပြီ။

ပုဂ္ဂိုလ် သတ္တဝါ ယောကျ်ား မိန်းမတွေ မဟုတ်၊ ရုပ်နာမ်အစုမျှသာပဲဟု ကွဲကွဲပြားပြား ဉာဏ်ဖြင့် သိလျှင်ပင် ဒိဋ္ဌိအစွဲတွေ ကွာကျကုန်နိုင်၏။

ထို့ပြင် "ဘာကြောင့် ဖြစ်တာပါလိမ့်၊ ဘာကြောင့် ဖြစ်တာပါလိမ့်"ဟူ၍ အကြောင်းတရားအပေါ်မှာ ဉာဏ်မရှင်းသောအခါ သံသယ ဝိစိကိစ္ဆာ ပေါ်ရသည်။

"ဘယ်အကြောင်းကြောင့် ဖြစ်သည်"ဟူ၍ တိတိကျကျ အကြောင်းတရားအပေါ်မှာ သိလာသောအခါ ဝိစိကိစ္ဆာ ကွာကျရလေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဖွားဖက်တော်ဆန္န ဖြစ်ထွေ

* အရှင်ဆန္နရဟန်းသည် ဘုရားရှိစဉ်တုန်းက ပြောမရ ဆိုမရ ကိုယ်တော်ဖြစ်၏၊ ကိုယ်နှုတ် ကြမ်းတမ်း၏၊ မည်သူ့အပြောမျှမခံ၊ ဘုရားလောင်းနှင့် တစ်နေ့တည်း ဖွားတဲ့ ဖွားဖက်တော် ဖြစ်ခဲ့သည် မဟုတ်ပါလော၊ ထို့ကြောင့်ပင် ဘုရားအပေါ်တွင် သံယောဇဉ်ကြီးသူ ဖြစ်ပြီး "ငါ့ဘုရား"၊ အဲဒီဘုရားက ဟောတဲ့တရားတွေလဲ "ငါ့တရား" လုပ်နေခဲ့သည်။

ဘုရားရှင်က ပရိနိဗ္ဗာန်စံခါနီးသောအခါ "ဆန္နအပေါ် ဗြဟ္မဒဏ်ထားရစ်ကြ"ဟု မှာခဲ့၏၊ ဗြဟ္မဒဏ်၏ အဓိပ္ပာယ်ကိုလည်း ရှင်းပြတော်မူခဲ့သည်၊ [ဗြဟ္မဒဏ္ဍ = မြတ်သောဒဏ်ပေးခြင်း။]

ပထမသင်္ဂါယနာပွဲကြီး ပြီးသောအခါ ဘုရားရှင်၏ မှာထားခဲ့ချက်အရ အရှင်ဆန္နအပေါ် ဗြဟ္မဒဏ်ထားကြောင်း ပြောဖို့ရာ တာဝန်အပ်နှင်းကြ၏၊ ထိုတာဝန်အရ အရှင်အာနန္ဒာက အရှင်ဆန္နရှိရာ ကောသမ္ဗီသို့ သွားရသည်။

အရှင်ဆန္နထံ ရောက်သောအခါ

"ငါ့ရှင် ဆန္န . . . ဘုရားရှင်၏ မှာထားခဲ့ချက်အရ သံဃာတော်များက သင့်အပေါ် ယခုအချိန်က စပြီး ဗြဟ္မဒဏ် ထားလိုက်ပြီ"ဟု မိန့်၏။

"ဗြဟ္မဒဏ်"ဆိုတာ ဘယ်လိုဒဏ်လဲ ဘုရား" ဟု အရှင်ဆန္နက ပြန်လည်မေးလျှောက်သည်။

"ဗြဟ္မဒဏ်"ဆိုတာ ငါ့ရှင် ပြောချင်တာပြော ဆိုချင်တာဆို၊ လုပ်ချင်တာလုပ်၊ သွားချင်တာသွား အများ သီတင်းသုံးဖော်တို့က မပြောတော့ဘူး၊ မဆုံးမတော့ဘူး၊ ဝိုင်းပယ်ထားလိုက်ပြီ"ဟု ရှင်းပြလိုက်၏၊

# ဗြဟ္မဒဏ် အခတ်ခံရလို့တဲ့

ဘုရားအရှိန်ဖြင့် တစ်ချိန်က ကြမ်းတမ်းခဲ့သူကို ယခုအခါ ဗြဟ္မဒဏ်ဖြင့် ဝိုင်း၍ ဖိနေကြပြီ၊ ထိုသို့ ဝိုင်းပယ်ခံရသောအခါ နေစရာ မရှိသလို ဖြစ်လာ၍ ဗာရာဏသီ မိဒဂါဝုန်သို့ ပြေးလေ၏၊ မာန်မာနတွေလည်း ကျလာပြီ၊ အားငယ်စွာဖြင့် မထေရ်ကြီးတွေထံ ချဉ်းကပ်၏၊ တစ်ကျောင်းပြီး တစ်ကျောင်း လျှောက်သွား၍–

"တပည့်တော်ကို ဆုံးမတော်မူကြပါဘုရား၊
ကန့်မြစ်တော်မူကြပါဘုရား၊ တပည့်တော်ကို
ပစ်မထားကြပါနဲ့ဘုရား၊ တရားမြင်နိုင်လောက်
အောင်လဲ ဟောပေးတော်မူကြပါဦး ဘုရား"

ဤသို့လျှင် သံဝေဂတွေရ– နောင်တတွေ ရပြီးလျှင် အားငယ်စွာဖြင့် လျှောက်ထားနေလေပြီ။ ထိုအခါ မထေရ်ကြီးတွေက ဤသို့ ဟောကြားပေးတော်မူကြ၏။

ထိုအသံကို ကြားလိုက်ရသည်နှင့် အရှင်ဆန္န အားငယ်လာတော့၏၊ ဝမ်းနည်းလာတော့၏၊ စိတ်ဓာတ်တွေ ကျလာတော့သည်၊ မူးဝေလာရာမှ "မိုက်"ခနဲ ဖြစ်ကာ မြေပြင်ပေါ်သို့ "ဘိုင်း"ခနဲ လဲကျသွားတော့၏။

နောက်မှ သတိရလာပြီး လူးလဲထ၍ မျက်စိထဲ မြင်ရာ ရဟန်းတစ်ပါးထံသို့ အပြေးကလေး သွားလိုက်၏၊ ဟိုက စကားတစ်လုံးမျှ မပြောလိုက်၊ နောက်တစ်ပါးထံ ခပ်သွက်သွက်ကလေး သွားပြန်၏၊ ထိုကိုယ်တော်ကလည်း သူ့ကို အဖက်မလုပ်၊ နောက်ထပ်တစ်ပါးထံ အားကိုးဟန်ဖြင့် ခပ်မြန်မြန် သွားမိပြန်သည်၊ ထိုကိုယ်တော်ကလည်း အရေးမစိုက်၊ တစ်ကျောင်းတိုက်လုံးသာ နံ့ရော၊ စကားဖက်၍ ပြောသူမရှိ၊ ဒဏ်ခတ်ထားပြီ မဟုတ်လော။

---

* စူဠဝါပါဠိ–၄၈၇။ ခန္ဓဝဂ္ဂသံယုတ်ပါဠိ–၁၀၈။

## တစ်ဘဝသာသနာ

## ဟောကြားပေးသောတရားများ

ရုပ် ခေါ် အာဝုသော ဆန္န အနိစ္စံ၊
ဝေဒနာ အနိစ္စာ၊ သညာ အနိစ္စာ၊ သင်္ခါရာ
အနိစ္စာ၊ ဝိညာဏံ အနိစ္စံ၊

ရူပံ အနတ္တာ၊ ဝေဒနာ အနတ္တာ၊
သညာ အနတ္တာ၊ သင်္ခါရာ အနတ္တာ၊ ဝိညာဏံ
အနတ္တာ။

သဗ္ဗေ သင်္ခါရာ အနိစ္စာ။

သဗ္ဗေ ဓမ္မာ အနတ္တာ။

အဓိပ္ပာယ်မှာ–

"ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ခန္ဓာ
ငါးပါး အနိစ္စ၊

ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် ခန္ဓာ
ငါးပါး အနတ္တ၊"

"အလုံးစုံသော သင်္ခါရတရားတွေ အနိစ္စ၊
အလုံးစုံသော ဓမ္မတွေ အနတ္တ–ကွ"လို့
ဟောပေးတော်မူကြ၏။

**မှတ်ချက်။** ။မထေရ်ကြီးတွေက အရှင်ဆန္န
အား ဟောပေးတဲ့တရားတွေထဲမှာ ဒုက္ခမပါသည်ကို
သတိပြုပါ၊ အနိစ္စလက္ခဏာနှင့် အနတ္တလက္ခဏာ (၂)
ပါးကိုသာ ဟောတော်မူကြ၏။

ဘာကြောင့်လဲဆိုတော့ မထေရ်ကြီး တွေက
စဉ်းစားမိပါသတတ်–

"ဒီကိုယ်တော်က မလွယ်ဘူး၊ အင်မတန် ဝါဒ
အစွဲကြီးတယ်၊ ဒုက္ခလက္ခဏာကို ထည့်ပြီး
ဟောနေလျှင်–

"ရုပ် ဒုက္ခ၊ ဝေဒနာ ဒုက္ခ၊ သညာ ဒုက္ခ၊
သင်္ခါရ ဒုက္ခ၊ ဝိညာဏလဲ ဒုက္ခ၊ မဂ်လဲ ဒုက္ခ၊
ဖိုလ်လဲ ဒုက္ခ ဆိုတော့ ကိုယ်တော်တို့ဟာ
ဒုက္ခရောက်နေကြတဲ့ သူတွေပဲ"လို့ ယူစွဲနိုင်
စရာ ရှိတယ်။

အဲသည်လို မယူစွဲနိုင်လောက်အောင်
လက္ခဏာ(၂)ပါးကိုသာ ကွက်ယူပြီး ဟောကြပါ
တယ်"ဟူသတတ်။

## ဖြစ်–ပျက်တော့ အမြင်သားပေါ့

ယင်းကဲ့သို့ မထေရ်ကြီးတွေက တရား ဟော
သောအခါ အရှင်ဆန္နက ဤသို့ စဉ်းစားနေမိသည်
ဟု၏–

"ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်–
အနိစ္စ၊

ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်–
အနတ္တ၊

သင်္ခါရတရားတွေအကုန်လုံး–အနိစ္စ၊
ဓမ္မဆိုတဲ့တရားတွေအကုန်လုံး–အနတ္တ"လို့

* မယှံပိ ခေါ ဧတံ ဧဝံ ဟောတိ=ငါ့မှာလဲ
အဲဒီလိုတော့ မြင်တာပါပဲ၊ (ငါ့မှာလဲပဲ ဖြစ်–ပျက်တွေ
တော့ မြင်တာပါပဲ ဟူလို။)

အထ စပန မေ သဗ္ဗသင်္ခါရသမထေ။ပေ။နိဗ္ဗာနေ
စိတ္တံ နပက္ခန္ဒတိ၊ နပ္ပသီဒတိ၊ န သန္တိဋ္ဌတိ၊ နာဓိ
မုစ္စတိ။

သို့ပေမယ့်လဲ ငါရဲ့စိတ်တွေဟာ သင်္ခါရတရား
တို့၏ ငြိမ်းအေးရာ၊ အလုံးစုံသော ဥပဓိတို့ကို စွန့်

* ခန္ဓဝဂ္ဂသံယုတ်ပါဠိ၊၁၀၈

လွတ်ရာ၊ တဏှာကုန်ရာ၊ ကိလေသာတို့ဖြင့် တပ်မက်ခြင်းကင်းရာ၊ ရုပ်နာမ်တို့ ချုပ်ငြိမ်းရာ နိဗ္ဗာန်သို့ကား မပြေးဝင်သေး၊ (နိဗ္ဗာန်ကိုတော့ မမြင်သေးဟူလို။)

ပရိတဿနာ ဥပါဒါနံ ဥပ္ပဇ္ဇတိ၊
ပစ္စုဒါဝတ္တတိ မာနသံ၊ "အထ ကော
စရဟိ မေ အတ္တာ"တိ။

ထိတ်လန့်တုန်လှုပ်ခြင်းနှင့် စွဲလမ်းခြင်းတွေ ဖြစ်လာတယ်၊ စိတ်တွေလဲ တွန့်ဆုတ်လာတယ်၊ ဘယ်လို တွန့်ဆုတ်သလဲဆိုတော့–

"ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏတို့တွင် တစ်ခုတလေမျှ အစိုးမရဘူး (မစိုးပိုင်ဘူး) ဆိုလျှင် အဘယ်အရာသည် ငါ့အား စိုးပိုင်စရာ ရှိတော့အံ့နည်း" ဤသို့ တွေး၍ တွန့်ဆုတ်မိသည်။

သစ္စာလေးပါးတရားကို မြင်သောသူမှာ ဤသို့သော သဘောမျိုး မဟုတ်နိုင်၊ ငါ့အား တရားရနိုင်လောက်အောင် ဘယ်သူများ ဟော ပေးနိုင်မည်လဲ"

ဤသို့စဉ်းစားသောအခါ အရှင်အာနန္ဒာကို အာရုံထဲ မြင်ယောင်လာသည်၊ သို့ဖြစ်၍ အရှင်အာနန္ဒာရှိရာ ကောသမ္ဗီသို့ အပြေးလာ၍ ဖြစ်ကြောင်းကုန်စင် တင်ပြလျှောက်ထားနေရှာ၏။

## အဋ္ဌကထာဆရာ၏ ဖွင့်ပြချက်

ဤနေရာတွင် ကြားဝင်၍ အဋ္ဌကထာဖွင့်ကို တင်ပြပါဦးမည်။

*အယံ ကိရ ထေရော ပစ္စယေ
အပရိဂ္ဂဟေတွာ ဝိပဿနံ ပဋ္ဌပေသိ။

ဤဆန္နရဟန်းသည် အကြောင်းတရားတို့ကို မသိမ်းဆည်းဘဲနဲ့ ဝိပဿနာ ရှုနေခြင်း ဖြစ်သတတ်။ ပစ္စယပရိဂ္ဂဟဉာဏ် မပါဘဲ ရှုနေသည်ဟု ဆိုလို၏၊ ထို့ကြောင့်–

သာ ဿ ဒုဗ္ဗလဝိပဿနာ အတ္တဂါဟံ
ပရိယာဒါတုံ အသက္ကုဏန္တီ–

ထိုဆန္နရဟန်း၏ ဝိပဿနာသည် အားနည်းသော ဝိပဿနာ ဖြစ်နေ၏၊ (ဝါ) ဒုဗ္ဗလဝိပဿနာဖြစ်နေ၏၊ ထိုသို့ အားနည်းသော ဝိပဿနာဖြစ်နေသောကြောင့် ပင် အတ္တအယူအစွဲကို ခွဲခွာခြင်းငှာ မစွမ်းနိုင်ဘဲ ဖြစ်နေ၏၊ သို့အတွက်–

သင်္ခါရေသု သုညတော ဥပဋ္ဌဟန္တေသု
"ဥစ္ဆိဇ္ဇိဿာမိ ဝိနဿိဿာမီ"တိ
ဥစ္ဆေဒဒိဋ္ဌိယာစေဝ ပရိတဿနာယစ
ပစ္စယော အဟောသိ။

ရုပ်နာမ် ခမ္မ သင်္ခါရ တရားတွေဟာ သုညအားဖြင့် (အထည်ဒြပ်အနေနဲ့ ဘာမျှ မရှိသောအားဖြင့်) ဉာဏ်ထဲမှာ ထင်လာကြတဲ့အခါ "ပြတ်စဲကုန်ကြတော့မှာပဲ" "ပျက်စီးကြေမွကုန်ကြတော့မှာပဲ"ဆိုတဲ့ ဥစ္ဆေဒဒိဋ္ဌိနှင့် တဖျတ်ဖျတ် တုန်လှုပ်ထိတ်လန့် ကြောက်ရွံ့ခြင်း၏ အကြောင်းတရား ဖြစ်လာတော့သည်။

သောစ အတ္တာနံ ပပါတေ
ပပတန္တံ ဝိယ ဒိသွာ ပရိတဿနာ
ဥပါဒါနံ ဥပ္ပဇ္ဇတိ၊ ပစ္စုဒါဝတ္တတိ
မာနသံ "အထ ကောစရဟိ မေ
အတ္တာ"တိ အာဟ။

ထိုဆန္နရဟန်းသည် မိမိကိုယ်ကို ကမ်းပါးပြတ်ချောက်ထဲ ကျသွားသလို ဉာဏ်ထဲမှာ မြင်နေရ၍လည်း တုန်လှုပ်ထိတ်လန့် ကြောက်ရွံ့ခြင်းနှင့် ခန္ဓာကိုယ်ပေါ် တွယ်တာစွဲလမ်းခြင်းများ ဖြစ်ရသည်။

ပြီးတော့ "ဒီလိုသာဆိုရင် ငါ့မှာ ဘယ်ဟာအားကိုးစရာ ရှိတော့မှာလဲ"လို့လဲ တွေး၍ စိတ်တွေ ဆုတ်နစ်ရတယ်–ဟု လည်း ပြောပြနေသည်။

* ခန္ဓဝဂ္ဂသံယုတ်ဋ္ဌ၊၃၊၂၉၂

### တစ်ဘဝသာသနာ

## ငါ့ရှင်လဲ တရားရထိုက်တဲ့သူပဲ

"အဲသည်လို ငါ့မှာ အခက်အခဲတွေ ကြုံနေရလို့ ရှင်ကိုပဲ အားကိုးတကြီးနဲ့ လာခဲ့ပါတယ်၊ ငါ့ရှင် ာနန္ဒာက ကျွန်ုပ်ကို ဆုံးမပါ၊ ကန့်မြစ်ပါ၊ နိဗ္ဗာန်ကို င်နိုင်လောက်အောင် တရားကိုလဲ ဟောပေးပါ"ဟု ရှင်ဆန္နက အားကိုးတကြီးနဲ့ လာ၍ လျှောက်ထား ပြီ။

"အေး... သည်မျှလောက်နဲ့ပဲ ငါ့ရှင်ဆန္န အပေါ်မှာ ကျေနပ်နေပါပြီ၊ ကဲ... ငါ့ရှင်ဆန္န နား ထောင်ပေတော့၊ "ဘဗ္ဗောသိ ခမ္မံ ဝိညာတုံ" "ငါ့ရှင်လဲ တရားရထိုက်တဲ့သူပဲ"။

အရှင်ဆန္နမှာ ထိုစကားကို ကြားလိုက်ရသော အခါ တစ်ကိုယ်လုံး လန်းဆန်းသွားပြီးလျှင် ဆီထိဝွမ်း ပမာ ပီတိလျှမ်းဖြာဖြစ်ရပါသတဲ့၊ "ငါ့ရှင်လဲ တရား ရထိုက်တဲ့သူပဲ"–တဲ့။ အားတက်သွားတော့သည်။

အရှင်အာနန္ဒာက အရှင်ဆန္န၏စကားကို ကြား လိုက်ရရုံမျှဖြင့် "ဘယ်လို ချွတ်ယွင်းနေပြီ၊ ဘယ်လို "ဟာ"ကွက် ဖြစ်နေပြီ–ဆိုတာကို "ကွက်"ခနဲ သိ လိုက်ပါသတဲ့။

## သဿတဒိဋ္ဌိ လက္ခဏာတွေ

"တုန်လှုပ်ကြောက်လန့်ခြင်းတွေ ဖြစ်တယ်၊ ာ်တွေလဲ တွန့်ဆုတ်ခြင်း ဖြစ်တယ်"ဆိုတာ သဿတ ဋ္ဌိ ရှိနေလို့ပေါ့။

ပြီးတော့ရုပ်နာမ်ခမ္မတွေက သုညအားဖြင့် ထင် ာကြတဲ့အခါ ကမ်းပါးပြတ်ချောက်ထဲ ကျသွားသလို ဲ့"ခနဲ "ဖို"ခနဲ ဖြစ်ပြီး ကြောက်တယ် လန့်တယ်၊ ဒန္နာပေါ်မှာ တွယ်တာတယ်ဆိုတော့ သဿတဒိဋ္ဌိ ာ်နေတာ သေချာတာပေါ့။

ဒါကြောင့် အရှင်အာနန္ဒာက "ဘယ်တရားနဲ့ နဲ့ တော်ပါ့မလဲ"လို့ ဆင်ခြင်၍ ပိဋကတ်ထဲမှာ ရှာ ာတဲ့အခါ ကစ္စာနအနွယ်ရဟန်းအား မြတ်စွာဘုရား ာတော်မူတဲ့ (ကစ္စာနဂေါတ္တသုတ်)ကို သတိရလာ သတဲ့။

ထိုသုတ်တော်ဟာဆိုလျှင် အစပိုင်းမှာ ဒိဋ္ဌိအထုံး အဖွဲ့အဖုအထစ်တွေ ချာပြီးမှ နောက်ပိုင်းမှာ တရားသား ာ့ကို ဟော်တော်မူထားတဲ့ သုတ်တော်ပါ၊ ထို့ကြောင့် သုတ်တော်ကို ယူ၍ ဟောပြတော်မူလိုက်ပါသတဲ့။

"ငါ့ရှင်ဆန္န... ဒီသုတ်တော်ဟာ မြတ်စွာဘုရား မျက်မှောက်တော်မှ နာယူ မှတ်သားထားတဲ့ သုတ် တော်ပါ၊ ကစ္စာနနွယ်ဝင် ရဟန်းအား ဟောထားတဲ့ သုတ်တော် ဖြစ်ပါတယ်၊ လေးလေးစားစားနဲ့ နားစိုက် ၍ မှတ်သားနာယူပါလော့"

*"ဒွယနိဿိတော ခွာယံ ကစ္စာန
လောကော ယေဘုယျေန
အတ္ထိတဉ္စေဝ နတ္ထိတဉ္စ"

စသည်ဖြင့် အပြည့်အစုံ ဟောပြတော်မူသည်၊ [အကျယ် ကို နောက်ဆက်တွဲမှာ ရှုပါ။] တရားတော်အဆုံးမှာ ဖွားဖက်တော် အရှင်ဆန္န ရဟန္တာအဖြစ်သို့ ဆိုက်ရောက် သွားလေ၏။

**မှတ်ချက်။** ။ဤဖွားဖက်တော် အရှင်ဆန္နမှာ ဖြစ်–ပျက်တွေ ဖြိုင်ဖြိုင်မြင်ပါလျက် တရားသား မတက် နိုင်တာ ဒိဋ္ဌိတွေခံနေလို့ဟူ၍ မိုးကုတ်ဆရာတော်ကြီးက ကောက်ချက်ချပြသည်။

* ခန္ဓဝဂ္ဂသံယုတ်ပါဠိ၊၁၁၀။ မူရင်း–နိဒါနသံ၊၂၅၇။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သစ္စာနုလောမိက ဉာဏ်တောင်

အဓိပ္ပာယ်အဖြော်င့်ကတော့ ဘယ်သင်္ခါရပဲ ဖြစ်ဖြစ်၊ သင်္ခါရတစ်မျိုးမျိုးကို နိစ္စအားဖြင့် (ဝါ) မြဲတယ်လို့၊ သုခရယ်လို့၊ အတ္တရယ်လို့ စွဲယူနေလို့ ရှိရင် သစ္စာနုလောမိကဉာဏ်တောင် မရနိုင်ဘူး။

နိဗ္ဗာန်ရဖို့ အသာထား၊ သစ္စာသိဖို့အသာထား၊ သစ္စာနဲ့လျော်တဲ့ ဉာဏ်တောင် မပေါ်နိုင်ဘူး-တဲ့၊ ဒါ ဘာကြောင့်လဲဆိုရင် ဒိဋ္ဌိခံနေလို့၊ အကြောင်းက ဒါပဲ၊ ဒိဋ္ဌိခံနေလို့ (မှန်ပါဘုရား)

မဂ်ရဲ့ရှေ့က အနုလောမဉာဏ်မှ မပေါ်ဘဲနဲ့ "သမ္မတ္တနိယာမ"လို့ ခေါ်တဲ့ နောက်က လာမယ့် မဂ်ဉာဏ်အစစ်ကြီးကော ပေါ်နိုင်ပါ့မလား (မပေါ်နိုင်ပါ)

မဂ်စိတ်မှ မပေါ်လာနိုင်ဘဲ ဖိုလ်စိတ်ကော ပေါ်လာနိုင်ပါ့မလား (မပေါ်လာနိုင်ပါ) ဒါဆိုရင် သောတာပန် ဖြစ်မလာနိုင်ဘူး-လို့ ဆိုလိုတာပေါ့ (မှန်ပါ ဘုရား)

သောတာပန်မှ ဖြစ်မလာဘူးဆိုရင် သကဒါဂါမ် အနာဂါမ် ရဟန္တာတွေကော ဖြစ်လာနိုင်ဦးမလား (ဖြစ်မလာနိုင်ပါ ဘုရား) အေး... ဟုတ်တယ်။ အဲဒါကြောင့် ဒိဋ္ဌိခွာဖို့ ပြောနေရတာ။

ဟုတ်ပါသည်၊ ဒိဋ္ဌိရှိနေလို့ကတော့ ဘယ်ဒိဋ္ဌိရှိရှိ၊ သဿတ-ဥစ္ဆေဒ-သက္ကာယ တစ်မျိုးမျိုး ရှိနေရင် မဂ် မဆိုထားနဲ့၊ မဂ်ရှေ့က အနုလောမဉာဏ်တောင် မပေါ်နိုင်ဘူး-တဲ့၊ ဤအကြောင်းအရာများကို အင်္ဂုတ္တိုရ်ပါဠိတော်မှာ မြတ်စွာဘုရား ဟောထားပါသည်။

*"သော ဝတ ဘိက္ခဝေ ဘိက္ခု ကဉ္စိ သင်္ခါရံ
နိစ္စတော (သုခတော၊ အတ္တတော)
သမနုပဿန္တော အနုလောမိကာယ
ခန္တိယာ သမန္နာဂတော ဘဝိဿတီတိ
နေတံ ဌာနံ ဝိဇ္ဇတိ"

ဘိက္ခဝေ-ရဟန်းတို့၊ သောဘိက္ခု-ထိုယောဂီ ရဟန်းသည်၊ ကဉ္စိ သင်္ခါရံ-တစ်စုံတစ်ခုသော သင်္ခါရကို၊ [ရုပ်ဖြစ်စေ-နာမ်ဖြစ်စေ သင်္ခါရတစ်မျိုးမျိုးကို ဟူလို] နိစ္စတော-နိစ္စအားဖြင့် (ဝါ) မြဲတယ်လို့၊ (သုခတော-သုခအားဖြင့်၊ အတ္တတော-အတ္တအားဖြင့်) သမနုပဿန္တော-ရှုနေသည်ရှိသော် (ဝါ) ယူစွဲထားလို့ရှိလျှင်၊ အနုလောမိကာယ ခန္တိယာ-သစ္စာနုလောမိကဉာဏ်နှင့်၊ သမန္နာဂတော-ပြည့်စုံသည်၊ ဘဝိဿတိ-ဖြစ်လတ္တံ့၊ ဣတိ-ဤသို့၊ ဧတံဌာနံ-ဤအကြောင်းသည်၊ န ဝိဇ္ဇတိ-မရှိ။

# ညောင်လေးပင် တရားပွဲ

ဆရာတော်သည် ညောင်လေးပင်နှင့် ကင်းကွာနေသည်မှာ ကြာပြီ၊ ဒုတိယကမ္ဘာစစ် မဖြစ်မီတုန်းက နှစ်စဉ်နှစ်တိုင်း ကြွ၍ တပေါင်းလဆန်း(၈)ရက်နေ့တိုင်း စတင်ဟောနေကျ၊ (၉)နှစ်ဆက်တိုက် ကြွ၍ ဟောခဲ့သည်၊ စစ်ဖြစ်လာကြတော့မှ တရားပွဲမကျင်းပနိုင်၍ ပြတ်ခဲ့ရသည်။

ညောင်လေးပင်မြို့သူမြို့သားတို့သည် ရောင်းဝယ် ဖောက်ကား၍ စီးပွားရေး ပြန်လည် ကောင်းမွန်လာကြ၍၊ အလုပ်အကိုင် အဆင်ပြေ ကြ၍ မြို့အနေအထား ပြန်လည် စည်ကားလာကြပြီ၊ သို့ဖြစ်၍ "ယခု ၁၃၁၆-ခုနှစ်ကစပြီး ရှေးတုန်းကလို တရားဟောပေးပါရန် ပြန်လည်ပင့်ကြစို့"ဟူ၍ တိုင်ပင်ထားကြသည် ဟူ၏၊ ဓာတ်ချင်း ထိခိုက်ကြလေသလား မသိ။

* အင်္ဂုတ္တိုရ်ပါဠိတော်၊ ဆက္က၊၃၈၄

## တစ်ဘဝသာသနာ

ဆရာတော်ကလည်း ထိုနှစ်တွင်မှ စဉ်းစားနေမိပါသတတ်၊

"ညောင်လေးပင်ကို မကြွရသည်မှာ ကြာပြီ၊ ယခုနှစ်တော့ သူတို့မပင့်ပေမယ့် သွားပြီး တရားဟောဦးမှပဲ"ဟု စဉ်းစားနေစဉ် ကြုံကြုံဆုံဆုံ ညောင်လေးပင်ဒကာများ ရောက်လာပင့်ကြတော့သတတ်။

## တရားမွတ်သိပ် နေကြ၍လော

သို့ဖြစ်၍ ၁၃၁၆–ခု တပေါင်းလ (၁၉၅၅–ခု မတ်လ)ထဲတွင် ဆရာတော် ကြွရောက်လိုက်ပါပြီး တရားဟောပေးတော်မူ၏၊ နှစ်ပေါင်းများစွာ ဆရာတော့်တရားကို မွတ်သိပ်ဆာလောင်ခဲ့ကြ၍လော မပြောတတ်၊ ယခုနှစ်တွင် ထူးထူးခြားခြား ပရိသတ်တွေ ပြည့်လျှံနေအောင် စည်ကားနေတော့သည်။ ဆရာတော်က တရားပွဲ အစပျိုးနိဒါန်းတွင်–

"ခင်ဗျားတို့ ညောင်လေးပင်က ပင့်သည်ဖြစ်စေ၊ မပင့်သည်ဖြစ်စေ ဘုန်းကြီးကတော့ လာပြီး တရားဟောရမှာပဲ။

ဘာပြုလို့လဲ ဆိုတော့ ခင်ဗျားတို့က တရားအသိဉာဏ်တွေ ရင့်ပြီး တိုးတက်နေကြတာကို သိရလို့ပါပဲ။

ဒီလိုအသိဉာဏ်တွေရင့်၊ သဒ္ဓါတရားတွေ ထက်သန်နေကြတော့ ဟောရတဲ့ ဘုန်းကြီးလဲ အားရှိတယ်၊ ခင်ဗျားတို့လဲ သဘောပေါက်လွယ်တယ်။

အရင်တုန်းက ဒီလို မဟုတ်ကြတဲ့အတွက် ဟောသူရော နာသူပါ ပင်ပန်းကြတာပေါ့"

ဤသို့အစချီ၍ ဟောခဲ့ကြောင်း ဆရာတော်က ပြန်ပြောင်း အမိန့်ရှိဖူးသည်၊ ဆရာတော်က ညောင်လေးပင်အပေါ် သို့ကလောက်ပင် စေတနာထားတော်မူခဲ့၏။

## ပဲခူး အစ်မလေး သီလရှင်ထံ

၁၃၁၆–ခု တပေါင်းလ (၁၉၅၅–ခု မတ်လ) ...င် ညောင်လေးပင်တရားပွဲအပြီး ပဲခူးသို့ ဆက်လက် ...တော်မူ၏၊ ကိစ္စမှာ ပဲခူးမြို့၊ လိပ်ပြာကန်ရပ်တွင် ...သာ အစ်မလေးသီလရှင်အား ကျေးဇူးဆပ်လို၍ ...။

ဟုတ်ပါသည်၊ အစ်...လေးသီလရှင် (ဒေါ်သုစာ...ရီ) ဒေါ်ကိတ္တိသည် ဆရာတော်အတွက် ကျေးဇူး...ခဲ့၏၊ ဆရာတော့်လောင်းလျာ ကိုရင်ဝိမလလေး ...ပူရသို့ ရောက်လာရခြင်းသည် အစ်မလေး သီလရှင် ရှိသောကြောင့်ဟု ဆိုပါက မှားမည်မဟုတ်ချေ။

ဤအခြေအနေသို့ ရောက်လာရခြင်းအကြောင်းတို့တွင် သည်အစ်မလေးလဲ တစ်စိတ် တစ်ပိုင်း ပါသည်ဟု ဆရာတော် တွေးနေမိဟန်တူ၏၊ ထို့ကြောင့် ကျေးဇူး များလှသည်ဟု ဆိုခဲ့၏။

ထိုမှတစ်ပါး ပရိယတ် စာပေများတွင် ကျင်လည်နေသော အစ်မလေး ဖြစ်၍လည်း စာပေတွေသင်၊ စာပေတွေကို ပြန်လည် ပို့ချနေခြင်းဖြင့်ချည်း အချိန်ကို အကုန်မခံစေလို၊ ထိုစာပေထဲမှ ရရှိသော

အသိဉာဏ်ဖြင့် လက်တွေ့လည်း ကျင့်ကြံစေလိုသေးသည်၊ ထို့ကြောင့် အစ်မလေးထံသို့ လာခဲ့ခြင်းဖြစ်၏။

အစ်မလေးသီလရှင်ကလည်း မောင်လေး (ဆရာတော်) ရောက်လာ၍ ဝမ်းသာအယ်လဲ သဘောကျနေ၏။ ရွှင်မြူးနေသည်၊ စားကောင်းသောက်ဖွယ်တို့ကို ဆက်ကပ်ရန် စီမံနေ၏၊ နောက်တစ်နေ့တွင် ဆရာတော်က–

"အစ်မလေးတို့... တရားလေး ဘာလေးများကော အားမထုတ်ကြဘူးလား"

"ထုတ်ပါတယ် မောင်ပဥ္စင်းရဲ့"



မိုးကုတ်ဆရာတော်ဘုရားကြီး၏အစ်မတော် (ဒေါ်သုစာရီ ခေါ်) ဒေါ်ကိတ္တိ၊ သီလရှင်ဆရာကြီး၊ လိပ်ပြာကန်ရပ်၊ ပဲခူးမြို့။

## သူတို့မောင်နှမ ပြောကြဆိုကြပုံ

မောင်နှမ ၂–ယောက် စကားပြောနေကြသည်မှာ ကြည်နူးစရာကောင်းလှ၏၊ မောင်လေး ၁၄–နှစ်ရွယ်တုန်းက အမရပူရ (တောင်မြို့)ကို တစ်ပါးတည်း ထွက်လာစဉ်ကလည်း မောင်နှမ ၂–ယောက် တွေ့ကြသဖြင့် အားတက်ရ ကြည်နူးရ ဝမ်းသာခဲ့ရဖူးသည်၊ ယခုလည်း မောင်နှမ ၂–ယောက် ပြန်လည် ဆုံတွေ့

ရပြန်သဖြင့် ဝမ်းသာနေကြရပြန်သည်။

မောင်ဖြစ်သူက အစ်မလေးအတွက် စိုးရိမ်ကြီးဖြင့် "တရား အားမထုတ်ကြဘူးလား"ဟု နေသည်၊ အစ်မလေးကလည်း သွက်သွက် လက်က်ပင် "ထုတ်ပါတယ် မောင်ပဥ္စင်းရဲ့"တဲ့။

အညာဒေသတို့အသုံး ထုံးစံအတိုင်း "မောင်" ၍တစ်ကြောင်း၊ "ပဥ္စင်း"ဖြစ်၍တစ်ကြောင်း (၂)ခုင်းပြီးတော့ "မောင်ပဥ္စင်း"လို့ ရင်းရင်းနှီးနှီး ပြောနေ ဖြစ်သည်။

အပြင်လောကမှာမူကား ဆရာတော်ဦးဝိမလသ် ဂုဏ်သတင်းအရှိန်အဝါ လွန်စွာ ကြီးမားနေပြီ၊ ကြောင့်ပင် "ဆရာတော်ကြီး"ဟူ၍ပင် ခေါ်နေကြပြီ။

သို့သော်လည်း အစ်မလေးစိတ်ထဲတွင်ကား "မောင်ကလေး"အဖြစ်ပင် မြင်နေဟန်တူ၏၊ သို့ဖြစ်၍ သ်း "မောင်ပဥ္စင်း"ဟု သုံးနှုန်းလိုက်ခြင်း ဖြစ်သည်၊ င်ပဥ္စင်းဖြစ်သူက ဆက်၍ မေး၏-

"ဘာနည်းနဲ့ အားထုတ်တာလဲ"

"ကသစ်ဝိုင်နည်းပေါ့ မောင်ပဥ္စင်းရဲ့၊ ဒီပဲခူးနယ်မှာ ကသစ်ဝိုင်နည်းဟာ ကျယ်ကျယ်ပြန့်ပြန့်နဲ့ လက်ခံ အားထုတ်နေကြတာပဲ"

"ဘယ်လိုရှုရသလဲ အစ်မလေးတို့..."

"ပေါ်-သိ-ပျက်၊ ပေါ်-သိ-ပျက်"လို့ ရှုရတယ်"

"ဘာတဲ့-"

"ပေါ်-သိ-ပျက်၊ ပေါ်-သိ-ပျက်လို့ ရှုရတယ် မောင်ပဥ္စင်းရဲ့"

"သြော်... အဲ အဲ... ကောင်းတယ်- ကောင်းတယ်၊ ဆက်ရှု-ဆက်ရှု"

ဟူ၍ တိုက်တွန်းတော်မူပါသတတ်၊ ဆရာတော်ကား "ပျက်"တာကလေးတစ်လုံးပါတာနဲ့ကို သဘောကျနေပုံရသည်၊ ထို့ပြင် "သိ"ကလေး တစ်လုံးလည်း ပါသေး၏၊ "ပေါ်" ဆိုတာကလဲ "ဖြစ်"တာပါဘဲ၊ ပေါင်းလိုက်ရင် "ဖြစ်-ပျက်"ပါဘဲ၊ ထို့ကြောင့် လက်ခံတော်မူခြင်း ဖြစ်ပေလိမ့်မည်။

## ဗွတ်ဟောရသော တရားပွဲ

အစ်မလေး သီလရှင် ဆရာကြီး (ဒေါ်သုစာရီ) ဒေါ်ကိတ္တိကား ကိုယ့်မောင်ကလေး ဘယ်လောက်ရောက်နေသည်ကို သိဟန် မတူချေ၊ မောင်ဖြစ်သူကး ပြောပြမည် မဟုတ်ချေ၊ နောက်နေ့များတွင်ာတော်က-

"လာ... အစ်မလေးတို့၊ တရားဟောမယ်"

ဗွတ်တရားဟောတော့၏၊ တရားပွဲတွင် ပရိသတ်ဆရာတော်၏အစ်မအရင်း သီလရှင် (ဒေါ်သုစာရီ ဒေါ်ကိတ္တိနှင့် အခြားကျောင်းမှ သွား၍ ပင့်ထားာ သီလရှင်ကြီး ဒေါ်ပုည၊ ပေါင်း(၂)ပါးမျှသာသည်။

ဤပရိသတ်ဦးရေ(၂)ပါးကိုပင် မနက်တစ်ကြိမ်၊ ညနေတစ်ကြိမ်၊ တစ်နေ့ ၂-ကြိမ် မှန်မှန် ဟောပေးသည် ဆို၏၊ ပရိသတ်က ၂-ပါးတည်း ဖြစ်သော်လည်း (ပရိသတ်အများကြီးကို ဟောပေးနေသလိုပင်) အားရပါးရ ချွေးတလုံးလုံးဖြင့် ဟောပေးနေသည်ဟူ၏။

တပေါင်းလဖြစ်၍ အပြင်လောက၌ ရာသီဥတုပူပြင်းလှသော်လည်း ဆရာတော့်ရင်တွင်း၌ကား အေးမြနေပေလိမ့်မည်၊ အကြောင်းမူကား အစ်မလေး သီလရှင်ကို တရားရေအေးဖြင့် ကျေးဇူးဆပ်ခွင့်ရသောကြောင့် ဖြစ်လေသည်။ အားလုံး (၁၅)ရက် နေသွားပါသတတ်။

# စာအံဖော်ရလို့ ဆုချသတဲ့

ထိုစဉ်က သီလရှင် ပေါက်စကလေးများ မကေသီတို့၊ မလာဘာတို့ကတော့ ကလေးတွေ ဖြစ်၍ တရားမနာကြပေ၊ သင်္ဂြိုဟ်ပါဠိကိုပင် ကျောင်းအောက်က အော်ကျက်နေသည်ဟူ၏၊ ထိုအခါ ဆရာတော်က သင်္ဂြိုဟ်ကျက်ဖော်ရသည်ဆိုပြီး–

> "ဟဲ့– မိကေတို့၊ မိလာဘာတို့ လာကြ လာကြ၊ နင်တို့က စာအံဖော်ရတယ်၊ ကပ္ပိယဒကာကြီး သူတို့ကို ငါးကျပ်စီ ဆုချလိုက်စမ်း..."

ဟူ၍ အမိန့်ရှိပါသတတ်၊ သို့ဖြစ်၍ ဆရာတော်၏ ဝေယျာဝစ္စအကျိုးငှာ အမြဲလိုက်ပါပြုစုနေသော ကပ္ပိယကာရက ဒကာကြီးက ၅–ကျပ်စီ ထုတ်ပေးသည်ဟူ၏၊ ထို့ကြောင့် မကေတို့ မလာဘတို့ ၅–ကျပ်စီ ရကြဖူးသည်၊ ထို့နောက် ဆရာတော်ကြီးက ဆက်လက် မှာကြားသေးသည်–

> "သီလရှင်လေးတွေ မြို့ထဲ ဆွမ်းဆန်စိမ်းရပ်ဖို့ သွားတဲ့အခါ ရချင်တဲ့ လောဘစိတ်ကလေးတွေနဲ့ သွားကြတာပဲ။
>
> အဲဒီလောဘစိတ်ကလေးတွေ ဖြစ်ပြီး ပျက်သွားတယ်၊ ဖြစ်ပြီး ပျက်သွားတယ်လို့ သိပြီး လှမ်းနေကြပေါ့ဟဲ့"တဲ့။

မိန့်တော်မူပါသတတ်၊ ကလေးတွေနဲ့ လိုက်အောင် ကလေးတွေ နားလည်ရုံ ကလေးတွေ သဘောပေါက်ရုံမျှ မိန့်တော်မူခြင်း ဖြစ်ပါလိမ့်မည်။

သို့သော် မကေတို့ မလာဘတို့ကား ထိုသို့ ဉာဏ်ဖြင့် မလိုက်မိသည့်အပြင်၊ ဆွမ်းဆန်ဖြူဖြူဖွေးဖွေးကို ဟင်းသောက်ဇွန်းကလေးဖြင့် အလှူ့ရှင်က တစ်ပါး (၃)ဇွန်းစီ ခပ်၍ ခပ်၍ လောင်းသည်ကို ပြည့်မပြည့် စိတ်ထဲက တိုးတိုးရေတွက်နေမိသည် ဆို၏။

အဲဒီတုန်းက ဆရာတော်ကြီး၏ အမူအရာ အနေအထားတို့ကို မေးမြန်းကြည့်ရာ သီလရှင် မကေက–

> "အံမယ်လေး... ဆရာတော်ကြီးက ကြမ်းပ၊ ကိုယ်ကြမ်း– စိတ်ကြမ်းကြီးပဲ၊ လေကားများ ဆင်းသွားလိုက်တာ၊ သူ့ခန္ဓာကိုယ်ကြီးက ကြီးကြီး၊ "ဝုန်း–ဝုန်း၊ ဝုန်း–ဝုန်း"နဲ့ နေတာပဲ"တဲ့။

ဤသို့ ပြန်လည် ပြောပြပါသည်။ ပြီးတော့လည်း မကေက သူ့အမြင်ကို ဆက်လက် ပြောနေပြန်သေး၏–

> "ဆရာတော်ကြီးက သက်န်းကတော့ ကောင်းပါရဲ့၊ ဒါပေမယ့် ဝတ်တာကြီးက ဖရိုဖရဲနဲ့၊ ဖြစ်သလိုကြီး ဝတ်တာ၊ အင်း... သူ့အဖို့တော့လဲ လှဖို့ မလိုဘူးပေါ့လေ..."တဲ့။

**မှတ်ချက်။** ။ဤအကြောင်းအရာများကို ယခုအခါ ပဲခူးမြို့၊ လိပ်ပြာကန်မှ သီလရှင် မကေသီက ပြန်လည် ပြောပြပါသည်။

# တစ်ဘဝသာသနာ

## အရာရာတွင် ဆင်ခြင်နေသည့်ကြားက

ပဲခူးမှ အမရပူရသို့ ပြန်ရောက်လျှင် တရားပွဲသဘင်များ ဆက်လက် ဆင်ယင်နေတော်မူ၏၊ ကျန်းမာရေး ကောင်းလျှင် ကောင်းသလို ဆရာတော်က သူ့ခန္ဓာကိုယ်ကို မညှာပေ၊ သူ့ထံသို့ ရောက်လာတဲ့ ပရိသတ်ကို မပြတ်ပင် ဟောပြ သွန်သင်နေတော်မူတတ်သည်။

သကြၤန်တွင်းရက်များကား ပရိသတ်တွေ အထူးပိုမို များပြားလာကြ၏၊ ဆရာတော် အနားမရအောင်ဖြစ်ရသည်၊ သို့တစေလည်း ဆရာတော်ကမူ အားနှင့်မာန်နှင့် အပြည့်ပင် ဟောပြနေတတ်၏။

၁၃၁၆–ခုနှစ် ကုန်ဆုံး၍ ယခုအခါ ၁၃၁၇–ခုနှစ်သစ်သို့ပင် ကူးပြောင်းလာခဲ့ကြပြီ၊ တရားဟောပြီးပြီဆိုလျှင် ညနေတိုင်းပင် လမ်းလျှောက်ထွက်တော်မူသည်၊ ကျန်းမာရေးအတွက် ဂရုစိုက်နေရသည် မဟုတ်လော၊ သက်တော်ကလည်း ၅၆–နှစ် တွင်းသို့ ဝင်လာပြီ၊ ထို့ကြောင့် အစစအရာရာတွင် ပို၍ဆင်ခြင်နေရသည်။

## လေငန်းရောဂါ စွဲကပ်လာခြင်း

ဟော... ပြော၍မှ မဆုံးသေးမီ မကျန်းမမာ ဲလာတော့၏၊ လေငန်းရောဂါ စွဲကပ်လာသည်၊ ံ အမြဲ လျှောက်နေသည့်ကြားမှပင် လေငန်းက ဲဝင်လာ၏၊ ထို့ကြောင့် တရားဟောမှုကို ခေတ္တနားထားရသည်။

ဆရာတော်၏ ကျန်းမာရေးကို အားလုံးက ုန်းဂရုစိုက်ကြပါ၏၊ မန္တလေးက "ကောင်းပေ့" ဲ့ ဆရာဝန်ကြီးတွေကို ရွေးပင့်ပြီး၊ ယင်းဆရာဝန် ့ဘို့ဖြင့် ကုသပေးသည်၊ သို့သော် အမရပူရသို့ ဉ် လာကြရသည်မှာ ပြည်သူ့ဆေးရုံကြီးတွေ ုန်က တစ်ဘက်နှင့် ဆိုတော့ လွယ်လွယ်ကူကူ ဲနိုင်ဘဲ အခက်အခဲ ကြုံနေကြရ၏။

ထို့ကြောင့် မန္တလေး၊ ဝါးတန်းစခန်းသာ ပွဲရုံပိုင်ရှင် ဦးချစ်ဆွေ+ဒေါ်မမတို့က ဆရာတော်၏ မကျန်းမာမှုကို ဆရာဝန်ကြီးများဖြင့် လွယ်လွယ်ကူကူ ကြပ်မ၍ ကုသနိုင်ဖို့ရန် အမရပူရမှ မန္တလေးသို့ ပင့်ကြတော့သည်။

ထို့နောက် သူတို့၏ နေအိမ်ဝင်းခြံရှိရာ နန်းမြို့ရိုးတောင်ဘက်က ရွှေလုံရပ်နေအိမ်သို့ ပင့်ကြတော့သည်၊ အိမ်ဦးခန်းမှ ဆင်ဝင်ဆောင်ကြီး တစ်ခုလုံး (အထက်ထပ်)ကို ကျောင်းအဖြစ် သီတင်းသုံးဖို့ရာ လှူဒါန်းကြတော့၏။

ညအိပ်ချိန်များတွင် (ဆရာတော်ကြီးအတွက် ဝိနည်းနှင့် မဆန့်ကျင်အောင်) အိမ်ရှင်တို့က အိမ်ဝင်းခြံကြီးဘေးတွင် ကပ်လျက် ဆောက်လုပ်ထားသော ဂိုထောင်တန်းလျားများသို့ သွား၍သွား၍ အိပ်ကြသည် ဟူ၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## မန္တလေးတွင် နေ့စဉ်တရားပွဲကြီး

မန္တလေးမြို့ ဦးချစ်ဆွေ+ဒေါ်မမတို့၏ နေအိမ်၌ ခေတ္တသီတင်းသုံး၍ ဆရာဝန်ကြီးများ၏ ဆေးကုသမှုကို ခံယူလိုက်ရာ သက္ကရာဇ် ၁၃၁၇–ခု နှစ်ဦးပိုင်းမှာပင် ကျန်းမာလန်းဆန်းလာတော့သည်၊ အင်အားပြည့်ဝလာသောအခါ ဆရာတော်က "တရားဟောပေးမည်"ဟု မိန့်တော်မူ၏၊ သို့ဖြစ်၍ ဝမ်းသာအားရနှင့် နီးစပ်ရာတို့ကို အကြောင်းကြားလိုက်ရာ ပရိသတ်တွေ အများကြီးဖြစ်လာတော့သည်။

နေ့ပိုင်းတွင် ကိုယ့်ဆိုင်ရာလုပ်ငန်းကိစ္စတို့ဖြင့် အားလပ်ကြမည်မဟုတ်၍ ညပိုင်းတွင် ဆရာတော်က ခွင့်ပြုတော်မူ၏၊ ည၇–နာရီမှ ၈–နာရီဟူ၍ သတ်မှတ်ပေးတော်မူသည်၊ တစ်နေ့ထက် တစ်နေ့ ပရိသတ်ကြီးက များ၍ များ၍ အံ့တစ်ပါး ဖြစ်လာ၏၊ ထိုအခါ ဒကာ ဒကာမတို့က လျှောက်ကြတော့သည်–

> "တပည့်တော်တို့ မန္တလေးမှာလဲ ဝေနေယျပုဂ္ဂိုလ်တို့ကို ငဲ့ပြီး (အမရပူရမြို့မှာလို) နေ့စဉ်အမြဲ တရားပွဲများ ကျင်းပချီးမြှင့်ပေးတော်မူပါဘုရား"

ထိုသို့လျှောက်ထားချက်အရ ဟောပြောဖို့ အချိန်ကာလကို အောက်ပါအတိုင်း ခွဲဝေသတ်မှတ်ပေးတော်မူလိုက်၏။

(က) မိုးတွင်း–ဝါဆိုလပြည့်ကျော် ၁–ရက်မှစ၍ တန်ဆောင်မုန်းလပြည့်နေ့အထိ (ကထိန်ခေတ် ကုန်သည့်တိုင်အောင်) အမရပူရမြို့မှာ (၄)လ။

(ခ) ဆောင်းတွင်း–တန်ဆောင်မုန်းလပြည့်ကျော် ၁–ရက်မှစ၍ တပေါင်းလပြည့်နေ့အထိ မန္တလေးမြို့ ဦးချစ်ဆွေ - ဒေါ်မမတို့၏ နေအိမ်ဓမ္မာရုံမှာ (၄)လ၊

(ဂ) နွေပိုင်း–တပေါင်းလပြည့်ကျော် ၁–ရက်မှစ၍ ဝါဆိုလပြည့်နေ့အထိ မိုးကုတ်မြို့မှာ (၄)လ။

ဟူ၍ တရားဟောပေးဖို့ရန် အချိန်ကာလကို သတ်မှတ်ပေးတော်မူလိုက်၏၊ သို့သော် ယခု ၁၃၁၇–ခုနှစ် တပေါင်းလတွင်ကား မန္တလေးမှာ အပြည့်ဟော၍ မပေးနိုင်သေး၊ ကတိအတိုင်း ညောင်လေးပင်သို့ သွား၍ ဟောပေးရဦးမည်ဟု မိန့်သည်။

## အမရပူရပမာ မိုးကုတ်တွင် မင်္ဂလာ

မိုးကုတ်မြို့ မြို့မရပ်မှ ဒေါ်ဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံ မိသားစုတို့သည် ဆရာတော် ဦးဝိမလ မိုးကုတ်မြို့ကို ရောက်စကပင် ဆရာတော်၏ ဟောပြောမှုတရားဓမ္မတို့ကို ကြည်ညိုခဲ့ကြ၏၊ သီလ သမာဓိ ပညာတို့အပေါ်၌လည်း အကြွင်းမဲ့ ယုံကြည်ခဲ့ကြသည်၊ ထို့ကြောင့် မိသားစုတစ်ရပ်လုံး ဆွေမျိုး တစ်သိုက်လုံး ဆည်းကပ်ကိုးကွယ်လာခဲ့ကြသည်။

ဆရာတော်ကို ကြည်ညိုသည့်အလျောက် ဆရာတော် သီတင်းသုံးဖို့ လွန်ခဲ့သော ၁၂၉၇–ခုနှစ်က အမရပူရ မင်္ဂလာတိုက်ဟောင်းအတွင်း၌ ကျောင်းကြီး တစ်ဆောင် ဆောက်လုပ်လှူဒါန်းခဲ့၏။

ယခု တစ်ဖန် မိုးကုတ်မြို့သို့ ကြွလာသောအခါတွင် ဆရာတော် ဦးဝိမလ သီတင်းသုံးဖို့ရန် ထင်းရှ

ခဲ့ရပ်၊ ဖောင်တော်ဦးဘုရားအနီး၌ တိုက်ကျောင်းကြီး တစ်ဆောင်ကိုလည်း ၁၃၁၆–ခုနှစ်ကပင် စတင်၍ ဆောက်လုပ်နေခဲ့ကြပြန်၏၊ ဒေါ်ဒေါ်အုံ ဒေါ်ဒေါ်ဖုံတို့ မိသားစု၏ ကောင်းမှုများပင် ဖြစ်သည်။ နာမည်ကိုမူ "မိုးကုတ်မြို့ မင်္ဂလာတိုက်"ဟူ၍ မှည့်ခေါ်ထားကြ၏။

ထို့ပြင် ထိုကျောင်းဆောင်ကြီး၏ အထက်ပိုင်း တောင်ကမ်းပါးယံတွင် သိမ်တစ်လုံး ရှိ၏၊ ဆရာတော် ဦးဝိမလ ကိုယ်တော်တိုင် ဦးစီးသမုတ်ခဲ့သော သိမ်ပင် ဖြစ်သည်၊ သိမ့်ဒကာ ကုသိုလ်ရှင်တို့မှာ ရန်ကုန်မြို့၊ မိုးကုတ် ဝိပဿနာ အဖွဲ့ချုပ်ကြီး၏ ယခု လက်ရှိ ဥက္ကဋ္ဌကြီး ဦးအောင်ကျော်နှင့် ဇနီး–ဒေါ်ဒေါ်စိန်တို့ပင် ဖြစ်ကြ၏။

# စက်နာရီပမာ ပုံမှန်ဆောင်ရွက်နေ

မိုးကုတ်မြို့တွင် ဆရာတော် ဦးဝိမလ စတင် တရားဟောတော်မူစဉ်က လျှပ်စစ်မီးအား သိပ်မကောင်း လှသေးပါ၊ တစ်မြို့လုံး မှိန်မှိန်ပင် ဖြစ်ပါ၏၊ တရား ဟောရာတွင်လည်း အားစိုက်၍ ဟောတော်မူနေရသည်။

သို့ဖြစ်၍ ကျောင်းအမကြီး အမေဖုံ၏ သား ဦးမြင့်၊ ဇနီး–ဒေါ်သန်းသန်းတို့က မီးစက်ကြီးတစ်လုံး နှင့် အသံချဲ့စက်တစ်လုံး ဝယ်၍ လှူသောအခါကျမှ ဆရာတော် သက်သာရာ ရတော့သည်၊ အသံဖမ်းယူရာ တွင်လည်း လုံလောက်မှု ဖြစ်သွားတော့၏။

မိုးကုတ်၊ မန္တလေး၊ အမရပူရတို့၌ ဟောသမျှ ဘွင်လည်း ဤအသံချဲ့စက်ကိုပင် အသုံးပြုတော်မူ သဖြင့် ကျေးဇူးများသွားပေတော့သည်။

မန္တလေးနှင့် အမရပူရတို့က နွေခါကျလျှင် ဂိမ္ဘာသီဥတု ပူပြင်းလှ၏၊ မိုးကုတ်မြို့က ရာသီဥတုကား အေးမြပြီး နေလို့ ကောင်းလှသည်၊ မန္တလေးမှာ ဘုရားပွဲတွေ သိမ်းပြီး မိုးကုတ်သို့ တက်လာလျှင် မကြာခင် ဆရာတော်၏ ဥပမိရပ်မှာ ဝင်းစိုလာတတ် ၏၊ ပေယျာဝစ္စပြုသူတို့ကား ကိုမြင့်နှင့် အမရပူရမှ အမြဲလို လိုက်ပါလာတတ်သည့် ကိုအေးမောင်တို့ ဖြစ်ကြသည်၊ ဆရာတော် စိတ်ချမ်းသာအောင် ပြုစု တတ်ကြ၏။

ဆရာတော်၏ နေ့စဉ် ဆောင်ရွက်နေပုံမှာ စက်နာရီတစ်လုံး အချိန်မှန်ကန် တိကျစွာ သွားနေ သကဲ့သို့ ဖြစ်တော့သည်၊ နံနက်အရုဏ်တက်ချိန်မှစ၍ ညအိပ်ချိန်အထိ သူ့အကွက်နှင့်သူ မှန်မှန် ဆောင်ရွက် နေတော်မူ၏။

ဆရာတော်က နေ့စဉ်နေ့တိုင်းပင် ညနေ ၄- နာရီ ထိုးပြီဆိုလျှင် ကျန်းမာရေးအတွက် စင်္ကြံ ကြွ တော်မူလေ့ရှိသည်၊ နောက်က တစ်ယောက်နှစ်ယောက် လိုက်ပါရတတ်၏။

တစ်ခါတလေ မိုးကုတ်မြို့ မင်္ဂလာတိုက်မှ အထက်တောင်ကုန်းကို ကျော်ဖြတ်၍ ၂–မိုင်ခန့် ရှိ သည့် ရေပူရွာနားအရောက် လျှောက်တတ်၏၊ တစ်ခါ တလေတော့လည်း အုန်းကိုင်းရွာဘက်သို့ လျှောက် တတ်သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## မိုးကုတ်မြို့မှ ဆရာတော့်တရားပွဲ

ကျောင်းသို့ပြန်၍ ရောက်ချိန်တွင်ကား တရားနာရန် လာကြသော ပရိသတ်တို့က အသင့်စောင့်မျှော်နေကြသည်ကို တွေ့ရတော့၏၊ ခေတ္တ ခဏ အမောဖြေ အနားယူပြီး ဆက်လက်တရားဟောတော်မူမြဲ ဖြစ်သည်။

ဆရာတော်၏ တရားပွဲသို့ အမြဲလာတတ်ကြသူများမှာ ကျောင်းအမကြီး ဒေါ်အုံ၊ ဒေါ်ဖုံတို့အပြင် လူကြီးပိုင်းမှ ဦးပေါ်၊ ဦးထွန်းလှိုင်၊ ဦးဘရှင်း၊ ဦးနိုင်တို့ ဖြစ်ကြ၏၊ လူလတ်ပိုင်းမှာမူကား ကိုတင်မောင်၊ ကိုအောင်သိန်း၊ ကိုအောင်ကျော်၊ ကိုမြင့်၊ ကိုအောင်မြ၊ ကိုတင်၊ ကိုအောင်ချို၊ ကိုဖေရှင် စသူတို့ ဖြစ်ကြသည်။

တရားပွဲသို့ မိုးကုတ်မြို့တွင်းမှသာမက ကျပ်ပြင်၊ ဂေါင်းဦးဘာ၊ ပန်းမ၊ ကသည်းရပ်တို့အပြင် ရေပူ၊ အုန်းကိုင်း၊ သဖန်းပင်စုရွာများမှလည်း လက်ဆွဲမီးအိမ်ကလေးများဖြင့် လာတတ်ကြ၏၊ အားတက်ဖွယ်ကောင်းလှသည်။

တရားပွဲ ပြီး၍ အပြန်တွင် လမ်းတစ်လျှောက် စကားတပြောပြောနှင့် တရားဆွေးနွေးသွားတတ်ကြ၏၊ အလွန်ကြည်နူးဖွယ်ပင်တကား။

## ဒါန–သီလ–သမထနဲ့ ကျေနပ်မနေကြနဲ့

မိုးကုတ်သူ မိုးကုတ်သားတို့သည် သဒ္ဓါတရား အရာ၌ စံတင်လောက်ကြပါပေသည်၊ မြန်မာပြည် အနှံ့အပြား ဘုရားဖူးလျှောက်သွား၍ လှည့်လည်ကြည့်မည်ဆိုလျှင် မိုးကုတ်ကုသိုလ်ရှင်တွေကို တွေ့ကြရ၏၊ ဇရပ်၊ တန်ဆောင်း ဂူကျောင်းပြာသာဒ်တို့၌ မိုးကုတ်ကုသိုလ်ရှင် လွတ်သည့်နေရာ ရှားသည်။

အမြို့မြို့အနယ်နယ် ကျောင်းကန်ဘုရားစေတီများနှင့် စာသင်တိုက်များတွင်လည်း မိုးကုတ်မှ ကောင်းမှုရှင်များ မလွတ်ကြပေ၊ လှူဒါန်းရာ၌ မြန်မာပြည်တစ်ပြည်လုံးတွင် ထိပ်ဆုံးက နေရာယူထားကြ၏။

သူတို့အဖို့မှာ သင့်တင့်မျှတရုံမျှ နေထိုင်ကြပြီးလျှင် သာသနာတော်အတွက်မူ အကောင်းဆုံး အမွန်ဆုံး အမြတ်ဆုံးတွေချည်း ရွေး၍ လှူတတ်ကြလေသည်၊ သူတို့စေတနာတွေက သူတို့ကို ပြန်၍ အကောင်းဆုံးဖြစ်အောင် အကျိုးပေးကြပေဦးမည်။ အထွတ်အထိပ်ဆုံး နေရာ ရောက်အောင် ပို့ကြပေဦးမည်။

မိုးကုတ်မြို့မှာ အလွန် မကျယ်လှသော်လည်း ကျောင်းကန် စေတီပုထိုး ရေတွင်းရေကန် စသည်တို့ကား မနည်းလှချေ၊ မြို့နှင့်စာသော် များသည်ဟုပင် ဆိုရချေမည်။

သူတို့သည် တစ်နှစ်ပေါက်လုံး လှူမယ် တန်းမယ်၊ သီလဆောက်တည်မယ်၊ သိမ်သမုတ်‌ ကျောင်းဆောက်၊ ရေစက်ချ၊ ဘုရားထီးတင်၊ ရဟန်းခံ ရှင်ပြု၊ ပဝါရဏာ ကထိန်ပွဲ၊ ဝါဝင် ဝါထွက် ဆွမ်းကျွေးပွဲ ပရိတ်နာ စသည်ဖြင့် အလှူဒါနပွဲများ ပြတ်သည် မရှိလှ။

သို့သော် **ဆရာတော်ကြီး ဦးဝိမလကမူ** ဤကဲ့သို့ ကမ္မဿကတာ သမ္မာဒိဋ္ဌိလောက်နဲ့ ကျေနပ်နေကြသည်ကို အားမရ၊ ကောင်းမှုကုသိုလ်တွေ လုပ်သမျှ "ကိုယ်လုပ် ကိုယ်ရ"ဆိုတဲ့ လူတိုင်း သိ သာသနာပ ဉာဏ်လောက်နဲ့ အားမရသေး။

ထို့ထက် ပိုမို၍ ဝိပဿနာ သမ္မာဒိဋ္ဌိ၊ မဂ္ဂသမ္မာဒိဋ္ဌိတို့သို့ ရောက်အောင် ပို့ဆောင်ပေးချင်၏၊ ထို့ကြောင့်ပင် "ဒါနလေး– သီလလေး– သမထလေးလောက်နဲ့ ကျေနပ် မနေကြနဲ့"ဟူ၍ ခဏ ခဏ သတိပေးတတ်သည်၊ သူဌေးတွေကြားမှာ ဤစကားမျိုး ပြောရဲတာ ဤတစ်ပါးသာ ရှိမည် ထင်၏။

"အဲဒါတွေက အရှိန်ရှိတုန်း တက်သွား၊ အထက်ကောင်းကင်ကို ပစ်လိုက်တဲ့ ခဲလုံးလို၊ ပီးတော့ အရှိန်ကုန်တော့ ပြန်ကျရတာပဲ" ဟူ၍ မိန့်တတ်၏။

## ဗြဟ္မာ့ပြည်မှာ တဝင်းဝင်းနဲ့ပေမယ့်

ဤသို့ ဆရာတော်ကြီးက မိန့်မြွက်နေသည်မှာ အကိုးသာဓကေ မရှိဘဲ မိန့်မြွက်နေသည် မဟုတ်၊ ဓမ္မဘဒ္ဒယဝိဘင်းပါဠိတော်မှာ မြတ်စွာဘုရား ဟောထားတော်မူတဲ့ အကိုးသာဓကေဖြင့် မိန့်မြွက်နေခြင်းသာဖြစ်သည်။

* ဥက္ခိတ္တာ ပုညတေဇေန၊
ကာမရူပဂတိံ ဂတာ။
ဘဝဂ္ဂတမ္ပိ သမ္ပတ္တာ၊
ပုနာ ဂစ္ဆန္တိ ဒုဂ္ဂတိံ။ ။

ပုညတေဇေန–ကောင်းမှု ကုသိုလ် အရှိန်အဝါသည်၊ ဥက္ခိတ္တာ–အထက်သို့ လွှင့်၍ ပင့်မြှောက်အပ်ကုန်သည်၊ (သမာနာ–ဖြစ်ကုန်လတ်သော်) ကာမရူပဂတိံ–ကာမသုဂတိဘုံ ရူပဗြဟ္မာဘုံသို့၊ ဂတာ–ရောက်ကြရလေကုန်၏။

ဘဝဂ္ဂတံ–ဘုံတို့၏ ထိပ်ဆုံးအထက်"ဘဝဂ်" ဆိုတဲ့ နေဝသညာ နာသညာယတန ဗြဟ္မာ့ဘုံသို့၊ သမ္ပတ္တာပိ–ရောက်ရကုန်သော်လည်း၊ ပုန–တစ်ဖန်၊ ဒုဂ္ဂတိံ–အပါယ်ဒုဂ္ဂတိဘဝသို့၊ အာဂစ္ဆန္တိ–ပြန်လည်တုံ့ခေါက် ရောက်ကြရလေကုန်၏။ [ရောက်နိုင်ခွင့်ရှိသေး၏–ဟူလို။]

သစ္စာ မသိဘဲနဲ့ လုပ်တဲ့ကုသိုလ်တွေ၊ ဘုံဘဝမငြီးငွေ့ဘဲနဲ့ ဘုံဘဝကို တောင့်တပြီး လုပ်တဲ့ ကုသိုလ်တွေ၊ ဒိဋ္ဌိတန်းလန်းနဲ့ လုပ်တဲ့ကုသိုလ်တွေ ကတော့ ဒိဋ္ဌိက ပြန်ဆွဲချတာပဲ။

အထက်ကောင်းကင်ပေါ် ပစ်လိုက်တဲ့ ခဲလုံးလိုပဲ အရှိန်ကုန်တော့ ပြန်ကျရတယ်၊ ကုသိုလ်အရှိန်ရှိတုန်း (ခဲလုံးလိုပဲ) တက်သွားတယ်၊ ကုသိုလ်အရှိန်ကုန်တော့ ပြန်ကျရတာပဲ၊ ဒိဋ္ဌိက ဆွဲချတာကိုး။

အထက် ကောင်းကင်ပေါ်တက်ပြီး ပျံဝဲနေတဲ့ စွန်ကို ကြိုးလွန်းတောင့်ဖြင့် ရစ်ပြီး အောက်မြေပြင်ကို ပြန်ဆွဲချလိုက်သလို ဒိဋ္ဌိက ပြန်ပြီး ဆွဲချတာပဲ။

ဗြဟ္မာ့ပြည်မှာ ကိုယ်ရောင်ကိုယ်ဝါတွေ တဝင်းဝင်းနဲ့ နေခဲ့ရတဲ့သူ၊ နောက်တော့ အရှိန်ကုန်လို့ ဒိဋ္ဌိက ဆွဲချတဲ့အတွက် အပါယ်ဘုံမှာ ဝက်မကလေးအထိဖြစ်ရရှာတယ် မဟုတ်လား။

ဤစကားတို့ကား မိုးကုတ်ဆရာတော်ကြီး မိန့်မြွက်နေကျဖြစ်၏၊ ဆရာတော်ကြီး ဆိုလိုသည်မှာ ဖြစ်ပျက်တွေ မြင်အောင် လုပ်မထားတဲ့အတွက်၊ ဒုက္ခသစ္စာတွေကို သိအောင် လုပ်မထားတဲ့အတွက် အပါယ်ကျရတယ်၊ ဒါကြောင့် "သစ္စာကို သိအောင် မြန်မြန်လုပ်ထားကြ"ဟု ဆိုလိုတော်မူ၏။

## မင်္ဂလာရိပ်သာ တရားဓမ္မာရုံကြီး

မန္တလေးမြို့မှ ဦးချစ်ဆွေ+ဒေါ်မမတို့က ဆရာတော်ကို မိမိတို့အိမ်ဂေဟာသို့ ပင့်၍ ဆေးကုသပေးကြ၏၊ ဆရာတော်၏ တရားတော်ကိုလည်း နာယူကြရ၏၊ သို့အတွက် ကြည်ညိုမှု များစွာ တိုးကြရလေသည်၊ ဆရာတော်နှင့် ရင်းနှီးမှုလည်း များစွာ ဖြစ်၍သာ၏၊ တစ်နေ့တွင် ဒေါ်မမက လျှောက်သည်–

"အမရပူရမြို့က ဆရာတော်ရဲ့ ဝိပဿနာရိပ်သာဝင်းထဲမှာ တရားဓမ္မာရုံရယ်လို့ ထယ်ထယ် ဖတ်ဖတ် ကြီးကြီးမားမား မရှိသေးဘူး၊ တပည့်တော်မတို့က ဆောက်လုပ်လှူဒါန်းချင်တယ်၊ အဲဒါ လက်ခံမလားဘုရား"

"အင်း... ကောင်းသားပဲ"

* (ဓမ္မဟဒယဝိဘင်းပါဠိတော်)

ဤသို့ ဆရာတော်က ခွန်းတုံ့ပြန် လက်ခံတော်မူသည်၊

ဤသို့ လက်ခံတော် မူချက်အရ သက္ကရာဇ်

၁၃၁၇–ခု နှစ်ထဲမှာပင် စတင်၍ အမရပူရမြို့၊ မင်္ဂလာမဂ္ဂင် ရိပ်သာဝင်းထဲတွင် ဦးချစ်ဆွေ+ဒေါ်မမတို့က တရား ဓမ္မာရုံကြီး ဆောက်လုပ်စေကြလေပြီ။



အမရပူရ မင်္ဂလာမဂ္ဂင်ရိပ်သာ သံဝေဇနီယဌာန ဓမ္မာရုံကျောင်းဒကာကြီး ဦးချစ်ဆွေ နှင့် ကျောင်းအစ်မကြီး ဒေါ်မမ

## တစ်ဘ၀သာသနာ

# ပြည်လုံးချမ်းသာစေတီဘုရားပွဲ

သက္ကရာဇ် ၁၃၁၇–ခု တပေါင်းလ (၁၉၅၆–ခု မတ်လ)သို့ ရောက်သောအခါ မနှစ်က ကတိခံခဲ့သည့်အတိုင်း ညောင်လေးပင်သို့ ကြွတော်မူ၍၊ ဟောမြဲဌာန "ပြည်လုံးချမ်းသာစေတီရင်ပြင်တော်"နှင့် မြို့မ မီးသတ်ကွင်းကြီးထဲတွင် ၁၆–ရက်တိုင်တိုင် ဟောပြတော်မူခဲ့သည်။

ပရိသတ်တို့ကား ကွင်းပြင်ကြီး တစ်ခုလုံးပြည့်ညပ်မောက်လျှံသွားတော့သည်၊ တရားတော်တို့ကသည်း ရှေးတုန်းကနှင့် မတူတော့ချေ၊ ရှေးတုန်းကတော့ အဘိဓမ္မာတရားတွေ၊ သဘောသဘာဝတွေ၊ ယခုတော့ သာသနာတရားတွေ၊ လုပ်ငန်းခွင်တွေနဲ့၊ ပရိသတ်တွေ ပို၍ ကြိုက်နေကြသည်။

ဤအကြိမ်မှ နောက်ပိုင်းတွင် ညောင်လေးပင်သို့ ဆရာတော် မကြွဖြစ်တော့ချေ၊ ထို့ကြောင့် စစ်မဖြစ်မီက နှစ်စဉ် ဆက်တိုက် (၉)ကြိမ်နှင့် ယခု စစ်ပြီး(၂)ကြိမ်၊ ပေါင်း(၁၁)ကြိမ်တိတိ ညောင်လေးပင်တွင် တရားဟောပေးတော်မူခဲ့သည်။

ညောင်လေးပင်နှင့် ဆရာတော်မှာ ဤသို့လျှင် ရင်းနှီးခဲ့ကြ၍၊ ဒကာ ဒကာမများက ဆရာတော့်အပေါ် သံယောဇဉ်ထားကြ၍ ညီအစ်ကိုမောင်နှမများသဖွယ် လည်း ဖြစ်ကြသည်။

ဤကဲ့သို့ ညောင်လေးပင်မြို့၌ (၁၁)နှစ်တိုင်တိုင် တရားဟောပေးခဲ့သော်လည်း တရားအသံတော်ကို ဖမ်းယူထားခြင်း မရှိခဲ့ကြ၊ သို့ဖြစ်၍ တရားတိပ်ခွေ တစ်ခွေမျှ မရလိုက်ကြ၊ တစ်ခွေမျှ မကျန်ရစ်ကြ။ နှမြောဖွယ် ကောင်းလှချေတကား။

# မိုးကုတ်မြို့မှ မင်္ဂလာတိုက်

မိုးကုတ်မြို့တွင် ယမန်နှစ်က စတင်၍ ဆရာတော်အတွက် ရည်ရွယ်ကာ ဒေါ်ဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံတို့က ဓမ္မာရုံတိုက်ကျောင်းကြီးတစ်ခု ဆောက်လုပ်နေခဲ့သည်၊ ဘုရားခြံရပ်၊ ဖောင်တော်ဦးဘုရားအနီးတွင် ဖြစ်၍၊ ဓမ္မာရုံတိုက်ကျောင်းကြီးသည် ယခု ၁၃၁၇–ခုတွင် ပြီးစီးနေပြီ ဖြစ်သည်။

ထို့ကြောင့် ညောင်လေးပင်တရားပွဲမှ အပြန်တွင် ထိုတိုက်သို့ တက်၍ ရေစက်ချလှူဒါန်းမှုကို ခံယူတော်မူ၍၊ ယင်းဓမ္မာရုံတိုက်ကျောင်းကြီးကို "မိုးကုတ်မြို့ မင်္ဂလာတိုက်"ဟူ၍ ကဗ္ဗည်းထိုးထားသည်။

ညစဉ်ညတိုင်း ၇–နာရီမှ ၈–နာရီအတွင်း တရားဓမ္မ ဟောပြပေးတော်မူ၍၊ ဝိပဿနာတရားသာမက ရတနာသုံးပါးဂုဏ်နှင့် ကံ–ကံ၏ အကျိုးတရားများ ကိုလည်း ဟောကြားပြသပေးတော်မူသည်။

မိုးကုတ်မြို့မှာ သင်္ကြန်ကျ၍ ၁၃၁၇–ခုနှစ်မှ ၁၃၁၈–ခုနှစ်သို့ ကူးပြီးနောက်တွင်လည်း ဆက်လက် တရားဟောနေတော်မူ၍။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဆဋ္ဌသင်္ဂါယနာပွဲကြီး ပြီးစီး

သက္ကရာဇ် ၁၃၁၈–ခု ကဆုန်လပြည့်နေ့ (ခရစ် ၁၉၅၆–ခု မေလ ၂၄–ရက်) ကြာသပတေးနေ့သည် ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး ပြီးစီးအောင်မြင်သည့်နေ့၊ သာသနာတော်နှစ်ပေါင်း၂၅၀၀ ၏ တစ်ဝက် ပြည့်သောနေ့ ဖြစ်သည်။

သို့ဖြစ်၍ ဆဋ္ဌသင်္ဂါယနာတင် ထေရ်အရှင်တို့သည် ရန်ကုန်မြို့၌ လှုပ်လှုပ်ရွရွနှင့် ပွဲကြီးပြီးစီးအောင်မြင်သော အထိမ်းအမှတ် ကျင်းပနေကြ၏၊ မိုးကုတ်ဆရာတော် ဦးဝိမလကမူ မိုးကုတ်မြို့၌ ဝိပဿနာတရားပွဲတွေ တခြိမ့်ခြိမ့် ဆင်နွှဲကျင်းပလျက်နေလေသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးနောက် ယနေ့အထိ နှစ်ပေါင်း ၂၅၀၀–အတွင်း သင်္ဂါယနာ ၆–ကြိမ် တင်ခဲ့ပြီးပြီ၊ ထိုတွင် ပဉ္စမသင်္ဂါယနာနှင့် ဆဋ္ဌသင်္ဂါယနာကို မြန်မာပြည်မှ တင်ခွင့်ရခဲ့ကြ၏။

မြန်မာပြည် လွတ်လပ်ရေးရပြီးနောက် နိုင်ငံတော်အစိုးရက မြတ်စွာဘုရားသာသနာတော်၌ ပရိယတ် ပဋိပတ် (၂)မျိုးလုံးကို အားပေးမည်–ဟု ဝန်ခံခဲ့၏၊ သို့ဖြစ်၍ ပရိယတ်ကို အားပေးသောအားဖြင့် ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး တင်ပေးခဲ့သည်။

တစ်ဖန် ပဋိပတ်ဘက်တွင်လည်း ဓမ္မရိပ်သာများ ထူထောင်ခွင့်ပေး၍ တရားဝင်ထောက်ပံ့မှုများ ပေးခဲ့သည်။

ထို့ကြောင့် မြန်မာပြည် အနှံ့အပြား ပဋိပတ်ကျင့်ကြံမှုများ ခေတ်စားလာခဲ့ကြရ၏။

## မာရ်နတ်ကြီးလဲ မိစ္ဆာဒိဋ္ဌိပဲ

*သာဝတ္ထိမှာ နေစဉ်တုန်းက ဖြစ်၏၊ ရဟန္တာမ အရှင်မြတ် ဝဇိရာထေရီ ဘိက္ခုနီမက နေ့လယ်ပိုင်းမှာ သမာပတ်ဝင်စားလျက် ငြိမ်းချမ်းစွာ နေမည်ဟူ၍ ကြံစည်ကာ မြို့ပြင်ဘက်က အန္ဓဝန်တောအုပ်သို့ သွားပြီး ထိုင်နေ၏၊ ထိုင်ကာရှိသေး၊ မာရ်နတ်ကြီး ရောက်လာပြီး အနှောင့်အယှက် ပေးတော့သည်၊ နည်းနည်းကလေးပဲ သမာဓိပျက်ပုက်–ဆိုတဲ့ အနေနဲ့ မေးခွန်းပြဿနာလာ၍ မေးနေ၏။

ကေနာယံ ပကတော သတ္တော၊

ကုဝံ သတ္တဿ ကာရကော။

ကုဝံ သတ္တော သမုပ္ပန္နော၊

**ကုဝံ သတ္တော နိရုဇ္ဈတိ။**

(အယျေ–အို... အရှင်မ) ကေန–အဘယ်သူသည်၊ အယံ သတ္တော–ဤသတ္တဝါကို၊ ပကတော–ပြုလုပ်အပ်ပါသနည်း၊ သတ္တဿ–သတ္တဝါကို၊ ကာရကော ပြုလုပ်သူကား၊ ကုဝံ–အဘယ်နည်း၊ ကုဝံ–အဘယ်ကြောင့်၊ သတ္တော–သတ္တဝါသည်၊ သမုပ္ပန္နော–ဖြစ်ပေါ်လာရသနည်း၊ ကုဝံ–အဘယ်ကြောင့်၊ သတ္တော–သတ္တဝါသည်၊ နိရုဇ္ဈတိ–ချုပ်ပျောက်သွားရပါသနည်း။

သူ့အဓိပ္ပာယ်က–

> "အဘယ်သူသည် သတ္တဝါဖြစ်အောင် ပြုလုပ်ပါသနည်း၊ သတ္တဝါဖြစ်အောင် ပြုလုပ်သူကား အဘယ်သူနည်း၊ အဘယ်ကြောင့် သတ္တဝါ ဖြစ်ပေါ်လာရသနည်း၊ အဘယ်ကြောင့် သတ္တဝါ ချုပ်ပျောက်သွားရပါသနည်း"

ဤစကားလုံးတို့ကား မာရ်နတ်ကြီးက လာ၍ မေးသော စကားလုံးတို့ ဖြစ်ကြ၏၊ "သတ္တဝါ" "သတ္တဝါ" ဆိုတဲ့ စကားလုံးတွေနဲ့ချည်း လှိုင်လှိုင်သုံး၍ မေးနေသည်။ ဒိဋ္ဌိမစင်သော အပြောတို့သာ ဖြစ်နေကြ၏။

* သဂါထာဝဂ္ဂသံယုတ်ပါဠိတော်၊၁၃၆

## "သတ္တဝါ"လို့ ယူနေလျှင် အယူမှား

ဤနေရာတွင် မိုးကုတ်ဆရာတော်ကြီးက ဤသို့ ရှင်းပြသည်၊ "ဒကာ ဒကာမတို့ . . . တရားတစ်ပွဲလုံးပဲ ဟောတဲ့သူရော နာတဲ့သူတွေရော ဘာသစ္စာတွေတုံး (ဒုက္ခသစ္စာတွေပါ ဘုရား) သတ္တဝါများ ပါသေးသလား၊ (မပါ ပါဘုရား)

အဲဒါကို "သတ္တဝါ" "သတ္တဝါ"နဲ့ချည်း လာမေးနေတယ် မာရ်နတ်ကြီးက (မှန်ပါ) ဟိုက ဝဇိရာထေရီ ဘိက္ခုနီမက ရဟန္တာမ အရှင်မြတ်ပဲ (မှန်ပါဘုရား) ငါ့ကို ဘယ်နှာကြောင့် ဒိဋ္ဌိမစင်တဲ့စကားလုံး "သတ္တဝါ" ဆိုတဲ့ အသုံးတွေနဲ့ လာမေးနေပါလိမ့် (မှန်ပါ) ဒါနဲ့ ဘိက္ခုနီမက ပြန်ပြောတော့ တာပေါ့ (မှန်ပါ)–

ကိန္နု သတ္တောတိ ပစ္စေသိ၊
မာရ ဒိဋ္ဌိဂတံနု တေ။
သုဒ္ဓသင်္ခါရပုဉ္ဇော ယံ၊
န ယိဓ သတ္တုပ လဗ္ဘတိ။ ။

မာရ–အို . . . မာရ်နတ်၊ ကိန္နု–အဘယ်ကြောင့်၊ သတ္တောတိ–သတ္တဝါဟူ၍၊ ပစ္စေသိ–ယုံကြည်ပြီးနေရ သလဲ၊ (အယံ–ဤသို့ ယုံကြည်နေခြင်းသည်၊) တေ–သင့်မှာ၊ ဒိဋ္ဌိဂတံနု–ဒိဋ္ဌိဖြစ်နေ၍လော၊

အယံ–ဤခန္ဓာငါးပါးသည်၊ သုဒ္ဓသင်္ခါရပုဉ္ဇော–သုခမရော ဒုက္ခသဘောသက်သက် သင်္ခါရတရားအစု ကြီးသာလျှင်၊ ဟောတိ–ဖြစ်ပေ၏၊ ဣဓ–ဤလောက၌၊ သတ္တော–သတ္တဝါဟူ၍၊ န ဉပလဗ္ဘတိ–ခေါ်ဝေါ်စရာ မရအပ် မရနိုင်ပေ။

မာရ်နတ်ကြီးက "သတ္တဝါ" "သတ္တဝါ"နဲ့ ပြော–ပြောနေတယ်၊ ဒီမှာ "သတ္တဝါ"ဆိုတာ မရှိ၊ "သတ္တဝါ" လို့ ခေါ်စရာ မရှိ၊ ရှိတာက "ဒုက္ခသစ္စာ" သင်္ခါရတရားအစုသာလျှင် ရှိသည်၊ ရုပ်နာမ်နှစ်ပါး သင်္ခါရတရား အစုသာလျှင် ရှိသည်"လို့ ဘိက္ခုနီမက ပြန်ပြောလိုက်သည်။

## ဒုက္ခသစ္စာ အစုကြီးမျှသာရှိ

မာရ်နတ်ကြီးက မေးနေတာ "ဘယ်သူက သတ္တဝါဖြစ်အောင် ပြုလုပ်တည်ထောင်တာလဲ၊ သတ္တဝါ ဖြစ်အောင် တည်ထောင်တာ ဘယ်သူလဲ၊ ဘာကြောင့် သတ္တဝါရယ်လို့ ဖြစ်ပေါ်လာရသလဲ၊ ဘာကြောင့် သတ္တဝါတွေ ချုပ်ပျောက်ကုန်ရသလဲ"ဟူ၍ "သတ္တဝါ" စကားလုံးတွေနဲ့ချည်း မေးခဲ့တယ် (မှန်ပါဘုရား)

ဘိက္ခုနီမက "သင်မေးတဲ့ အဲဒါတွေ တစ်ခုမျှ မရှိဘူး၊ သတ္တဝါရယ်လို့ ခေါ်စရာ မရှိဘူး၊ ဒုက္ခသစ္စာတွေ သာ ရှိတယ်"လို့ အဓိပ္ပာယ် ပေါ်အောင် နောက်ထပ် ဂါထာတော်မူရပြန်တယ် (မှန်ပါ)

ဒုက္ခမေဝ ဟိ သမ္ဘောတိ၊
ဒုက္ခံ တိဋ္ဌတိ ဝေတိစ။
နာညတြ ဒုက္ခာ သမ္ဘောတိ၊
နာညံ ဒုက္ခာ နိရုဇ္ဈတိ။ ။

(မာရ–မာရ်နတ်) ဒုက္ခမေဝ–ဒုက္ခသစ္စာတရားသည်သာ လျှင်၊ သမ္ဘောတိ–ဖြစ် ဖြစ်နေ၏၊ [သတ္တဝါ ဖြစ်ပေါ်နေတာ မဟုတ်ဘူး–ဟု ဆိုလိုသည်။] ဒုက္ခံဝေ–ဒုက္ခ သစ္စာတရားသည်သာလျှင်၊ တိဋ္ဌတိစ–ခဏကလေးမျှ တည်လည်း တည်တံ့၏၊ ဝေတိစ–ချုပ်လည်း ချုပ်ပျောက်၏၊ [ဒုက္ခသစ္စာတရားတွေပဲ ပေါ်လာ၊ ဒုက္ခသစ္စာတရား တွေပဲ တည်တံ့၊ ဒုက္ခသစ္စာတရားတွေပဲ ချုပ်ပျောက်ကုန် တာပဲ၊ တခြား ဘာမျှမရှိ–ဟု ဆိုလိုသည်။]

ဒုက္ခာ–ဒုက္ခသစ္စာတရားကို၊ အညတြ –ကြဉ်ထား၍၊ နသမ္ဘောတိ–ဖြစ်သည် မဟုတ်၊ (ဝါ) ဖြစ်စရာမရှိ၊

[ဒုက္ခသစ္စာမှတပါး အခြားတရားဖြစ်စရာ မရှိဟူလို။] ဒုက္ခာ–ဒုက္ခသစ္စာတရားမှ၊ အညံ–အခြားသော တရားသည်၊ န နိရုဇ္ဈတိ–ချုပ်သည်မဟုတ်၊ (ဝါ) ချုပ်စရာမရှိ၊ [ဒုက္ခသစ္စာမှတပါး အခြားတရား ချုပ်စရာ မရှိ၊ ဒုက္ခသစ္စာပင်ချုပ်သည်–ဟု ဆိုလို၏။]

ထို့ကြောင့်ပင် ဖြစ်ပေလိမ့်မည်၊ ဘုရားရှင်ကိုယ်တော်မြတ်ကြီးက (ဒုက္ခမေဝ ဥပ္ပဇ္ဇမာနံ ဥပ္ပဇ္ဇတိ၊ ဒုက္ခံ နိရုဇ္ဈမာနံ နိရုဇ္ဈတိ။)ဟု မိန့်၏။ ဥပ္ပဇ္ဇမာနံ–ဖြစ်သည်ရှိသော်၊ ဒုက္ခမေဝ–ဒုက္ခတရား ဒုက္ခသစ္စာသည်သာလျှင်၊ ဥပ္ပဇ္ဇတိ ဖြစ်၏၊ နိရုဇ္ဈမာနံ–ချုပ်သည်ရှိသော်၊ (ဝါ) ချုပ်သောအခါတွင်လည်း၊ ဒုက္ခံ–ဒုက္ခသစ္စာတရားသည်သာလျှင်၊ နိရုဇ္ဈတိ–ချုပ်ပျောက်၏။ [ဒုက္ခတွေပဲဖြစ်နေပြီး၊ ဒုက္ခတွေပဲ ပျက်နေကြ၏ဟူလို။]

(နိဒါနဝဂ္ဂသံယုတ်၊ ၂၅၈)

# ကဲ– ဝိပဿနာ အလုပ်ပေးပြီ

မိုးကုတ်ဆရာတော်ကြီးက ဤဇာတ်ကြောင်းကို အခြေခံ၍ အောက်ပါအတိုင်း ဆက်လက် ဟောတော်မူ၏။ ဝိပဿနာ အလုပ် ပေးတော်မူ၏–

"ဒကာ ဒကာမတို့... ခုတိုင်းဆို သုခများ ပါသေးရဲ့လား (မပါ–ပါဘုရား) ဒုက္ခသစ္စာတရား ချည်းပဲ (မှန်ပါ)

ပေါ်တာလဲ သူပဲ၊ ခဏ တည်တံ့တာလဲ သူပဲ၊ ချုပ်ပျောက်သွားတာလဲ သူပဲ (မှန်ပါ) ကဲ... ဒါဖြင့် ဝိပဿနာအလုပ်ပေးပြီ၊ ပေါ်ရာသာ ရှုတော့ (မှန်ပါဘုရား)

ဘာပေါ်မလဲ (ဒုက္ခသစ္စာ ပေါ်ပါမယ်) အခြားတရား ပေါ်စရာ ရှိသေးသလား၊ (မရှိပါဘုရား)

ဟုတ်ပြီ၊ ဒုက္ခသစ္စာရှိလို့ ဒုက္ခသစ္စာ ပေါ်တာ၊ ဒုက္ခသစ္စာလို့ ရှု (မှန်ပါ) ပေါ်တာဟာ ဘာသစ္စာတုံး (ဒုက္ခသစ္စာပါ)

ခဏ တည်တံ့တာကော (ဒုက္ခသစ္စာပဲဘုရား)

ချုပ်ပျောက်သွားတာကော (သူလဲ ဒုက္ခသစ္စာပဲ ဘုရား)

ဒါဖြင့် ပေါ်တိုင်း ပေါ်တိုင်း၊ ပေါ်တာဟူသရွေ့ ဘာသစ္စာ (ဒုက္ခသစ္စာ) ပျက်တိုင်း ပျက်တိုင်း၊ ပျက်တာဟူသရွေ့ကော ဘာသစ္စာ (ဒုက္ခသစ္စာပဲ ဘုရား)

ဟုတ်ပြီ၊ ပေါ်တိုင်း ပေါ်တိုင်းကို သိတာက ဘာသစ္စာ (မဂ္ဂသစ္စာ) ပျက်တိုင်း ပျက်တိုင်းကို သိတာရော ဘာသစ္စာ (မဂ္ဂသစ္စာပဲ ဘုရား)

အဲဒီအချိန်မှာ လောဘ ဒေါသ မောဟတွေ ကိုယ့်ဝမ်းထဲ ဟဒယဝတ္ထုပေါ်မှာ မပေါ်လာနိုင်ဘူး (မှန်ပါ) မပေါ်လာနိုင်ဘဲ အဲဒီတရားတွေသေကုန်ရတာက ဘာသစ္စာ (သမုဒယသစ္စာ) နောင်ခန္ဓာ မလာတာက ဘာသစ္စာ (နိရောဓသစ္စာပါ ဘုရား)

အေး... အလုပ်လုပ်ရင် အဲဒီလို သစ္စာ ၄–ချက် တစ်ပြိုင်နက် ဆိုက်သွားမယ် (မှန်ပါဘုရား)

## တစ်ဘဝသာသနာ

# အသက်ကလေး ဘယ်ရောက်သွားသလဲ

* မြတ်စွာဘုရားက ရာဇဂြိုဟ်မှာ သီတင်းသုံးတော်မူခိုက် ဖြစ်သည်၊ ထိုမြို့၏ မနီးမဝေး ဣသိဂိလိတောင်နံပါးတွင် ကျောက်ဖျာညိုကြီး ရှိရာ အရပ်၌ အရှင်ဂေါဓိက တရား အားထုတ်နေ၏၊ လောကီစျာန်သမာပတ်များ ရရှိလာသည်။

အားထုတ်ရင်း အားထုတ်ယင်း ထိုသမာပတ်များ လျှော လျှောကျနေ၏၊ ဒုတိယအကြိမ် ကြိုးစားရာတွင်လည်း လျှောကျနေပြန်၏၊ ကိုယ်တွင်း၌ ရောဂါတစ်ခု ရှိနေ၍ ဖြစ်သည်၊ တတိယအကြိမ်၊ စတုတ္ထ၊ ပဉ္စမ၊ ဆဋ္ဌမအကြိမ်တွင်လည်း လျှောကျနေသည်။

အရှင် ဂေါဓိက ရဟန်းက စဉ်းစား၏– "၆–ကြိမ် တိုင်အောင် လျှောကျနေသည်၊ ယခု ၇–ကြိမ်မြောက်တွင် လျှော၍ မကျမီ ကိုယ့်လည်ပင်းကိုယ် ဓားနဲ့ လှီးလိုက်ရလျှင် ကောင်းမည်"၊ ဤသို့ စဉ်းစားပြီးလျှင် သင်တုန်းဓားကို အသင့်ကိုင်ထားသည်။

ဤအခြင်းအရာကို မာရ်နတ်ကြီးက မြင်လေ၍ ဘုရားကို ပြေးပြီး လျှောက်တော့၏ "အရှင်ဘုရားရဲ့ တပည့် တားပါဦး"တဲ့၊ သို့သော် ဟိုမှာ ၇–ကြိမ်မြောက် လျှော၍ မကျမီ ကိုယ့်လည်ပင်း ကိုယ် ဓားနဲ့ လှီးပြီး သွားလေပြီ။

ဘုရားကို လျှောက်ထားပြီးလျှင် မာရ်နတ်ကြီးသည် ချက်ချင်း လှည့်၍ ပြန်၏၊ အရှင် ဂေါဓိကကို အိပ်ရာပေါ်၌ သွေးအိုင်ထဲ ပျံတော်မူလျက်နေသည်ကို တွေ့ရတော့သည်၊ ထိုအခါ မာရ်နတ်ကြီးက အရှင်ဂေါဓိကရဲ့ အသက်ဝိညာဉ်ကို လိုက်၍ ရှာတော့သည်။

ဘုရားကိုယ်တော်မြတ်ကြီးက သံဃာတော်များနှင့်အတူ ကြွလာတော်မူ၏၊ "ရဟန်းတို့ . . . မြင်ကြရဲ့လားဟဲ့ ဟိုမှာ မီးခိုးတန်းကြီးတစ်ခု အရှေ့ အနောက် တောင် မြောက်၊ အထက် အောက် လှည့်ပတ်ဝေ့ဝိုက်ပြေးသွားနေတာ၊ အထင်အရှား"

"မြင်ပါတယ် ဘုရား၊ အဲဒါ ဘာပါတုန်းဘုရား" "မာရ်နတ်ကြီးပေါ့ဟဲ့" "မာရ်နတ်ကြီးက ဘာလုပ်တာတုံးဘုရာ့" "ဂေါဓိကရဟန်းရဲ့အသက်ကို လိုက်ရှာတာတဲ့၊ ဂေါဓိကရဟန်းကဖြင့် အဲဒီမှာ ပရိနိဗ္ဗာန်ပြုသွားပြီ"ဟူ၍ မြတ်စွာဘုရားက မိန့်တော်မူပါသတဲ့။ ။

---

**မှတ်ချက်။** ။ဤနေရာ၌ မာရ်နတ်ကြီးက "အသက်ဝိညာဉ် ရှိတယ်"လို့ ယူဆနေ၍ လိုက်လံရှာဖွေနေခြင်း ဖြစ်သည်၊ ဘယ်ဘဝသို့ ကူးသွားသလဲသိချင်၍ လိုက်လံ ရှာခြင်း ဖြစ်၏၊ သဿတဒိဋ္ဌိ အစွဲရှိသော မာရ်နတ်ကြီးပေါ့။ ။

အရှင်ဝက္ကလိတုန်းကလည်း ဤသို့ပင်လျှင် မာရ်နတ်ကြီးက အရှင်ဝက္ကလိ၏ အသက် ဘယ်ရောက်သွားသလဲ– လိုက်လံရှာဖူး၏။

# အားလုံး ဖြစ်ပျက်ပဲ ရှိတယ်

ဤအကြောင်းအရာများကို မိုးကုတ်ဝိပဿနာ အမှတ်စဉ်(၁၅) စာမျက်နှာ ၄၉၄–မှ ယူ၍ မိုးကုတ်ဆရာတော်ကြီး ဟောသည့်အတိုင်း မူရင်းမပျက် တင်ပြပါမည်။

"ဝဇိရာထေရီ ဘိက္ခုနီမက ပြောတယ်– "အို . . . မာရ်နတ်၊ "သတ္တဝါ"ဆိုတာ မရှိပါဘူး၊ ခန္ဓာကိုယ်ထဲမှာ ရုပ်နဲ့နာမ်တွေကလဲ ဖြစ်–ပျက်နေကြတာ၊ ဖြစ်–ပျက်ပဲ ရှိတယ် (မှန်ပါ)

---

• သဂါထာဝဂ္ဂသံယုတ်ပါဠိ–၁၂၁၊ ဋ္ဌ–၁၆၈

အဲဒီ ဖြစ်–ပျက်ကလဲ ဒုက္ခသစ္စာဆိုတော့ "ဒုက္ခသစ္စာပဲ" ရှိတယ် (မှန်ပါဘုရား)

ဒုက္ခတွေဖြစ်ပြီး ဒုက္ခတွေ ပျက်နေတာပဲ ရှိတယ်၊ ခန္ဓာကိုယ်ထဲမှာ တခြားဘာမှုမရှိ၊ ဒုက္ခဖြစ်၍ ဒုက္ခပျက်တာပဲ ရှိတယ် (မှန်ပါ) အတိုချုပ် ပြောရရင် "ဖြစ်–ပျက်" ပဲ ရှိတယ် (မှန်ပါဘုရား)

အဲဒီဖြစ်–ပျက်တွေက ဘာသစ္စာ (ဒုက္ခသစ္စာ) အဲဒီဖြစ်–ပျက်တွေကို ဟောဒီအသိနဲ့ သိနေရင် သိတာက ဘာသစ္စာ (မဂ္ဂသစ္စာ) လောကီမဂ်ပေါ့ (မှန်ပါဘုရား)

အဲဒီ ဖြစ်–ပျက်တွေကို မှန်းလာအောင် ရှုတော့လဲ လောကီမဂ်ပဲ (မှန်ပါ) နိဗ္ဗိန္ဒဉာဏ် ဖြစ်တယ်။

အဲဒီ ဖြစ်–ပျက်တွေဟာ ဒုက္ခသစ္စာအစစ်တွေပဲ (မှန်ပါ) ငါတော့ဖြင့် အဲဒါတွေကို ရကို မရချင်တော့ဘူး၊ လိုကို မလိုချင်တော့ဘူးဆိုရင် ဒုက္ခသစ္စာထဲ ခန္ဓာပါ ပျောက်ထွက်သွားတယ် (မှန်ပါ)

ခန္ဓာပျောက်တော့ ဒုက္ခပျောက်သွားတယ် (မှန်ပါ) ဒုက္ခပျောက်တော့ နိရောဓဆိုတဲ့ နိဗ္ဗာန်ဟာ ဒီနေရာမှာပဲ ပေါ်လာတယ် (မှန်ပါဘုရား)

အင်း . . . ပျောက်သွားတာက ဒုက္ခသစ္စာ၊ ပေါ်လာတာက နိရောဓသစ္စာ (မှန်ပါ) အဲဒါ နိဗ္ဗာန်ပဲ (မှန်ပါဘုရား)

ဒီနေရာမှာ ဒုက္ခချုပ်သွားတော့ ဘာမှု မရှိတော့ဘူး၊ (မှန်ပါ) ချမ်းသာလေးတစ်ခုပဲ သိတော့တယ် (မှန်ပါဘုရား)

ချမ်းသာကလေးက နိရောဓသစ္စာ (မှန်ပါ) ချမ်းသာကလေးကို သိနေတာက မဂ္ဂသစ္စာ (မှန်ပါဘုရား)

## ဉာဏ်က နိဗ္ဗာန်ဘက် လှည့်သွား

ပထမဦးစွာ ဖြစ်–ပျက်ကို မြင်အောင် ရှု (မှန်ပါ) ပီးတော့ မှန်းအောင် ရှု ဒကာကြွယ်ရ (မှန်ပါဘုရား) ဒီ ဖြစ်–ပျက်တွေက ဒုက္ခသစ္စာတွေ၊ ဒါ့ကြောင့်မို့လိုကို မလိုချင်ဘူး၊ (မှန်ပါ)

မလိုချင်တော့ဘူးဆိုရင် "ဖျတ်"ခနဲ ဒီဖြစ်–ပျက်တွေ ချုပ်ကုန်ရတယ်၊ (မှန်ပါ)

မလိုချင်တဲ့ ကိုယ့်ဉာဏ်ကလေးက နိဗ္ဗာန်ဘက်ကို လှည့်သွားတယ် (မှန်ပါဘုရား) ခန္ဓာဘက်ကို မလှည့်တော့ဘူး (မှန်ပါ)

ဒါဖြင့် ဒကာ ဒကာမတို့ ဖြစ်–ပျက်၊ ဖြစ်–ပျက်၊ ဖြစ်–ပျက်နဲ့ ရှုသာနေ၊ (မှန်ပါ) ရှုရင်း ရှုရင်းနဲ့ **ဖြစ်**–ပျက်တွေဟာ "ဖျတ်"ခနဲ ချုပ်ကုန်ကြပါလိမ့်မယ် **(မှန်ပါဘုရား)**

ချုပ်သွားကုန်ကြသော်လဲ မျက်လုံးဖွင့်မကြည့်နဲ့ (မှန်ပါ) ဖြစ်–ပျက်ဆိုတာ ဒုက္ခသစ္စာတွေ မဟုတ်လား (ဟုတ်ပါတယ် ဘုရား)

အဲဒီဒုက္ခသစ္စာတွေကို ကြည့်ရင်း ကြည့်ရင်းနဲ့ "ဖျတ်"ဆို ပျောက်ကုန်မယ် (မှန်ပါ) ပျောက်သွားတဲ့ အခါကျတော့ ဘာနဲ့ နေရစ်သတုံးဆိုရင် ခုနင်က ရှုတဲ့ ဉာဏ်ကလေးနဲ့ နေရစ်တယ် (မှန်ပါဘုရား)

အဲဒီ ဉာဏ်ကလေးနဲ့ ဒုက္ခပျောက်တဲ့ နေရာနဲ့ တည့်နေတယ် (မှန်ပါဘုရား)

ဒုက္ခပျောက်တဲ့ နေရာက နိဗ္ဗာန်ပဲ (မှန်ပါ) ဒီ ဉာဏ်ကလေးက မဂ်ဉာဏ် (မှန်ပါဘုရား)

## တစ်ဘဝသာသနာ

# ရုပ်ရှင်ကြည့်ရသလိုပဲ မှတ်ပါ

* ဒါဖြင့် နိဗ္ဗာန်ဝေးသလား– နီးသလား (နီးပါဘယ်) အေး... ဒုက္ခသစ္စာရဲ့အဆုံးမှာပဲ နိဗ္ဗာန်ရှိတယ် (မှန်ပါဘုရား) ဒုက္ခသစ္စာ ဖြစ်တဲ့ ဖြစ်–ပျက်တွေရဲ့ အဆုံးမှာ နိဗ္ဗာန်ရှိတယ် (မှန်ပါဘုရား)

ဒုက္ခဿန္တံ ကရိဿတိ–ဆိုတာလေ (မှန်ပါ) ဒုက္ခဿန္တံ–ဒုက္ခသစ္စာရဲ့အဆုံး (ဖြစ်–ပျက်တွေရဲ့အဆုံး) ဖြစ်တဲ့ နိဗ္ဗာန်ကို၊ ကရိဿတိ (သစ္ဆိကရိဿတိ) မျက်မှောက်ပြုရလတ္တံ့–ဆိုတာ ဒါပေါ့ (မှန်ပါဘုရား)

ရုပ်ရှင်ကြည့်တဲ့အခါ မျက်လုံးနဲ့ နောက်ခံဘက်ဂရောင်း ပိတ်ကားပေါ်မှာ ကြည့်ရတာ မဟုတ်လား (မှန်ပါ) ရုပ်ရှင်သိမ်းသွားတော့လဲ နောက်ခံဘက်ဂရောင်း ပိတ်ကားပေါ်မှာပဲ မျက်လုံးက ရောက်နေတာပဲ မဟုတ်လား (ဟုတ်ပါတယ် ဘုရား)

အေး... ရုပ်ရှင်ပြနေတုန်းက ပိတ်ကားပေါ်မှာ အရုပ်တွေ သွားလာလှုပ်ရှားနေကြတာ ဒုက္ခသစ္စာတွေနဲ့ တူတယ် (မှန်ပါဘုရား)

ရုပ်ရှင်ပြီးသွားတဲ့အခါ ပိတ်ကားပေါ်မှာ အဖြူထည်ကိုပဲ တွေ့နေရတာက နိရောဓသစ္စာကို မြင်ရတာနဲ့ တူတယ် (မှန်ပါဘုရား)

# ဒုက္ခတွေ့ပြီးမှ နိရောဓတွေ့မှာ

ဒါဖြင့် ဒုက္ခတွေ့ပြီးမှ နိရောဓတွေ့ပါလိမ့်မယ် (မှန်ပါဘုရား) ဒုက္ခမတွေ့သေးရင် (နိရောဓ မတွေ့နိုင်သေးပါဘုရား)

ဘိက္ခုနီမက ပြောတယ် "မာရ်နတ်ရေ... ခန္ဓာထဲမှာ ဒုက္ခဖြစ်၍ ဒုက္ခ ပျက်တာပဲ ရှိတယ်ဟဲ့၊ ဘခြား ဘာမျှမရှိဘူး (မှန်ပါ)

ဒီတော့ ဒုက္ခဖြစ်၍ ဒုက္ခပျက်တာက ဘာသစ္စာ (ဒုက္ခသစ္စာ)

ဖြစ်တိုင်း ဖြစ်တိုင်း သိ၊ ပျက်တိုင်း ပျက်တိုင်း သိတာက (မဂ္ဂသစ္စာပါ)

သေတာက ဘာသစ္စာ (သမုဒယသစ္စာ) နောင်ခန္ဓာ မလာတာက (နိရောဓသစ္စာပါဘုရား)

ဒါဆို အလုပ်လုပ်တတ်ပြီလား (လုပ်တတ်ပါပြီ ဘုရား) ကဲ... တော်ကြဦးစို့။ ။

# မင်္ဂလာတိုက်အတွင်း စကြံ့ကျောင်း

၁၃၁၈–ခုနှစ်တွင် အမရပူရ၊ မင်္ဂလာတိုက်ကောင်း ကျောင်းတိုက်ထဲ၌ စင်္ကြံကျောင်းဆောင်တစ်ခု ဆောက်လုပ် လှူဒါန်းကြ၏၊ ကျောင်းဒကာကျောင်းအမများမှာ မန္တလေးမြို့၊ ကိုင်းတန်းရပ်မှ ဦးပေါက်ကျော်+ဒေါ်ဒေါ်စီတို့ ဖြစ်ကြသည်။

ဆရာတော်အတွက် အပြင်ကို ထွက်၍ ထွက်၍ အဝေးကို သွားသွားပြီး လမ်းလျှောက်ရသည်မှာ အဆင်ပြေမှု နည်းပါးလှ၏၊ ဖုန်တွေ မြူတွေ ကပ်ငြိခြင်း၊ အပြင်ပ လေအေး မိတတ်ခြင်း၊ မိုးတွင်းဆိုလျှင် ကွင်းပြင်ထွက်ဖို့ မလွယ်ကူခြင်း စသော အခက်အခဲ

• ဒီ:(၁၅)နှာ–၄၉၇။ မိုး(၁၀)နှာ–၃၂၆

# မိုးကုတ်ဆရာတော်ဘုရားကြီး၏



အမရပူရ၊ မင်္ဂလာတိုက်ဟောင်းအတွင်း၌ မိုးကုတ်ဆရာတော်ဘုရားကြီးဦးဝိမလအတွက် မန္တလေး၊ ကိုင်းတန်းရပ်မှ ဦးပေါက်ကျော်+ဒေါ်စီတို့ လှူဒါန်းသော စကြံကျောင်း

ကလေးများ ရှိတတ်သည်၊ ယင်းကိစ္စတို့ကို လွန်မြောက်နိုင်ရန် ရည်သန်ကြခြင်း ဖြစ်လေသည်။

အလျားပေ(၁၀၀)၊ အနံပေ(၁၂)ရှည်လျား၏၊ သွပ်မိုး ဝရန္တာအကာနှင့်၊ အလယ်ခေါင်တွင် နားခိုစရာ၊ အပန်းဖြေစရာ အခန်းတစ်ခု ပါသေးသည်၊ ချမ်းမြေ့ ကြည်နူးဖွယ် ကောင်းလှ၏။

# သီးနှံပေါတဲ့ ကမ္ဘာ့သနိဂုံးပမာ

မြန်မာနိုင်ငံတွင် ဆဋ္ဌသင်္ဂါယနာခေတ်၏ ရှေ့ပိုင်းနှင့် နောက်ပိုင်းကို ယှဉ်ကြည့်လျှင် မတူသည်တို့ကို တွေ့ရမည် ဖြစ်၏၊ သင်္ဂါယနာ၏ ရှေ့ပိုင်းခေတ်က ပဋိပတ်အကျင့်ကို စိတ်ဝင်စားမှု နည်းခဲ့ကြသေးသည်၊ နောက်ပိုင်းကျမှ လူတို့သည် လှုပ်လှုပ်ရွရွနှင့် ပဋိပတ်ဆိုတဲ့ ဝိပဿနာအလုပ်ကို စိတ်ဝင်စားလာကြသည်။

သင်္ဂါယနာ၏ နောက်ပိုင်းတွင် တစ်နိုင်ငံလုံးအတိုင်းအတာဖြင့် လှိုင်းလုံးကြီး လှိမ့်ဝင်လာသလို လှုပ်လှုပ်ရွရွဖြင့် ပဋိပတ်ကို အာရုံစူးစိုက်လာကြသည်၊ ကိုယ့်နိုင်ငံတွင်းမှသာမက အခြားသောနိုင်ငံတို့ကပါ ဤကိစ္စအတွက် မြန်မာနိုင်ငံသို့ လာကြရသည်၊ ဤမျှအထိ မြန်မာနိုင်ငံက မျက်နှာပွင့်လင်းခဲ့ကြရ၏။ မဟာ

သတိပဋ္ဌာန်တရား ဟောကြားခဲ့ရာ ကမ္မာသနိဂုံးပမာ ဖြစ်တော့သည်။

ဘုရားရှင်ကိုယ်တော်မြတ်ကြီးက "မဟာ သတိပဋ္ဌာန်သုတ်တော်ကြီးကို ဟောတော့မယ်"ဆိုတော့ ဟောသည့်နေရာကို ရွေးပါသေးသတဲ့၊ ရွေးတဲ့အခါ ရေကောင်း မြေကောင်း မိုးလေ၀သမှန်၍ အသီးအနှံတွေ ဖွံ့ဖွံ့ဖြိုးဖြိုး အောင်အောင်မာမာထွက်တဲ့ ကမ္မာသနိဂုံးကို ရွေးတော်မူပါသတဲ့။

အကြောင်းကတော့ အသီးအနှံ ဖွံ့ဖြိုးအောင်မာမှ အဆီသြဇာပြည့်၊ သြဇာပြည့်တဲ့ အစားအစာကို စားမှ ကျန်းမာ၊ ကျန်းမာမှ ဉာဏ်ကောင်း၊ ဉာဏ်ကောင်းမှ တရားထူးရလွယ်မည်၊ ထို့ကြောင့် ထိုနိဂုံးကို ရွေးတော်မူခြင်း ဖြစ်ပါသတတ်။

ယခုအခါ မြန်မာပြည်သည်လည်း ရေမြေကောင်း၊ မိုးလေမှန်၊ သီးနှံတွေ ရသဖြင့် ကမ္မာသနိဂုံးပမာ ဖြစ်တော့သည်၊ သတိပဋ္ဌာန်တရားတို့လည်း ပြန့်ပွားလာကြ၏၊ လူတို့လည်း စိတ်ဝင်စားလာကြသည်၊ ဝိမုတ္တိယုဂ ခေတ်သို့ တစ်ပတ်ပြန်၍ လည်လာသောကြောင့်လေလော။

# အခုဟာက ဝိမုတ္တိယုဂခေတ်ပဲ

"ခေတ်"ဆိုတာ ခေတ္တဆိုတဲ့ ပါဠိက လာတာ၊ ခေတ္တဆိုတာက "အခိုက်အတန့်အချိန်တိုကလေး"ဟု အဓိပ္ပာယ်ရသည်၊ အချိန်ကာလရှည်ကြီးတစ်ခုကို အချိန်တိုအခိုက်အတန့်ကလေး ၅-ခု၊ ခေတ်(၅)ခေတ်ဖြင့် ပိုင်းခြားပါသတတ်၊ တစ်ခေတ် တစ်ခေတ်တွင်လည်း နှစ်ပေါင်း (၅၀၀)ရှိသည်ဆို၏၊ ထိုခေတ်တို့ကား-

| | | |
|---|---|---|
| ၁။ ဝိမုတ္တိယုဂခေတ်၊ | နှစ်ပေါင်း | ၅၀၀၊ |
| ၂။ သမာဓိယုဂခေတ် | ။ | ၅၀၀၊ |
| ၃။ သီလယုဂခေတ် | ။ | ၅၀၀၊ |
| ၄။ သုတယုဂခေတ် | ။ | ၅၀၀၊ |
| ၅။ ဒါနယုဂခေတ် | ။ | ၅၀၀၊ |
| နှစ်ပေါင်း | = | ၂၅၀၀ |

ရှည်လျားသော အချိန်ကာလကြီးတစ်ခုကို ဤ ခေတ်(၅)ခေတ်တို့ဖြင့် ပိုင်းခြား၍ လည်ပတ်နေသည် ၏၊ ဘုရားပွင့်ချိန်မှစပြီး နှစ်ပေါင်း (၅၀၀)အတွင်း ဝိမုတ္တိယုဂခေတ်ဖြစ်သောကြောင့် ဈာန်မဂ်ဖိုလ်တရား များ ဖြိုင်ဖြိုင်ရကြသည်။

ဒုတိယနှစ်ပေါင်း(၅၀၀)အတွင်း၌ကား သမာဓိယုဂခေတ်ဖြစ်သောကြောင့် သမာဓိတည်ရုံမျှသာ ဖြစ်၏၊ တရားထူးရမှုများမပါ-ဟု ဆိုလိုဟန်တူသည်။

တတိယနှစ်ပေါင်း(၅၀၀)အတွင်း၌ သီလယုဂခေတ်ဖြစ်သောကြောင့် သီလကိုသာ ဦးစားပေး၊ သီလစင်ကြယ်အောင် ထိန်းကြ၍ သီလမျှသာ ရှိကြ၏ဟု ဆိုလိုသည်။

စတုတ္ထနှစ်ပေါင်း(၅၀၀)အတွင်း၌လည်း သုတယုဂခေတ်ဖြစ်သောကြောင့် ဗဟုသုတကြွယ်ဝဖို့သာ ဦးစားပေးကြ၏၊ ကျမ်းဂန်တတ်မြောက်ရေးအတွက်သာ အာရုံစိုက်ကြသည်။

ပဉ္စမနှစ်ပေါင်း(၅၀၀)အတွင်း၌မူ ဒါနယုဂခေတ်ဖြစ်သောကြောင့် ဒါန ပြုမှု အားသန်ကြ၏၊ လှူကြ တန်းကြ၊ ပေးကြ ကမ်းကြ များ၏၊ ဘုရားတည် ကျောင်းဆောက် ပေါများသည်။

ထိုမှလွန်သော် ဝိမုတ္တိယုဂခေတ်တွင်းသို့ ပြန်လှည့်ဝင်လာသည်ဟု ဆိုကြ၏၊ သာသနာနှစ်(၂၅၀၀)၊ ကောဇာသက္ကရာဇ်(၁၃၁၈)ခုနှစ်ကစ၍ ဤဘက်တွင် ဝိမုတ္တိယုဂခေတ်သို့ ပြန်လည်ဆိုက်ရောက်လာပြီဟု ကြွေးကြော်ကြ၏။

[ဖုသသထေရ-သံ၀ဏ္ဏနာမှ]

# ပဋိသမ္ဘိဒါမဂ်ပါဠိတော်မှာ စုံစုံလင်လင် ဟောပြထားအပ်သော လောကီ လောကုတ္တရာ ဉာဏ်စဉ် ၁၆-ပါး

၁။ "နာမရူပပရိစ္ဆေဒဉာဏ်=ဤကား နာမ်၊ ဤကား ရုပ်ဟု ခွဲခြားသိသောဉာဏ်။

၂။ ပစ္စယပရိဂ္ဂဟဉာဏ်=နာမ် ဖြစ် ပေါ်ခြင်း အကြောင်း တရား၊ ရုပ် ဖြစ်ပေါ်ခြင်း အကြောင်း တရားတို့ကို သိမ်းကျုံး စုစည်း သိမြင်နိုင်သောဉာဏ်။

၃။ သမ္မသနဉာဏ်=ရုပ်သဘော နာမ်သဘောတို့ကို လေ့လာသုံးသပ်သောဉာဏ်။

၄။ ဥဒယဗ္ဗယဉာဏ်=ရုပ်နာမ် အဖြစ်အပျက်တို့ကို သိမြင်သောဉာဏ်။

၅။ ဘင်ဉာဏ်=ရုပ်နာမ်တို့၏ (အဖြစ်ကို မမီ လိုက်ဘဲ) အပျက်ကိုသာ မီလိုက် သိမြင် လိုက်သော ဉာဏ်။

၆။ ဘယဉာဏ်=ရုပ်နာမ်နှစ်ပါးတို့၏ အဖြစ်အပျက် ကို "ဘေး"ဟူ၍ ရှုမြင်သောဉာဏ်။

၇။ အာဒီနဝဉာဏ်=ထိုဘေးကို "အပြစ်"ဟူ၍ ရှုမြင် သော ဉာဏ်။

၈။ နိဗ္ဗိန္ဒာဉာဏ်=ရုပ်နာမ်နှစ်ပါးတို့၏ အဖြစ်အပျက် တွေအပေါ် ငြီးငွေ့လာသော ဉာဏ်၊ မလိုချင် မတွယ်တာ ဖြစ်လာသော ဉာဏ်။ မုန်းလာသောဉာဏ်။

၉။ မုစ္စိတုကမျတာဉာဏ်=ဖြစ်ပျက် ဒုက္ခသစ္စာကြီး မှ လွတ်မြောက်လိုသောဉာဏ်။

၁၀။ ပဋိသင်္ခါဉာဏ်=ထိုဒုက္ခတို့မှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်းကို ဆင်ခြင်သော ဉာဏ်။

၁၁။ သင်္ခါရုပေက္ခာဉာဏ်=သင်္ခါရတရားတွေချည်း (အဖြစ်အပျက်တွေချည်း) ရှုမြင်နေသော ဉာဏ်။

၁၂။ အနုလောမဉာဏ်=မဂ် ဖိုလ် နိဗ္ဗာန်အား ရဖို့ အလျော် ဖြစ်သောဉာဏ်။

၁၃။ ဂေါတြဘူဉာဏ်=ပုထုဇဉ် အနွယ်ကို ဖြတ်၍ အရိယာ အနွယ်ကို ဖြစ်စေတတ်သော ဉာဏ်။

၁၄။ မဂ်ဉာဏ်=နိဗ္ဗာန်ကို မြင်သောဉာဏ်။

၁၅။ ဖိုလ်ဉာဏ်=နိဗ္ဗာန်ကိုပင် မြင်သောဉာဏ်။

၁၆။ ပစ္စဝေက္ခဏာဉာဏ်=ရခဲ့ပြီး တရား တို့ကို ပြန်လည် ဆင်ခြင်သောဉာဏ်"

ဟူ၍ ဉာဏ်စဉ်(၁၆)ပါးရှိ၏၊ လောကီ- လောကုတ္တရာ ရော၍ နေသည်။

---

**မှတ်ချက်။ ။**

ထို၁၆-ပါးတွင် အမှတ်(၁) နာမရူပ ပရိစ္ဆေဒ ဉာဏ်မှစ၍ အမှတ်(၁၂)အနုလောမဉာဏ်တိုင်အောင် လောကီပိုင်းဆိုင်ရာများ ဖြစ်ကြ၏။

အမှတ်(၁၃) ဂေါတြဘူဉာဏ်မှ အမှတ်(၁၄) မဂ်ဉာဏ်၊ အမှတ်(၁၅) ဖိုလ်ဉာဏ် အမှတ်(၁၆) ပစ္စဝေက္ခဏာဉာဏ်အထိတို့ကား လောကုတ္တရာပိုင်း ဆိုင်ရာတို့ ဖြစ်ကြသည်။

## တစ်ဘဝသာသနာ

# ဝိပဿနာဉာဏ်(၁၀)ပါး

ဖော်ပြခဲ့ပြီး ဉာဏ်စဉ် ၁၆-ပါးတွင် ဝိပဿနာရှုဉာဏ်သက်သက်ဆိုင်ရာများ ဉာဏ်(၁၀)ပါး ပါရှိ၏၊ ယင်းတို့ကား-

၁။ သမ္မသနဉာဏ်
၂။ ဥဒယဗ္ဗယဉာဏ်
၃။ ဘင်္ဂဉာဏ်
၄။ ဘယဉာဏ်
၅။ အာဒီနဝဉာဏ်
၆။ နိဗ္ဗိန္ဒဉာဏ်
၇။ မုစ္စိတုကမျတာဉာဏ်
၈။ ပဋိသင်္ခါဉာဏ်
၉။ သင်္ခါရုပေက္ခာဉာဏ်
၁၀။ အနုလောမဉာဏ်တို့ ဖြစ်ကြ၏။

## ဖြစ်ပျက်မြင်၊ ဖြစ်ပျက်မုန်း၊ ဖြစ်ပျက်ဆုံး

ဤသို့ ဉာဏ်စဉ်တွေ ရှိကြသော်လည်း မိုးကုတ်ဆရာတော်ကြီးကမူ ရှိသမျှ အကုန် ထုတ်ဖော် ဟောမိန့်လေ့ မရှိ၊ ယောဂီတို့ဉာဏ်မှာ ရှုပ်ထွေးကုန်မှာစိုးသည်ဟု ဆိုသည်၊ ထို့ကြောင့် အရေးကြီးတဲ့ ဉာဏ်(၃)မျိုး သာလျှင် ထုတ်ဖော် ဟောမိန့်လေ့ရှိ၏၊ ယင်းတို့ကား-

၁။ဥဒယဗ္ဗယဉာဏ်=ရုပ်နာမ်တို့၏ အဖြစ်အပျက်ကို မြင်သော ဉာဏ်။

၂။နိဗ္ဗိန္ဒဉာဏ်=အဖြစ်အပျက်တို့ အပေါ်မှာ မတွယ်တာ မုန်းလာသော ဉာဏ်။

၃။မဂ်ဉာဏ်=အဖြစ်အပျက်တို့ရဲ့အဆုံး (အဖြစ်အပျက်တွေ မရှိရာ နိဗ္ဗာန်)ကို မြင်သော ဉာဏ်

ဖြစ်သည်၊ ဤမျှသာ ထုတ်ဖော်လေ့ ရှိ၏၊ အစ အလယ် အဆုံးမျှသာ ဖော်ပြလေ့ရှိသည်။

ဝိပဿနာဉာဏ်၏အစ (ဥဒယဗ္ဗယ) အဖြစ်အပျက် မြင်၊ အလယ်ပိုင်း (နိဗ္ဗိန္ဒ) ဖြစ်ပျက် မုန်း၊ အဆုံးပိုင်း (မဂ်ဉာဏ်) ဖြစ်ပျက်အဆုံးကို မြင်၊ ဤမျှသာ အရေးကြီးသောဉာဏ်တို့ကို ထုတ်ဖော်ဟောမိန့်လေ့ရှိ၏။ အတိုချုပ်အားဖြင့် ဖြစ်ပျက်မြင်၊ ဖြစ်ပျက်မုန်း၊ ဖြစ်ပျက်ဆုံးတို့ ဖြစ်သည်၊ (မြင်-မုန်း-ဆုံး)ဟူလို။

မီးရထားကြီးသည် သံလမ်းဘေးတွင် ရှိသမျှ ဘူတာစဉ်တို့ကို ဖြတ်သန်းကျော်လွှားသွား၏၊ မည်သူကိုမျှ ချန်မထားခဲ့ပါ၊ သို့ရာတွင် သေးငယ်သော ဘူတာရုံကလေးတို့ကို အမှတ်မထားခဲ့၊ ကြီးမားထင်ရှားသော ဘူတာရုံကြီးတို့ကိုသာ အမှတ်ထားသကဲ့သို့-

ဤဥပမာ့ပြ တရားအားထုတ်၍ တရားရသွားသော ယောဂီပုဂ္ဂိုလ်သည် အသေးစားဉာဏ်ကလေးတို့ကို ဖြတ်သန်းသွားခဲ့သော်လည်း အမှတ်မထားခဲ့၊ ကြီးမား ထင်ရှားသော ဖြစ်ပျက် မြင်၊ ဖြစ်ပျက် မုန်း၊ ဖြစ်ပျက် ဆုံး တို့ကိုသာ အမှတ်ထား ခဲ့သည်ဟူလို။ ။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# "ငြီးငွေ့တယ်"ဆိုတာ ဘယ်လိုဟာလဲ

ရူပသ္မိံပိ နိဗ္ဗိန္ဒတိ၊ ဝေဒနာယပိ နိဗ္ဗိန္ဒတိ၊ သညာယပိ နိဗ္ဗိန္ဒတိ၊ သင်္ခါရေသုပိ နိဗ္ဗိန္ဒတိ၊ ဝိညာဏသ္မိံပိ နိဗ္ဗိန္ဒတိ။

ရူပသ္မိံပိ–ရုပ်တရားအပေါ်၌လည်း၊ နိဗ္ဗိန္ဒတိ–ငြီးငွေ့၏၊ ဝေဒနာယပိ–ဝေဒနာအပေါ်၌လည်း၊ နိဗ္ဗိန္ဒတိ–ငြီးငွေ့၏၊ သညာအပေါ်၊ သင်္ခါရအပေါ်၊ ဝိညာဏအပေါ်၌လည်း၊ နိဗ္ဗိန္ဒတိ–ငြီးငွေ့၏၊ အချုပ်အားဖြင့် ခန္ဓာငါးပါးအပေါ်၌ ငြီးငွေ့၏၊ ထို "ငြီးငွေ့တယ်" ဆိုတာ ၂–မျိုး ရှိသည်။

၁။ သံဝေဂဉာဏ်နဲ့ ငြီးငွေ့တာ တစ်မျိုး။

၂။ ဝိပဿနာဉာဏ်နဲ့ ငြီးငွေ့တာ တစ်မျိုး။

ထို့တွင် ဒီခန္ဓာကြီးမှာ ဟိုနားက နာ၊ သည်နားက အောင့်၊ ဟိုနားက ကျင်၊ သည်နားက ကိုက်နဲ့ မသက်သာလှဘူး၊ အခံခက်လှပါပြီ၊ အံမယ်လေး အံမယ်လေး၊ မခံနိုင်ဘူး၊ တားလို့ဆီးလို့မရ၊ ငြီးငွေ့လှပါပြီ–ဆိုတဲ့ ဥစ္စာမျိုးက သံဝေဂဉာဏ်နဲ့ ငြီးငွေ့တာ၊ သည်ငြီးငွေ့နည်းမျိုးက မဂ်မရနိုင်။

ရူပက္ခန္ဓာရဲ့ အဖြစ်အပျက်၊ ဝေဒနာက္ခန္ဓာရဲ့ အဖြစ်အပျက်၊ သညာက္ခန္ဓာရဲ့ အဖြစ်အပျက်၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာတို့ရဲ့ အဖြစ်အပျက်။

အဲဒီလိုအဖြစ်အပျက်တွေချည်းမြင်ပြီး ငြီးငွေ့တာမျိုးမှ ဝိပဿနာဉာဏ်နဲ့ ငြီးငွေ့တာ၊ "ဝိပဿနာနိဗ္ဗိန္ဒဉာဏ်"–လို့ ခေါ်တယ်။ အရေးကြီးလို့ ထပ်မံပြီး ပြောဦးမယ်။

၁။နာတယ်–ကျင်တယ်၊ ကိုက်တယ်–ခဲတယ် ဆိုတဲ့ ဝေဒနာတွေ နှိပ်စက်လို့ ငြီးငွေ့တာက သံဝေဂဉာဏ်လို့ မှတ်ပါ။

၂။သုခ ဝေဒနာတွေ ပေါ်လာတယ်၊ ပြီးတော့ ပျောက်သွားတယ်၊ ဒါဟာ "သုခဝေဒနာလေးတွေ မပျောက်ပါစေနဲ့"–လို့ တောင်းပန်လို့ မရခဲ့ဘူး။

ဒုက္ခဝေဒနာတွေ ပေါ်လာပြီးနောက် ပျောက်ကုန်တယ်၊ "ဒုက္ခဝေဒနာတွေ မပေါ်ပါစေနဲ့"လို့ တားလို့လဲ မရဘူး၊ သူ့သဘာဝအတိုင်းပဲ ပေါ်ချိန် ပေါ်တယ်၊ ပျက်ချိန် ပျက်တယ်၊ ကိုယ့်အလိုအတိုင်း မဖြစ်ဘူး။

ဒါတွေကို မုန်းလာမှ ဝိပဿနာဉာဏ်ပဲ၊ ဖြစ်ပျက် အနတ္တကို မုန်းလာမှ နိဗ္ဗိန္ဒ ဝိပဿနာ ဉာဏ်၊ ဝိပဿနာဉာဏ်နဲ့ ငြီးငွေ့လာမှ မုန်းလာမှ အဖိုးတန်သည်၊ မဂ်ဉာဏ် ရနိုင်မည်။

နာတာ ကျင်တာ ကိုက်တာ ခဲတာကို မလိုချင်လို့ ငြီးငွေ့တာမျိုးက ထိတ်လန့်တဲ့ဉာဏ်ပဲ၊ ဒါလောက်နဲ့ မရသေးဘူး၊ မဂ်မရနိုင်သေးဘူး၊ ဒါမျိုးကတော့ ဘယ်သူ မဆို သိတာပေါ့၊ တိရစ္ဆာန်ကလေးတွေတောင် သူတို့ကို ရိုက်ရင် အော်မြည်ပြီး ထွက်ပြေးမယ်၊ ရွံမယ်၊ မုန်းမယ်၊ ငြီးငွေ့မယ်၊ အဲဒါမျိုးကို ဆိုလိုတာ မဟုတ်ဘူး။

ဖြစ်ပျက်တွေကို မြင်ပြီး ဝိပဿနာဉာဏ်နဲ့ မုန်းတာမျိုးကိုမှ "နိဗ္ဗိန္ဒ=ငြီးငွေ့တယ်"လို့ ဆိုလိုတယ်။

# နက်ဖြန် စောင့်မနေနဲ့၊ ဒီနေ့လုပ်ပါ

မိုးကုတ်ဆရာတော်ကြီးက ယောဂီ ပုဂ္ဂိုလ်များ တရားအားထုတ်ရေး၌ ဖင့်နွှေးလေးတွဲ့နေကြသည်ကို မကြိုက်၊ အေးအေးဆေးဆေး လုပ်နေကြသည်ကိုလည်း အားမရ၊ အချိန်ဆွဲနေသည်ကိုလည်း သဘော မကျ။ နက်ဖြန်မှ သန်ဘက်မှ ဖိန်းနွှဲမှ စသည်ဖြင့် အချိန်ရွှေ့နေသည်ကိုလည်း မနှစ်သက်။

"ဘဒ္ဒေကရတ္တသုတ်မှာ ဘုရား ဟောသလို "အဇ္ဇေဝ ကိစ္စမာတပ္ပံ၊ ကော ဇညာ မရဏံ သုဝေ" တဲ့၊ ယနေ့လား နက်ဖြန်လား၊ သန်ဘက်လား၊ ဘယ်နေ့ သေမယ်၊ ဘယ်သူ သိနိုင်မလဲ၊ အသေက မဦးခင် ဥာဏ်က ဦးအောင် အလုပ်လုပ်ပါ" ဤသို့လျှင် အရေးတကြီး ဘိုက်တွန်းတော်မူလေ့ရှိ၏။

"မစ္စုနာ သင်္ဂရော နတ္ထိ" "သေမင်းနှင့် ချိန်း ချက်ထားမှုဆိုတာ မရှိ၊" ဘယ်တော့ကျမှ၊ ဘယ်အခါ ကျမှ၊ အသက် ဘယ်အရွယ် ရှိမှ လာခေါ်ပါ-ဟူ၍ သေမင်းနှင့် ညှိနှိုင်းထားမှု မရှိ၊ အချိန်မရွေး သေနိုင်သည်။

["အသေကြီး"ကို ဆိုလိုရင်း ဖြစ်၏၊ "အသေ ကလေး"တို့ကား စက္ကန့်မလပ် မိနစ်မလပ် တရစပ် သေနေကြသည်သာ။]

ရုပ်နာမ်ဓမ္မတွေ စက္ကန့်မလပ် မိနစ်မလပ် တရစပ် ဖြစ်ပျက်နေကြသည်ကို အများက မသိ၍ မမြင်၍ မကြောက်ကြ၊ မျက်စိကန်း တစ္ဆေ မကြောက်သလို ဖြစ်ကြသည်၊ မိုးကုတ်ဆရာတော်ကြီးကား သိနေ၍ မြင်နေ၍ အရေးကြီးနေခြင်း ဖြစ်၏၊ "မြန်မြန်လုပ်ကြ၊ အသေက ဦးသွားလိမ့်မယ်"ဟု နှိုးဆော်လေ့ရှိတော်မူ၏။

ကံကောင်းတုန်း ဥာဏ်ကောင်းတုန်း အားအင် ကလေးတွေရှိတုန်း ကျန်းမာနေတုန်း တရားရနိုင်တဲ့ အခွင့်အရေးကလေး ပေါ်နေတုန်း ကြိုးစားလိုက်ကြ၊ အခွင့်အလမ်းကောင်းတွေ လက်လွှတ်မကုန်ကြစေနဲ့။

ဟိုအရေး ဒီအရေးတွေနဲ့ အချိန်ဆွဲမနေကြနဲ့၊ အခွင့်ကောင်းတွေဟာ အခု ကိုယ့်ရှေ့ရောက်နေကြပြီ၊ ဒါ့ကြောင့် "နက်ဖြန် သန်ဘက်ဆိုတာတွေ အသာထား၊ ယနေ့ အရေးကြီးတဲ့ အလုပ်တွေ အလျင်လုပ်ကြ"

ဤကား မိုးကုတ်ဆရာတော်ကြီး၏ နှိုးဆော် တိုက်တွန်းချက်ဖြစ်သည်။

# ကြံရိုးစုပ်တာတောင် အရင်းက စစုပ်

"ကြံရိုး စုပ်ရင် အရင်းက စပြီး စုပ်ရမယ်၊ ဟာ... ဘယ်ဟုတ်မလဲ အဖျားကစပြီး စုပ်ရမယ်၊ အရင်းက စပြီးစုပ်ရမယ်၊ အဖျားကစပြီး စုပ်ရမယ်" ဤသို့ ငြင်းလေ့ ခုံလေ့ရှိတတ်ကြ၏၊ ကိုယ့်အမြင် နှင့် ကိုယ် ငြင်းကြခြင်း ဖြစ်သည်။

"ကြံရိုးကို အဖျားက စပြီး စုပ်ရမယ်"ဆိုတဲ့ သူကလည်း သူ့နည်းနှင့် သူ မှန်ပါ၏၊ အဖျားပိုင်းသည် နုသေး၍ သိပ်ပြီး မချိုသေး၊ အချိုပေါ့၏၊ အရင်းဘက် သို့ တဖြည်းဖြည်း တိုး၍ တိုး၍ စုပ်သွားမှ ပို၍ ပို၍ ချိုလာသည်ကို တွေ့ရမည်၊ အချိုဖြင့် အဆုံးသတ်ပါ ဆိုလို၏၊ ထို့ကြောင့် ပြောခြင်း ဖြစ်သည်။

"ကြံရိုးကို အရင်းက စပြီး စုပ်ရမယ်"ဟု ဆို သော အယူအဆကား ဤသို့ ဖြစ်ပါသတတ်-။ ရုပ် နာမ် ဓမ္မ သင်္ခါရတို့သည် စက္ကန့်မလပ် မိနစ်မလပ် တရစပ် ဖြစ်ပျက် ပြောင်းလွဲနေကြသည်၊ အချိန်မရွေး သေနိုင်၏၊ ကွေးသော လက်မဆန့်မီ၊ ဆန့်သောလက် မကွေးမီ ဆိုသလို ဖြစ်နိုင်၏၊ ထို့ကြောင့် မသေခင် ချိုမြိန့်တဲ့အရသာကို သုံးဆောင်သွားနိုင်ရန် ဆိုခြင်း ဖြစ်သည်။

ပုဂံခေတ်က ဤငြင်းခုံပွဲမျိုး ဖြစ်ဖူး၏၊ ပညာ ရှိကြီးများထံ အဆုံးအဖြတ် ခံယူသောအခါ နောက် အယူအဆသည် တရားသဘောပါ၏၊ သို့ဖြစ်၍ "နောက်အယူအဆနိုင်စေ"ဟု ဆုံးဖြတ်သဖြင့် အနိုင် ရဖူးလေသတတ်။

မိုးကုတ်ဆရာတော်ကြီးကလည်း ဤသဘောပင် ဖြစ်၏၊ "မြန်မြန်လုပ်ကြ၊ အချိန်သိပ်မရှိကြတော့ဘူး၊ အသေမဦးခင် ဥာဏ်က ဦးအောင် လုပ်ကြ"ဟူ၍ အမြဲတမ်းပင် အရေးတကြီး မိန့်မြွက်နှိုးဆော်တော်မူလေ့ ရှိသည်။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ရဟန်း(၈)ပါး ဖြေကြားကြရာ

* တစ်ခါသော် မြတ်စွာဘုရားက ရဟန်းငယ် တစ်စုကို "ချစ်သားတို့... မရဏာဿတိဆိုတဲ့ သေခြင်း သဘော တရားကို နှလုံးသွင်းကြကုန်၏လော" ဤသို့ မေးတော်မူသည်ကို "သွင်းကြပါသည်ဘုရား" ဟူ၍ ခွန်းတုံ့ပြန်ကြ၏။

"အရေးတကြီးကော နှလုံး သွင်းကြကုန်၏လော" "မှန်ပါ သွင်းကြပါသည်ဘုရား" "ဘယ်လောက် အရေးတကြီး နှလုံး သွင်းကြသလဲ"ဟု ဆက်လက် မေးတော်မူသောအခါ–

၁။မှန်ပါ... အချိန်မရွေးသေနိုင်တာမို့ တပည့်တော်ဆိုလျှင် တစ်နေ့နှင့် တစ်ညဉ့်မျှ အသက်ရှင်ပါရစေ၊ နေခွင့်ရပါရစေ၊ ဤအတွင်း ဘုရားအဆုံးအမအတိုင်း ဝိပဿနာအလုပ်တွေ အားထုတ်ပစ်လိုက်မယ်၊ သို့ကလောက်ပင် အရေးတကြီး သေခြင်း သဘောတရား အပေါ် နှလုံးသွင်းပါသည်ဘုရား။

မြတ်စွာဘုရားက "အခြားကိုယ်တော်များကရော"ဟု တစ်ဘက်သို့ လှည့်၍ မေးတော်မူလိုက်ရာ "တပည့်တော်လဲ အရေးတကြီး နှလုံးသွင်းပါသည်ဘုရား"ဟု လျှောက်ထား၏၊ "ဘယ်လောက်အရေးတကြီးလဲ"ဟု ဆက်လက် မေးတော်မူသောအခါ–

၂။တပည့်တော်ကဆိုလျှင် တစ်ညဉ့်တောင် မပါတော့ဘူး၊ တစ်နေ့မျှ အသက် ရှင်ပါရစေ၊ ဤအတွင်းမှာ ဘုရား အဆုံးအမအတိုင်း ဝိပဿနာ အလုပ်တွေ အားထုတ်ပစ်လိုက်မယ်၊ အဲသည်လောက်ပင် အရေး တကြီး နှလုံးသွင်းပါသည်ဘုရား။

ဤနည်းအားဖြင့် တစ်ပါးပြီး တစ်ပါး ထ၍ ထ၍ လျှောက်ကြ၏၊ တစ်ပါးထက် တစ်ပါး ကဲ၍ ကဲ၍သာ နေတော့သည်။

၃။တပည့်တော်ကတော့ တစ်နေ့လုံးတောင် မဟုတ်ပါဘုရား၊ နေထွက်ချိန်မှ နံနက် ၁၂ နာရီအထိ နေ့တစ်ဝက် (၆–နာရီခန့်)မျှ အသက်ရှင်ခွင့် ရလျှင် တော်ပါပြီ၊ ဤအတွင်းမှာ တရားတွေ အားထုတ်ပစ်လိုက်မယ်။

၄။တပည့်တော်က နေ့တစ်ဝက်ခန့်မျှ မတောင့်တပါ၊ အေးအေးဆေးဆေး ဆွမ်းထိုင်စားချိန် (၁–နာရီခန့်မျှ) အသက်ရှင်ခွင့်ရလျှင် တော်ပါပြီ။

၅။တပည့်တော်က ဆွမ်း တစ်ထိုင် စားချိန်၏ တစ်ဝက်မျှ (မိနစ်၃၀–ခန့်မျှ) အသက်ရှင်ခွင့် ရလျှင် တော်ပါပြီ။

၆။တပည့်တော်က ဆွမ်းလုတ်လေးငါးလုတ် ဝါး၍ မျိုချချိန် (၁၅–မိနစ်ခန့်)မျှ အသက်ရှင်ခွင့် ရလျှင် တော်ပါပြီ။

၇။တပည့်တော်ကတော့ ဆွမ်းတစ်လုတ်ဝါး၍ မျိုချချိန် (၃–မိနစ်ခန့်)မျှ အသက်ရှင်ခွင့် ရလျှင် တော်ပါပြီ။

၈။တပည့်တော်ကတော့ ဝင်သက် ရှိုက်ယူ၍ "ဖူး"ခနဲ ထွက်သက်မှုတ်ထုတ်ချိန်တစ်ခုမျှ (၁–မိနစ်ခန့်မျှ) အသက်ရှင်ခွင့်ရလျှင် တော်ပါပြီ၊ ဤအတွင်းမှာ တရားတွေ အားထုတ်ပစ်လိုက်မယ်၊ အဲသည်လောက်ကို အရေးတကြီး နှလုံးသွင်းပါသည်ဘုရား။

ဤသို့ အသီးသီး ဖြေကြားပြီးသောအခါ ဘုရားရှင်ကိုယ်တော်မြတ်ကြီးက "အိမ်း... ရဟန်း ၈–ပါးတွင်

* အင်္ဂုတ္တိုရ်ပါဠိ၊ အဋ္ဌက၊၁၃၅

ာက်ဆုံး၂-ပါးပဲ ငါဘုရားဖြင့် အားရကျေနပ်တော်မူ ာယ်၊ ရှေ့ဖြ-ပါးကတော့ အာသဝေါကုန်ခန်းဖို့ အရေး ာ အေးအေးဆေးဆေး နဲ့နှေးစွာ ကျင့်နေကြတာကိုး" ာ၍ အပြစ်တင်တော်မူ၏။

[ဆောင်]

နေ့ညဥ့်တစ်စုံ၊ တစ်နေ့ကုန်နှင့်၊
ဝက်တုံခွဲပိုင်၊ တစ်ထိုင်ဆွမ်းစား၊
တစ်ဝက်အားဖြင့်၊ လေးငါးလုတ်တွင်း၊
တစ်လုတ်တွင်းပါ၊ ဝင်ခါထွက်သက်၊
အသက်ရှင်ရ၊ ကောင်းလေစွဟု၊
တောင့်တရစ်ပါး၊ ထိုအများတွင်၊
နောက်ဖျားနှစ်ယောက်၊ ချီးမွမ်း
လောက်၏၊ ခြောက်ယောက်ရှေ့မှာ၊
နှဲ့နှေးစွာဟု၊ မိန့်မှာစကား၊ ဟော
မြွက်ကြားသည်... ဘုရားရှိစဉ်တုန်းက
တည်း။ ။

# နက်ဖြန်ခါနှင့် နောက်ဘဝ

လူတိုင်းမှာ "သေခြင်း"ဆိုတဲ့ သဘောတရား ဟာ စက္ကန့်အတွင်း မိနစ်အတွင်း၌ ဖြစ်ပွားနိုင်သည်ကို အမြဲတမ်း သတိ ရှိနေကြရပါမည်၊ ယင်းသတိကို "မရဏာဿတိ"ဟု ခေါ်ပါသည်၊ "အမြဲတမ်း ပွားများ နေရမည်"ဟု မြတ်စွာဘုရားက မိန့်တော်မူပါ၏။

မှန်ပါသည်၊ သေခြင်းသဘောတရားမှာ အချိန် မရွေး မမျှော်လင့်ဘဲ ဖြစ်ပေါ်လာနိုင်ပါ၏၊ မျက်စိတစ် မှိတ် လျှပ်တစ်ပြက်အတွင်းမှာပင် တစ်မျိုးတစ်ဖုံ ပြောင်း လွဲသွားနိုင်ပါသည်။

"နက်ဖြန်"ဆိုတာကမှ ဝေးသေး၏၊ အခုအချိန် ာစပြီး ညဥ့်မှောင်ရောက်၊ နောက်တစ်နေ့ နံနက်အရုဏ် တက်မှ ဖြစ်လာမှာ၊ "နောက်ဘဝ"ဆိုသည်ကား အနီး ကလေး၊ ကွေးသောလက် မဆန့်မီ၊ ဆန့်သောလက် မကွေးမီ အချိန်အတွင်းမှာ တမလွန်ဘဝသို့ ရောက်သွား နိုင်၏၊ မြန်လွန်းလှသည်။

ထို့ကြောင့် ဘုရားရှင် ကိုယ်တော်မြတ်ကြီးက အရေးတကြီး အပူတပြင်း မရဏာဿတိတရားကို ပွားများအားထုတ်ဖို့ရန် မိန့်တော်မူနေခြင်း ဖြစ်သည်။

"နက်ဖြန်"ဆိုတာ၊ တစ်နေ့တာသည်၊

- သည်ကာလနောက်၊ ညဥ့်မှောင်ရောက်၍၊
  နောက်နေ့နံနက်၊ အရုဏ်တက်မှ၊
  ဆက်ဆက်ရောက်လာ၊ ခရီးကြာ၏။
  သို့ပါသော်လဲ၊ မှန်မလွဲသည့်၊
- ရောက်မြဲဌာန၊ "နောက်ဘဝ"ကား၊
  ခဏခရီး၊ လျှပ်ပြက်စီးသို့၊
  ကွေးပြီးသောလက် မဆန့်မီ၊
  ဆန့်ပြီးသောလက် မကွေးမီ၊
  မဝေးလှပါပြီတကား။ ။

# ရုပ်နာမ်ဖြစ်ပျက်တွေက ပို၍ မြန်လွန်း

ဘုရားရှင် ကိုယ်တော်မြတ်ကြီး သာဝတ္ထိမှာ သီတင်းသုံးတော်မူခိုက် ဟောတော်မူသည်၊ ဟောတော် ၊ပုံမှာ-

*"ရဟန်းတို့... လေးသမားကျော် ၄-ယောက် ၏ အရပ်လေးမျက်နှာသို့ တစ်ဘက်စီ မျက်နှာ

* နိဒါနဝဂ္ဂသံပါ၊၄၅၆၊၅-၂၀၇။ (ဓနုဂ္ဂဟသုတ်)

မူလျက် တစ်ပြိုင်နက် အသီးအသီး ပစ်လွှင့်လိုက်သော မြားတို့ကို မြေသို့ မကျခင် လိုက်လံ၍ အကုန်ဖမ်းယူပြမည်”ဟု တစ်စုံတစ်ယောက်က ပြောအံ့၊ ထိုသူ့ကို “အလွန်လျင်မြန်သောသူ” ဟု ပြောဆိုနိုင်ပြီလော”

“မှန်ပါ လေးသမားတစ်ယောက်၏ မြားတစ်စင်းကို မြေသို့မကျခင် ဖမ်းယူပြနိုင်လျှင်ပင် “အလွန်လျင်မြန်သောသူ”ဟု ဆိုနိုင်ပါပြီဘုရား၊ ၄–ယောက်၏ မြားလေးစင်းကို ဖမ်းယူပြနိုင်လျှင်ကား အဘယ်မှာ ဆိုဖွယ်ရာရှိတော့မည်လဲဘုရား”ဟူ၍ ရဟန်းတို့က လျှောက်ထားကြလေ၏။

၁။ အိမ်း... အဲဒီပုဂ္ဂိုလ်၏ အလွန်လျင်မြန်ခြင်းထက် လနှင့်နေတို့၏ လျင်မြန်ခြင်းက ပိုသည်။

၂။ တစ်ဖန် လနှင့် နေတို့၏ လျင်မြန်ခြင်းထက် လနှင့်နေတို့၏ ရှေ့က ရှေ့က သွားနှင့်သော နတ်တို့၏ လျင်မြန်ခြင်းက ပိုပြန်သည်။

၃။ ထို့ပြင် တစ်ဖန် (ပုဂ္ဂိုလ် သတ္တဝါတိုင်း၏) အာယုသင်္ခါရတို့က ထို့ထက် ထို့ထက်ပင် ပို၍ လျင်မြန်စွာ ကုန်ခန်းနေကြပြန်သေး၏။

[တတော သီဃတရံ အာယုသင်္ခါရာ ခီယန္တိ ။]

အဋ္ဌကထာဖွင့်။ ။အာယုသင်္ခါရာတိ ရူပဇီဝိတိန္ဒြိယံ သန္ဓာယ ဝုတ္တံ၊ တဉှိ တတော သီဃတရံ ခီယတိ၊ အရူပဓမ္မာနံ ပန ဘေဒေါ န သက္ကာ ပညာပေတုံ။ ။

**မှတ်ချက်**။ ။ဤနေရာ၌ “အာယုသင်္ခါရ” ဆိုတာ ရုပ်ဇီဝိတိန္ဒြေ၊ ရုပ်ဇီဝိတ၊ “ရုပ်သက်”ကို ပြောခြင်း ဖြစ်၏။

နာမ်တရားတို့၏ ပျက်ပြားမှု လျင်မြန်ပုံကား ပြော၍ပင် မဖြစ်ချေ၊ ဥပမာ ပြစရာပင် မရှိချေ။

ဆိုလိုသည်မှာ ကိုယ်စီကိုယ်ငှ မိမိတို့မှာ ရှိကြတဲ့ ရုပ်ဓမ္မ နာမ်ဓမ္မတို့ဟာ အလွန့်အလွန် လျင်မြန်သောနှုန်းတို့ဖြင့် ဖြစ်–ပျက်နေကြသည်တကား၊ အမြန်နှုန်းဖြင့် သေနေကြသည်တကား။

နာမ်တရားတို့က ရုပ်တရားတို့ထက်ပင် အဖြစ်အပျက် လျင်မြန်ကြသေးသည်၊ အသေ မြန်ကြသေးသည် ဟူလို။

ဤကား မြတ်စွာဘုရားက “ဓဝနဟံသဇာတ်” ကို ရည်ညွှန်း၍ မိန့်တော်မူခြင်း ဖြစ်လေသတတ်။

## လူပျိုလှည့်ရာတွင်လည်း အသုံးချလို့ရ

ဤဝိပဿနာသည် နိဗ္ဗာန်ရဖို့အတွက်သာ မကသေး၊ အပျို လူပျို လှည့်ရာတွင်လည်း အသုံးချလို့ရ၏၊ သိကြားမင်းကြီးက လူသားဖြစ်တဲ့ ဥဒယဘဒ္ဒမင်းသမီးထံ လာ၍ လူပျိုလှည့်ရာတွင် အသုံးချသွားသည်။

“လူဟာ တစ်နေ့ထက် တစ်နေ့၊ တစ်ရက်ထက် တစ်ရက် အို–အိုလာတော့ တန်ဖိုးလဲ လျော့လျော့လာတယ်”တဲ့၊ “အဲဒါကြောင့် မအိုခင် လုပ်သင့်လုပ်ထိုက်တာကို လုပ်သင့်တယ်”တဲ့၊ ဟော... အသုံးချကုန်ပြီ။

*ငါးရာ ငါးဆယ် ဇာတ်တော်တွင် ဥဒယဘဒ္ဒဇာတ်ဆိုတာ ပါရှိ၏၊ ကာသိတိုင်းမှာ ကာသိမင်းကြီး၏ နန်းတော်၌ အဂ္ဂမဟေသီမိဖုရားကြီးမှ “ဥဒယဘဒ္ဒ” မင်းသားကလေး ဖွားမြင်လာသည်၊ ထို့နောက် အခြားမိဖုရားတစ်ဦးမှလည်း သမီးကလေးတစ်ယောက် ဖွားပြန်သည်၊ “ဥဒယဘဒ္ဒ”ဟုပင် နာမည်ပေးထားကြ၏။

* ဇာတကအဋ္ဌကထာ၊ စတုတ္ထ၊ ၁၀၅၊ ဥဒယဘဒ္ဒဇာတ်

အရွယ်ရောက်ကြသောအခါ ထိမ်းမြား၍ နန်း
အပ်ကြသည်၊ သို့သော် သူတို့ ၂-ဦးလုံးက ဗြဟ္မာ့ပြည်မှ
လာကြသူများဖြစ်၍ လောကီအာရုံ မခုံမင်ကြ၊ ၂-ဦး
လုံး နည်းပါးကြ၏၊ ထို့ကြောင့် မောင်နှမအရင်းလို
နေကြကာ သီလမညှိုးအောင် စောင့်စည်းနေထိုင်ကြပါ
သတတ်။

ထို့နောက် ဥဒယဘဒ္ဒမင်းသားက ဦးစွာ ပထမ
စုတေ၍ တာဝတိံသာမှာ သိကြားမင်း ဖြစ်လေသည်၊
နန်းတော်မှာ ဥဒယဘဒ္ဒမင်းသမီးတစ်ဦးတည်း အုပ်ချုပ်
၍ ကျန်ရစ်တော့၏၊ နောက်ထပ် ရှင်ဘုရင် မတင်
မြှောက်ကြ၊ တစ်ပင်တိုင် မင်းသမီးဘဝလို ဖြစ်သွားရ
တော့သည်။

# စက္ကန့်တိုင်း တန်ဖိုး လျော့၍-လျော့၍ လာ

တစ်နေ့သောအခါတွင် သိကြားမင်းက အကဲ
စမ်းလို၍ ဘုံ(၇)ဆင့်ပြာသာဒ်ထက်၌ စံနေသော ဥဒယ
ဘဒ္ဒ မင်းသမီးထံ ရွှေလင်ပန်းဖြင့် ရွှေတွေ အပြည့်
ထည့်ကာ လက်ဆောင်ပေးပြီး ချစ်ရေးဆိုကြည့်သည်၊
ရေ၊ "ကျွန်မရဲ့ ခင်ပွန်းဟောင်း ဥဒယဘဒ္ဒမှ လွဲလျှင်
ဆန်ကွဲထင်သည်"ဟု ဆိုလွှတ်လိုက်၏။

နောက်တစ်နေ့တွင် ငွေလင်ပန်းဖြင့် ရွှေတွေ
အပြည့်ထည့်ကာ သွားပြန်၏၊ "လက်ခံစကားပြောနေ
လျှင် ဒီလူ ခဏ-ခဏ လာနေလိမ့်မည်"ဟု တွေးကာ
မင်းသမီးက စကားမပြောဘဲ နေသည်၊ သိကြားမင်းကြီး
လက်လျှော့ပြန်ခဲ့ရ၏။

နောက်ထပ် တတိယနေ့တွင် ကြေးလင်ပန်းဖြင့်
ငွေတွေ အပြည့် ထည့်ကာ သွားပြန်၏၊ ထိုအခါတွင်
မင်းသမီးက ငေါ့တော့တော့ ပြောတော့သည်။

"ဘယ့်နှယ်လဲရှင့်... လူပျို တစ်ယောက်က
အပျိုတစ်ယောက်ထံ ဖွဲကောင်းကောင်းနဲ့လာ၊
ပိုးကြေး-ပန်းကြေးပေးတယ်ဆိုတာ တစ်ကြိမ်
ထက် တစ်ကြိမ် ပိုရစမြဲ မဟုတ်လား။
အခုတော့ မဟုတ်ဘူး၊ ရှင့်ဥစ္စာက
ပြောင်းပြန်ကြီး...

ပထမနေ့က ရွှေလင်ပန်းနဲ့ ရွှေအပြည့်၊
ဒုတိယနေ့ကျတော့ ငွေလင်ပန်းနဲ့ ရွှေအပြည့်၊
တတိယနေ့ကျတော့ ကြေးလင်ပန်းနဲ့ ငွေအပြည့်
ဆိုတော့ လျော့-လျော့လာနေပါကော..."

ဤသို့ ဆိုသောအခါ သိကြားမင်းက အကွက်ကျကျ
ပြန်၍ ပြောတော့သည်။

"ဟုတ်ပါတယ် ချစ်နှမ... ချစ်နှမရဲ့ သက်
တမ်း၊ ချစ်နှမရဲ့အလှ၊ ချစ်နှမရဲ့ အဆင်းရူပါ
တို့ဟာ တရိပ်ရိပ်နဲ့ တိုးလာတယ်ဆိုရင်တော့
လက်ဆောင်လဲ တိုးပေးရမှာပါပဲ"

"အခုတော့ ချစ်နှမဟာ... အစစ
အရာရာ စက္ကန့်တိုင်း မိနစ်တိုင်း အချိန်တိုင်း
တရွေ့ရွေ့ ယုတ်လျော့နေပါတယ်၊ သို့ဖြစ်၍
အပျို့ တန်ဖိုးလဲ လျော့-လျော့လာပါတယ်၊
အဲဒါကြောင့် လက်ဆောင်လဲ လျော့ လျော့လာ
ရခြင်းပါ"

"သည်တော့ ပြုလုပ်သင့်တဲ့ ကုသိုလ်
ကောင်းမှုတို့ကို မအိုခင် မနာခင် မသေခင်
အချိန်မီတုန်း ပြုလုပ်ပါ"လို့ သတိ ပေးသွား
လေသည်။

နောက်ပိုင်းတွင် "သူဟာ ဥဒယဘဒ္ဒမင်းသား ဖြစ်
ကြောင်း၊ တာဝတိံသာမှာ သိကြားမင်းဖြစ်နေကြောင်း"
တို့ကိုပါ ထုတ်ဖော်ပြောပြသွားလေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အချိန်ရှိခိုက် လုံ့လစိုက်ပါလို့

**မှတ်ချက်။** ။ဤသို့လျှင် သိကြားမင်းကြီးက ရုပ်နာမ်ဓမ္မသင်္ခါရတရားတို့ဟာ စက္ကန့်တိုင်း မိနစ်တိုင်းမှာ ယုတ်လျော့ ပျက်ပြားနေပုံတို့ကို သတိရစေလို၍လည်းကောင်း၊

မသေခင် အတွင်း– မနာခင် အတွင်း - မအိုခင် အတွင်း အချိန်ရှိခိုက်ကလေးမှာ သူတော်ကောင်းအလုပ်တို့ကို လုပ်စေလို၍လည်းကောင်း သတိပေးလာခြင်း ဖြစ်လေသည်။

ဤသို့ သတိပေးချက်အရ မင်းသမီးသည်လည်း ထီးနန်းစည်းစိမ်တွေကို စွန့်၍ မင်းဥယျာဉ်သို့ ထွက်ကာ ရသေ့မကလေးဘဝဖြင့် တရားအားထုတ်နေလေတော့သတတ်။

နောက်ဆုံးတွင် စုတေသောအခါ တာဝတိံသာ ထိုသိကြားမင်းကြီးထံသို့ပင် ရောက်သွားရလေတော့သည်။

## ဗျာ–ဗျာလို့ ဘာလို့ ပြောတာလဲ

မိုးကုတ်ဆရာတော်ကြီး ဦးဝိမလ တရားဟောတဲ့အခါမှာ "ဗျာ–ဗျာ"ဆိုတဲ့ အသုံးအနှုန်းတွေ၊ "ကျုပ်တို့" "ခင်ဗျားတို့"ဆိုတဲ့ အသုံးအနှုန်းတွေ ပါ–ပါနေတယ်၊ "အဲဒါဘယ့်နှာကြောင့် ဒီလိုသုံးနှုန်းပြောဆိုနေရတာလဲ"–တဲ့ မေးမြန်းစပ်စုတတ်ကြ၏။

မြန်မာပြည်အထက်ပိုင်း အညာဒေသ၏ ဓလေ့ထုံးစံအရ ပြောလေ့ပြောထရှိတဲ့ ဝေါဟာရလည်းဖြစ်၊ ပြီးတော့ တရားပွဲထဲမှာ ဆရာတော့်ထက်ကြီးတဲ့ ဒကာကြီးတွေ ဒကာမကြီးတွေ၊ အဘိုးတွေ အဘွားတွေ ပါနေတာလည်း ဖြစ်လို့ သုံးနှုန်းခြင်း ဖြစ်ပါလိမ့်မည်။

ဝေဘူဆရာတော်ကြီးတို့ဆိုလျှင်လည်း သူ့ဓလေ့အတိုင်း "ကောင်းပါ့ဗျား–ဟုတ်ပါ့ဗျား"စသည်ဖြင့် မိန့် လေ့ရှိတတ်ပါ၏၊ စွန်းလွန်းဆရာတော်ကြီး၊ မိုးညှင်းဆရာတော်ကြီးတို့လည်း သူ့ဝါသနာအတိုင်း မိန့်လေ့ရှိတတ်ကြပါသည်။ မိုးညှင်းဆရာတော်ကြီးကဆိုလျှင် "ဟရို့ရဲ့" "ဟရို့ရဲ့"နဲ့ နားထောင်လို့ ကောင်းလှပါ၏။

ယခုလည်း မိုးကုတ်ဆရာတော်ကြီးထက် ကြီးတဲ့ ပုဂ္ဂိုလ်တွေ ပရိသတ်ထဲမှာ အနီးအနားမှာ ပါနေတော့ "ဟုတ်ဘူးလားဗျာ ဦးသန်းမောင်ကြီး" "ဘယ့်နှယ်လဲ ဦးဘရှင်းတို့၊ ဦးလှဘူးတို့၊ ဒကာကြီးလှိုင်" စသည်ဖြင့် မိန့်မြွက်နေ၏။ အသက်ကြီးတဲ့ ပုဂ္ဂိုလ်တွေ နားခံသာအောင်ရယ်၊ ရင်းရင်းနှီးနှီး ဆက်ဆံမှုမျိုးဖြစ်အောင်ရယ် သုံးနှုန်းတော်မူခြင်း ဖြစ်ပေလိမ့်မည်–ဟု ယူဆရပါသည်။

## ဘုရားရှေ့မှာ မျက်စိလည်နေကြ

မိုးကုတ်ဆရာတော်ကြီးက လူတွေ လုပ်ပုံကိုင်ပုံ သဘာဝမကျပုံတို့ကို ကြည့်ပြီး မိန့်တော်မူဖူးသည်။

"ဒကာ ဒကာမတွေက ဆွမ်းတွေ ကွမ်းတွေနဲ့ ပန်းတွေ ရေချမ်းတွေနဲ့ ဘုရားရှေ့မှာ ပြင်ဆင်ပြီး

တော့ လူ့ဒါန်း၊ ပီးတော့ ဆုတောင်းကြတယ် (မှန်ပါ) သူတို့တွေရဲ့ ဆုတောင်းက–

"သည်ကောင်းမှုကြောင့် လူ့စည်းစိမ်၊ နတ်စည်းစိမ်၊ ဗြဟ္မာ့စည်းစိမ်တွေ ရ–ရပါလို၏" တဲ့။ (မှန်ပါ)

ဒါဟာ မသိလို့ တောင်းနေကြတာပဲ၊ (မှန်ပါ) ဒုက္ခသစ္စာတွေမှန်းမသိလို့ တောင်းနေကြတာ (မှန်ပါဘုရား) ဒါဟာ ဘုရားရှေ့မှာ လာပြီး မျက်စိလည်နေတာပေါ့ (မှန်ပါဘုရား) ဘုံးစံလို ဖြစ်နေကြတယ် သူတို့ဥစ္စာက၊ (မှန်ပါ) ဆုတောင်းတယ် ဆိုရင် "လူ့စည်းစိမ် နတ်စည်းစိမ် ဗြဟ္မာ့စည်းစိမ်တွေကိုပဲ တောင်းရမယ်"လို့ချည်း ထင်နေကြတယ် (မှန်ပါ–ထင်ပါတယ်ဘုရား)

"နိဗ္ဗာန်ချမ်းသာကို ရ–ရပါလို၏"လို့ နှုတ်က ဆိုပေမယ့် သူ့စိတ်ထဲမှာ ထင်တာကတော့ "နိဗ္ဗာန်ချမ်းသာ"ဆိုတာ ဘုံနန်းပြာသာဒ်တွေနဲ့၊ အခြွေအရံတွေနဲ့ အပြည့်အလျှံ၊ မောက်မောက်ဖြိုးဖြိုး၊ (မှန်ပါ)

အဲလိုပဲ ထင်နေတတ်ကြတယ် (မှန်ပါ ထင်ပါတယ် ဘုရား) ဒါ့ကြောင့် ပြောတာပေါ့ "ဘုရားရှေ့မှာ လာပြီး မျက်စိလယ်နေကြတယ်"လို့ (မှန်ပါဘုရား)

# နတ်ပြည်က မုန်းကြမယ်ထင်ရ

"အပေါင်းရွှေညီ၊ ဘုံကိုယ်စီဝယ်၊
ကျူသီမပြီး၊ ပျော်မငြီးဖို့၊ နတ်တီး
နတ်ငြိမ့်၊ တခြိမ့်ခြိမ့်နှင့်၊ သိမ့်သိမ့်
သဲသဲ၊ ရှုမရဲအောင်၊ နတ်ပွဲသဘင်၊
အမြဲရွှင်၏ ..."

သည်ဖြင့် နတ်စည်းစိမ်တို့ကို ဖွဲ့ဆိုကြသည်၊ လူ့စည်းသက် အဆအရာမက သာလေ၏၊ မြက်ပင်ပေါ်က နှင်းပေါက်နှင့် သမုဒ္ဒရာထဲက ရေတွေလောက် ခြားလေသတတ်၊ ဤသို့လျှင် နတ်စည်းစိမ်များကို ရည်ကျလောက်အောင် ဖွဲ့ဆိုကြ– ရေးသားကြ ဆိုကြ ချီးမွမ်းကြကုန်၏၊ သို့သော်လည်း မိုးကုတ်တော်ဘုရားကြီးကမူ အများနှင့် မတူချေ။

"နတ်စည်းစိမ်ဆိုတာ အလကား၊
ဗြဟ္မာ့စည်းစိမ်ဆိုတာလဲ အလကား၊
လူ့စည်းစိမ်ဆိုတာများတော့ ထည့်
တောင် မပြောနဲ့၊ အလေး အမွှား
အလကား၊ ချမ်းသာယောင် ဆောင်တဲ့
အလိမ်အကောက်တွေ" ...

"သူတို့ နားမလည်လို့ ပြောနေကြတာ၊
ဒုက္ခသစ္စာတွေပဲ၊ ခွေးသေကောင်
ပုပ်ကို ငှင်းတတွေက အကောင်း
ထင်ကြသလို ထင်နေကြတာ"

ဤသို့လျှင် ရက်ရက်စက်စက် ပစ်ပစ်ခါခါ ဆိုတော်မူ၏၊ "နတ်စည်းစိမ် ဗြဟ္မာ့စည်းစိမ်တွေကို မကောင်းဘူး– အလကား" လို့ ပြောတာ ဒီ ဆရာတော်ကြီး တစ်ပါးသာ ရှိ၏၊ အများက မပြောကြ။

ဘာ့ကြောင့်လဲဆိုတော့ အများက အကောင်းထင်နေကြတာကို ဆန့်ကျင်ဘက် ဖြစ်သွားမှာ စိုးကြဟန်တူသည်၊ မိုးကုတ်ဆရာတော်ကြီးကတော့ မည်သူ့ကိုမျှ မငဲ့၊ ဟုတ်တဲ့အတိုင်း "တဲ့တဲ့ကြီး" ပြောထည့်လိုက်တာပဲ။

ထို့ကြောင့် နတ်ပြည်က နတ်သမီးနတ်သားတွေက သည်ဆရာတော်ကြီးကို ကျေနပ်ချင်မှ ကျေနပ်ကြပေမည်၊ မဲ့ရွဲ့ကောင်း မဲ့ရွဲ့နေကြမည်လား မသိပေ၊ "နတ်ပြည်မှာ နတ်ဦးရေ လျော့အောင် လုပ်သည်"ဟု စွပ်စွဲကာ ဆရာတော်ကြီးကို မုန်းကြလိမ့်မည် ထင်ရသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ထိုးကွင်းတွေ ဘာလို့ မပျက်သလဲ

ရုပ်တရားတွေရော နာမ်တရားတွေရော ပေါ်လာကြပြီးနောက် သူ့အတိုင်းအတာအရ ခဏမျှ နေပြီး ပျက်ကုန်တယ်၊ ပြီးတော့ အလားတူတွေ ပေါ်လာပြန်တယ်၊ ရုပ်သစ် နာမ်သစ်တွေ အလားတူ ပေါ်တယ်၊ ဒါကို "အစားထိုးတယ်"လို့ သုံးစွဲကြပါတယ်။

ဤအသုံးများနှင့်ပတ်သက်ပြီး တစ်ခါဟာတုန်းက ဘုရားဒကာ မင်းသားကြီး ဂရိတ် ဦးဖိုးစိန်က အကြောင်းစပ်လာ၍ မေးဖူးပါသတတ်-

"အရှင်ဘုရားတို့ဥစ္စာက ရုပ်တွေဟာ ပျက်-ပျက်ကုန်တယ်၊ ပြီးတော့ အစားထိုးတယ်-လို့လဲ ဆိုတယ်။

ဒီလိုဆိုရင် ထိုးကွင်းမင်ကြောင်တွေ ငယ်ငယ်က ထိုးထားတာ၊ ပျက်-ပျက်ကုန်တဲ့အထဲ ပါသွားဖို့ ကောင်းတယ်၊ မပါဘူးဘုရာ့၊ အသက်ကြီးလို့ သေသည်အထိ (အလောင်းကောင် အထိ) ထင်ကျန်ရစ်တာပဲ၊ အဲဒါ ဘယ်လိုလဲ"

# မျိုးပါ-ပါနေလို့ မပျောက်တာ

ဒါက ဒီလိုရှိတယ် ဒကာကြီးရ... အမိဝမ်းမှာ ပဋိသန္ဓေ စတည်ပြီ-ဆိုကတည်းက "ကလာပ်သုံးစည်း၊ ရုပ်သုံးဆယ်"ဆိုတာ ပါတယ်၊ အဲဒါတွေက-

၁။ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော။
ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ သြဇာ။
ဇီဝိတ၊ ကာယ။

၂။ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော။
ဝဏ္ဏ၊ ဂန္ဓ၊ ရသ သြဇာ။
ဇီဝိတ၊ ဘာဝ။

၃။ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော။
ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ သြဇာ။
ဇီဝိတ၊ ဟဒယဝတ္ထု။

ဆိုလိုရင်းအဓိပ္ပာယ်မှာ-

နံပါတ်(၁)အုပ်စုတွင် ရုပ်ပေါင်း(၁၀)မျိုးပါ၏၊ ကာယဖြင့် နိဂုံးသတ်၍ "ကာယဒသက"ဟု ခေါ်သည်။

နံပါတ်(၂)အုပ်စုတွင်လည်း ရုပ်ပေါင်း(၁၀)မျိုးပါ၏၊ ဘာဝရုပ်ဖြင့် နိဂုံးသတ်၍ "ဘာဝဒသက"ဟု ခေါ်သည်။

နံပါတ်(၃)အုပ်စုတွင်လည်း ရုပ်ပေါင်း(၁၀)မျိုးပါ၏၊ ဟဒယဝတ္ထုရုပ်ဖြင့် နိဂုံးသတ်၍ "ဝတ္ထုဒသက" ဟု ခေါ်ရသည်။

ဤသို့လျှင် ကာယဒသက၊ ဘာဝဒသက၊ ဝတ္ထုဒသက ဟူ၍ ကလာပ်(၃)စည်း ဖြစ်၏၊ တစ်စည်းတစ်စည်းလျှင် ရုပ်ပေါင်း(၁၀)မျိုးစီ ပါသောကြောင့် ရုပ်ပေါင်း(၃၀) ဖြစ်ရလေသည်။

အေး... ဒီကလာပ်၃-စည်း၊ ရုပ်၃၀-ထဲမှာ တေဇောပါတယ်၊ အစည်းတိုင်းမှာ ပါတယ်၊ အဲဒီ တေဇောက ဥတုဇရုပ်ကို ဆက်လက် ပေါက်ပွားစေတယ်၊ ဒီတော့ "မျိုး"ပါတာပေါ့၊ အဲဒီလို မျိုးပါ-ပါနေလို့ မပျောက်တာ ဒကာကြီးရ၊ ဒါ့ကြောင့်-

ကုလားက မွေးတော့ ကုလားကလေး၊ မည်းကြုတ်ကြုတ်ကလေး ဖြစ်။

တရုတ်က မွေးတော့ တရုတ်ကလေး၊ ဖြူဖြူဖွေးဖွေးဖြစ်။

အင်္ဂလိပ်ကမွေးတော့ အင်္ဂလိပ်ကလေး၊ နီစပ်စပ်

ကလေး ဖြစ်ကြရတာ"ဟူ၍ ဖြေကြားပါသတတ်။

မှတ်ချက်။ ။ဤအကြောင်းအရာများကို မြန်အောင်မြို့၊ နန္ဒဝန်ကျောင်းတိုက်၊ ပဓာနနာယက၊ မိုးကုတ်ဝိပဿနာဝမ္မရိပ်သာ ဆရာတော်ဘုရားကြီး ဦးသာသနမထေရ်မြတ်က ပြန်လည်ပြောပြခြင်း ဖြစ်ပါသည်။ ယခုအခါ ထိုဆရာတော်ကြီး မရှိတော့ပြီ၊ သက်တော်–၈၉၊ သိက္ခာတော်–၆၉ အရတွင် (၂၈–၁၂–၉၂)နေ့က ချုပ်ငြိမ်းတော်မူခဲ့ပြီ။

# ပဋ္ဌပ္ပန္နာနံ စိတ္တစေတသိကာနံ

ဤနေရာတွင် မိုးကုတ်ဆရာတော်ကြီး၏ ဟောပြောချက်ကိုလည်း ကောက်နုတ်တင်ပြပါဦးမည်။

* အနန္တရနိရုဒ္ဓါ စိတ္တစေတသိကာ ဓမ္မာ
ပဋ္ဌုပ္ပန္နာနံ စိတ္တစေတသိကာနံ ဓမ္မာနံ
အနန္တရ ပစ္စယေန ပစ္စယော။

(ပဋ္ဌာန်းပါဠိတော်)

အနန္တရနိရုဒ္ဓါ–အခြားမဲ့ဖြစ်၍ ချုပ်ကုန်ပြီးသော။ စိတ္တစေတသိကာ–စိတ်စေတသိက်ဖြစ်ကုန်သော၊ ဓမ္မာ–ဘရားတို့သည်တဲ့ (မှန်ပါဘုရား)

ပဋ္ဌုပ္ပန္နာနံ (ပဋိ+ဥပ္ပန္နာနံ)–အလားတူ ဖြစ်၍ပေါ်ကုန်သော၊ စိတ္တစေတသိကာနံ– စိတ်စေတသိက်ဖြစ်ကုန်သော၊ ဓမ္မာနံ–တရားတို့အား၊

အနန္တရပစ္စယေန–အနန္တရပစ္စယသတ္တိဖြင့်၊ ပစ္စယော (ဥပကာရကော)–ကျေးဇူးပြုသည်၊ ဟောတိ–ဖြစ်၏–တဲ့ (မှန်ပါဘုရား)

"အနန္တရ–အခြားမဲ့၌၊ နိရုဒ္ဓါ–ချုပ်ကုန်ပြီးသော" ဆိုတော့ ဖြစ်ပြီးလျှင် ပြီးချင်း ချုပ်သွားတာ၊ အကုန်ချုပ်သွားတာပဲ (မှန်ပါ) ဒီက တစ်တိုတစ်စမှ ဟိုဘက်ကိုလိုက်ပါ မသွားပါဘူး (မှန်ပါဘုရား) နိရုဒ္ဓါပါနေပြီပဲ (မှန်ပါ) ဖြစ်ပြီးသည်၏ အခြားမဲ့၌ တန်းချုပ်တာပဲ (မှန်ပါ ဘုရား)

ဘယ်သူတွေ ချုပ်တာတုံး – ဆိုတော့ "စိတ်စေတသိက်တွေ"ပေါ့၊ ဒီဘက်က စိတ် စေတသိက်တွေက ဖြစ်ပြီးတော့ ချုပ်ကုန်တယ်၊ (မှန်ပါ)

အဲဒီလို ချုပ်ကုန်တာဟာ နောက်လူတွေအတွက် နေရာပေးဖို့ ချုပ်တာ (မှန်ပါ) နောက်စိတ် စေတသိက်တွေအတွက် နေရာပေးချင်လို့ ဒီက ချုပ်ပျောက်ပေးရတာ (မှန်ပါဘုရား)

နောက်စိတ်စေတသိက်တွေကလဲ အသစ်ပေါ်ရတာ ဖြစ်ပေမယ်လို့ အလားတူ ပေါ်တယ် (မှန်ပါ) ရှေ့ကချုပ်သွားကြတဲ့ စိတ် စေတသိက်တွေနဲ့ အလားတူ ပုံသဏ္ဍာန်တူ ပေါ်တယ်တဲ့ (မှန်ပါဘုရား)

အဲဒါကြောင့် "ပဋ္ဌုပ္ပန္နာနံ=အလားတူ ဖြစ်၍ပေါ်ကုန်သော"လို့ဆိုတာ (မှန်ပါဘုရား) အလားတူပေါ်လာကြတာပဲ (မှန်ပါ)

ဒီရှေ့ဘက်က ရုပ်နာမ်တွေ ချုပ်ပြီးတော့ ဒီနောက်ဘက်မှာ အလားတူ ရုပ်နာမ်တွေ ပေါ်လာတယ် (မှန်ပါဘုရား) ဒါကို "အကျိုးပေးတယ်"လို့ ဆိုတာပဲ (မှန်ပါ)

ဒီရှေ့ဘက်မှာ နိရုဒ္ဓါတဲ့၊ အကုန်ချုပ်ပြီးပြီ၊ ဒီနောက်ဘက်မှာ ရှေ့ဘက်နှင့် အလားတူ ပေါ်တယ် (မှန်ပါ) အဲသည်လို ယူမှ သဿတဒိဋ္ဌိက လွတ်မယ် (မှန်ပါ ဘုရား)

**မှတ်ချက်။** ။ထိုးကွင်း မင်ကြောင်တွေလည်း ဤသဘောပင် ဖြစ်ရမည်–ဟု ဆိုလို၏၊ ရှေ့ဘက်က ထိုးကွင်းမင်ကြောင်တွေဟာ အခြားရုပ်တွေနှင့်ရောပြီး ချုပ်ပျောက်ကုန်သော်လည်း နောက်ပေါ်သည့်ရုပ် အစားထိုးသည့်ရုပ်တွေဟာ ရှေ့ဘက်က ချုပ်ပျောက်ကုန်သောရုပ်တို့နှင့် အလားတူ ပေါ်လာရ၏၊ သို့ဖြစ်၍ ထိုးကွင်းမင်ကြောင်တို့ကိုလည်း ဆက်လက်ပြီး မြင်နေရခြင်းဖြစ်သည် ဟူလို။

• မိုး(၂၆)နှာ–၂၂ ပဋ္ဌာန်းပစ္စယနိဒ္ဒေသပါဠိ၊ နှာ–၉။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ကံတွေက အရိပ်လို နောက်ကလိုက်နေ

"မင်းလုပ် မင်းရတာပေါ့၊ မင်းလုပ်ထားတဲ့ကံတွေက (ဆာယာဝ အနုပါယိနီ-)အရိပ်လို နောက်ကလိုက်နေတာပဲ၊ (စက္ကံဝ ဝဟတော ပဒံ-) နွားခြေရာနောက်သို့ လှည်းဘီး လိုက်နေသလို လိုက်နေတာပဲ၊ အဲသည်လို ယူလိုက်ရင် သဿတဒိဋ္ဌိ ဖြစ်သွားရော" (မှန်ပါဘုရား)

**"အနို့ ဒီစကားတွေဟာ ဘုရားနှုတ်တော်ထွက်စကားတွေ မဟုတ်လား"**ဆိုရင် ဟုတ်ပါတယ်၊ ဓမ္မပဒမှာ ပါ-ပါတယ်၊ အဲဒါက ဉာဏ်နုတဲ့သူတွေအတွက် မြင်လွယ်အောင်လို့ ဟောရတာ (မှန်ပါ) ဆောင်၍ သိရမယ့် နေယျတ္ထဒေသနာပဲ (မှန်ပါဘုရား)

အဲဒါကို တိုက်ရိုက်နီတတ္ထဒေသနာလို သွားပြီး ယူလိုက်ရင် မှားကုန်မှာပေါ့ (မှန်ပါဘုရား) ကံတွေက မပျောက်ဘဲ နောက်က တကောက်ကောက် အရိပ်ပမာ လိုက်ပါ နေတယ်လို့ အတည်တကျ ယူလိုက်ရင် သဿတ ဒိဋ္ဌိ ဖြစ်ကုန်မှာပေါ့ (မှန်ပါဘုရား)

ဒါဖြင့် ဘယ်လိုယူရမလဲဆိုရင် အကြောင်းနဲ့ အကျိုး (မှန်ပါ) ဒီအကြောင်းကြောင့် ဒီအကျိုး ဖြစ် (မှန်ပါ) ဖြစ်တဲ့အခါ အလားတူဖြစ် (မှန်ပါဘုရား)

အဲ... အကြောင်းတွေကတော့ အကုန် ချုပ် (မှန်ပါ့) ရုပ်ရော နာမ်ရော ချုပ် (မှန်ပါ) ဟိုဘက်မှာ အကျိုးတွေက အလားတူ ပေါ် (မှန်ပါ) အဲလို ယူရမှာ (မှန်ပါဘုရား) ဒီအတိတ်ဘက်က ဟိုဘက်ကို တစ်တိုတစ်စမှ လိုက်ပါမသွားဘူး၊ နိရုဒ္ဓါလို့ ဆိုထားပြီပဲ (မှန်ပါ) နောက်ဘက်အကျိုးတွေက အလားတူပေါ်တာ (မှန်ပါ) အဲသည်လို ယူမှ သဿတကလဲ လွတ်၊ ဥစ္ဆေဒကလဲ လွတ်မယ် (မှန်ပါဘုရား)

ဒီလူ့ပြည်က စိတ် စေတသိက် ရုပ်တွေက ဒီမှာပဲ ချုပ်ခဲ့တယ်၊ အကုန်ချုပ်ခဲ့တယ်၊ ဒီက အစွမ်းသတ္တိကြောင့် ဟို... နတ်ပြည်မှာ အလားတူ စိတ် စေတသိက်တွေ ရုပ်တွေ ပေါ်လာတာ (မှန်ပါဘုရား) "ပဋိသန္ဓေ"အလားတူတွေ ပေါ်လာတာ (မှန်ပါ) အဲဒီလို ယူရမှာ (မှန်ပါဘုရား)

အဲသည်လို ယူလိုက်တော့ ဆက်နေတာ မဟုတ်တဲ့ အတွက် သဿတဒိဋ္ဌိလဲ လွတ်တယ်၊ (မှန်ပါ) တစ်ဖန် လုံးဝ ပြတ်တောက်နေတာလဲ မဟုတ်၊ ရှေ့က နေရာ ဖယ်ပေးခြင်းဟူသော အကြောင်းကြောင့် နောက်က ရုပ်နာမ်တွေ ဖြစ်ခွင့်ရလာတယ်-ဆိုတော့ လုံးဝ ပြတ်နေတာ မဟုတ်တဲ့အတွက် ဥစ္ဆေဒဒိဋ္ဌိကလဲ လွတ်သွားတယ် (မှန်ပါဘုရား) ဒါ လမ်းမှန်ပဲ (မှန်ပါဘုရား)

**မှတ်ချက်။** ။ဤပဋ္ဌာန်းဒေသနာတော်အရ ဒီဘက်ဘဝက ခုံခတ်ရာကြီးအတိုင်း ဟိုဘက်ဘဝမှာ ပေါ်လာတာတို့၊ ဒီဘက်ဘဝက အမာရွတ်ကြီးအတိုင်း ဟိုဘက်ဘဝမှာလဲ ပါလာတတ်တာတို့အတွက် ဘဝင်ကျအောင် အဖြေရနိုင်တော့၏။

ထို့ပြင် ဒီဘက် ဘဝက ခြေပြတ် လက်ပြတ်အတိုင်း ဟိုဘက်ဘဝမှာ ပါလာခြင်းများ၊ ဒီဘက်ဘဝက မင်ဖြင့်ဖြစ်စေ၊ အိုးမဲဖြင့်ဖြစ်စေ မှတ်လွတ်လိုက်တဲ့အတိုင်း ဟိုဘက်ဘဝမှာ ပါလာခြင်းများလည်း အတူတူပင် ဖြစ်၏၊ ထိုးကွင်းမင်ကြောင်ကိုလည်း ဤသဘောအတိုင်း မှတ်မှ သင့်မြတ်ပေတော့မည်။

## တစ်ဘဝသာသနာ

# မူးမူးရူးရူး ဦးကျော်သိန်းဘဝ

သက္ကရာဇ် ၁၃၁၈–ခုနှစ် တော်သလင်းလထဲ၌ ...ဖြစ်၏၊ တစ်နေ့တွင် မန္တလေးမှ "ဦးကျော်သိန်း" ဆိုသော ပုဂ္ဂိုလ်တစ်ဦးသည် အလုပ်အားရက်နေ့၌ ...တ်ကို လွတ်လွတ်လပ်လပ် ထားလိုက်၏၊ ထို့နောက် ...အမရပူရ တောင်သမန်အင်းစောင်း၊ အရိပ်ကောင်းသော ...ယ်ဇယ်ပင်တန်းကြီးများသို့ လာပြီးလျှင် သောက်စား မူးရူးတွေဝေနေခဲ့သည်။

ညနေပိုင်း အပြန်တွင် မင်္ဂလာတိုက်ဟောင်း ...အနီးမှ ဖြတ်သန်း၍ ပြန်လာခဲ့၏၊ များလွန်းလှသော လူအုပ်ကြီးနှင့် အစီအရီ ရပ်ထားသော ကားတွေကို တွေ့နေရသည်၊ "ဘာများ လုပ်နေကြတာပါလိမ့်"ဟု စူးစမ်းလိုသောစိတ်ဖြင့် အနီးသို့ ချဉ်းကပ်သွားလိုက်ရာ ဘုန်းကြီး တရားဟောသံကို ကြားနေရသည် ဟူ၏။

ပရိသတ်ကြီးသည် ငြိမ်သက်စူးစိုက်စွာ နာယူနေကြသည်၊ လေးလေးစားစား မှတ်သားနေကြ၏၊ ဆရာတော်က မေးလျှင် စိတ်ဝင်တစား တစ်ပြိုင်နက် ဖြေလိုက်ကြသည်ကို တွေ့နေရသည်၊ ရှေးတုန်းက ဒီလို ဟောပြောမှုမျိုး မတွေ့ဖူးချေ။

# အပူငြိမ်း၍ သောကသိမ်း

သို့နှင့် မိမိပါ အနီးသို့ တိုး၍ စူးစိုက်ပြီး နာ...ည့်ရာ သန္တတိအမတ်ကြီးဝတ္ထုဇာတ်ကြောင်း ဟော နေသည်ကို သိရ၏၊ အမတ်ကြီးသည် သောက်စား ...ယစ်နေသူ ဖြစ်သည်၊ မျက်နှာများပင် ပွရောင်ရောင် ...ဖြစ်နေ၏၊ မျက်လုံးမျက်ဖန်တွေ နီ၍ မို့နေအောင် ...ထိုင်းတွေဝေနေသူ ဖြစ်၏။

ထို့နောက် သောကမီးတောက် အပူမီးရောက်မှ ...နှင့် ကြုံရတော့သည်၊ ဆောက်တည်ရာမရအောင် ဖြစ် ...၏၊ ထို့ကြောင့် ဘုရားထံ ပြေးသောအခါ မြတ်စွာ ဘုရားက ဆီးပြီး တရားပြသဖြင့် အပူသောကမီးတွေ ...အေးရပြီးလျှင် ရဟန္တာအရှင်မြတ်ကြီးအထိ ဖြစ်၍ ...ားလေသည်၊ အပူငြိမ်း၍ သောကသိမ်းလေ၏။

ထိုအကြောင်းအရာကို ကြားလိုက်ရသည်နှင့် ...က်သီးမွေးညှင်း တဖျင်းဖျင်း ထသွားလေသည်၊

"အလိုလေး... မိမိဘဝ မိမိအဖြစ်နှင့် တူလှလေ ခြင်း၊ တူပုံမှာလည်း မူးရူးတွေဝေမှုသာ တူသည်၊ ရဟန္တာ ဖြစ်သွားမှုကား မတူပါလေ..."

ဤသို့တွေးပြီးလျှင် တရားပွဲကို ပြီးဆုံးအောင် ဆက်လက်နာယူသည်၊ နောက်နေ့များတွင်လည်း လာ၍ နာယူ၏၊ သဘောကျသည်၊ နောက်နေ့–နောက်နေ့များ တွင်လည်း လာ၍ နာ၏၊ ဤနည်းဖြင့် တရားကို စွဲ၍ သွားတော့သည်။

တရားကို သဘောကျ၍ ဆရာတော်ကို ကြည်ညိုသော်လည်း ဆရာတော့်အနားကိုကား မကပ်ဝံ့သေး၊ ရက်အတန်ကြာမှ အခြေအနေ ကြည့်ပြီး အရဲစွန့်၍ ချဉ်းကပ်ကြည့်သည်၊ ဆရာတော်က စေ့စေ့စပ်စပ် ကြည့်၍ "မင်း... ဘယ်ကလဲ"ဟု မေး၏။ "တပည့်တော် မန္တလေးကပါ ဘုရား" ဤသို့ ဖြေလိုက်သည်၊ ထို့နောက် ဆရာတော်က–

> "အေး... တရားကိုလဲ နာပါ၊ နာရုံနဲ့လဲ ကျေနပ် မနေပါနဲ့၊ ဉာဏ်နဲ့ ခန္ဓာကိုယ်ထဲလဲ စိုက်ပေးပါ၊ မပေါ့ပါနဲ့..."

ဤသို့ သတိပေးတော်မူ၏၊ ဤမျှဆုံးမမှု ရသည်ကိုပင် ဦးကျော်သိန်းအဖို့ အကျေနပ်ကြီး ကျေနပ်နေသည်၊ နောက်ရက်များတွင်လည်း ဆရာတော့်ထံ ချဉ်းကပ်၏၊ အနည်းငယ်ဆုံးမမှုကလေးများ ရသည်၊ ဤနည်းဖြင့် တဖြည်းဖြည်း ရဲလာ၏၊ ပို၍လည်း စိတ်ချမ်းသာလာသည်။ အရသာ တစ်မျိုးပင် ဖြစ်၏။

မိမိ ဘဝ အတွက် အဖေကြီး တစ်ယောက်–ကောက်ရသလိုလည်း ထင်နေမိသည် ဟူသတတ်၊ အမှန် စင်စစ်လည်း သူတို့ဇနီးမောင်နှံအတွက် အဖေကြီးပင် ဖြစ်လာပေတော့မည်။

## ကျောင်းဒကာ ကျောင်းအမများ

သက္ကရာဇ် ၁၃၁၈–ခုနှစ် သီတင်းကျွတ် (ခရစ် ၁၉၅၆–ခု အောက်တိုဘာလ ကုန်)သောအခါ ဆရာတော်၏ သက်တော်မှာ ၅၇–နှစ်၊ သိက္ခာတော်က (၃၈)ဝါ ရရှိလာလေပြီ၊ တရားပွဲတို့ကား မပြတ်မစဲ အမြဲပင် နေ့တိုင်း ရှိနေ၏၊ ပရိသတ်တို့ကလည်း အားကောင်းလွန်းလှသည်။

ဦးကျော်သိန်းသည် မန္တလေးမှ နေ့စဉ်မှန်မှန် တရားနာလာနေ၏၊ တရားအပေါ် အတော် သက်ဝင်နေပြီ၊ တရားကိုလည်း သဘောကျ၏၊ ဆရာတော်ကြီးကိုလည်း ပြေ့ည်ညိုလှသည်၊ "ဆရာတော်ကြီးအားဘာများ လှူရပါ့မလဲ"ဟု စဉ်းစားနေမိပါသတတ်၊ နောက်တော့မှ စိတ်ကူးထဲ ပေါ်လာသည်ဆို၏–

"ဆရာတော်အတွက် သီတင်းသုံးဖို့ သီးသန့်ကျောင်း မရှိသေး၊ ရေချိုးခန်း– ကုဋီခန်းနှင့်တကွ ချမ်းချမ်းသာသာ သီတင်းသုံးဖို့ ကျောင်း လိုအပ်လိမ့်မည် ထင်သည်..."

ဤသို့စဉ်းစားပြီးလျှင် ဇနီး ဖြစ်သူ ဒေါ်တင်လှနှင့် တိုင်ပင်ကြပါသတတ်၊ ဇနီးကလည်း ကြည်ကြည်ဖြူဖြူ လက်ခံခွင့်ပြုသည် ဆို၏။

သူတို့ ဇနီးမောင်နှံသည် မန္တလေးမြို့ကြီးတွင် "အောင်မြန်မာစက္ကူဆိုင်" ပိုင်ရှင်ဖြစ်ကြ၏၊ စီးပွားဥစ္စာ ပြည့်စုံသူများ ဖြစ်ကြသည်၊ သားသမီးလည်း မရှိ၊ ပိုလျှံသမျှ လှူဖို့တန်းဖို့ပင် ဖြစ်တော့သည်။

## ထေရာသန စံကျောင်းတော်

ဇနီး မောင်နှံ တိုင်ပင်ကြပြီးနောက် (၂)ထပ်တိုက်ကျောင်းပုံစံဆွဲ၍ ဆရာတော်ထံသွားပြီး ပြကြ၏၊ "ဆရာတော် သီတင်းသုံးဖို့အတွက် ဆောက်လုပ် လှူဒါန်းပါရစေ"ဟု လျှောက်ထားကြသတတ်၊ ထိုအခါ ဆရာတော်က–

"ငါ့... အသက်ကြီးခါကျမှ မင်းရဲ့ (၂)ထပ်ကျောင်းကြီးပေါ် ဆင်းလိုက်– တက်လိုက်နဲ့ အပင်ပန်း ခံရမလားကွ၊ အပင်ပန်း မခံနိုင်ပေါင်ဗျာ..."

ဟူ၍ မိန့်ပါသတတ်၊ ထို့ကြောင့် တစ်ထပ်ပုံစံ နိမ့်နိမ့်ပြင်ဆွဲ၍ "တစ်ထပ်ကျောင်းဆောင် ဆောက်လုပ် လှူဒါန်းပါရစေ"ဟု လျှောက်ကြပြန်ပါသတတ်။

ထိုအခါတွင်မှ ဆရာတော်က လက်ခံသဖြင့် မင်္ဂလာမဂ္ဂင်ရိပ်သာအတွင်း၌ "ထေရာသန စံကျောင်း"



အမရပူရ၊ မဟာဂန္ဓာရုံကျောင်းတိုက်အတွင်းဝယ် မိုးကုတ်ဆရာတော်ဘုရားကြီးအတွက် ဆောက်လုပ်လှူဒါန်းကြသော ကျောင်းဒကာ ဦးကျော်သိန်း၊ ကျောင်းအစ်မ ဒေါ်တင်လှ

(မထေရ်ကြီးတို့ သီတင်းသုံးရာကျောင်း)ကို ဆောက်လုပ်ကြတော့၏၊ သက္ကရာဇ် ၁၃၁၈–ခုနှစ် ကုန်ခါနီးတွင် စတင်ဆောက်လုပ်ကြသည်။

မန္တလေးမှ ဦးကျော်သိန်း+ဒေါ်တင်လှတို့သည် ကျောင်းဒကာ ကျောင်းအမများ ဖြစ်၍ သွားကြတော့၏၊ ရတောင့်ရခဲသော အခွင့်အရေးကို ရလိုက်ကြခြင်း ဖြစ်လေသည်။

၁၃၁၈–ခုနှစ်ဟောင်းကုန်၍ သက္ကရာဇ် ၁၃၁၉–ခုနှစ်သစ်သို့ပင် ကူးပြောင်းလာခဲ့ပြီ၊ ကျောင်းဒကာ ဦးကျော်သိန်းက ဆရာတော်ကြီးအတွက် ထေရာသန ကျောင်း ပြီးစီးရေးကိုပင် အာရုံစိုက်နေခဲ့၏၊ ထို့ကြောင့် ဆရာတော်ကြီးက–

"မောင်ကျော်သိန်း... အဆောက်အအုံအတွက် မင်းဒါလောက် ကြောင့်ကြများမနေနဲ့၊ မင့်တရား မင်းအားထုတ်၊ သူ့ဟာသူ ပြီးချိန်တန်တော့ ပြီးလိမ့်မယ်။

တင်လှလဲ မပေါ့စေနဲ့၊ အင်အားရှိတုန်း ဉာဏ်ကောင်းတုန်းမှာ အားထုတ်ကြရတာ၊ အချိန်

ကောင်း အခွင့်ကောင်းတွေကို လက်လွှတ် မကုန်ကြစေနဲ့"

ဟူ၍ မိန့်တော်မူပါသတတ်၊ ဆရာတော်ကြီးကား ဒကာ ဒကာမများအတွက် အမြဲ ငဲ့တော်မူ၏။

ဆရာတော်၏ ဝိပဿနာတရားပွဲကြီးကား နေ့စဉ် အမြဲ ခြိမ့်ခြိမ့်သဲလျက်ရှိသည်၊ သက္ကရာဇ် ၁၃၁၉–ခု သီတင်းကျွတ် (ခရစ် ၁၉၅၇–ခု အောက်တိုဘာ) အပြီးတွင် ဆရာတော်ကြီး၏ သက်တော်မှာ ၅၈နှစ်၊ သိက္ခာတော်က ၃၉ ရှိလေပြီ။

## ဒုက္ခသစ္စာ သိအောင်လုပ်ပါဦး

ဆရာတော်၏ စေတနာကား လွန်ကဲပါဘိ၊ ရောက်လာသမျှ ပရိသတ်တို့ကို မသိ– သိအောင်၊ မရှင်း–ရှင်းအောင် အပင်ပန်းခံ၍ အပြန်ပြန် အထပ်ထပ် ပြောပြပေးတော်မူ၏၊ လက်တွေ့ ရှုမှတ်ပုံကိုလည်း အမြဲ ညွှန်ပြတော်မူသည်။

ကျောင်းဒကာ ဦးကျော်သိန်း၏ သူ့စိတ်ကြိုက် စီမံ၍ ဆောက်လုပ်ခဲ့သော (ထေရာသနစံကျောင်း)သည် ၁၃၁၉–ခုနှစ်ကုန်ခါနီး (ခရစ် ၁၉၅၈)တွင် လုံးဝ ပြီးစီးသွားခဲ့၏၊ သို့သော် ဆရာတော်က လက်မခံသေး၊ ရေစက်ချ မပေးသေး။

"မင်းတို့... မောင်ကျော်သိန်းရော၊ တင်လှရော တရားကို ဖိဖိစီးစီး အားထုတ်ကြဦး၊ ကိုယ်တွင်း ဒုက္ခသစ္စာတရားတွေ (အဖြစ် အပျက်တွေ)ကို ကိုယ်ပိုင်ဉာဏ်နဲ့ ထင်ထင်ရှားရှား မြင်အောင်၊ ပိုင်ပိုင်နိုင်နိုင် သိအောင် ရှုကြဦး။

ပီးတော့မှ အဲဒီ ဒုက္ခသစ္စာတရားတို့မှ လွတ်မြောက်ရပါလို၏၊ လွတ်မြောက်ရာ နိဗ္ဗာန်ကို မျက်မှောက်ပြုရပါလို၏–ဆိုပြီး လှူဒါန်းကြရမယ်..."

ဤသို့ ညွှန်ကြား၍ ကျောင်းကို လက်မခံသေး၊ ထို့ကြောင့် ကျောင်းဒကာ ကျောင်းအမများက ကျောင်းကို လှူဒါန်းခွင့် မရကြသေး၊ တရားကိုပင် သဲသဲမဲမဲ အားထုတ်နေကြရသေးသည်။

ဤနည်းအားဖြင့် ၁၃၁၉–ခုနှစ်ဟောင်းကုန်၍ သက္ကရာဇ် ၁၃၂၀–ခုနှစ်သစ်သို့ ကူးလာခဲ့တော့သည်။

## "သစ္စာသိပြီးမှ လှူပါ"ဆိုတာ ဒါပဲ

ဆရာတော်၏ တရားပွဲကား နေ့စဉ် နေ့တိုင်း ညနေ ၄–နာရီမှ ၅နာရီအတွင်း ဖြစ်၏၊ ပရိသတ်တို့ကား "ယခုမှ သစ္စာတရားကို နာတတ်သည်" ဟု ဆိုကာ တိုး၍–တိုး၍သာ လာကြတော့သည်။

၁၃၂၀–ခုနှစ် ဝါတွင်းကာလ တစ်ခုလုံး (ခရစ် ၁၉၅၈ခု ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာ၊ အောက်တိုဘာ တိုင်အောင်) ကျောင်းဒကာ ဦးကျော်သိန်းနှင့် ကျောင်းအမ ဒေါ်တင်လှတို့သည် အမရပူရ ရိပ်သာတွင်းသို့ လာ၍ တရားကို ဖိဖိစီးစီး အားထုတ်နေကြရ၏၊ ဆရာတော်ကလည်း အထူးကြပ်မပေးနေသည်။

"သစ္စာတရားဆိုတာ တခြားကို သွားရှာနေရမှာ မဟုတ်ဘူးကွ၊ ကိုယ့်ခန္ဓာထဲမှာပဲ ရှိတယ်၊ ကိုယ့်ဉာဏ်နဲ့ ကိုယ့်ခန္ဓာထဲ ကြည့်စမ်း၊ ရုပ်ကြည့်ကြည့်၊ နာမ်ကြည့်ကြည့်၊ ကြိုက်ရာကြည့်။

## တစ်ဘဝသာသနာ

ခိုင်တာမြဲတာ တစ်ခုမှ တွေ့မှာ မဟုတ်ဘူး၊ အမြဲတမ်း ဖြစ်ပျက်ပြောင်းလွဲနေကြတာ တွေ့မယ်၊ အကုန်လုံး ပေါ်လိုက် ပျောက်လိုက်၊ ပေါ်လိုက် ပျောက်လိုက်။

ဖြစ်လိုက် ပျက်လိုက်၊ ဖြစ်လိုက် ပျက်လိုက်တွေချည်း တွေ့နေရမှာပဲ၊ ပကတိမျက်စိနဲ့ တွေ့ရမှာ မဟုတ်ဘူးနော–၊ ဉာဏ်မျက်စိနဲ့သာ တွေ့ရမှာ၊ အဲဒါတွေဟာ ဒုက္ခသစ္စာတွေချည်း ပဲပေါ့၊ ဘယ်မှာ အကောင်းဆိုလို့ရမလဲ။

အဲဒါတွေကို မမြင်ကြလို့ အကောင်းတွေ ထင်ပြီးတော့ အဲဒီရုပ်နာမ် ဘဝတွေကို တောင်းနေ ကြတာ၊ တောင်းတော့ ရရော၊ ရတော့ ဒုက္ခထဲ ပြန်နစ်ကရော။

အခုလို ဒုက္ခသစ္စာတွေကို မြင်ထားတော့ "အကောင်းတွေ မဟုတ်ဘူး"ဆိုတာ သိရော၊ သိတော့ အဲဒီဒုက္ခသစ္စာတွေကို တောင်းဦးမလား၊ မတောင်းတော့ဘူး၊ မတောင်းတော့ မရတော့ဘူး ပေါ့။

ဘာကို ပြောင်းပြီး တောင်းသလဲဆိုတော့ အဲဒီ ဒုက္ခသစ္စာတွေမှ လွတ်မြောက်ရာ နိဗ္ဗာန်ကိုသာ တောင့်တတော့တယ်။

အဲဒီလို ဖြစ်အောင်လို့ ဦးစွာ ပထမ "ဒုက္ခသစ္စာကို သိအောင် လုပ်ပါ၊ ပြီးမှ လှူပါ"လို့ ညွှန်ကြား ညွှန်ကြားနေရတာ။ ထိုအခါကျမှပင် ဦးကျော်သိန်းတို့မှာ "သြော်... သစ္စာသိပြီးမှ လှူပါ–ဆိုတာ ဒါမျိုးကိုး"လို့ သဘောပေါက်ကြရပါတော့သတတ်။

အမှန်မှာ ဝဋ်ကို မတောင့်တမိအောင်၊ ရှေးဆရာတော်ဘုရားကြီးများ ပြုပြင်ပေးကြသလို ဝိဝဋ္ဋဒါနဖြစ်အောင် ညွှန်ကြားတော်မူခြင်းပင် ဖြစ်၏၊ အသစ်အဆန်း ထွင်သည် မဟုတ်ချေ။

## အဝေးပရိသတ်များ ရောက်လာကြခြင်း

ဆရာတော်၏ ဂုဏ်သတင်းကား ထုံသင်းပျံ့နှံ့နေချေပြီ၊ ဟောပြသော သစ္စာတရားမိုးတို့ကိုလည်း သောက်ချိုး၍ မဝအောင် ရှိနေကြတော့သည်၊ နာကြားရံသာမက လက်တွေ့အားထုတ်သောအပိုင်းလည်း ပို၍ များလာသည်။

သက္ကရာဇ် ၁၃၂၀–ခု သီတင်းကျွတ်ပြီးသောအခါ ဆရာတော်၏ သက်တော်မှာ ၅၉နှစ်၊ သိက္ခာတော်က ၄၀–ဝါပြည့်လာပြီ ဖြစ်သည်၊ ဤနှစ်ထဲတွင်ပင် ဟသ်ာဘမှ ဆီစက်များနှင့် ဆန်စက်များ ပိုင်ရှင် ဦးမာဒင်နှင့် ဟသ်ာတ ဦးမြတို့ ရောက်လာကြ၏။

ဆရာတော့်ထံမှာ ရက်ရှည်လများ နေထိုင်ကြပြီး တရားအားထုတ်ရန် လာကြခြင်း ဖြစ်သည်၊ စိတ်ထက်ထက်သန်သန်ဖြင့် အမှန်ကြိုးစားဖို့ အားခဲလာကြ၏၊ တရားတော်အသံများကိုလည်း ဖမ်းယူထားမည်–ဟု အသံဖမ်းစက်များပါ–ပါလာကြသည်။

ထိုအဝေးမှလာသော ယောဂီများအတွက် ရည်ရွယ်၍ နေ့လယ်အခါတွင် (၁)နာရီမှ (၂)နာရီအတွင်း အထူးသီးသန့်ဟောပြပေးတော်မူသည်။

## ဝိဟာရမဟ=ကျောင်းလွှတ်ပွဲ

ပုဂံခေတ်က ကျောက်စာများတွင် ကျောင်းဆောက်ပြီး၍ ရေစက်ချ လှူဒါန်းသောပွဲကို "ကျောင်းလွှတ်ပွဲ"ဟု ရေးထိုးထားသည်ကို တွေ့ကြရ၏၊ စွန့်လွှတ်သည်၊ လှူဒါန်းသည်–ဟု ဆိုလို၏၊ ယင်းသို့ လှူဒါန်းသည့်ပွဲကို ပါဠိကျမ်းဂန်တို့၌ "ဝိဟာရမဟ"ဟု ဆိုသည်။ "ကျောင်းပူဇော်ပွဲ"ဟု အဓိပ္ပာယ်ရ၏။

ယခုအခါတွင် ဆရာတော်ကြီး ဦးဝိမလ၏ ညွှန်ကြားချက်အတိုင်း ကျောင်းဒကာ ကျောင်းအမ ဦးကျော်သိန်း+ဒေါ်တင်လှတို့သည် တစ်ဝါတွင်းလုံး တရားအားထုတ်၍ ပြီးကြလေပြီ၊ စိတ်ကျေနပ်ဖွယ် ဖြစ်လောက်အောင် ဆရာတော်ကြီးက ညွှန်ကြား ပြသ ပေး၏။

ထို့နောက်တွင်မှ ၁၃၂၀–ခု ပြာသိုလဆန်း (၁၃)ရက်နေ့တွင် ယင်းစံကျောင်းတော်ကို လှူဒါန်းရေးအတွက် အကြိုတရားဟော အကြိုရေစက်ချ ပေးတော်မူ၏။

ပြီးမှ တစ်ဖန် ၁၃၂၀–ခု ပြာသိုလပြည့်နေ့ (ခရစ် ၁၉၅၉–ခု ဇန်နဝါရီလ ၂၃–ရက်)နေ့တွင် သံဃာတော် အပါး ၂၀၀အား လှူဒါန်းဖွယ်များနှင့် တကွ ဆွမ်းဆက်ကပ်သည်၊ ပြီးလျှင် ရောက်လာသော ပရိသတ်တို့အား ဆရာတော်က တရား ဟော၍ ထေရာသန ကျောင်းဆောင် လှူဒါန်ခြင်းကိစ္စအတွက် ရေစက်ချပေးတော်မူသည်။

## တရားနဲ့တွေ့ဖို့က ပိုပြီးအရေးကြီး

မိုးကုတ်ဆရာတော်ကြီး၏ စကားလုံးတို့သည် အချို့နေရာတွင် အင်မတန် ထိမိလှ၏၊ မိုးကြိုးပစ်သလို "ဒင်း"ခနဲ နေအောင် မှန်လှသည်၊ နာကြားရသူတို့လည်း "လင်း"ခနဲနေအောင် လက်ခံသဘောကျသွားတတ်ကြ၏၊ အချို့ပုဂ္ဂိုလ်များက ကောင်းမှုကုသိုလ် ပြုလုပ်ပြီဆိုလျှင်–

"ဤကောင်းမှုကြောင့် နောင်လာမည့် အရိမေတ္တေယျဘုရားရှင်ကို ဆီမီးငါးတိုင် ကြာငါးနိုင်ဖြင့် လက်ဦး ဖူးတွေ့ရပါလို၏"တဲ့၊

ဆုတောင်းတတ်ကြသည်၊ သူကလည်း "လက်ဦး"၊ ကိုယ်ကလည်း "လက်ဦး"၊ နောက် တစ်ယောက်ကလည်း "လက်ဦး"၊ ဟို နောက်တစယောက်ကလည်း "လက်ဦး"၊ "လက်ဦး"ချည်းပဲ၊ ဘယ့်နှယ်လုပ်ကြမလဲ၊ ဤကိစ္စနှင့် ပတ်သက်ပြီး မိုးကုတ်ဆရာတော်ကြီးက ဤသို့ မိန့်သည်–

"ဘုရားနဲ့တွေ့ဖို့ထက် တရားနဲ့ တွေ့ဖို့က ပိုပြီး အရေးကြီးတယ်၊ ဥပကကြီးဟာ ဘုရားနဲ့ အရင်ဦးဆုံးတွေ့တာပဲကွ၊ တွေ့ပေမယ့် တွေ့တွေ့ပဲ၊ ဘာမှ မဖြစ်ဘူး။

ဟော... ကာဠီအမျိုးသမီးတို့ကျတော့ ဘုရားနဲ့ မတွေ့ပါဘူး၊ ဘုံ(၇)ဆင့်ပေါ်မှာ နေတာ၊ နတ်သား ၂–ဦး ပြောသွားတဲ့ တရားစကားနဲ့ တွေ့တော့ တစ်ခါတည်း သောတာပန် ဖြစ်သွားတာပဲ"

## တစ်ဘဝသာသနာ

# နောက်ခံ ဝတ္ထုဇာတ်ကြောင်း

*ဟုတ်ပါသည်၊ ရှင်တော် ဗုဒ္ဓပွင့်တော်မူစက "ဓမ္မစကြာ တရားဦးဟောမည်"ဆိုပြီး ဦးစွာ ပထမ ပဉ္စဝဂ္ဂီတို့ထံ ကြွတော်မူသည်၊ ဥရုဝေလာတောမှနေပြီး ဗာရာဏသီ မိဂဒါဝုန်တောသို့ ကြွရာ လမ်းခရီးတွင် ဘက္ကဒွန်းဥပကကြီးနှင့် စ၍ တွေ့၏။

တွေ့သော်လည်း ဥပကကြီးမှာ ဉာဏ်ရင့်ကျက်မှု မရှိသေး၍ တရားသဘောကို မသိနိုင်သေး၊ သို့ဖြစ်၍ ဘုရားကိုယ်တော်မြတ်က တရားဟောတော်မမူခဲ့ပါ၊ တွေ့ရုံမျှသာ ဖြစ်ပါသည်။

ထို့နောက် ဘုရားရှင်ကိုယ်တော်မြတ်ကြီး ဆက်လက် ကြွ၍ ဓမ္မစကြာတရားဦး ဟောပြီးသောအခါ နတ်တို့လည်း အကျွတ်တရားရကြ၏၊ ထိုတွင် နတ်သား (၂)ဦးက သူတို့နာကြားခဲ့ရသော တရားများအကြောင်းကို ကောင်းကင်မှ ပြောယင်း ပြန်လာကြသည်။

ထိုအချိန်၌ ရာဇဂြိုဟ်မြို့မှ သူဌေးသမီးကာဠီသည် ဘုံ(၇)ဆင့်ပေါ်တွင် ချမ်းချမ်းသာသာနေလျက် ရှိ၏၊ နတ်သားတို့၏ စကားကို ကြား၍ ထိုအတိုင်း မိမိသန္တာန်၌ နှလုံးသွင်းလိုက်ရာ သောတာပန် ဖြစ်၍ သွားတော့သည်။

ဤအမျိုးသမီးကား ဘုရားနှင့် မတွေ့ရသော်လည်း တရားနှင့် တွေ့၍သွားတော့၏၊ ဤသည်ကို ရည်ရွယ်၍ မိုးကုတ်ဆရာတော်ကြီးက မိန့်တော်မူခြင်း ဖြစ်သည်။

ဆိုလိုရင်းမှာ နောက်ဘုရားကို စောင့်မနေပါနှင့်၊ ယခု ဘုရားသာသနာ မကွယ်သေးပါဘူး၊ ဒီဘုရားသာသနာကလည်း သင်လိုချင်တဲ့နိဗ္ဗာန်ကို ပေးနိုင်ပါတယ်၊ အခု ကျင့်ယင် အခု ရနိုင်ပါသေးတယ်၊ "နောက်ဘုရားကျမှ လက်ဦး" လုပ်မနေစမ်းပါနဲ့၊ ယခု ကျင့်စမ်းပါ–ဟူလို။

"ဒီဘုရားသာသနာက ပေးပါမယ်၊ ပေးနိုင်ပါတယ်"လို့ ပြောလျက်သားနဲ့ "နောက်ဘုရားသာသနာကျမှ ယူမယ်"–ဆိုတာကတော့ ဒီဘုရားကို စော်ကားရာ ရောက်တော့တာပဲ–တဲ့။

# အခွင့်အခါကို စောင့်မနေနဲ့၊ လုပ်ယူပါ

အခုခေတ်တွင် အများအားဖြင့် ယူဆနေကြသည်မှာ ဘုရားနဲ့တွေ့လျှင် ဘုရားက တရားဟော၊ မိမိက နာယူ၊ (ဥဂ္ဃဋိတညူ ပုဂ္ဂိုလ်မျိုးလို) အားမစိုက်ရပဲ လွယ်လွယ်ကလေးနဲ့ တရားသိသွားသောနည်းမျိုး။

ဒါမှမဟုတ် ကျယ်ကျယ်ပြန့်ပြန့် ဟောပြီးလို့ တရားအဆုံးမှာ (ဝိပဉ္စိတညူ ပုဂ္ဂိုလ်မျိုးလို) အားမထုတ်ရပဲနဲ့၊ တရားသိသွားသော နည်းမျိုးကို မျှော်မှန်းတောင့်တ နေတတ်ကြသည်။

"အဲဒီအချိန် မရောက်ခင် ဒီအတွင်းမှာ ဒုက္ခတွေ ပင်လယ်ဝေရမှာကိုတော့ ထည့်ပြီး မတွက်ကြဘူး"ဟူ၍ မိုးကုတ်ဆရာတော်ကြီးက အပြစ်တင်တော်မူသည်။

မိုးကုတ်ဆရာတော်ကြီးကမူ ထိုသို့ မဟုတ်ချေ၊ နေယျပုဂ္ဂိုလ်တို့လို ကျင့်ယူပါ၊ လိုလားအပ်တဲ့အကျိုးကို အဖိုးအခပေး၍ ယူပါ၊ ကိုယ့်မှာ ရရှိလာတဲ့အခြေအနေကို အသုံးချပါ၊ လက်လွှတ်မခံပါနဲ့၊ "နောင်"ဆိုတဲ့ အနာဂတ်ဟာ မသေချာဘူး။

ဒါကြောင့် ယခုပစ္စုပ္ပန်မှာ ယခု အခွင့်ကောင်းကြုံခိုက်တွင် ယခုလုပ်ယူပါ၊ ကျင့်ယူပါ၊ အရင်းအနှီးပေး စိုက်ထုတ်ပါ၊ အလုပ်လုပ်ပါ၊ ထိုအခါ တရားနဲ့ တွေ့ပါလိမ့်မည်၊ တရားနဲ့တွေ့ဖို့က အဓိကပါ–ဟု ဆိုလိုတော်မူသည်။ (ကမ္မ=အလုပ်၊ ကမ္မဖလ=လုပ်အားခ) အလုပ်လုပ်မှ လုပ်အားခ ရနိုင်မည်၊ အလုပ်မလုပ်ပဲနဲ့ လုပ်အားခ မရနိုင် ဟူလို။

* ဝိ၊၃၊နှာ–၁၁

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ပုဂ္ဂိုလ်လေးမျိုး ဥဒါန်းထိုး

မြတ်စွာဘုရား ဟောပြထားသော ပုဂ္ဂိုလ်လေးမျိုး အကြောင်းကို အကျဉ်းမျှ ဖော်ပြပါဦးမည်၊ ယင်းတို့မှာ–

၁။ ဥဃ္ဃဋိတညူ ပုဂ္ဂိုလ်

၂။ ဝိပဉ္စိတညူ ပုဂ္ဂိုလ်

၃။ နေယျ ပုဂ္ဂိုလ်

၄။ ပဒပရမ ပုဂ္ဂိုလ်တို့ ဖြစ်ကြ၏။

(၁)ဥဃ္ဃဋိတ=သဘော အဓိပ္ပာယ် အစ အန အနည်းငယ်ကို ခွာလှန်ပြရုံမျှဖြင့်၊ ညူ="ဘွား"ခနဲ သိသွားသူ၊ ဤပုဂ္ဂိုလ်မျိုးကို "အကျဉ်းဖြင့် သိသူ"ဟု ဘာသာပြန်ကြသည်။

(၂)ဝိပဉ္စိတ=သဘောအဓိပ္ပာယ် အကျယ်ချဲ့၍ ပြကာမှ၊ ညူ=သိသွားသူ၊ ဤပုဂ္ဂိုလ်မျိုးကို "အကျယ်ချဲ့မှ သိသူ"ဟု ဆိုကြ၏။

(၃)နေယျပုဂ္ဂိုလ်ကား အကျဉ်း ဟောရုံမျှဖြင့်လည်း မသိ၊ အကျယ်ချဲ့၍ ဟောသော်လည်း မသိသေး၊ သို့သော် ဥဒ္ဒေသ ပရိပုစ္ဆာ စသည်တို့ဖြင့် ထပ်ပြန်တလဲလဲ၊ ကြိမ်ဖန်များစွာ ဆောင်ပြအပ်သောအခါ အဓိပ္ပာယ်တွေ့ သိလာ၏၊ ဤပုဂ္ဂိုလ်မျိုးကို "နေယျ ပုဂ္ဂိုလ်"ဟု ဆိုရသည်။

[ဥဒ္ဒေသာဒီဟိ နေတဗ္ဗောတိ နေယျော။ ဥဒ္ဒေသာဒီဟိ–ဥဒ္ဒေသ ပရိပုစ္ဆာ အစရှိသည်တို့ဖြင့်၊ နေတဗ္ဗော ဆောင်ပြအပ်၏၊ ဣတိ–ထို့ကြောင့်၊ နေယျော–နေယျ ပုဂ္ဂိုလ်မည်၏။]

(၄)နောက်ဆုံးပုဂ္ဂိုလ်ကား ပဒပရမပုဂ္ဂိုလ် ဖြစ်၏၊ ရှေ့ပုဂ္ဂိုလ်သုံးမျိုးတို့လို ယခုဘဝမှာ တရားမရနိုင်၊ စာပေသင်ကြား၍ ပုဒ်ပါဌ်အက္ခရာရရုံမျှသာ ဖြစ်၏၊ ထို့ကြောင့် ထိုပုဂ္ဂိုလ်မျိုးကို "ပဒပရမပုဂ္ဂိုလ်"ဟု ခေါ်ရသည်။

[ပဒံ ပရမံ ယဿာတိ ပဒပရမော။ ။ယဿ–အကြင်ပုဂ္ဂိုလ်အား၊ ပဒံ–ပုဒ်ပါဌ်အက္ခရာဟူသော၊ ပရမံ–အတိုင်းအရှည်မျှသည်၊ အတ္ထိ–ရှိ၏၊ ဣတိ–ထို့ကြောင့်၊ ပဒပရမော–ပဒပရမပုဂ္ဂိုလ်မည်၏။]

# ဥဃ္ဃဋိတညူ ပုဂ္ဂိုလ်

ဤနေရာတွင် ပုဂ္ဂိုလ်လေးမျိုးအကြောင်းကို သုတ်မဟာဝါပါဠိတော်နှင့် အဋ္ဌကထာ မဟာပဒါန သုတ်မှ ယူ၍ ဗဟုသုတအဖြစ် အကျယ်ဖော်ပြပါအံ့၊ အဋ္ဌကထာဆရာက ဥပမာဖြင့် ရှင်းပြသည်။

(၁)ရေမျက်နှာပြင်ပေါ်၌ ကျော်၍ ပေါ်နေသော ကြာတစ်မျိုး၊

(၂)ရေမျက်နှာပြင်နှင့်အညီ တည်ရှိနေသော ကြာတစ်မျိုး၊

(၃)နောက်ရက် ရောက်မှ ရေမျက်နှာပြင်ပေါ် ကျော်လျက် ပေါ်တက်လာမည့် ကြာတစ်မျိုး၊

(၄)ရေပေါ်သို့ မတက်လာတော့ဘဲ ရေအတွင်း၌ပင် ငါး၊ လိပ်တို့၏အစာဖြစ်ကာ ပျက်စီးသွားရသည့် ကြာ တစ်မျိုး ဟူ၍ လေးမျိုး ရှိသည်။

ထိုတွင် နံပါတ်(၁)ကြာမျိုးသည် အရှေ့လောကဓာတ်မှ နေမင်းကြီး တက်လာသည်နှင့် အလင်းရောင် ရ၍ "ဘွား"ခနဲ ငွားငွားကြီး ပွင့်မည့် ကြာ ဖြစ်၏။

ထိုကြာမျိုးပမာ မြတ်စွာဘုရား၏ တရားအလင်းရောင် ရလိုက်သည်နှင့် "ဘွား"ခနဲပွင့်သလို ဉာဏ်ပွင့်သွားသော ပုဂ္ဂိုလ်မျိုး ရှိ၏၊ ထိုပုဂ္ဂိုလ်မျိုးကို ဥဃ္ဃဋိတညူ ပုဂ္ဂိုလ်ဟု ခေါ်သည်၊ လက်ရှိ ငုံနေသော ဉာဏ်ကို ဖွင့်ပေးလိုက်သည်နှင့် တန်းပြီး တရားသိသွားသူ ဟု အဓိပ္ပာယ်ရ၏၊ ဤသဘောကို "အကျဉ်းဟောရုံ

အရှင်သာရိပုတ္တရာ အလောင်းအလျာ ဥပတိဿသည် အရှင်အဿဇိထံမှ ဂါထာ ၂-ပါဒကို ကြားလိုက်ရရုံမျှဖြင့် တန်းပြီး သဘောပေါက်ကာ သောတာပန်ဖြစ်သကဲ့သို့သော ပုဂ္ဂိုလ်တည်း။

မျှဖြင့် တရားသိသူ"ဟု အဓိပ္ပာယ် ပြန်ကြသည်။

[ဆောင်] သစ္စာလေး၀၊ မြတ်ဓမ္မကို၊ စ၍ဟောလင့်၊
ဉာဏ်ကိုဖွင့်က၊ လွယ်လင့်ထုတ်ချောက်၊
တရားပေါက်မှု၊ ထိုသည့်သူ၊ တည၊ုဥဃ္ဃဋိ။

# ဝိပဉ္စိတညူ ပုဂ္ဂိုလ်

နံပါတ်(၂)အမျိုးအစား ကြာသည် ရေပြင်နှင့် တညီတည်း ဖြစ်နေ၏၊ အလင်းရောင် လုံလောက်အောင် မရသေး၊ နေမြင့်လာသောအခါမှ ကြာကလည်း ရေ၁ပါသို့ ပေါ်တက်လာသဖြင့် အလင်းရောင် လုံလောက်အောင် ရလာသည်၊ ထိုအခါကျမှ ပွင့်ရတော့၏၊

ထိုကြာမျိုးပမာ ပုဂ္ဂိုလ်များလည်း ရှိသေး၏၊ ဘုရားတော်ကို အကျဉ်း အကျယ် ဟောရာတွင် အကျဉ်းဟောတုန်းက အဓိပ္ပာယ် အပြည့်အ၀ မသိသေး၊ အကျယ်ချဲ့၍ ဟောလိုက်တော့မှ ဉာဏ်တွေ ပွင့်သွားပြီး တရားထူးရသူများလည်း ရှိကြသေး၏၊ ထိုပုဂ္ဂိုလ်မျိုးကို ဝိပဉ္စိတညူ ပုဂ္ဂိုလ်ဟု ခေါ်ရသည်၊ "အကျယ် ချဲ့၍ ဟောမှ တရားသိသူ"ဟု အဓိပ္ပာယ်ရ၏။

[ဆောင်] အကျဉ်းတရား၊ ဟောတုံငြားက၊
တရားထင်ထင်၊ မသိမြင်ဘဲ၊ ချဲ့ထွင်
ထပ်လျှောက်၊ အကျယ်ရောက်မှ၊
ထွင်းဖောက်သိမှု၊ ထိုသည့်သူ၊
တညူဝိပဉ္စိ။

# နေယျပုဂ္ဂိုလ် ဆိုတာက

နံပါတ်(၃)အမျိုးအစား ကြာသည် နောက်ရက်ရောက်မှ ရေမျက်နှာပြင်ပေါ် ကျော်လျက် ပေါ်တက်လာမည့် ကြာမျိုး ဖြစ်၏၊ ထို့ကြောင့် ယခုအခါ နေအလင်းရောင်အနုကိုလည်း မရ၊ အရင့်ကိုလည်း **မ**ရသေးသဖြင့် မပွင့်နိုင်သေး။

ထိုကြာမျိုးပမာပင် တရားကို အကျဉ်းဟောပြရုံနှင့်လည်း သဘော●မပေါက်၊ အကျယ်ချဲ့၍ ဟောပြသော်လည်း အဓိပ္ပာယ် မသိသေး၊ ဤပုဂ္ဂိုလ်မျိုးလည်း **ရှိ**သေး၏။

သို့သော် ဥဒ္ဒေသ ပရိပုစ္ဆာ စသည်တို့ဖြင့် ဆောင်ပြလျှင်၊ အကြိမ်ကြိမ် အဖန်ဖန် အထပ်ထပ် ကြိုးစားလျှင် တရားရသွားနိုင်ပါသတဲ့၊ (ဥဒ္ဒေသာဒီဟိ နေတဗ္ဗာတိ နေယျော-ဆိုတဲ့ ဝိဂြိုဟ်အရ) ဤပုဂ္ဂိုလ်မျိုးကို "နေယျပုဂ္ဂိုလ်"ဟု ခေါ်ရသည်။

[ဆောင်] ဘုရားဟောဖော်၊ တရားတော်ကို၊
သင်သော်မယွင်း၊ နာယူခြင်းနှင့်၊
ရှင်းလင်းအောင်မေး၊ မြဲဆွေးနွေးလျက်၊
ကြံတွေးစဉ်းစား၊ ဘာဝနာပွားမှ၊
တရားရမှု၊ ထိုသည့်သူ၊ ခေါ်ယူနေယျ
ပုဂ္ဂလ။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## နေယျအတွက် မျှော်လင့်ချက်များ

ဤနေယျပုဂ္ဂိုလ်အတွက် မျှော်လင့်ချက်များ ရှိပါသေးသည်၊ မည်သို့ ဆောင်ရွက်ရမည်နည်းဆိုလျှင်–

(က)ဥဒ္ဒေသ=ဆရာသမားက ကျကျနန ရွတ်ပြသောကြောင့် ဖြစ်စေ၊

(ခ)ပရိပုစ္ဆာ=အနက်အဓိပ္ပာယ်ကို အမှန်အတိုင်း သိအောင် ဆရာ့ အထံ၌ ဖြည်းဖြည်း အေးအေး မေးမြန်း၍ ဖြစ်စေ၊

(ဂ)ယောနိသော မနသိကာရ=ထိုသို့ မေးမြန်းပြီးနောက် တရားအဓိပ္ပာယ်ကို စဉ်းစား ဆင်ခြင်ကာ စိတ်ထဲ၌ နှလုံးသွင်းထား၍ ဖြစ်စေ၊

(ဃ)ကလျာဏမိတ္တသေဝန=ကမ္မဋ္ဌာန်း အားထုတ်နည်း၊ နှလုံးသွင်းနည်း၊ ရှုပွားနည်းတို့ကို သင်ပြပေးနိုင်သော မိတ်ကောင်း ဆွေကောင်း၊ ဆရာသမားကောင်းတို့ကို မှီခိုဆည်းကပ်၍ ဖြစ်စေ၊

ဤအချက်များ ပြည့်စုံပြီးနောက် အဖန်ဖန်အထပ်ထပ် ကြိုးစားအားထုတ်လျှင်၊ အထက်ပါ အချက်အလက်တို့ဖြင့် ဆောင်ပြလျှင် တရားထူး ရသွားနိုင်၏၊ ထို့ကြောင့် "နေယျ"ဟု ဆိုသည်။

## ပဒပရမ ပုဂ္ဂိုလ်ကတော့

နံပါတ်(၄)အမျိုးအစား ကြာကား ရေပေါ်သို့ မတက်လာတော့ဘဲ ရေအတွင်း၌ပင် ငါး–လိပ်တို့၏ အစာဖြစ်ကာ ပျက်စီးသွားရ၏၊ ထို့ကြောင့် ရေပေါ်သို့ ပေါ်တက်၍ ကြာပွင့်အဖြစ် ပွင့်လာဖို့ရာ မျှော်လင့်ချက် မရှိ။

ဤအမျိုးအစား ကြာပမာပင် ဤပုဂ္ဂိုလ်ကလည်း ပါဠိအဋ္ဌကထာကျမ်းစာတို့ကို တတ်သိအောင် သင်ယူပြီးလျှင်၊ အဓိပ္ပာယ်ကိုလည်း ဆရာသမားတို့အထံ၌ အဖန်ဖန် မေးမြန်းပြီးလျှင် ကိုယ်တိုင် စာချ ဆရာ ကမ္မဋ္ဌာန်းဆရာ ဖြစ်၏။

သီလသိက္ခာ စင်ကြယ်စွာဖြင့် ကမ္မဋ္ဌာန်းကို ကြိုးပမ်းအားထုတ်သည်၊ သို့သော် ထိုဘဝ၌ တရားထူး မရ၊ နံပါတ်(၄)ကြာနှင့် တူ၏။

အဋ္ဌကထာ၌ ပြသည်မှာ– "ဗဟုံပိ သုဏတော = ယခုခေတ် တရားနာသလို များစွာ နာယူပါသော်လည်း၊ ဗဟုံပိ ဘဏတော=ယခုခေတ် တရား ဟောသလို များစွာ ဟောပါသော်လည်း၊ ဗဟုံပိ ဂဏှတော = များစွာ သင်ယူပါသော်လည်း၊ ဗဟုံပိ ဓာရယတော = များစွာ ဆောင်ရွက် မှတ်သားပါသော်လည်း၊ ဗဟုံပိ ဝါစယတော=များစွာ ပို့ချသော်လည်း၊ တာယ ဇာတိယာ=ထိုဘဝဖြင့် (ဝါ) ထိုဘဝ၌၊ န ဓမ္မာ ဘိသမယော ဟောတိ=တရားထူး မရနိုင်" ဟူ၍ ဖြစ်သည်။

ဤဘဝအတွက် အခွင့်ထူး အကျိုးရနိုင်မှုမှာ ဟောပြောပို့ချ၍ နားလည်ရသော ပုဒ်ပါဌ်ပဒအက္ခရာ စာပေတို့လောက်သာ ရရှိနိုင်၏။။ တရားထူးကား မရနိုင်၊ ထို့ကြောင့် (ပဒံ+ပရမံ+ယဿာတိ ပဒပရမော– ဟူသော ဝိဂြိုဟ်အရ) "ပဒပရမပုဂ္ဂိုလ်"ဟူ၍ ခေါ်ဆိုရလေသည်။

"ပုဒ်ပါဌ်အက္ခရာ ကျမ်းစာတတ်ရုံမျှသာ အလွန်ဆုံး အတိုင်းအရှည်ရှိသူ"ဟု အဓိပ္ပာယ်ရ၏ ၊

[ဆောင်] ဘုရားဟောဖော်၊ တရားတော်ကို၊ သင်
သော်မယွင်း၊ နာယူခြင်းနှင့်၊ ရှင်းလင်းအောင်
မေး၊ မြဲဆွေးနွေးလျက်၊ ကြံတွေးပို့ချ၊
တရားပြ၍ ၊ သီလသိက္ခာ၊ စင်ကြယ်စွာဖြင့်၊
ဘာဝနာကမ္မဋ္ဌာန်း၊ လွန်ကြိုးပမ်းလည်း၊
ဉာဏ်စွမ်းမပြ၊ တရား မရဘဲ၊ ဘဝနှောင်ခါ၊
အထုံပါဖို့၊ ကျမ်းစာပုဒ်ပါဌ်၊ တတ်ရုံသာထိ၊
အကျိုးရှိ၊ ခေါ်ဘိ ပဒပရမ။

## တစ်ဘဝသာသနာ

# နောက်ဘဝတို့၌ အထုံဝါသနာ ပါဖို့ဖြစ်

ယခုခေတ်တွင် "ပဒပရမပုဂ္ဂိုလ်"ဆိုလျှင် ထုံထိုင်း ဖျင်းအ စာမတတ်နိုင်သော ပုဂ္ဂိုလ်ဟု ထင်မှတ်ကြ၏၊ ဤအဋ္ဌကထာဖွင့်အရဆိုပါလျှင် ထိုသို့ မဟုတ်ချေ။

ပဒပရမပုဂ္ဂိုလ်သည် နေယျပုဂ္ဂိုလ်ကဲ့သို့ပင် စာတတ်အောင် သင်နိုင်ပါ၏၊ သို့သော် နေယျပုဂ္ဂိုလ်ကဲ့သို့ (တရားအားထုတ်သောအခါ) တရားမရနိုင်၊ ထို့ကြောင့်သာ ပဒပရမအဆင့်အတန်းသို့ လျှောကျသွားရပါသည်။

ရှေ့ပုဂ္ဂိုလ်၃-မျိုးသည် ဤဘဝ၌ တရားထူးရနိုင်၏၊ ပဒပရမပုဂ္ဂိုလ်ကား ဤဘဝ၌ တရားထူးမရနိုင်၊ သို့သော် နောက်နောက်ဘဝတို့၌ကား- (ပဒပရမာနံ အနာဂတေ ဝါသနတ္ထာယ ဟောတိ) တရားထူးရဖို့ရန် အထုံဝါသနာ ဖြစ်နိုင်၏။

ထို့ကြောင့် "ဤဘဝ၌ အားထုတ်မှုသည် လုံးလုံး အကျိုး မရှိ"ဟု မဆိုနိုင်၊ အထုံဝါသနာဖြစ်စေခြင်း အကျိုးရှိသည်သာ၊ အထုံဝါသနာဖြစ်စေပြီးလျှင် နောက်နောက်ဘဝတို့၌ တိက္ခပညာ-ထက်မြက်သောဉာဏ်ရှိသူ၊ ခိပ္ပါဘိညာ-လျင်မြန်စွာ တရားသိနိုင်သော ဉာဏ်ရှိသူများ ဖြစ်လာနိုင်သည်၊ ဥဃ္ဃဋိတညူ-ဝိပဉ္စိတညူပုဂ္ဂိုလ်များ ဖြစ်လာနိုင်ဖို့ အခြေခံ ဖြစ်သည်။ အကျိုး မယုတ်ပါ၊ အားထုတ်ပါ။

# ဘုရားလောင်းဉာဏ်မှာ ပေါ်လာတဲ့ ဥပမာ

* ဘုရားကိုယ်တော်မြတ်ကြီး တရားအားထုတ်စက ဉာဏ်ထဲမှာ ပေါ်လာတဲ့ ဥပမာ (မှန်ပါ) ကိုပေါ်တို့ကိုဝတို့ မှတ်ကြရမယ် (မှန်ပါဘုရား) ရေသဖန်းသားအတုံး အစိုကြီး ရေထဲ မျောလာ၊ ဆယ်ယူပြီး မီးရှို့၊ မီးမစွဲဘူး (မှန်ပါ) ဘယ် စွဲမလဲ၊ အစိုလဲ အစိုကြီး၊ အစေးလဲ အစေးတွေနဲ့ကိုး (မှန်ပါဘုရား)

တစ်ဖန် ရေသဖန်းသား အတုံးအခြောက်ကြီး ရေထဲမျောလာ၊ ဆယ်ယူပြီး ခဏ အခြောက်ခံ၊ မီးရှို့၊ မီးစွဲတယ်၊ မီးတောက်တယ် (မှန်ပါ) တောက်မှာပေါ့၊ အခြောက်ကြီးကိုး (မှန်ပါဘုရား)

ဒီဥပမာအတိုင်းပဲ ဝိပဿနာနဲ့ ကိလေသာတွေ ခြောက်အောင် လုပ်ရဦးမယ် (မှန်ပါ) ပြီးမှ မဂ်မီးနဲ့ ရှို့ချ (မှန်ပါ) အကုန်ပြောင်တယ် (မှန်ပါဘုရား)

ဒီမှာ ဝိပဿနာမဂ်နဲ့ ကိလေသာတွေ ခြောက်အောင် လုပ်နေတုန်း ရှိသေး (မှန်ပါ) ဘာလို့များ မရတာလဲ လုပ်မနေနဲ့၊ အစိုကြီး ဖြစ်နေသေးလို့ (မှန်ပါဘုရား)

အင်း... ဝိပဿနာနဲ့ ရှုဖန်များ လာတော့ ကိလေသာအစေးတွေ ခြောက်ကုန်တယ် (မှန်ပါ) ခြောက်တဲ့အခါမှာ မဂ်မီးနဲ့ ရှို့လိုက်ရင် ဘယ့်နှယ်နေမလဲ (အကုန်ပြောင်ပါမယ်ဘုရား) အေး...ဒိဋ္ဌိဝိစိကိစ္ဆာဆိုတဲ့ ကိလေသာတွေပြောင်ကုန်တယ် (မှန်ပါ ဘုရား)

အေး... ခြောက်မှ ရှို့ရင် ရတယ် (မှန်ပါ) အစိုရှို့ရင် (မရပါဘုရား) ဩော်... တို့ မရနိုင်တာ ဘာကြောင့်ပါလိမ့်မတုံးဆိုတော့ စိုတုန်းရှို့နေလို့ (မှန်ပါ) ခြောက်တဲ့အခါမှ ရှို့ရင် (ရမှာပါဘုရား) ရမှာပါ။

ကိုင်း... ဒါဖြင့် အားလျှော့စရာလား၊ မခြောက်သေးလို့လား (မခြောက်သေးလို့ပါဘုရား) အဲဒါကို ပါရမီကြောင့်လား-ဘာလားနဲ့ လုပ်မနေကြနဲ့ (မှန်ပါ) ပါရမီနဲ့ ဘာမှ မဆိုင်ဘူး (မှန်ပါဘုရား) မခြောက်သေးလို့ (မှန်ပါဘုရား)

* မိုး(၁၁)နှာ-၅၄၃

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ထောင်နိုင်တဲ့နားရှိရင် တိဟိတ်ပါပဲ

ဒကာကြီးလှိုင်ရေ... တချို့ကျတော့ ပါရမီ တောင် မကတော့ဘူး၊ "ငါဟာ ပဒပရမပုဂ္ဂိုလ် ထင် ပါရဲ့"ဆိုပြီး နောက်ဆုတ်သွားတတ်ကြတယ် (မှန်ပါ) စိတ်ကို လျှော့ချပစ်တတ်ကြတယ် (မှန်ပါဘုရား)

မဟုတ်ပါဘူး–တဲ့၊ သစ္စာတရားကို ထောင်နိုင် တဲ့နား ရှိလို့ ရှိရင် တိဟိတ်ပါပဲတဲ့ (မှန်ပါ)

သစ္စာတရားကို ဟောတဲ့အတိုင်း သေသေချာချာ သဘောကျပြီး သိနိုင်ရင် တိဟိတ်ပါပဲတဲ့ (မှန်ပါ) တိဟိတ်ဆိုရင် ဒီဘဝ တရားရရမှာပဲဗျ ကိုစောမောင် တို့ရ (မှန်ပါဘုရား)

အဲ... ဘုရားလောင်း ပုဂ္ဂိုလ်ကြီး တိဟိတ် ပေမယ့်လဲ ကိလေသာထုပြောနေတုန်း အစိုကို မီးရှို့နေ သလို ဖြစ်လို့ စောစောက မရခဲ့ဘူး၊ (မှန်ပါ) နောက် ခြောက်တဲ့အခါ ရှို့မှ ရသွားတယ် (မှန်ပါဘုရား)

ဒါကြောင့် အစပိုင်းမှာ အစိုကို မီးရှို့တာပဲ ရှိ သေး၊ ခြောက်လာတဲ့အခါ ရလိမ့်မယ်ပေါ့ (မှန်ပါ)

ဒကာကြီးလှိုင်... အသက်ကြီးပေမယ့် မလျှော့နဲ့၊ မာလုကျပုတ္တတို့လို မလျှော့တမ်းလုပ်တော့လဲ ရတာပဲ (မှန်ပါဘုရား) "ငါဟာ–ပဒပရမလေလား" ဆိုတဲ့ အတွေးနဲ့ တွန့်ဆုတ်မနေနဲ့၊ သစ္စာတရားကိုနာနိုင်ရင် တိဟိတ်ပါပဲလို့ ဆိုနေပြီပဲ (မှန်ပါဘုရား)။

## အလုပ်လက်ရှိနဲ့ သေလျှင် ကေန္တ

[သဂါထာဝဂ္ဂသံယုတ်၊၃၀၊အစ္ဆရာသုတ်၊ငင်းအဖွင့်။]

ရဟန်းတစ်ပါးသည် ဘုရားသာသနာမှာ သီလ လုံခြုံစွာဖြင့် တရားအားထုတ်နေ၏၊ နေ့ညဥ့်မစဲ ဖွဲ့နှင့် အားထုတ်နေသည်၊ အစာအာဟာရ နည်းပါးသဖြင့် လေနာရောဂါ ဖြစ်ပေါ်လာ၏၊ ထိုလေသည် ဓားကဲ့သို့ ထက်လှသဖြင့် အသက်ဇီဝိန်ကိုပါ ခြွေလေ၏၊ ဤသို့ ဖြစ်ရသောအခါ [ခုရသို့ံယေ၀ ကာလ မကာသိ] ဤရဟန်းသည် "ကမ္မဋ္ဌာန်းခွင်အတွင်း၌သာလျှင် ပျံ တော်မူခြင်း ဖြစ်၏"ဟု ဆိုရသည်။

"ကမ္မဋ္ဌာန်းခွင်အတွင်း" ဆိုတာ စင်္ကြံသွား လျက် တရားအားထုတ်ရင်းဖြစ်စေ၊ နောက်မှီ တကဲကို မှီလျက် တရားအားထုတ်ရင်းဖြစ်စေ၊ စင်္ကြံလမ်းအစွန်းမှာ သင်္ကန်းခေါင်းပေါ် တင် လျက် ထိုင်၍ ဖြစ်စေ၊ လဲလျောင်း၍ ဖြစ်စေ၊ ပရိသတ်အလယ် ဓမ္မာသနပလ္လင်ပေါ်၌ တရား ဟောရင်းဖြစ်စေ စုတေအံ့..."

**မှတ်ချက်။** ။ဤအားလုံးသည် "လုပ်ငန်းခွင်အတွင်း" ဟူ၍ဆိုရ၏။ အလားတူ အားထုတ်နေဆဲ ဟူသမျှကို လည်း "လုပ်ငန်းခွင်အတွင်း"ဟူ၍ ပင် ဆိုရချေမည်၊ လုပ်ငန်းခွင်အတွင်း အလုပ်လက်ရှိနှင့် စုတေသူဟူသမျှ ကေန္တ သုဂတိဘဝ သေချာသည်၊ အဆင်ပြေ၍ အကြောင်းညီညွတ်လျှင် လောကုတ္တရာမဂ် တွေပါ တက်လာနိုင်၏။

# စစ်ဗိုလ် ဖြစ်မလားလို့၊ ရတော့ ရှာဆော်ဆု

ဤရဟန်းသည် စကြာအတွင်းမှာ တရားအားထုတ်ရင်း ပျံတော်မူ၏၊ တရားရဖို့ ဥပနိဿယနဲ့နေးသောကြောင့် ရဟန္တာမဖြစ်ဘဲ တာဝတိံသာမှာ သွား၍ ဖြစ်သည်၊ အိပ်သောယောက်ျား နိုးသောလားသို့ ဖြစ်၏၊ သူ့ကိုယ်သူ စုတေမှန်းမသိ၊ သို့သော် ခန္ဓာကိုယ်ကြီးကတော့ ရွှေတုရိုင်းတိုင်ကြီးပမာ လုစစ္စာ သုံးဂါဝုတ်မျှ ဖြစ်၍လာသတတ်။

တစ်ထောင်မျှလောက်သော နတ်သမီးတွေက "တို့... ဗိမာန်ရှင်နတ်သားကြီး ကြွလာပြီ၊ ဖျော်ဖြေကြစို့"ဟုဆို၍ တူရိယာတွေနဲ့ ဝိုင်းအုံလာကြလေသတတ်။

နတ်သားကြီးက သူ့ကိုယ်သူ သေမှန်းမသိသေး၊ ရဟန်းအမှတ်ဖြင့်ပင် စက္ခုန္ဒြေချ၍ မျက်နှာ အောက်စိုက်ကာ တွေးနေမိပါသတတ်-

"ကျွက်စီ-ကျွက်စီ ဆူညံသံတွေနဲ့၊ ယနေ့ ဥပုသ်နေ့မို့ ငါ့ကျောင်းကို ဥပုသ်သည်တွေ လာကြတာ ထင်ပါရဲ့"

နတ်သမီးကလေးတွေက သူ့အမူအရာ မြင်ရုံနဲ့ သိကုန်ကြပြီ၊ (သမဏ ဒေဝပုတ္တော အယံ=) "ဒါ ဘုန်းကြီးလူထွက်နတ်သားကြီးပဲ"တဲ့၊ "ဘယ်လို လူကြီးမှန်းလဲ မသိဘူး"တဲ့၊ ဒီတွင် နတ်သမီးကလေးတွေက အော်ပြီး ပြောကြပြန်သတဲ့-

"အယျ ဒေဝပုတ္တ၊ ဒေဝလောကော နာမာယံ"
"အို... အရှင် နတ်သားကြီး၊ ဒါ နတ်ပြည်ရှင့် နတ်ပြည် နတ်ပြည်"

"န သမဏ ဓမ္မဿ ကရဏောကာသော"
"ဒါ ရဟန်းတရား အားထုတ်ရမယ့်နေရာ မဟုတ်ဘူးရှင့်၊ သိရဲ့လား..."

နတ်သမီးတွေက ပြောပြောဆိုဆို တူရိယာတွေကို ဆူညံသွားအောင် တီးမှုတ်ပစ်လိုက်ကြ သတဲ့၊ သို့သော်လည်း နတ်သားကြီးကတော့ မော့၍မျှမကြည့်၊ စက္ခုန္ဒြေကြီးချလျက်ပင်-

"ဘယ့်နှယ်... ငါ့ကျောင်းထဲလာပြီး အတီးအမှုတ်တွေ လုပ်ကြပါလိမ့်မလဲ၊ ကျောင်းဝင်းထဲ အတီးအမှုတ် မလုပ်ရပါဘူး-လို့ ပညတ်ထားတဲ့ဥစ္စာ"

ဤသို့ တွေးနေမိပါသတတ်၊ ဒီတွင် နတ်သမီးတွေက စိတ်မရှည်နိုင်လို့ (သဗ္ဗကာယိကံ အာဒါသံ) ကိုယ်လုံးပေါ် မှန်ကြီးကို ယူလာပြီး သူ့ရှေ့မှာ ထောင် ပြကြသတဲ့။

ဒီတော့မှ သူ့ကိုသူ "သေပြီး နတ်ပြည်ရောက်လာတာကိုး"လို့ သိသွားသတဲ့၊ သိလျှင် သိချင်းပဲ "အိုး... ငါက ဒီနေရာ ရောက်ချင်လို့ တရားအားထုတ်တာ မဟုတ်ဘူး၊ အရဟတ္တမဂ်ရချင်လို့ အားထုတ်ခဲ့တာပဲ"

"ဘယ့်နှယ်... စစ်ဗိုလ်ဖြစ်မလားလို့ တိုက်ပွဲဝင်ခဲ့ပါ၊ ပြန်လာတော့ "ရှာဆော်ဆု" ရသလို ဖြစ်ရပေါ့" လို့ ညည်းတွားပြီး ဘုရားထံ ပြေးလာသတဲ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဝေဒနာနုပဿနာ အခြေခံ၍ ဒိဋ္ဌိသုံးမျိုးဖြုတ်

မိုးကုတ်ဆရာတော်ကြီး ကိုယ်တော်တိုင် ဟောကြားချက်တို့မှ ကောက်နုတ်ဖော်ပြပါမည်၊

*အားလုံး ဒကာ ဒကာမတွေ... အခု တရားနာနေကြတာ ဝေဒနာနဲ့ တရားနာနေကြတာ ဖြစ်တယ်၊ (မှန်ပါဘုရား)

ကျန်းမာလို့ တရားနာနိုင်တယ်ဆိုတော့ သုခဝေဒနာနဲ့နာတာ၊ ချောင်းတွေ ဘာတွေ ဆိုးလို့ ရင်တွေ ဘာတွေ ကျပ်ပြီး နာတော့ ဒုက္ခဝေဒနာနဲ့ နာတာ (မှန်ပါ ဘုရား)

နားက ကြားပြီး နာတယ်ဆိုတော့ ဥပေက္ခာဝေဒနာနဲ့ နာတာ (မှန်ပါ)

မကျင်မကိုက်ဘဲနဲ့ဆိုယင် သုခဝေဒနာနဲ့ နာတာ၊ ချောင်းတွေဆိုး-ရင်တွေကျပ်ဆိုရင်တော့ ဒုက္ခဝေဒနာနဲ့ နာတာ (မှန်ပါ)

ဆရာသမားကို လှမ်းကြည့်တယ်၊ အသံကြားတယ် နာတယ် ဆိုတာတွေက ဥပေက္ခာနဲ့ နာတာ (မှန်ပါ)

ဒီလိုဆိုတော့ ယောကျာ်းမိန်းမတွေ နာတာလား၊ ဝေဒနာတွေ နာတာလား (ဝေဒနာတွေ နာတာပါဘုရား)

ငါတရားနာနေတယ်ဆိုရင် သက္ကာယဒိဋ္ဌိဝင်ပြီ၊ ကျွန်မတို့ တရားနာနေတယ်၊ ကျွန်တော်တို့ တရားနာနေတယ်ဆိုရင်လဲ သက္ကာယဒိဋ္ဌိပဲ (မှန်ပါ)

အဲဒီလို မဖြစ်ပါစေနဲ့၊ ဝေဒနာတွေ အလှည့်နဲ့ပြောင်းပြီး တရားနာနေကြတာ (မှန်ပါ) ခန္ဓာဉာဏ်ရောက် ပြောနေတယ်လို့ မှတ်ကြပါ၊ (မှန်ပါဘုရား)

လူတွေက များ၊ လူနံ့တွေနဲ့ နာ နေတော့ ဥပေက္ခာဝေဒနာနဲ့ နာ၊ ကိုယ့်တံထွေး ကိုယ်မျိုရင်း နာတော့လဲ ဥပေက္ခာပဲ၊ ရှူရင်း ရှိုက်ရင်းနဲ့ နာနေတာလဲ ဥပေက္ခာဝေဒနာပဲ၊ ဒါတွေက ဥပေက္ခာဝေဒနာချည်း။ (မှန်ပါဘုရား)

[မျက်စိ၊ နား၊ နှာခေါင်း၊ လျှာအထိ
ဥပေက္ခာဝေဒနာချည်း ဖြစ်သည်ကို
ရည်ရွယ်၊ ဃာနဝိညာဏ်၊ ဇိဝှါဝိညာဏ်ကို
ရည်ရွယ် မိန့်မြွက်နေ။]

အဲဒီလို ဉာဏ်ထဲ ရောက်သွားတော့ "သြော်... ယောကျာ်းမိန်းမတွေ နာတာ မဟုတ်ဘူး၊ ဝေဒနာက္ခန္ဓာကြီး အလှည့်အပြောင်းနဲ့ နာနေတာ၊ (မှန်ပါဘုရား)

## ဒိဋ္ဌိရှိနေလျှင် မဂ်ဖိုလ် မရနိုင်

ဝေဒနာနဲ့ တရားနာ နေတယ်လို့ သိရင် သက္ကာယ ဒိဋ္ဌိ ပြုတ်ပြီ (မှန်ပါ)

တစ်ခုသော ဝေဒနာကလေး ပျက်သွားတာ သိရင် သဿတဒိဋ္ဌိ ပြုတ်တယ် (မှန်ပါ)

နောက်ဝေဒနာကလေး အစားထိုးတာ သိရင် ဥစ္ဆေဒဒိဋ္ဌိ ပြုတ်တယ် (မှန်ပါဘုရား)

သဿတရယ်၊ ဥစ္ဆေဒရယ်၊ သက္ကာယရယ် ဒီ၃-ခု မပြုတ်ရင် မဂ်ဖိုလ် မရဘူး (မှန်ပါ) သူတို့က ဝေဒနာပေါ်မှန်းသိတော့မှ ပျက်မှန်းလဲ သိတယ် (မှန်ပါ) ဝေဒနာပေါ်တာရော ပျောက်တာရော ပုဂ္ဂိုလ်သတ္တဝါ မဟုတ်၊ ဝေဒနာက္ခန္ဓာတွေသာ ဖြစ်တယ်၊ (မှန်ပါ) အဲလို ဉာဏ်ရောက်သွားတော့ သက္ကာယဒိဋ္ဌိ ပြုတ်တယ် (မှန်ပါဘုရား)

ဒုက္ခ ပျက်လိုက်၊ သုခ အစားထိုးလိုက်၊ သုခ ပျက်လိုက် ဥပေက္ခာအစားထိုးလိုက်ဆိုတာ သိလာရင် မခိုင်မြဲဘူးဆိုတာ ပေါ်လာတယ် (မှန်ပါဘုရား)

* နိုး(၂၆)နာ-၃၆၃

ား‌တယ် (မှန်ပါဘုရား)

(က)သုခဝေဒနာကလေး ချုပ်သွားတာ မြင်လို့ ရှိရင် သဿတပြုတ်၊

(ခ)ဒုက္ခဝေဒနာ အစားထိုးတာ မြင်လို့ ရှိရင် ဥစ္ဆေဒပြုတ် (မှန်ပါဘုရား)

ဝေဒနာက္ခန္ဓာကြီးနဲ့ တရားနာနေတယ် ဆိုတာ မသိတော့ "ဝေဒနာပစ္စယာ တဏှာ" လာတယ် (မှန်ပါဘုရား)

တဏှာပစ္စယာ (ဥပါဒါန်ပါ ဘုရား) ဥပါဒါနပစ္စယာ (ကမ္မဘဝေါပါ ဘုရား) အဲဒီလို ပဋိစ္စသမုပ္ပါဒ်တွေ တန်းကုန်ရော (မှန်ပါဘုရား)

## ဝေဒနာနုပဿနာ ရှုပွားနည်း

မိုးကုတ်ဆရာတော်ကြီး ကိုယ်တိုင် ဟောပြောချက်တို့မှ ကောက်နုတ် ဖော်ပြပါမည်၊

* ဒါက ရူပက္ခန္ဓာ၊ ဟိုဘက်က သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာ (မှန်ပါ) ဝေဒနာက္ခန္ဓာကို ချန်ထားတယ် (မှန်ပါ ဘာလို့ ချန်ထား) ဘာလို့ ချန်ထားတုံး ဆိုတော့ သူ့ကို ဦးစားပေးပြောချင်လို့ (မှန်ပါ)

အဲဒီဝေဒနာက္ခန္ဓာဆိုတာက ကျန်တဲ့ခန္ဓာလေးပါးအပေါ်မှာ မှီပြီးမှ ပေါ်ရတာ (မှန်ပါ) သူက အမှီတရားပေါ့ (မှန်ပါ)

သူ့သက်တမ်းကလဲ တိုတိုကလေးရယ် (မှန်ပါ) (၁)ဆိုရင်ဖြစ်၊ (၂)ဆိုရင်ပျက် (မှန်ပါ) ဒါပဲ၊ ပေါ် ပြီးပျောက်တာပဲ (မှန်ပါ) ဖြစ်ပြီး ပျက်တာပဲ (မှန်ပါဘုရား)

ဝေဒနာက ၃မျိုး ရှိတယ်၊ သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာ ဝေဒနာ–လို့ (မှန်ပါ) နေပူထဲရောက်တဲ့အခါ ပူတဲ့ဒုက္ခဝေဒနာဖြစ် (မှန်ပါ) နေရိပ်ထဲဝင်လိုက်တော့ အေးတဲ့ သုခဝေဒနာသို့ ပြောင်းသွားရော (မှန်ပါ) သူဟာ ဧည့်သည်ပဲ (မှန်ပါ)

ဒီနေရာမှာပေါ် ဒီနေရာမှာပဲ ပျောက်၊ ဒီနေရာမွေး ဒီနေရာ သေ၊ (မှန်ပါ) ကောင်းကင်မှာလျှပ်စီးလက်သလိုပေါ့၊ ဒီနေရာ လင်း ဒီနေရာပဲ ပျောက် (မှန်ပါ)

အိမ်သည် ခန္ဓာကြီးကိုတော့ ခင်ဗျားတို့ သိပြီးသားပဲ၊ ဧည့်သည် ခန္ဓာပေါ်တာကို သိကြရဦးမယ် (မှန်ပါ) မသိလို့ရှိရင် ဝိပဿနာဝင်လို့ မရဘူး၊ ဧည့်သည်ခန္ဓာကို သိမှ ဝိပဿနာဝင်လို့ရမယ် (မှန်ပါ)

အဲ ဝေဒနာက ဘာခန္ဓာ ဆိုမလဲ၊ အိမ်သည်ခန္ဓာလား၊ ဧည့်သည်ခန္ဓာလား (ဧည့်သည်ခန္ဓာပါဘုရား) ပေါ်တဲ့အခါ ပေါ်လာ၊ ပျောက်တဲ့အခါ ပျောက်သွား–ဆိုတော့ ဧည့်သည်လိုပေါ့ (မှန်ပါဘုရား)

* မိုး(၂၄) နှာ–၃၈၈

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ပေါ်လိုက်-ပျောက်လိုက်ကို ရှုရမှာ

နောက်တစ်ခါ ယပ်တောင်ကလေး ဒီဘက် ရောက်လာပြန်တော့ အေးယောင်ကလေး သုခဝေဒနာ ပေါ်တယ်၊ ယပ်တောင်ကလေး ဟိုဘက်ရောက်သွားပြန် တော့ အေးယောင်ကလေး ပျောက်သွားပြန်ရော (မှန်ပါ)

ဒီတော့ သုခ ဝေဒနာကလေးဟာ ပေါ်လိုက် ပျောက်လိုက်၊ ပေါ်လိုက် ပျောက်လိုက်၊ မွေးလိုက် သေလိုက်၊ မွေးလိုက် သေလိုက် ဖြစ်နေတာပဲ (မှန်ပါ) အဲဒါကို မြင်အောင် ကြည့်ရမှာ (မှန်ပါဘုရား)

သုခဝေဒနာကလေးဟာ ပေါ်လာလိုက် ပျောက် သွားလိုက်ဆိုတာ ညှော်သည်ပေါ့ (မှန်ပါ) အမြဲရှိနေတာ မဟုတ်ဘူး၊ အဲဒီညှော်သည်ကို သိရမှာ (မှန်ပါ)

"ဝိပဿနာ ရှုတယ်" ဆိုတာ ဘာကို ရှုရတာလဲ အောက်မေ့တယ်၊ လက်စသတ်တော့ ပေါ်လာတဲ့ ညှော် သည် ခန္ဓာကို မြင်အောင် ရှုရတာကိုး (မှန်ပါဘုရား)

ဒီခန္ဓာကြီးက လက်ရှိခန္ဓာကြီး (မှန်ပါ) ဟော... နေပူလိုက်တယ်ဆိုရင် စပ်ဖျင်းဖျင်းနဲ့ အခံခက်တဲ့ ဒုက္ခဝေဒနာပေါ်လာတယ် (မှန်ပါ) အခုမှ ပေါ်လာတယ် ဆိုတော့ သူက ညှော်သည်ပေါ့ (မှန်ပါ ညှော်သည်ပါ ဘုရား)

ညှော်သည် သက်တမ်းဆိုတာ ခဏပဲ (မှန်ပါ) ပေါ်ပြီး ပျောက်သွားတာပဲ၊ ဆိုလိုတာက ဒီနေရာမှာ မွေးပြီး ဒီနေရာမှာပဲ သေသွားတယ် (မှန်ပါ)

ပူတဲ့ အိုက်တဲ့အခါ ယပ်ခတ်တယ်ဆိုပါတော့၊ အဲဒီအခါ ချမ်းသာတဲ့ သုခဝေဒနာကလေး ပေါ်တယ် (မှန်ပါ)

ယပ်တောင်ကလေးခတ်တဲ့အခိုက် အေးယောင် ကလေး သုခဝေဒနာ ပေါ်တယ် (မှန်ပါ) ယပ်တောင် ကလေး ဟိုဘက် လွန်သွားတော့ အေးယောင်ကလေး ပျောက်သွားပြန်ရော (မှန်ပါဘုရား)

# ဝေဒနာကို ဝေဒနာအတိုင်း မြင်စေ၊ ဒိဋ္ဌိ မဝင်စေနဲ့

ဒီနေရာမှာတော့ ဝေဒနက္ခန္ဓာက ညှော်သည်၊ ကျန်ခန္ဓာ၄ပါးက အိမ်သည် (မှန်ပါ) ဝေဒနာ ညှော်သည် ဘယ်နှစ်ယောက် ရှိသလဲဆိုရင် ၃-ယောက် ရှိတယ်၊ သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာဝေဒနာ (မှန်ပါ ဘုရား)

ခင်ဗျားတို့က လေအေးကလေးတိုက်လို့ ခန္ဓာ ကိုယ်ပေါ်မှာ ချမ်းသာလာရင် "ငါချမ်းသာတယ်"လို့ ငါလုပ်ပစ်လိုက်ပြီ (မှန်ပါ) ဒါ-ဒိဋ္ဌိဝင်တာပေါ့ (မှန်ပါ ဘုရား)

ဒုက္ခကလေးကပ်လာပြန်တော့လဲ "တို့များ... ဆင်းရဲလိုက်တာ"လို့ ဒိဋ္ဌိလုပ်ပစ်လိုက်ပြန်ပြီ၊ (မှန်ပါ) ဥပေက္ခာဝေဒနာပေါ်တဲ့အခါမှာလဲ ငါလုပ်ပစ်တတ်ကြ တယ် (မှန်ပါ) ဒါတွေဟာ ဒိဋ္ဌိတွေပေါ့ကွ (မှန်ပါ)

ညှော်သည်ဆိုတာ ခဏပဲနေတာ၊ ပြီးရင် ပျောက် သွားတာပဲ (မှန်ပါ) ပျောက်သွားတယ်ဆိုတာ မရှိတာပေါ့ (မှန်ပါဘုရား) အဲဒီမရှိတာကို သိရမှာ (မှန်ပါ)

ညှော်သည်တွေက ပေါ်လာပြီး ပျောက် ပျောက် ကုန်တယ် (မှန်ပါ) အဲဒီပျောက် ပျောက်ကုန်တာ၊ မရှိ တာကို သိအောင် လုပ်ကြရမှာ (မှန်ပါဘုရား)

"ဖြစ်တယ်"ဆိုတာ ညှော်သည်ပေါ်တာ၊ "ပျက် တယ်"ဆိုကာ ညှော်သည်မရှိတာ (မှန်ပါ) အဲဒီ ဖြစ်-ပျက်ကို မိအောင် ကြည့်ရမှာ (မှန်ပါ)

## တစ်ဘဝသာသနာ

အကယ်၍ "အဖြစ်"ကို မမိလိုက်ဘူး ဆိုရင် "အပျက်"ကိုတော့ မိအောင် ကြည့်၊ အဖြစ်ကို မမိ လိုက်ယင် ရှိစေတော့၊ အပျက်ကိုတော့ဖြင့် (မိအောင် ကြည့်ရပါမယ် ဘုရား)

အေး... ဟုတ်တယ်၊ အပျက်ကို တော့ မိအောင် ကြည့်ရမယ် (မှန်ပါ) အဖြစ်နဲ့ အပျက် (၂) ခုတွင် တစ်ခုခုတော့ မိအောင် ဉာဏ်နဲ့ ဖမ်း၊

(မှန်ပါ ဘုရား)

## အရှခံပေါ်ခိုက် ရှုဉာဏ်မပေါ်နိုင်

"အဖြစ်"ကိုမမိလိုက်ရင် ရှိစေတော့၊ "အပျက်" ကို တော့ဖြင့် မိအောင် ရှုရပါမယ် (မှန်ပါ) ဘာဖြစ်လို့ ဘုံး ဆိုတော့-

"အဖြစ်ကို မမိချင် ရှိပါစေတော့"ဆိုတာ သူ (အရှုခံတရား) ဖြစ်ပေါ်နေတုန်းမှာ သူက (ရှုဉာဏ် တရားများ) ဖြစ်ခွင့် မရဘူး (မှန်ပါ)

ဝေဒနာအရှုခံတရားကလဲ နာမ်၊ မဂ္ဂင်ငါးပါး ရှုဉာဏ်များကလဲ နာမ်ဆိုတော့ နာမ်တရားတို့မည်သည် တစ်ချိန်တည်း တစ်ပြိုင်နက် ၂-ခုပြိုင်၍ ဖြစ်ရိုးမှ မရှိဘဲ (မှန်ပါ)

ဒါ့ကြောင့် သူက (အရှုခံတရားများက) ပျက် သွားလို့ မရှိတဲ့ အချိန်ကျမှ ဒီရှုဉာဏ်က ပေါ်လာရတာ ကို: (မှန်ပါ ဘုရား)

အရှုခံတရားဝေဒနာကလေးကဖြစ်ပြီး ပျက်သွား တော့မှ ရှုတဲ့ဉာဏ်က ပေါ်လာခွင့် ရတာကို: (မှန်ပါ) ဒီတော့ မရှိတာကိုဘဲ တွေ့ရတော့မှာပေါ့ (မှန်ပါဘုရား)

ရှုဉာဏ်ပေါ်လာတဲ့အချိန်မှာ ဧည့်သည် ဖြစ်တဲ့ ဝေဒနာက မရှိဘူး (မှန်ပါ) အဲဒီ မရှိတာကိုဘဲ သိရမှာ (မှန်ပါ) အဲဒီ မရှိတာကို သိရင်ပဲ တော်ပြီ (မှန်ပါ ဘုရား)

ဒါဖြင့် ဧည့်သည် မရှိတာက အနတ္တ၊ မရှိမှန်း သိတာက မဂ္ဂ၊ (မှန်ပါ) မဂ်ဆိုတာ ဒီလို ယူရမှာ၊ မရှိ တာကို သိမှ မဂ်ပေါ်တယ် (မှန်ပါ)

"မဂ်ဖိုလ်ကို ရက်တိုတိုနဲ့ ရရပါလို၏"လို့ ဆု တောင်း မနေနဲ့၊ မရှိတာကို သိအောင် လုပ်ပါမှ မဂ် ရမယ် (မှန်ပါဘုရား)

## ရှေ့ပိုင်းက သိရုံမျှ၊ နောက်ပိုင်းကျမှ ဝိပဿနာ

* ဒကာ ဒကာမတို့... ဧည့်သည်လာတိုင်း ဧည့် သည် လာတိုင်း သိ-သိနေရမှာ (မှန်ပါ) မသိယင် မဂ် မဖြစ်ဘူး (မှန်ပါ) မဂ် မဖြစ်ယင် ပဋိစ္စသမုပ္ပါဒ် ဆက်လိမ့်မယ် (မှန်ပါဘုရား)

သုခဝေဒနာပစ္စယာ တဏှာ၊ တဏှာပစ္စယာ ဥပါဒါန်၊ ဥပါဒါနပစ္စယာ ကမ္မဘဝေါ-လို့ ပဋိစ္စ သမုပ္ပါဒ် တန်းသွားလိမ့်မယ် (မှန်ပါဘုရား)

ဧည့်သည် ဝေဒနာကွန္နာ လာတာကို မသိတဲ့ အတွက် ဝေဒနာပစ္စယာ တဏှာ ဥပါဒါန် ကံတွေ ဆိုပြီးတော့ အနာဂတ်အကြောင်းတွေ ဖြစ်ကုန်မယ် (မှန်ပါဘုရား) ဒါ့ကြောင့် မြတ်စွာဘုရားက-

သုခံ ဝါ ဝေဒနံ ဝေဒယမာနော-

"သုခံ ဝေဒနံ ဝေဒယာမိ"တိ ပဇာနာတိ။ သုခဝေဒနာ ဧည့်သည် ပေါ်လာတဲ့အခိုက်မှာ "သုခ ဝေဒနာ ဧည့်သည်ကလေးပေါ်နေတယ်"လို့ သိပေးတဲ့၊ ပထမရှေ့ပိုင်းအနေနဲ့ သိရုံသိပေးပါ-တဲ့။

အလားတူပဲ-

* မိုး(၂၄)နာ-၄၀၈

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဒုက္ခံ ဝါ ဝေဒနံ ဝေဒယမာနော–

"ဒုက္ခံ ဝေဒနံ ဝေဒယာမိ"တိ ပဇာနာတိ။

ဒုက္ခဝေဒနာဆည့်သည် ပေါ်လာတဲ့အခါမှာလဲ "ဒုက္ခဝေဒနာ ဧည့်သည်ကလေး ပေါ်နေတယ်"လို့ သိပေးတဲ့၊ ထို့အတူ–

ဥပေက္ခံ ဝါ ဝေဒနံ ဝေဒယမာနော–

"ဥပေက္ခံ ဝေဒနံ ဝေဒယာမိ"တိ ပဇာနာတိ။

ဥပေက္ခာဝေဒနာ ဧည့်သည် ပေါ်တာကိုလဲ "ဥပေက္ခာဝေဒနာ ဧည့်သည်ကလေး ပေါ်တာ"လို့ သိပေးပါ–တဲ့၊ ပထမပိုင်းအနေနဲ့ သိရုံပဲ သိပေးပါ (မှန်ပါ)

နောက်ပိုင်းကျတော့မှ–

သမုဒယဓမ္မာနုပဿီဝါ ဝေဒနာသု ဝိဟရတိ၊
ဝယဓမ္မာနုပဿီဝါ ဝေဒနာသု ဝိဟရတိ–တဲ့။

အဲဒီဧည့်သည် ဝေဒနာကလေးတွေ ဖြစ်ပေါ်လာတာ ပျောက်ပျက်ကုန်တာ၊ မွေးဖွားလာတာ သေသေကုန်တာကိုပါ သိအောင် လုပ်ပြီး နေပါ–တဲ့။

အဲဒီကျမှ ဝိပဿနာ ဖြစ်တယ် (မှန်ပါ) သုခဒုက္ခ–ဥပေက္ခာ–ဝေဒနာကို မတွေ့ရတော့ဘဲ အဖြစ်အပျက်ကိုသာ တွေ့အောင် ရှုရမယ် (မှန်ပါ) အဲဒီကျမှ ဝိပဿနာဖြစ်တယ် (မှန်ပါဘုရား)

အဖြစ်–အပျက်တွေကို တွေ့နေပြီဆိုရင် ဆက်ရှု၊ ကြာတော့ မုန်းလာလိမ့်မယ် (မှန်ပါ) မုန်းလာလဲဆက်ရှု၊ နောက်တော့ အဖြစ်အပျက်တွေ ဆုံးသွားတာကို တွေ့ရလိမ့်မယ် (မှန်ပါ) အဲဒီကျမှပဲ တစ်ဆင့်အောင်မြင်ပြီလို့ ဆိုရမယ် (မှန်ပါဘုရား)

ကဲ... တော်ကြဦးစို့။

## ဝေဒနာနိရောဓ တဏှာနိရောဓ

* ဤနေရာတွင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဟောပြောချက်တို့မှ ကောက်နုတ်တင်ပြပါမည်။

ကဲ... ဒကာကြွယ်တို့၊ ဦးမာဒင်တို့၊ ဦးသန်းမောင်ကြီးတို့က ပါဠိတော်ရွတ်လိုက်ကြစမ်းပါ၊ ဝေဒနာပစ္စယာ (တဏှာပါ ဘုရား) ဒါက ဝိပဿနာ မရှုတဲ့ ပုဂ္ဂိုလ်တွေအတွက် ပြောတာပါ (မှန်ပါ)

ဝိပဿနာ မရှုတဲ့ ပုဂ္ဂိုလ်တွေအတွက် ဝေဒနာပြီးရင် တဏှာလာနေကျ မဟုတ်လား (မှန်ပါ လာနေကျပါ ဘုရား) ဟုတ်တယ်၊ လာနေကျ။

အဲ... ဝိပဿနာ ရှုတဲ့ ပုဂ္ဂိုလ်တွေ ကျတော့ ဝေဒနာကို ရှုလိုက်ရင် ဝေဒနာကို မတွေ့ရတော့ဘူး၊ ဝေဒနာတွေ ပျက်–ပျက်ကုန်တာကိုပဲ တွေ့ရတော့တယ် (မှန်ပါ)

ဝေဒနာတွေ ပျက်ကုန်တယ်ဆိုတာ ချုပ်ကုန်တာပေါ့ (မှန်ပါ) ချုပ်တာက ပါဠိလို နိရောဓပဲ (မှန်ပါဘုရား) ဒီတော့ ဝေဒနာနိရောဓပေါ့ (မှန်ပါဘုရား)

"ဝေဒနာနိရောဓ=ဝေဒနာ ချုပ်တာကို တွေ့တယ်" ဆိုတာ မဂ်က တွေ့တာ (မှန်ပါ) အဲဒီမဂ်နဲ့ ဝေဒနာတွေကို ကြည့်လိုက်တော့ ဝေဒနာတွေကို မတွေ့ရတော့ဘူး၊ နိရောဓဖြစ်ကုန်တာကိုပဲ တွေ့ရတော့တယ် (မှန်ပါဘုရား)

ဘာလို့လဲဆိုတော့ ဝေဒနာဆိုတာ နာမ်တရား၊ မဂ်ဉာဏ်ကလဲ နာမ်တရားပဲ (မှန်ပါ) နာမ်တရားတို့မည်သည် တစ်ချိန်တည်းမှာ ၂–ခု ပြိုင်၍ ဖြစ်ရိုးထုံးစံမရှိ၊ (မှန်ပါ)

ဒီတော့ ဝေဒနာပေါ်နေခိုက် မဂ်ဉာဏ် မပေါ်နိုင်ဘူး၊ (မှန်ပါ) ဝေဒနာ ချုပ်သွားမှပဲ မဂ်ဉာဏ်က ပေါ်နိုင်တော့တယ် (မှန်ပါဘုရား) အဲဒါကြောင့် အဲဒီအခါမှာ ဝေဒနာကို မတွေ့ရတော့ဘဲ ဝေဒနာနိရောဓကိုပဲ တွေ့ရတော့တယ်လို့ဆိုတာ (မှန်ပါဘုရား)

ဘယ်သူက တွေ့တာလဲ (မဂ်က တွေ့တာပါဘုရား) ဟုတ်တယ်၊ မဂ်က ဝေဒနာတွေ မရှိတာကို တွေ့နေတာ (မှန်ပါ) ဝေဒနာအနိစ္စ ဖြစ်သွားတာကို မဂ်က တွေ့နေတယ် (မှန်ပါဘုရား)

• နိုး(၂၆)နာ–၄၈၃မှ၄၉၁

## တစ်ဘဝသာသနာ

# တဏှာနိရောဓောတိ မဂ္ဂေါ

အဲဒီ ဝေဒနာချုပ်တဲ့နေရာမှာ မဂ်က ရောက်လာ ာယ်၊ (မှန်ပါ) ဒီအခါမှာ ဝေဒနာလဲ မရှိတော့ဘူး၊ ဝေဒနာနဲ့ မဂ် နာမ် တရားတွေဟာ တစ်ပြိုင်နက် ာစ်ချိန်တည်း ၂-ခုပြိုင်၍မှ ဖြစ်ရိုး မရှိဘဲ (မှန်ပါ)

အဲဒါကြောင့် ဝေဒနာချုပ်ခိုက်တွင် မဂ်ဉာဏ် င်နေဆဲအခါမှာ တဏှာလဲ လာလို့ မရတော့ဘူး၊ မှန်ပါ) ဘာလို့လဲဆိုတော့ တဏှာလဲ နာမ်တရားပဲ ဟုတ်လား (ဟုတ်ပါတယ် ဘုရား) ၂-ခု ပြိုင်၍ ဖြစ်ရိုးမရှိဘူး (မှန်ပါ)

မဂ်ဉာဏ်က ဟဒယဝတ္ထုပေါ်မှာ ပေါ်နေကျ၊ တဏှာလာရင်လဲ ဟဒယဝတ္ထုပေါ်မှာပဲ လာရမှာ မှန်ပါ) ဒီတော့ တဏှာလာမယ့်နေရာမှာ မဂ်ဉာဏ်က အရင်ဝင်ပြီး ဦးနေနှင့်တယ် (မှန်ပါဘုရား)

အဲဒါကြောင့် နေရာ မအားလပ်တဲ့အတွက် တဏှာလဲပေါ်လို့မရ၊ တဏှာနိရောဓ ဖြစ်သွားရတော့ ာပေါ့ (မှန်ပါဘုရား)

တဏှာပေါ်ခွင့်မရဘဲ တဏှာနိရောဓ ဖြစ်သွားရ ာယ်ဆိုတာ တဏှာလာမယ့်နေရာ မဂ်ရောက်နေလို့ မှန်ပါ) ဒါဆိုရင် တဏှာနိရောဓနှင့် မဂ်ပေါ်နေတာနှင့် ဒီမျှတာပေါ့ (မှန်ပါဘုရား) အဲဒါကြောင့် "တဏှာ ရောဓောတိမဂ္ဂေါ"လို့ ဖွင့်ဆိုတာကိုး (မှန်ပါဘုရား)

ဒီအထဲမှာ အရေးကြီးတဲ့ စကား ၂-လုံးပါတယ်၊ "ဝေဒနာပစ္စယာ တဏှာ၊ သံသရာလည်လမ်း"နှင့် "ဝေဒနာနိရောဓာ တဏှာနိရောဓော၊ သံသရာ ထွက်လမ်း"ဆိုတဲ့ စကား၂-လုံး (မှန်ပါဘုရား)

အရေးကြီးလို့ ထပ်ပြောရဦးမယ်၊ ရှုတဲ့ပုဂ္ဂိုလ်မှာ ဝေဒနာနိရောဓာ (တဏှာနိရောဓောပါဘုရား) ဟော... တဏှာနိရောဓောဖြစ်တဲ့ မဂ်ပေါ်တယ် (မှန်ပါ)

မရှုတဲ့ပုဂ္ဂိုလ်ကျတော့ ဝေဒနာပစ္စယာ (တဏှာပါ ဘုရား) တဏှာ ဖြစ်လို့ ရှိရင် တဏှာ ဥပါဒါန် ကံ ဇာတိ ဇရာမရဏဆိုပြီးတော့ သံသရာတွေ ဆက်ကုန် ရော၊ ပတ်ကုန်ရော...။ သံသရာလည်လမ်းပေါ့ (မှန်ပါ ဘုရား)

ရှုတဲ့ပုဂ္ဂိုလ်ကျတော့ ဝေဒနာနိရောဓာ (တဏှာ နိရောဓောပါဘုရား) တဏှာမလာရတဲ့အတွက် မဆက် ဘူး၊ တဏှာချုပ်တယ် (မှန်ပါ)

တဏှာချုပ်တော့ ဥပါဒါန်ချုပ်၊ ကံချုပ်၊ ဇာတိ ချုပ်၊ ဇရာ မရဏတွေပါ ချုပ်ကုန်တယ်၊ သံသရာ ထွက်လမ်း (မှန်ပါဘုရား)

အေး... ဒါတွေကို ဘယ်သူက ချုပ်စေတာလဲ၊ (မဂ်က ချုပ်စေတာပါ ဘုရား) တစ်မဂ်ပြီး တစ်မဂ်၊ ဆက်၍ ဆက်၍ ပေါ်နေတော့ သူတို့တွေ ပေါ်ခွင့်မရဘဲ ချုပ်ကုန်ရတော့တာပေါ့ (မှန်ပါဘုရား)

ဆိုလိုတာက "တဏှာနိရောဓောတိ = တဏှာ ချုပ်နေတယ်" ဆိုတာ "မဂ္ဂေါ = မဂ်ပေါ်နေလို့" ဟူ၍ အဓိပ္ပါယ်ရသည်။

# ဖြစ်-ပျက် သူဆိုလေရော့သလော့

မိုးကုတ်ဆရာတော်ကြီး သီတင်းသုံးတော်မူတဲ့ မရပူရ၊ မင်္ဂလာမဂ္ဂင်ရိပ်သာအတွင်း၌ အရိပ်ကောင်း ာ မန်ကျည်းပင်ကြီးများ အစီအရီ ပေါက်လျက် ာသည်၊ တစ်ပင်နှင့် တစ်ပင်လည်း အရိပ်ချင်း ဆက်လျက် ရှိကြ၏၊ ဝင်းခြံရိပ်သာကြီး တစ်ခုလုံးလိုလို အရိပ်တွေက မိုးနေသည်။

ထိုမန်ကျည်းပင်ကြီးများ အလွန်တွင် ဆရာတော် ၏ စံကျောင်း ဝန်းကျင်၌ စိမ်းရွှင်သော အုန်းပင်ကြီးများ

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ကွမ်းသီးပင်ကြီးများလည်း အစီအရီ ပေါက်လျက် ရှိကြပြန်၏၊ ထိုဥယျာဉ်မြိုင်ရိပ်တကြောတွင် ပျော်စရာကောင်း၍လော မပြောတတ်၊ တစ်ပင်နှင့်တစ်ပင် ကူးသန်း ပြေးသွားဆော့ကစားနေကြသော ရှဉ့်နက်ကလေးများလည်း ရှိကြသည်။

သူတို့၏ပါးစပ်ဖျားက တစ်တက်–တစ်တက်နှင့် ကြွက်ကြွက်ညံအောင် မြည်ကြရင်း တစ်ကောင်နှင့် တစ်ကောင် လိုက်တမ်းပြေးတမ်း ကစားနေတတ်ကြ၏၊ "ဖြစ်–ပျက်" "ဖြစ်–ပျက်"ဟူ၍ ဆိုကြလေသလား မပြောတတ်။

"ဥဒယ–အဖြစ်၊ ဝယ–အပျက်၊ ဥဒယဗ္ဗယ = အဖြစ်အပျက်"ဆိုတာကို အခြေခံပြီး ဉာဏ်အဆင့်ဆင့်တက်မှ နိဗ္ဗာန်နန်းကို မြန်းနိုင်မယ်–လို့ သတိပေးသယောင်ယောင်လည်း ထင်ရသည်။

၁။ ရှဉ့်နက်ကလေးတို့က
တစ်တက်–တစ်တက်နှင့်
ဖြစ်–ပျက် သူဆိုလေရော့သလော့
ဓမ္မချို့တေး။

၂။ ရှုမှတ်ရမှာက–
ဥဒယဗ္ဗယ အခြေခံလို့မို့
နေရဗာန် နိဗ္ဗာန်နန်းကိုကွယ်
မြန်းဖို့ မနေး။ ။

## ပေးတဲ့ဆုနဲ့ ပြည့်စုံရပါလို၏–တဲ့

"ပေးတဲ့ဆုအတိုင်း ပြည့်စုံရပါလို၏"တဲ့၊ ခက်လိုက်တဲ့ဖြစ်ခြင်း၊ အတော်ဆိုးတဲ့လူတွေ၊ ဘယ်ရမလဲဗျ၊ ပေးတဲ့ဘုန်းကြီးကလဲ ထုံးစံအတိုင်း ပေးတာ၊ ခင်ဗျားတို့ကလဲ အလကား လိုချင်တာဆိုတော့ ကိုက်နေတာပဲ။

ဤသို့လျှင် မိုးကုတ်ဆရာတော်ကြီးက အချောင်ရချင်တဲ့သူတွေကို ခပ်ရွှန်းရွှန်း မိန့်၍ နက်တော်မူ၏။

*"အလုပ်လဲ မလုပ်ဘဲနဲ့ ခင်ဗျားတို့က နိဗ္ဗာန်ရချင်၊ ဘုန်းကြီးရှေ့ သွားကန်တော့တယ်၊ သည်တော့ ဘုန်းကြီးက ဆုပေးတယ်–

"ဝဋ်ဘဝတိုတိုနဲ့ မဂ်ဖိုလ်နိဗ္ဗာန်ကို
ရလွယ်ကြသည်ဖြစ်စေ"တဲ့၊

အဲလိုဆိုတော့ ခင်ဗျားတို့ကလဲ အချောင်သမားတွေ၊ တရား အလုပ်တော့ မလုပ်ချင်ဘူး၊ ဘာပြန်ပြောတုံးဆို–

## ဘုရားပေးနိုင်တဲ့ဆု မဟုတ်ဘူး

တစ်ခါတလေ ဆရာတော်က ဒကာတွေအပေါ်မှာ အားမရနိုင်လို့ ဖြစ်ဟန်တူသည်၊ "အလုပ် လုပ်ပါ၊ ကြိုးစားပါ"လို့ သတိပေးနေတဲ့ကြားက ဘုရားရှေ့သွားပြီး ကိုယ်လိုချင်တာတွေကို စုံအောင် ဆုတောင်းတတ်ကြ၏၊ ဤသို့ ပြုမူကြသည်ကို ရည်ရွယ်၍ အောက်ပါအတိုင်း မိန့်တော်မူတော့သည်–

"ခင်ဗျားတို့က ဘုရားနား သွားပြီး ရှေ့ကနေ ပိတ်ထိုင်၊ ပီးတော့ ကျယ်လောင် ကျယ်လောင်နဲ့ ဘုရားရှိခိုးကြတယ်၊ (မှန်ပါ)

• မှတ်ချက်။ ။သစ္စာအနက်(၁၆)ချက်၊ပအုပ်၊နှာ–၂၁၇။

## တစ်ဘဝသာသနာ

အမှန်ကတော့ ခင်ဗျားတို့ဟာက ကျက်ထားတဲ့စာကို မေ့မှာစိုးလို့ ဘုရားရှေ့ သွားပြန်တာနဲ့ တူနေတယ် (မှန်ပါဘုရား)

ဘာလို့လဲဆိုတော့ ပါးစပ်ကသာ ဆိုနေတာ၊ စိတ်က ဘုရားဂုဏ်တော်ဆီကို ရောက်မှ မရောက်ဘဲ (မှန်ပါ)

နှုတ်တက် ရနေလို့သာ ဆုံးသွားတာ (မှန်ပါ) ဒီတော့ စာပြန်တာနဲ့ တူနေတာပေါ့ (မှန်ပါ ဘုရား)

ပီးတော့ ဆုတောင်းကြသေးတယ်၊ "ဇာတိဇရာ ဗျာဓိမရဏာမှာ ပရိမုစ္စိဿာမိ"တဲ့၊ ဒီလိုဘုရားရှိခိုးရတဲ့ အတွက်ပေါ့လေ... ပဋိသန္ဓေ အို နာ သေ ဘေးမှ လွတ်ရပါလို၏၊ လွတ်ပါရစေတဲ့ (မှန်ပါဘုရား)

ဘယ်... ဒီဆုမျိုးကို ဘုရားက ပေးလိမ့်မလဲ၊ ပေးနိုင်တာမှ မဟုတ်ဘဲ (မှန်ပါဘုရား) ဒါကို ခင်ဗျားတို့က ဖွတ်တောင်းနေကြတယ်၊ (မှန်ပါ) ဘုရားကို နားပူနားဆာလုပ်ကြတယ်၊ (မှန်ပါဘုရား)

## တစာစာ တောင်းမနေနဲ့၊ လုပ်ယူကြ

ရုပ်တုတော်မို့လို့သာပေါ့ဗျာ... သက်တော် ထင်ရှား ဘုရားသာ ဆိုလို့ရှိရင် "နားငြီးတယ်" ဆိုပြီး ခြေထောက်နဲ့ ဆီးပြီး ကန်ချင်စရာ၊ (မှန်ပါ)

ခင်ဗျားတို့ဟာ တော်တော် အတောင်းအရမ်း ထူတဲ့ လူတွေ (မှန်ပါဘုရား) အတောင်းအရမ်း ထူတဲ့ လူတွေဆိုတာ ဘယ်အမျိုးတုံး (သူတောင်းစားမျိုးပါဘုရား) အေး... အဲဒီထဲက ဖြစ်နေပြီ ခင်ဗျားတို့ (မှန်ပါ ဘုရား)

ဒါမျိုးက ဆုတောင်းယူလို့ ရတာ မဟုတ်ဘူး၊ လုပ်ယူမှ ရတာ (မှန်ပါ) အဲဒါ လုပ်ယူကြ၊ တစာစာ တောင်းမနေကြနဲ့၊ တန်ရာ တန်ကြေးလုပ်အားပေးပြီး ယူကြ (မှန်ပါဘုရား)

[မိုး(၁)နှာ-၃၀၄။]

## ဘုန်းကြီးများရဲ့ သာဝကတွေပဲ

မိုးကုတ်ဆရာတော်ကြီးက ဟိုလိုလို ဒီလိုလိုနဲ့ ဆရာရွေးရန် တွေဝေနေကြတဲ့ သူတို့အတွက်လည်းကောင်း၊ ပါရမီတွေကို ဖြည့်ရင်း နောက်ဘုရားကို မျှော်နေသူတို့အတွက်လည်းကောင်း အောက်ပါအတိုင်း ရဲရဲကြီး ဟောတော်မူသည်။

* "ခင်ဗျားတို့တွေဟာ ဂေါတမဘုရားနဲ့ ဘာမျှ မဆိုင်ဘူး၊ ဂေါတမဘုရားရဲ့သာဝကတွေလဲ မဟုတ်ဘူး (မှန်ပါ)

ဂေါတမဘုရား သာဝက ဆိုတာ ကောဏ္ဍညအစ သုဘဒ်အဆုံး၊ ဒါပဲ ရှိတယ်၊ သူ့သာဝကတွေ ကုန်ပြီ၊ ကုန်လို့ ပရိနိဗ္ဗာန်ပြုသွားတာ (မှန်ပါ) ကျန်သေးရင် မပြုသေးဘူး (မှန်ပါ ဘုရား)

ဂေါတမဘုရား တရား ဟောလို့ "၂၄-သချေ်၊ ကုဋေ ရှစ်ဆယ်၊ ဗိုလ်ခြေ တစ်သိန်း" ကျွတ်တမ်း ဝင်ကုန်ကြပြီ၊ အဲဒီထဲ ကောဏ္ဍညအစ သုဘဒ်အဆုံး ပါသွားပြီ။

---

(၁၄.၈.၅၈) ဟော တရား

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

အဲဒါ တွေဝေမနေကြနဲ့၊ အလုပ်လုပ်ကြ၊ အလကား အချောင်မရနိုင်ဘူး၊ အလုပ်လုပ်မှ လုပ်အားခ ရကြမယ်၊ (မှန်ပါဘုရား) အေး ဒါပဲ၊ အလုပ်လုပ်ကြ (မှန်ပါ ဘုရား)

ကျန်တဲ့နောက်လူတွေက သူ့ဆရာနဲ့၊ သူ့သာဝကနဲ့ ကျွတ်တမ်းဝင်ကြမှာ၊ ခင်ဗျားတို့ သည်ပင် ကျုပ် ချွတ်မှ ကျွတ်ကြမှာတွေ (မှန်ပါ ဘုရား)

## နောက်ဘုရားကို မျှော်မနေနဲ့

ပါရမီတွေက ပြည့်နေပြီ၊ နောက်ထပ်ဖြည့်ဖို့ရန် မလိုတော့ဘူး၊ အခုရ အခု နိဗ္ဗာန်ယူမယ်ဆိုတဲ့ သူ တွေအဖို့ ပါရမီတွေက လုံလောက်နေပြီ၊ ကြိုးစားဖို့ပဲ လိုတော့တယ်။ (မှန်ပါဘုရား)

သဗ္ဗညုဘုရားတို့-ပစ္စေကဗုဒ္ဓါတို့အတွက် ပါရမီ လိုတယ်၊ အဂ္ဂသာဝက မဟာသာဝက၊ အသီတိသာဝက တို့အတွက်လဲ ပါရမီလိုတယ်၊ ရိုးရိုးပကတိသာဝက အဖြစ်နဲ့ နိဗ္ဗာန်ကို ယူမယ့် သူတွေအဖို့ ပါရမီ မလို တော့ဘူး၊ ပြည့်နေပြီ၊ လုံလောက်နေပြီ။

အဲဒါကြောင့် "ပါရမီအလိုက် မဟုတ်ဘူး၊ ဉာဏ်အလိုက် တရားရလိမ့်မယ်"လို့ ဘုန်းကြီးတို့က ပြောတယ် (မှန်ပါ)

ယုံကြည်-ကျန်းမာ စသော အင်္ဂါငါးချက်နှင့် ညီရင် တရားရတာပဲ (မှန်ပါဘုရား) ဒါနဲ့တောင် နောင်လာမယ့် မေတ္တေယျဘုရားကို စောင့်နေအုံးမယ် ဆိုရင်တော့ ဒီဘုရားကို သပိတ်မှောက်ရာ ရောက် တော့တာပေါ့ (မှန်ပါ)

မင်းတို့ လိုချင်တဲ့နိဗ္ဗာန်ကို ဒီဘုရားက ပေးနိုင်ပါ တယ်ဆိုတဲ့ ဥစ္စာ၊ အဲဒါ မင်းတို့တွေက နောက်ဘုရားကို သွားမျှော်နေတယ်ဆိုရင်တော့ ဒီဘုရားကို စော်ကား ရာလဲ ကျတယ်၊ အားမနာရာလဲ ရောက်တယ် (မှန်ပါ) ဒီဘုရားရဲ့သတိပဋ္ဌာန်ကို သပိတ်မှောက်တဲ့သဘောလဲ ဖြစ်ကုန်တော့တယ် (မှန်ပါဘုရား)

## တောက်တဲ့ကြီးက သာဓုခေါ်

နောက်နောက်ဝေနေယျတို့ကား နောက်နောက် ဆရာတို့၏တရားကို နာကြားပြီး အားထုတ်ပြီး ကျွတ် တမ်းဝင်ကြရမည်-ဟု ဆိုသည်၊ သူ့သာဝကနှင့် သူပင် ဖြစ်၏ဟူသတတ်။

ထိုသဘောပင် ဖြစ်လေမည်လော မပြောတတ် တောင်ငူမြို့တွင်၊ ရွှေဆံတော်ဘုရားကြီးအနီး မြောက် ဘက်၌ မိုးကုတ် ဝိပဿနာ ဓမ္မရိပ်သာအဖွဲ့ခွဲ ရှိ၏

မြတ်စွာဘုရားက ကျွတ်ထိုက်တဲ့ သတ္တဝါ တွေကို အကုန်ချေချွတ်၍ သွားတော်မူခဲ့၏၊ ၂၄သချေ် ကုဋေရှစ်ဆယ် ဗိုလ်ခြေတစ်သိန်းမျှ ကျွတ်တမ်းဝင်ခဲ့ ကြသည်ဟု အဆို ရှိသည်။

အရှင်ကောဏ္ဍညအစ သုဘဒ္ဒအဆုံး ရှိသော ဝေနေယျတို့ကို အကုန် ချေချွတ်ပြီးမှ ပရိနိဗ္ဗာန် ပြု တော်မူသည်-ဟု ဆို၏။

ာင်းအဖွဲ့ခွဲ၌ "တောက်တဲ့ကြီး"တစ်ကောင်ရှိသည်။

မိုးကုတ်ဝိပဿနာကမ္မဋ္ဌာနာစရိယ ဓမ္မကထိက ဃောသိတ လာရောက်၍ တရားဟောလျှင် အမြဲတမ်း ် သူက "တောက်တဲ့–တောက်တဲ့"ဟု မြည်ကာ ာစု ခေါ်လေ့ရှိပါသတတ်။

ဦးဃောသိတ ပြန်သွား၍ ကျန်ရစ်တဲ့ တရား ိပ်ခွေ (ဦးဃောသိတ အသံပါတဲ့ တရားတိပ်ခွေ) ဲ့ ဖွင့်လျှင်လည်း တောက်တဲ့ကြီးက သာဓုခေါ်သည် ာ၊ အခြားကိုယ်တော်များ လာ၍ တရားဟောလျှင် ်င်းတောက်တဲ့ကြီးက သာဓု မခေါ်ပေ၊ ငြိမ်၍သာ ေတတ်၏–တဲ့။

သက္ကရာဇ်၁၃၅၄–ခု နှစ်သစ်ကူးစ တန်ခူးလ (ခရစ် ၁၉၉၂-ခု ဧပြီလ)ထဲက တရားစခန်းပွဲဆိုလျှင် ဦးဃောသိတ တရားဟောနေချိန်၌ ယင်းတောက်တဲ့ ကြီးမှာ ဦးဃောသိတ၏ နောက်နားအထိ လာ၍ တရားနာတော့သည်။

ယင်း စခန်းပွဲ၌ ဦးဃောသိတ ဟောသမျှ အကြိမ်တိုင်း လိုလို ခေါင်မိုးပေါ်က ဆင်း–ဆင်းလာပြီး ဦးဃောသိတ၏ နောက်နားအထိလာ၍ တရားနာ တော့သည် ဟူသတတ်၊ အများပရိသတ်ပါ မြင်နေရ သည် ဟူ၏။

သို့ဖြစ်၍ ဦးဃောသိတ၏ သာဝကဟုပင် ဆို ရချေတော့မည်။ သူ့သာဝကနှင့် သူ။

# ကိုယ့်ဉာဏ်နဲ့ ထိုးထိုးထွင်းထွင်း သိတာယူ

* ခန္ဓာငါးပါး တစ်ပါးပါးကို ဘာလုပ်ရမယ် (ဝိ ဿနာ ရှုရပါမယ် ဘုရား) ခန္ဓာငါးပါး ဘာသစ္စာ ဒုက္ခသစ္စာပါ)

အို... ဒါက ဆရာပြောလို့ သိတာပဲ ရှိသေး ဘယ်၊ ကိုယ့်ဉာဏ်နဲ့ ထိုးထိုးထွင်းထွင်း မသိသေးပါဘူး၊ (မှန်ပါ) ဘယ်လို သိရမလဲ (ကိုယ့်ဉာဏ်နဲ့ ထိုးထိုး ထွင်းထွင်း သိရပါမယ်)

အေး... လက်တွေ့ပြပါမယ်၊ ကိုယ့်လက်မောင်း ကို ကိုယ့်လက်သည်းနဲ့ ဆိတ်ကြည့် (မှန်ပါ) ကဲ... အခုပဲ ဘယ်ဘက်လက်မောင်းကို တန်းလိုက် (မှန်ပါ) ညာဘက်လက်သည်းနဲ့ ဆိတ်ကြည့် (မှန်ပါ)

နာကျင်တဲ့ဝေဒနာ မပေါ်ဘူးလား (ပေါ်ပါတယ် ဘုရား) ဒုက္ခဝေဒနာပေါ့ဗျာ (မှန်ပါ) မဆိတ်ခင်တုန်းက သုခဝေဒနာ (မှန်ပါ) ဆိတ်လိုက်တော့ (ဒုက္ခဝေဒနာ ပေါ်ပါတယ်ဘုရား)

သုခဝေဒနာလဲ ဖြစ်ပြီး ပျက်၊ ဒုက္ခဝေဒနာလဲ ဖြစ်ပြီး ပျက်ပဲ (မှန်ပါ) ဒီတော့ သူတို့ဟာ အသုဘ (မှန်ပါ) ခင်ဗျားတို့က ပုပ်ညှီနေမှ အသုဘလို့ ထင်ကြ တာ (မှန်ပါ)

ဒီလိုမယူလိုက်ပါနဲ့တဲ့ (မှန်ပါဘုရား) "အံမယ် လေး... နာလှချည့်ရဲ့"လို့ အော်နေရမှ ဒုက္ခလို့၊ ဒုက္ခ သစ္စာလို့၊ ဒီလို မယူလိုက်ပါနဲ့–တဲ့ (မှန်ပါ)

ဖြစ်ပျက်နေတာသည်ပင် ဒုက္ခ၊ သူတို့သည်ပင် မတင့်တယ်လို့ အသုဘ (မှန်ပါ) သုခဖြစ်ဖြစ်၊ ဒုက္ခ ဖြစ်ဖြစ်၊ ဥပေက္ခာဖြစ်ဖြစ်၊ သူတို့တွေဟာ ဖြစ်ပျက် နေကြတယ်ဆိုရင် ဒုက္ခပေါ့ (မှန်ပါ) အဲဒီဒုက္ခဟာ အသုဘပေါ့ (မှန်ပါ) အဲဒီလို ယူပါ (မှန်ပါ ဘုရား) ဒါဆိုရင် ကိုယ့်ဉာဏ်နဲ့ ထိုးထိုးထွင်းထွင်း သိတာပဲ၊ (မှန်ပါဘုရား)

* မိုး(၅) နာ–၅၂၂

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဖြစ်–ပျက်တွေက နှိပ်စက်နေပုံ

ယ ဒနိစ္စံ၊ တံ ဒုက္ခံ။ ။ယံ–အကြင်တရားသည်၊ အနိစ္စံ–မမြဲ၊ တံ–ထို မမြဲသော တရားသည်၊ ဒုက္ခံ–ဆင်းရဲပင် ဖြစ်၏၊ အနိစ္စတရားသည်ပင် ဒုက္ခတရားဖြစ်၏၊ နောက်ထပ်အသစ် အထူးမရှိဟူလို။

ဘာ့ကြောင့် ဒုက္ခ တရားဟု ဆိုရပါသလဲ၊ ဥပ္ပါဒ ဝယ ပဋိပီဠနတာယ=ဖြစ်ခြင်း ပျက်ခြင်းက ခဏမစဲ အမြဲ နှိပ်စက်အပ်သောကြောင့် ဒုက္ခတရားဟု ဆိုရသည်၊ ဖြစ်–ပျက်နှစ်ရပ်က မပြတ် နှိပ်စက်အပ်သောကြောင့် "ဒုက္ခ"ဆိုရသည်ဟူလို။

ထိုတွင် "အပျက်က နှိပ်စက်တယ်"ဆိုတာ ထင်ရှားပါ၏၊ ဖြစ်ဖြစ်လာသမျှတွေကို ဖျက်–ဖျက်ချနေသောအားဖြင့် အပျက်က နှိပ်စက်တယ်ဆိုတာ သိလွယ်ပါသည်။

"အဖြစ်က နှိပ်စက်တယ်" ဆိုတာကျတော့ ဘယ်လိုဟာလဲ–။ အေး... ဒါကို အဖြေပေးရပေမည်၊ "အဖြစ်က နှိပ်စက်တယ်" ဆိုတာ ပျက်ဖို့အတွက် ဖြစ်–ဖြစ်ပေးနေလို့။

ဤကိစ္စအတွက် စာထဲမှာ ဥပမာပေးထားတာက သားသမီးအဖတ်မတင်တဲ့မိခင်လို–တဲ့၊ မိခင်တစ်ယောက်မှာ ရင်သွေးသားကလေး မွေးဖွားလာ၏၊ မကြာခင် သေသွားသည်၊ မိခင် စိတ်ဆင်းရဲရ၏။ သောက ပရိဒေဝမီး တောက်ရသည်။

နောက်တစ်ခါ သားငယ်ကလေး ဖွားပြန်၏၊ ဂရုစိုက်နေသည့်ကြားက သေသွားပြန်သည်၊ မိခင် စိတ်ဆင်းရဲရပြန်၏။ သောက ပရိဒေဝမီး တောက်ရပြန်သည်။

ထို့နောက် တစ်ခါ သားငယ်ကလေး ရလာပြန်၏၊ "သည်တစ်ခါ မသေအောင် ပြုစုမည်"ဟု အားခဲ၍ ကြိုးစားပြုစုနေသည့်ကြားက သေသွားပြန်သည်၊ မိခင်ခမျာ အကြီးအကျယ် သောက ရောက်ရပြန်၏။ ပရိဒေဝမီး တောက်ရပြန်သည်။

ဤသို့ သားကလေး ဖြစ်ပေါ်–ဖြစ်ပေါ်နေသည်မှာ ပျက်ဖို့ ပျက်ဖို့အတွက် ဖြစ်ပေးနေသလို ဖြစ်နေ၏၊ "သည်လိုဆိုလျှင် ပျက်မှာ အတူတူ အစကတည်းက မဖြစ်ဘဲနေရင် အကောင်းသား" (သေမှာဆိုရင် အစကတည်းက မမွေးဘဲနေရင် အကောင်းသား)ဟု ညည်းညူရတော့သည်၊ ဤနည်းအားဖြင့် "အဖြစ်"က နှိပ်စက်သည်ကို သိပါလေ။

## ဝေဒနာချာပြီး အနိစ္စတွေ့အောင်ရှု

ဤတရားတော်နှင့်ပတ်သက်ပြီး မိုးကုတ်ဆရာတော်ကြီး ဟောထားသည့်မူရင်း မိုးကုတ်ဝိပဿနာ စာအုပ် အမှတ်စဉ်(၂၇)နှာ–၃၁၇မှယူ၍ ကောက်နုတ်တင်ပြပါမည်။

လူမမာမေးသွားတဲ့အခါ "ရောဂါ ဘယ့်နှယ်နေသလဲ၊ သက်သာရဲ့လား"လို့မေးတော့ လူမမာက ဖြေတယ် "ဟာ... ဒီဝေဒနာ မသက်သာဘူး"တဲ့ (မှန်ပါဘုရား)

ဒါဟာ ဝေဒနာနဲ့ အနိစ္စ မကွဲဘဲ ဖြစ်နေတာပဲ၊ ဒါကြောင့် မသက်သာဘူး ဖြစ်နေတာ (မှန်ပါ) ဒီတော့ ဘုန်းကြီးက ကူညီပြီး နည်းပေးပါ့မယ် (မှန်ပါ ဘုရား)

"ဝေဒနာကျော်ပြီး အနိစ္စတွေ့အောင် ရှုပါ" (မှန်ပါဘုရား) ဘာတဲ့ (ဝေဒနာကျော်ပြီး အနိစ္စတွေ့အောင် ရှုရမှာပါ ဘုရား)

## တစ်ဘဝသာသနာ

ဥပမာ သစ်တုံးကြီးတစ်ခုကို ဘေးသားအကာတွေ ခွာလိုက်ရင် အတွင်းသားအနှစ်ပေါ်လာမှာပေါ့၊ (မှန်ပါ၊ ပေါ်လာပါတယ်ဘုရား) အဲဒီအတိုင်းပဲ၊ ဒီမှာလဲ ဝေဒနာတွေ ခွာလိုက်လို့ရှိရင် အနိစ္စကို တွေ့လာရမှာပေါ့ (မှန်ပါ) ကြပ်ကြပ်သတိပြုပါ၊ အင်မတန် အရေးကြီးတဲ့တရား (မှန်ပါဘုရား)

ဖြစ်တာနဲ့ ပျက်တာ ၂-ခုပဲ ရှိတဲ့ဥစ္စာ၊ အဲဒီထဲက ဖြစ်တုန်းမှာ ဝေဒနာ၊ ပျက်သွားတော့ ဝေဒနာသဘောကို စွန့်ပြီး အနိစ္စရောက်သွားတယ် (မှန်ပါဘုရား)

ထပ်ပြောဦးမယ်၊ ဖြစ်တုန်းမှာ (ဝေဒနာပါဘုရား) ပျက်သွားတော့ (အနိစ္စပါဘုရား)

ဩော်... ခင်ဗျားတို့သန္တာန်မှာ အပျက်ကလေးတွေကို တွေ့ပြီဆိုရင်ဖြင့် နိပ်စက်တတ်တဲ့ ဝေဒနာ ခွာ၍ အနိစ္စ တွေ့ပါပြီ (မှန်ပါဘုရား)

သာမည အရေးကြီးတယ်လို့များ မထင်လိုက်ပါနဲ့ (မထင်ပါဘုရား) အလွန့်အလွန် အရေးကြီးတယ် နော် (မှန်ပါဘုရား)

## ဝေဒနံ ဝိက္ခမ္ဘေတွာ

အဲဒီတော့ ဒီဝေဒနာသည်ကား ဆိုလို့ရှိရင် ဖြစ်တာနဲ့ ပျက်တာပဲ ရှိတယ် (မှန်ပါ) ဖြစ်တုန်းက ဝေဒနာ၊ ပျက်သွားတော့ (အနိစ္စပါဘုရား)

ဒါဖြင့် ဝေဒနာတုန်းကတော့ ဒုက္ခဝေဒနာက နှိပ်စက်တယ်ထားပါတော့၊ ပျက်သွားတဲ့အခါကျတော့ သူတောင် ပျက်တဲ့ခမ္မဖြစ်နေတဲ့အတွက် ကိန်းရာပုဂ္ဂိုလ်ကို နှိပ်စက်သေးရဲ့လား (မနှိပ်စက်ပါဘုရား)

ဝေဒနာကို မတွေ့ဘဲ အနိစ္စသာ တွေ့နေသောကြောင့်၊ အနိစ္စနောက်ကနေပြီး မဂ္ဂလိုက်နေသောကြောင့် ဝေဒနာ အနှိပ်စက် မခံရ (မှန်ပါ) ဒါဟာ ဝေဒနာကို ခွာထားနိုင်လို့ပဲ (မှန်ပါဘုရား)

ဒါဖြင့် အနိစ္စကလဲ နာတာ မဟုတ်၊ မဂ္ဂကလဲ နာတာမဟုတ်၊ (မှန်ပါ) "နာတယ်" ဆိုတာ ဝေဒနာကသာ နာတာ မဟုတ်လား (မှန်ပါ ဘုရား) အခု မနာတဲ့သူတွေနဲ့ နေတာ (မှန်ပါဘုရား)

အဲဒီ နာတဲ့ဝေဒနာကို ခွာထားပြီး အခု အနိစ္စကို တွေ့အောင် ရှုထားတယ် (မှန်ပါ) ဖြစ်ပျက်မြင်အောင် ရှုထားတယ်ဆိုပါတော့ (မှန်ပါဘုရား)

အနိစ္စကလဲ နာတာမဟုတ်၊ (မှန်ပါ) မဂ္ဂကလဲ နာတာမဟုတ် (မှန်ပါဘုရား) ဝေဒနာကို ခွာနိုင်တဲ့ပုဂ္ဂိုလ်က အဲဒီမနာတဲ့(၂)ချက်ကို ရနိုင်တယ် (မှန်ပါ)

ဝေဒနာပေါ်လာရင် ဉာဏ်နဲ့ ကြည့်လိုက်ပါ၊ အနိစ္စရောက်သွားတဲ့ သဘောကလေးတွေ တွေ့မယ်၊ အပျက်ကလေးတွေကိုမြင်မယ် (မှန်ပါဘုရား)

အဲဒီလိုမြင်ရင် အပျက်ကလေးက ဘာပါလိမ့် (အနိစ္စပါဘုရား) မြင်တာက (မဂ္ဂပါဘုရား) နေရာကျလိုက်တာဗျာ-။

အပျက်ကလေးက ဘာတဲ့ (အနိစ္စပါ ဘုရား) မြင်အောင် ကြည့်နိုင်တာလေးက (မဂ္ဂပါဘုရား) တယ်လဲ အဖိုးတန်ပါလား (မှန်ပါ)

ဒါဟာ ဝေဒနာကို ခွာတာပဲ၊ "ဝေဒနံ ဝိက္ခမ္ဘေတွာ=ဝေဒနာကို ခွာ၍" ဆိုတာ ဒါပဲ၊ ဝေဒနံ-ဝေဒနာကို၊ ဝိက္ခမ္ဘေတွာ-ခွာထား၍၊ (မှန်ပါဘုရား) ဝေဒနာ ကို ခွာထားတော့ မနာဘူးပေါ့ (မှန်ပါဘုရား)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သေခါနီးမှာ မဂ္ဂသစ္စာနဲ့နေပါ

ဒါဖြင့်ရင် သေခါနီးမှာ ဝေဒနာရောက်လာမှာကတော့ သေချာတယ် (မှန်ပါ) အဲဒီဝေဒနာကို ဉာဏ်နဲ့ ခွာထားပြီး၊ ဝေဒနာကို ကျော်လွန်ပြီး၊ သေခါနီးမှာ ဝေဒနာ နောက်က မဂ္ဂလိုက်ပြီး နေပြပါ–လို့ ဘုန်းကြီးက မှာနေတယ် (မှန်ပါဘုရား)

တော်တော် အရေးကြီးတဲ့ စကားနော် (မှန်ပါဘုရား) သာမညနားနဲ့ မထောင်ပါနဲ့လို့ လေးလေးနက်နက် သတိပေးပါတယ် (မှန်ပါဘုရား)

"ဒါက ဘယ်လို ပုဂ္ဂိုလ်မျိုးမှ ရမတုံး ဘုရား" လို့ မေးရင် အခုကတည်းက အနိစ္စပိုင်ထားတဲ့ ပုဂ္ဂိုလ်မျိုးမှ ရမယ် (မှန်ပါ) မီးလောင်ခါမှ ရေရှာလို့ကတော့ (မရပါ ဘုရား)

မီးမလောင်ခင်က မဂ်တည်းဟူသော ရေစင်ရေအေးကို ရှာထားတဲ့ သူမှ ရမယ်နော (မှန်ပါ) အဲလို ပုဂ္ဂိုလ်မျိုးမှ သေခါနီးမှာ မဂ္ဂသစ္စာ ဖြစ်ပြီး သေလို့ ရမယ် (မှန်ပါ)

*သေနည်း သင်ပေးနေတယ်နော် (မှန်ပါ) မြတ်စွာဘုရားက အရှင်ဖဂ္ဂုနရဟန်းအား "သေနည်း သင်ပေးတဲ့တရား"လို့ မှတ်လိုက်ကြစမ်းပါ (မှန်ပါဘုရား) လေးလေးနက်နက် မှတ်ကြစမ်းပါ (မှန်ပါ)။

ဝေဒနာကို မတွေ့စေဘဲနဲ့ ဝေဒနာရဲ့ အဖြစ်–အပျက်တွေချည်း ဉာဏ်ထဲတွေ့နေပါစေ၊ (မှန်ပါဘုရား) ဆိုလိုရင်းက အဖြစ်အပျက်နှင့် ဉာဏ်နှင့် တည့်နေပါစေ၊ ဘယ်သူမှ ကြားမဝင်စေနဲ့၊ ဖြစ်ပျက်နဲ့ ဉာဏ်နဲ့ တွဲနေပါစေ (မှန်ပါ)

ဒါ–ဆိုရင် ဒုက္ခသစ္စာကို မဂ္ဂသစ္စာနဲ့ သိနေခြင်းပဲ၊ (မှန်ပါ) အဖန်ဖန် သိနေပါ၊ ကြာတော့ မုန်းလာမယ်၊ (မှန်ပါ) နောက်တော့ ဒုက္ခသစ္စာတွေ အဖြစ်အပျက်တွေ ဆုံးသွားတာကို မြင်ရပါလိမ့်မယ်၊ (မှန်ပါဘုရား)

# ဝေဒနာကို ကျော်အောင် ကြိုးစား

လူမိုက်များက ပြောတတ်ကြတယ် "သေတာများ အဆန်း လုပ်လို့၊ သင်နေရအုံးမှာလား" "သေတစ်နေ့၊ မွေး– တစ်နေ့ပဲဟာ"တဲ့၊ အဲဒီအပြောက လားရာဂတိကို ထည့်ပြောတာ မဟုတ်ပါဘူး၊ (မှန်ပါ)

အခုဟာကတော့ လားရာဂတိ ကောင်းတာလဲ ဖြစ်ချင်ဖြစ်မယ်၊ လားရာဂတိကို မရှိတဲ့အခြေအနေလဲ ရောက်ချင် ရောက်သွားမယ် (မှန်ပါဘုရား)

ဝေဒနာပေါ်တာကို ဝေဒနာကို ကျော်၍ အနိစ္စတွေ့အောင် ရှာရတဲ့နည်း။

သေခါနီးမှာ ပေါ်လာတဲ့ ဝေဒနာကို "ဒါဟာ ဝေဒနာလား၊ အနိစ္စလား"လို့ ဉာဏ်နဲ့ ကြည့်၊ အဲဒီအချိန်မှာ ဝေဒနာပျောက်သွားတာ တွေ့ရမယ် (မှန်ပါ) အဲဒါ အနိစ္စပေါ့ (မှန်ပါဘုရား)

ဒါ့ကြောင့် နားလည်တဲ့သူတွေကျတော့ "ဖြစ်တာက ဝေဒနာ၊ ပျက်တာက အနိစ္စ"လို့ ခွဲခြားတတ်တယ် (မှန်ပါ) သစ္စာဖြစ်အောင် လုပ်ပြီး အသေတတ်ကြတာပေါ့ (မှန်ပါဘုရား)

ဉာဏ်နဲ့ကြည့်တဲ့အခါ ဝေဒနာတွေကို မတွေ့ရတော့ဘဲ ဖြစ်ပျက်ကလေးတွေချည်း တွေ့နေတော့တာကို "ဝေဒနာ ကျော်တယ်"လို့ ပြောတာ (မှန်ပါ)

ဒီတော့ "ဝေဒနာ ကျော်တယ်"ဆိုတာ အနိစ္စကို တွေ့တာပဲ၊ အနိစ္စနဲ့ ဖြစ်ပျက်ကလဲ အတူတူပဲဆိုတော့ "ဝေဒနာ ကျော်တယ်" ဆိုတာ ဖြစ်ပျက် မြင်တာပဲ–လို့လဲ ပြောလို့ ရတယ် (မှန်ပါဘုရား)

ဝေဒနာကျော်လွန်အောင် ရှုထားနိုင်မှ စိတ်ချရတာမို့ ဤကိစ္စကို မပေါ့ကြနဲ့နော။ (မှန်ပါဘုရား)

* အင်္ဂုတ္တိုရ်၊ ဆက္ကနိပါတ်၊ ဖဂ္ဂုနသုတ်၊၃၃၃။

## ဝေဒနာလုပ်၍ ရှုသူများ

အပြင်းအထန် ဖွဲသန်သန်ဖြင့် ဝိပဿနာတရား အားထုတ်နေသော ယောဂီပုဂ္ဂိုလ်ကြီးတစ်ဦးကို တွေ့ဖူး၏၊ သူက ပြောသည်၊ သူ တရား ထိုင်သောအခါ ဝေဒနာ မပေါ်နိုင်လို့ ဝေဒနာပေါ်လွယ်အောင်ဆိုပြီး ခြေမကြီးကို ခေါက်၍–ခေါက်၍ ထိုင်လိုက်သည်ဟု ဆို၏။

*အလားတူပင် အမရပူရမှ ဦးထွန်းတင်နှင့် သူ၏မိတ်ဆွေ ဦးအောင်မြင့်တို့ကလည်း တရား အားထုတ်ပြီဆိုလျှင် ဒူးပဆစ်တုပ်၍ တတောင်ဖြင့်ထောက်ကာ ဒုက္ခကို လုပ်၍ ယူကြသည်ဟူ၏၊ အကြောင်းမှာ ဆရာတော်ကြီးက–

"မင်းတို့... ဒုက္ခအကြီးဆုံး တွေ့တဲ့အခါ အဲဒီဒုက္ခကို လွန်မြောက်အောင် ရှုကြ၊ လွန်မြောက်ရင် တရားတွေ့မယ်" ဆိုလို့တဲ့။

ဤသို့လျှင် အယူအဆလွဲမှား၊ အကောက်အယူတွေ တိမ်းပါးကြခြင်း ဖြစ်သည်၊ အမှန်မှာ "ဒုက္ခအကြီးဆုံး"ဆိုတာ ဖြစ်ပျက်တွေ ဖြိုင်ဖြိုင်အမြင်ဆုံးကို ဆိုလိုတော်မူ၏၊ ထိုသို့ ဖြိုင်ဖြိုင်မြင်နေသောဖြစ်ပျက်တို့ကို မုန်းလာအောင်ရှု၊ အဲဒီနောက် လွန်မြောက်သွားအောင် ရှု–ဟု ဆိုလိုတော်မူ၏၊ အဲဒီအဖြစ်အပျက် ဒုက္ခသစ္စာတွေ လွန်မြောက်သွားလျှင် အဖြစ်အပျက်မရှိတဲ့ နိရောသေစ္စာကို ဧကန် တွေ့လာရမှာပဲ"ဟု ဆိုလိုတော်မူသည်။

## ဒုက္ခအမျိုးအစား သုံးပါး

ဤနေရာ၌ နေတ္တိပါဠိတော်မှာလာသော ဒုက္ခအမျိုးအစားတို့ကို ခွဲခြား၍ သိထားသင့်သည်၊ သို့မှသာ ဝိပဿနာရှုရာတွင် မည်သည့် ဒုက္ခကို ရှုရမည်–ဟု ပီပီပြင်ပြင် သိမြင်လာနိုင်ပေမည်။

တိဿော ဒုက္ခတာ–ဒုက္ခဒုက္ခတာ၊
သင်္ခါရဒုက္ခတာ၊ ဝိပရိဏာမ ဒုက္ခတာ။
(နေတ္တိပါဠိတော်–၁၂)

အဓိပ္ပာယ်မှာ ဒုက္ခသည် သုံးမျိုးသုံးစားရှိ၏၊ ယင်းတို့ကား–

၁။ ဒုက္ခဒုက္ခ၊
၂။ သင်္ခါရဒုက္ခ၊
၃။ ဝိပရိဏာမဒုက္ခတို့ဖြစ်ကြသည်။

(၁)"ဒုက္ခဒုက္ခ"ဆိုတာ နဂိုရ်ကပင် ဒုက္ခသစ္စာကြီးဖြစ်နေတဲ့ ရုပ်နာမ်ခန္ဓာပေါ်မှာ နောက်ထပ်အပိုတိုးလာတဲ့ ဒုက္ခများဖြစ်ကြ၏၊ ဥပမာ– ခေါင်းကိုက်၊ ဗိုက်နာ၊ ခါးအောင့်၊ ဇက်ထိုး၊ ထုံကျင်၊ ကိုက်ခဲ၊ ညောင်းညာ၊ အနာပေါက်၊ ဓားထိ၊ ဆူးစူး၊ ပွေးဝဲနှင်းခူတွေ ဖြစ်၊ အပြင်းဖျား စသည်တို့ ဖြစ်ကြ၏၊ နဂိုရ်ဒုက္ခသစ္စာခန္ဓာကြီးပေါ်တွင် အပိုဒုက္ခတွေ ထပ်မံတိုးလာသောကြောင့် "ဒုက္ခဒုက္ခ"ဟု ခေါ်သည်။

(၂)"သင်္ခါရဒုက္ခ"ဆိုသည်ကား ရုပ်နာမ်နှစ်ပါး၊ ခန္ဓာငါးပါး တို့၏ စက္ကန့်မလပ် မိနစ်မလပ် တရစပ်ဖြစ်ပျက်ပြောင်းလွဲနေတဲ့ ဒုက္ခများကို ခေါ်ဆိုသည်။

(၃)"ဝိပရိဏာမ ဒုက္ခ"ဆိုတာ ဖောက်ပြန်ပြောင်းလဲလာသော ဒုက္ခများ ဖြစ်ကြ၏၊ ဥပမာ- အိုမင်း ယိုယွင်းလာခြင်း၊ ဆံဖြူ သွားကျိုး၊ ခါးကိုင်း၊ နားထိုင်း၊ မျက်စိမှိုင်း၊ အသားအရေ တွန့်လိပ်ခြင်း၊ မှဲ့ခြောက်တွေ ဗလပျစ်ပေါ်ခြင်း စသည်တို့ ဖြစ်ကြ၍ နောက်ဆုံးတွင် သေကျေပျက်စီးခြင်းများအထိ ဖောက်ပြန်သော ဒုက္ခများကို "ဝိပရိဏာမ ဒုက္ခများ"ဟု ခေါ်ဆိုကြသည်။

ဤသို့ဒုက္ခသုံးမျိုးသုံးစား ရှိရာတွင် ဝိပဿနာရှုသော ပုဂ္ဂိုလ်သည် သင်္ခါရဒုက္ခတစ်မျိုးကိုသာ ရှုရ၏၊ ကျန်၂–မျိုးကို မရှုရ၊ မရှုကောင်း။

* ဦးထွန်းတင်ကိုယ်တိုင်က ပြန်လည်ပြောပြခြင်းဖြစ်၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သစ္စေရဒုက္ခကိုသာ ရွေး၍ ရှုရမှာ

ယောဂီတို့ တရားထိုင်တဲ့အခါ တွေ့ကြတဲ့ ထုံကျဉ် ကိုက်ခဲ ညောင်းညာ အောင့်အင့်ဆိုတဲ့ ဒုက္ခတွေ ဘယ်ထဲ ထည့်ရမည်ဆိုတာ သိပြီလား၊ ဒုက္ခဒုက္ခထဲသို့ ထည့်ကြရမည်၊ သို့ဖြစ်လျှင် ရှုကောင်းမည်လော၊ မရှုကောင်း၊ ဘာ့ကြောင့်နည်း၊ ဒုက္ခ အစစ် မဟုတ်သော ကြောင့်တည်း။ ဤသဘောကို မသိကြ၍ ဦးထွန်းတင်တို့ လူစု ဒုက္ခကို လုပ်၍ ရှုနေကြခြင်း ဖြစ်သည်။

**တစ်ဖန် ဆံဖြူ၊ သွားကျိုး၊ ခါးကိုင်း၊ နားထိုင်း၊** အိုမင်းယိုယွင်း စသော ဝိပရိဏာမဒုက္ခတို့ကိုရော ရှုကောင်းမည်လော၊ မရှုကောင်း၊ ဘာကြောင့်နည်း၊ ဒုက္ခအစစ် မဟုတ်သောကြောင့်တည်း။ [ကမ္မဋ္ဌာန်းရုပ်များကို ရှုကြသည်ကား သဝေဂရရုံအတွက်သာ ဖြစ်၏၊ မဂ် မရနိုင်။]

ရှင်းပြပါဦးမည်၊ ဒုက္ခဒုက္ခသည် ပြင်းထန်ခံခက်သော်လည်း ပြုပြင်၍ ရနိုင်၏၊ ညောင်းညာကိုက်ခဲလာလျှင် အနင်းအနှိပ်သမားဖြင့် ပယ်ဖျောက်နိုင်၏၊ ဖျားနာလျှင် ဆေးစား ဆေးထိုးခြင်းဖြင့် ပြုပြင်၍ ရနိုင်သည်။

ဝိပရိဏာမဒုက္ခကိုလည်း ပြုပြင်၍ ရနိုင်၏၊ ဆံဖြူလာသည်ကို ဆေးဆိုးနိုင်၏၊ သွားကျိုးသည်ကို အစားထိုး၍ စိုက်နိုင်၏၊ အသားအရေတွန့်သည်ကိုလည်း ပြုပြင်၍ ရနိုင်သည်။

**သစ္စေရဒုက္ခကိုကား** ပြုပြင်၍မရ၊ ဒုက္ခဝေဒနာကြီးမို့ မလာပါနဲ့–ဟု တား၍မရ၊ သုခဝေဒနာကလေးမို့ မပျောက်ပါစေ–နဲ့ဟူ၍ တောင်းပန်မရ၊ ဤဒုက္ခမျိုးကမှ ကိုယ်မပိုင်၊ ကိုယ်မနိုင်၍ ဒုက္ခအစစ်ကြီး ဖြစ်သည်၊ "ဒုက္ခ မသာ မဟတ္တယံ" "ဒုက္ခအစစ်ကြီး"ဟု မြတ်စွာဘုရား ဟောတော်မူ၏။ ဤဒုက္ခကိုသာ ရှုကြရန် ဖြစ်သည်။

# ဝေဒနာက တခြား၊ အနိစ္စက တခြားပဲ

ဒါဖြင့် ဘုန်းကြီးတို့ ဒကာ ဒကာမတွေ သေခါနီး ဝေဒနာလာရင် ရှေးဦးစွာ ဘာလုပ်ရမလဲ၊ နံပါတ်(၁) ဉာဏ်နဲ့ ဝေဒနာကို ရှုပါ၊ (မှန်ပါ) ရှုတဲ့အခါ ဝေဒနာတခြား၊ အနိစ္စတခြား မြင်ပါစေ (မှန်ပါဘုရား) ဒါဟာ ဝေဒနာချွတာပဲ၊ ဝေဒနာဟာ ဝေဒနာပဲ၊ အနိစ္စက အနိစ္စပဲ (မှန်ပါ)

ဉာဏ်နဲ့ကြည့်လိုက်တဲ့အခါ "ဒါဟာ ဝေဒနာ မဟုတ်ဘူး၊ ဖြစ်ပြီး ပျက်သွားတဲ့ အနိစ္စကလေးတွေပဲ" လို့ တွေ့စေရမယ် (မှန်ပါဘုရား) ဝေဒနာကလေးတွေ ဖြစ်ပြီး ပျက်သွားတဲ့ သဘောကို တွေ့အောင် ရှာရမယ် (မှန်ပါ) ဝေဒနာကို မတွေ့စေနဲ့ (မှန်ပါ)

ဒီတော့ "ဝေဒနာ ကလေးတွေက တခြား၊ ဖြစ်ပျက်က တခြား"ဆိုတာ ပေါ်လာမယ် (မှန်ပါ) ဖြစ်ပျက်ဆိုတာနဲ့ အနိစ္စဆိုတာ အတူတူပဲ နော် (မှန်ပါ) ဒီတော့–

(က)ဝေဒနာမတွေ့စေနဲ့၊ ဖြစ်ပျက်တွေ့ပစေ။

(ခ)ဝေဒနာမတွေ့စေနဲ့၊ အနိစ္စတွေ့ပစေ။

အတူတူပဲ (မှန်ပါဘုရား)

## တစ်ဘဝသာသနာ

# "ဝေဒနာကျော်တယ်" ဆိုတာ

ဒီနည်းနဲ့ အနိစ္စမြင်၊ အနိစ္စမုန်း၊ အနိစ္စဆုံး (၃)ခါ ဆုံးတော့ အနာဂါမ် ဖြစ်သွားတာပေါ့ (မှန်ပါ) အောက်သံယောဇဉ် ၅-ပါးကို ဖယ်ရှားသွားနိုင်တဲ့ အတွက် ဖဂ္ဂုနရဟန်း အနာဂါမ်ဖြစ်သွားတယ် (မှန်ပါ ဘုရား)

အဲဒါကြောင့် ဘုန်းကြီးတို့ ဒကာ ဒကာမတွေ လဲ နံပါတ်(၁) အနိစ္စ မြင်၊ နံပါတ်(၂) အနိစ္စ မုန်း၊ နံပါတ်(၃) အနိစ္စ ဆုံးသွားတာကို မြင်အောင် ဉာဏ်နဲ့ ကြည့်ကြရမှာ (မှန်ပါ) ကြည့်ကြပါလို့ တိုက်တွန်းပါ တယ် (မှန်ပါဘုရား)

* ဒီအချိန်မှာ ဝေဒနာ ကျော်နေတာပဲ၊ မဂ္ဂသစ္စာ ဖြစ်နေတာပဲ (မှန်ပါဘုရား) ဝေဒနာကို မတွေ့တော့ဘဲ ဖြစ်ပျက် ကလေးတွေချည်း တွေ့နေတော့တာကို "ဝေဒနာ ကျော်တယ်"လို့ ခေါ်ရတယ် (မှန်ပါဘုရား)

"ဖြစ်ပျက်ကလေးတွေ တွေ့နေတယ်"ဆိုတော့ အတွေ့ခံတာက အနိစ္စ၊ တွေ့တဲ့ဉာဏ်က မဂ္ဂ (မှန်ပါ)

မဂ္ဂဆိုတော့ ဝေဒနာရှုရင်းနဲ့ မဂ္ဂင် ၅ပါးနဲ့လဲ သနိုင်တယ် (မှန်ပါ)

ဖဂ္ဂုန ရဟန်း ကျတော့ သိပ် ကောင်းတယ်၊ အနိစ္စတွေ့တဲ့အပြင် အနိစ္စကို မုန်းသေးတယ်၊ (မှန်ပါ) းတော့ အနိစ္စဆုံးသွားပါလေရော... (မှန်ပါဘုရား)

# ဣန္ဒြေတွေ ကြည်ကြည်လင်လင်နဲ့

ဖဂ္ဂုနရဟန်း နေမကောင်း ဖြစ်နေခဲ့ရာ၌ရှသို့ မြတ်စွာဘုရား ကြွရောက် ချီးမြှောက်တော်မူပါရန် အရှင်အာနန္ဒာက လျှောက်ခဲ့၏။ ထို့ကြောင့် မြတ်စွာ ဘုရား ကြွလာ တရားဟောတော်မူခဲ့သည်၊ ဝေဒနာ ခွာပုံခွာနည်းတို့ကို အတိအကျ ဟောပြောတော်မူခဲ့၏။

တရား ဟောပြီး၍ ဘုရားကိုယ်တော်မြတ်ကြီး ကျောင်းတော်သို့ ပြန်လည် ကြွသွားသောအခါ ဖဂ္ဂုန ရဟန်း ပျံတော်မူသည်။

အရှင်အာနန္ဒာက သွားရောက်ကြည့်ရှု၍၊ (ဣန္ဒြိ ယာနိ ဝိပ္ပသီဒန္တိ) ဣန္ဒြေတွေ ကြည်လင်နေကြသည်ကို တွေ့ရသည်၊ ထို့ကြောင့် ဘုရားထံ သွား၍ လျှောက် တော့၏ -

"မြတ်စွာဘုရား... ဖဂ္ဂုနရဟန်း ပျံတော်မူတာ အတော်ဆန်းတယ် ဘုရား၊ ဣန္ဒြေတွေ ကြည် လင်နေကြတယ်၊ မျက်စိတွေကလဲ ချွက်ဝင် မသွားကြဘူး၊ လူကောင်းပကတိ အိပ်နေသလိုပဲ ဘုရား..."

နားရွက်တွေကလဲ လန်မကုန်ဘူး၊ နှာ ခေါင်းကလဲ ပုဝင်မသွားဘူး၊ ခန္ဓာကိုယ်ကလဲ စိုစိုပြည်ပြည်ပါပဲ၊ ပီးတော့ ခြေလက်တွေလဲ ပျော့ပျော့ပျောင်းပျောင်းပဲ ဘုရား... ညာဘက် ကိုလဲ ခေါင်းကလေး စောင်းနေတယ်ဘုရာ့။

ထိုအခါ မြတ်စွာဘုရားက-

"ဣန္ဒြေတွေ မကြည်လင်ဘဲ ဘယ်နေလိမ့်မလဲ ကွယ်၊ အခုနင်ကတုန်းက ငါဘုရားရဲ့ တရား တွေကို နာရပြီးတော့ နှလုံးသွင်းမှန်လို့ တရား ထူး ရသွားတဲ့ ပုဂ္ဂိုလ်ပဲကွယ့်..."

ဟူ၍ မိန့်တော်မူသည်၊ ထို့နောက် တရားဟောတော်မူ လို၍ "အာနန္ဒာ... ရဟန်းတွေကို စုရုံးလိုက်စမ်းကွယ့်" ဟူ၍ အစုခိုင်းတော်မူ၏။

* မိုး(၂၇)နှာ-၃၂၃

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဖဂ္ဂုန သေနည်းသင်တရား

အရှင် ဖဂ္ဂုနရဟန်း ပျံတော်မူပြီးနောက် မျက်စိ နား နှာခေါင်း စသော ဣန္ဒြေများ ကြည်လင်နေကြ ကြောင်းကို မြတ်စွာဘုရားထံသွား၍ အရှင်အာနန္ဒာက လျှောက်ထား၏၊ ထိုအခါ မြတ်စွာဘုရားက တရား ဟောတော်မူသည်။

(၁)အာနန္ဒာ... ဤသာသနာတော်၌ ရဟန်းမှာ ဩရမ္ဘာဂိယသံယောဇဉ် ငါးပါးကို မပယ်ရှားရသေး၊ ထိုရဟန်းပျံတော်မူခါနီးတွင် ဘုရား ကြွလာ၍ တရား ဟောတော်မူ၏၊ ထိုတရားကို နာရပြီးလျှင် ဩရမ္ဘာဂိယ သံယောဇဉ်တို့မှ လွတ်မြောက်သွားနိုင်၏၊ ဤကား ပထမ အကျိုး။

(၂)အာနန္ဒာ... ထိုရဟန်း ပျံတော်မူခါနီးတွင် ဘုရားကြွ၍မလာ၊ သို့သော် ဘုရားသာဝက ကြွလာ၍ တရား ဟောတော်မူ၏၊ ထိုတရားကို နာရပြီးလျှင် ဩရမ္ဘာဂိယ သံယောဇဉ်တို့မှ လွတ်မြောက်သွားနိုင်၏၊ ဤကား ဒုတိယအကျိုး။

(၃)အာနန္ဒာ... ထိုရဟန်း ပျံတော်မူခါနီးတွင် ဘုရားလည်း ကြွ၍မလာ၊ ဘုရားသာဝကလည်း ကြွ၍ မလာ၊ သို့သော်-

အပိစ ခေါ ယထာသုတံ ယထာပရိယတ္တံ ဓမ္မံ စေတသာ အနုဝိတက္ကေတိ အနုဝိစာရေတိ မနသာနုပေက္ခတိ။

တရားတော်ကို နာကြားဖူးသည့်အတိုင်း၊ သင်ယူ မှတ်သားထားသည့်အတိုင်း စိတ်ဖြင့် အစဉ် လျှောက်၍ ကြံစည်စဉ်းစား၏၊ အစဉ် လျှောက်၍ သုံးသပ်၏၊ ဉာဏ်ဖြင့် ရှုးစမ်း ဆင်ခြင်၏။

ထိုသို့ ပြုလုပ်သည်ရှိသော် ဩရမ္ဘာဂိယ သံယောဇဉ်ငါးပါးတို့မှ လွတ်မြောက်သွားနိုင် ၏၊ ဤကား တတိယအကျိုး။

မှတ်ချက်။ ။ဤတတိယနည်းသည် မိမိဘာသာ စွမ်းဆောင်ရမည် ဖြစ်၏၊ မည်သည့်အချိန် မည်သည့် နေရာမဆို ဖြစ်နိုင်၏၊ အား အကိုးရ ဆုံးသော နည်း ဖြစ်သည်။

ထို့ပြင် နံပါတ်(၄)၊ နံပါတ်(၅)၊ နံပါတ်(၆) အထိ အကျိုးတရားတို့ကို ဟောပြထား၏၊ ဘုရား ကြွ၍ တရားဟောခြင်း၊ တပည့်သာဝကကြွ၍ တရား ဟောခြင်း၊ မိမိဘာသာ ဆင်ခြင်၍ တရားသိခြင်းတို့ ဖြစ်သည်၊ အောက်သံယောဇဉ် ကုန်ပြီးသားသူတို့ ဖြစ်ပါက အထက်သံယောဇဉ်များ ကုန်သွားနိုင်သည်- ဟု ဟောတော်မူ၏၊ အထက်မဂ်တွေပါ ရနိုင်သည်ဟု ဆိုလို၏။

## အောက်-အထက် သံယောဇဉ်တို့ဆိုတာ

ဩရမ္ဘာဂိယသံယောဇနာနိ = အောက် သံယော ဇဉ်များ ၅ပါး ရှိကြ၏၊ အောက်သံသရာမှာ ကျင်လည် ကြ၏၊ သူတို့ကို မဖြတ်နိုင်လျှင် အောက်ကာမ(၁၁)ဘုံ၌ ကျင်လည်နိုင်ကြသည်၊ ထိုဘုံများနှင့် ဆက်သွယ်နေကြ ၏။

ယင်းတို့ကား-

* ၁။ သက္ကာယဒိဋ္ဌိ
၂။ ဝိစိကိစ္ဆာ
၃။ သီလဗ္ဗတပရာမာသ
၄။ ကာမစ္ဆန္ဒ
၅။ ဗျာပါဒတို့ ဖြစ်ကြသည်။

* အင်္ဂုတ္တိုရ်ပါဠိ၊နဝက၊၂၅၂

## တစ်ဘဝသာသနာ

သင်းငါးပါးတို့တွင် ရှေ့သုံးပါးကို ပယ်နိုင်ပါက သော ဘာပန် ဖြစ်၏၊ နောက်နှစ်ပါးကို ပယ်နိုင်ပါက အနာ ဂါမ် ဖြစ်သည်။ အနာဂါမ်ဖြစ်လျှင် အောက် ကာမ သုဂတိဘုံများသို့ ပဋိသန္ဓေ နေသောအားဖြင့် မလာ တော့ပြီ၊ အောက်သံယောဇဉ်တွေ ပြတ်ပြီပဲလို။

ဥဒ္ဓံဘာဂိယ သံယောဇနာနိ=အထက်သံယောဇဉ် များလည်း ၅ပါးရှိကြ၏၊ သူတို့တွေက အထက်သံသရာ မှာ ကျင်လည်ကြသည်၊ သူတို့ကို မဖြတ်နိုင်သေးလျှင် အထက်ဗြဟ္မာဘုံများ၌ ကျင်လည်နိုင်သေး၏။ ထိုဘုံများ နှင့် ဆက်သွယ်နေကြသည်၊ သူတို့ကိုဖြတ်နိုင်မှ ၄ မဂ် ၄ဖိုလ်ရ၍ ရဟန္တာဖြစ်နိုင်မည်၊ ယင်းတို့ကား–

* ၁။ ရူပရာဂ
၂။ အရူပရာဂ
၃။ မာန
၄။ ဥဒ္ဓစ္စ
၅။ အဝိဇ္ဇာတို့ ဖြစ်ကြသည်။

အောက်သံယောဇဉ်များကို ပယ်ရှားပြီးရုံသာမက၊ ဤ အထက်သံယောဇဉ်များကိုလည်း အကုန်ပယ်ရှားနိုင်မှ သံယောဇဉ်တွေ အကုန်ပြတ်သဖြင့် ရဟန္တာအရှင်မြတ် ဖြစ်ပေတော့မည်။

## ပြုံးသေ မဲ့သေ

**ဇာဏုသောနိပုဏ္ဏားကြီးက ဘုရားထံ လာ၍ လျှောက်ထား၏၊ "အရှင်ဘုရား... လောကကြီးထဲမှာ သေရမှာ မကြောက်တဲ့သူရယ်လို့ မရှိဘူး၊ ကြောက်တဲ့ သူချည်းပဲ ဘုရား" ထိုအခါ မြတ်စွာဘုရားက–

"သည်လို တစ်ထစ်ချ မယူလိုက်ပါနှင့်၊ သေရ မှာ ကြောက်တဲ့ပုဂ္ဂိုလ်လဲရှိတယ်၊ မကြောက်တဲ့ ပုဂ္ဂိုလ်လဲ ရှိတယ်..."

ဤသို့ မိန့်တော်မူသည်၊ အကျယ်ချဲ့၍လည်း ရှင်းပြ တော်မူ၏၊ ကြောက်သူ ၄–မျိုးနှင့် မကြောက်သူ ၄– မျိုး ရှိကြောင်းကိုလည်း ဖော်ပြတော်မူသည်။

၁။အချို့ ပုဂ္ဂိုလ်ဟာ သားသမီးနဲ့ စီးပွားဥစ္စာ ငါးဖြာအာရုံ ကာမဂုဏ်တို့၌ တွယ်တာမှု မကင်း သေး၊ ထိုပုဂ္ဂိုလ်တို့သန္တာန်မှာ ရောဂါဝေဒနာ တစ်ခုခု ရောက်လာလျှင် "စည်းစိမ်တွေက ငါ့ကို စွန့်တော့မယ်၊ ငါကလဲ စည်းစိမ်တွေကို စွန့်ရတော့မယ်"ဟု တွေး၍ ပူဆွေး၏၊ ငိုကြွေး ၏၊ ရင်ဘတ်စည်တီးဖြစ်ရ၏၊ ဤပုဂ္ဂိုလ်မျိုးက သေရမှာ ကြောက်သည်။

၂။နောက်တစ်ယောက်မှာ မိမိခန္ဓာကိုယ်ပေါ်၌ တွယ်တာမှု မကင်းသေး၊ ထိုပုဂ္ဂိုလ်တို့သန္တာန်မှာ ရောဂါဝေဒနာတစ်ခုခု ရောက်လာလျှင် "ချစ်လှ စွာသော ခန္ဓာကိုယ်က ငါ့ကို စွန့်တော့မယ်၊ ငါကလဲ သူ့ကို စွန့်ရတော့မယ်"ဟု တွေး၍ ပူဆွေး၏၊ ငိုကြွေး၏၊ ရင်ဘတ်စည်တီးဖြစ်ရ၏၊ ဤပုဂ္ဂိုလ်မျိုးကလည်း သေရမှာ ကြောက်သည်။

၃။နောက်တစ်ယောက်ကား ကုသိုလ်ကောင်းမှု တွေ မပြုရသေး၊ အကုသိုလ်တွေတော့ ပြုမိ လျက်သား ဖြစ်နေပြီ၊ ထိုပုဂ္ဂိုလ်ရဲ့ သန္တာန်မှာ ရောဂါဝေဒနာတစ်ခုခု ကပ်ရောက်လာလျှင် "ငါ့မှာ ကုသိုလ်ကောင်းမှုရယ်လို့ မရှိသေး၊ အကုသိုလ်တွေတော့ ပြုထားမိပေါ့"ဟု တွေး၍ ပူဆွေး၏၊ ငိုကြွေး၏၊ ရင်ဘတ်စည်တီးဖြစ်ရ၏၊ ထိုပုဂ္ဂိုလ်မျိုးကလည်း သေရမှာ ကြောက်သည်။

၄။နောက်တစ်ယောက်ကား (ပဋိစ္စသမုပ္ပါဒ် ကြောင်းကျိုးကို နားမလည်၍) ယုံမှားသံသယ

** အင်္ဂုတ္တရ၊စတုက္ကပါဠိ၊၄၉၃

* အင်္ဂုတ္တိုရ်ပါဠိ၊နဝက၊၂၅၂

ဝိစိကိစ္ဆာတွေ ရှိနေ၏၊ အကြောင်း ဖြစ်လို့ အကျိုးဖြစ်၊ အကြောင်းချုပ်လို့ အကျိုးချုပ်ရသည်ကို နားမလည်၊ ထိုပုဂ္ဂိုလ်မျိုးသန္တာန်မှာ ရောဂါ ဝေဒနာ တစ်ခုခု ရောက်လာလျှင် "ငါ့မှာ သံသယဝိစိကိစ္ဆာတွေ ရှိနေတယ်"ဟု တွေး၍ ပူဆွေး၏၊ ငိုကြွေး၏၊ ရင်ဘတ်စည်တီး ဖြစ်ရ၏၊ ထိုပုဂ္ဂိုလ်မျိုး ကလည်း သေရမှာ ကြောက်သည်။

ဤသည်တို့ကား သေရမှာ ကြောက်သူ ပုဂ္ဂိုလ် လေးမျိုး ဖြစ်၏။

ကြောက်သူ၄–ဦးကို အကျဉ်းချုပ်၍ပြောရလျှင်–

၁။ငါးဖြာ အာရုံ ကာမဂုဏ်တို့ကို မစွန့်နိုင်သူ တစ်ယောက်။

၂။မိမိ ခန္ဓာကိုယ်ကို ခင်တွယ်တဲ့ ပုဂ္ဂိုလ် တစ်ယောက်။

၃။အကုသိုလ်တွေ များနေတဲ့ ပုဂ္ဂိုလ် တစ်ယောက်။

၄။ပဋိစ္စသမုပ္ပါဒ်အရ အကြောင်းဖြစ်လို့ အကျိုးဖြစ်၊ အကြောင်းချုပ်လို့ အကျိုးချုပ်ဆိုတာကို မသိ၍ ဝိစိကိစ္ဆာရှိနေသူတစ်ယောက်တို့ ဖြစ်ကြသည်။

## သေရမှာ မကြောက်သူ ၄–ဦး

သေရမှာ မကြောက်သူလည်း ၄–ဦး ရှိ၏၊ ဖော်ပြခဲ့ပြီး ကြောက်သူ ၄–မျိုး၏ ပြောင်းပြန်မှတ်ရုံသာ ဖြစ်သည်။

၁။ငါးဖြာအာရုံကာမဂုဏ်တို့၌ တွယ်တာမှုကင်းနေသူ ဖြစ်၏၊ လက္ခဏာရေးသုံးပါး တင်၍ မြင်ထားသူ ဖြစ်သည်၊ ထိုပုဂ္ဂိုလ်တို့သန္တာန်သို့ ရောဂါဝေဒနာရောက်လာသော်လည်း ထိုပုဂ္ဂိုလ်တို့က သေရမှာ မကြောက်။ အဘယ့်ကြောင့်ဆိုသော် သုဂတိ၊ သို့မဟုတ် နိဗ္ဗာန်ကို မြင်ထားသောကြောင့် ဖြစ်သည်။

၂။ခန္ဓာကိုယ်ပေါ်၌ တွယ်တာမှု ကင်းနေသူ ဖြစ်၏၊ လက္ခဏာရေးသုံးပါးတင်၍ မြင်ထားသူ ဖြစ်သည်၊ ထိုပုဂ္ဂိုလ်မျိုးသန္တာန်သို့ ရောဂါဝေဒနာ ရောက်လာသော်လည်း ထိုပုဂ္ဂိုလ်တို့က သေရမှာ မကြောက်၊ အဘယ့်ကြောင့်ဆိုသော် သုဂတိ၊ သို့မဟုတ် နိဗ္ဗာန်ကို မြင်ထားသောကြောင့် ဖြစ်သည်။

၃။အကုသိုလ်တွေ နည်းပါး၍၊ ကုသိုလ်တွေ များသူ ဖြစ်သည်၊ လက္ခဏာရေးတင်၍ ဝိပဿနာဖြင့် နေသူလည်း ဖြစ်၏၊ ထိုပုဂ္ဂိုလ်မျိုးတို့သန္တာန်သို့ ရောဂါဝေဒနာရောက်လာသော်လည်း ထိုပုဂ္ဂိုလ်တို့က သေရမှာ မကြောက်၊ အဘယ့်ကြောင့် ဆိုသော် သုဂတိ၊ သို့မဟုတ် နိဗ္ဗာန်ကို မြင်ထားသောကြောင့် ဖြစ်သည်။

၄။(ပဋိစ္စသမုပ္ပါဒ်ကြောင်းကျိုးဖြစ်ပုံကို သဘောပေါက်ထား၍) သံသယ ဝိစိကိစ္ဆာမရှိ၊ ဝိပဿနာဖြင့် နေသူလည်း ဖြစ်သည်၊ ထိုပုဂ္ဂိုလ်မျိုးတို့ သန္တာန်သို့ ရောဂါဝေဒနာ ရောက်လာသော်လည်း ထိုပုဂ္ဂိုလ်တို့က သေရမှာ မကြောက်၊ အဘယ့်ကြောင့်ဆိုသော် သုဂတိ၊ သို့မဟုတ် နိဗ္ဗာန်ကို မြင်ထားသောကြောင့် ဖြစ်သည်။

## တစ်ဘဝသာသနာ

# ညာစောင်းပြီး ပြုံးသေဆိုလျှင်

ထိုမျှမက မှက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ် ဣန္ဒြေတွေပါ ကြည်လင်နေတတ်ကြ၏၊ ပျော့ပျောင်းနေတတ်ကြသည်၊ အများအားဖြင့် ဦးခေါင်းကလည်း ညာဘက်သို့ စောင်း၍ နေတတ်၏။

သို့ဖြစ်၍ "ညာစောင်းပြီး ပြုံးသေ" သေနိုင်အောင် အစဉ်ထာဝရ ဝိပဿနာကို လက်ကိုင်ပြုကြရပေလိမ့်မည်။

ဤသို့ ပုဂ္ဂိုလ်(၈)မျိုး ရှိရာတွင် ရှေ့၄ မျိုးက သေခါနီးမှာ အဆင်မပြေကြ၍ "မဲ့သေ"ဖြစ်ကြ၏။

**နောက်ပုဂ္ဂိုလ်၄–မျိုးကတော့ သေလျှင် သုဂတိရမည်၊ သို့မဟုတ် အရဟတ္တမဂ်ဖြင့် နိဗ္ဗာန်ကို မြင်ထားသူဖြစ်၍ ပရိနိဗ္ဗာန်ပြုရမည်၊ ဤသို့လျှင် အတတ်သိမြင်ထားသောကြောင့် သေရမှာကို မကြောက်ကြ၊ ပြုံး၍ပင် အသင့်စောင့်နေကြသေး၏၊** ထို့ကြောင့် ထိုပုဂ္ဂိုလ်များ သေလျှင် "ပြုံးသေ"ဖြစ်သည်။

# အရိယာတို့သေလျှင် ညာစောင်း

**[သံယုတ်အဋ္ဌကထာ၊ဒု၊၂၈၈၊ဝက္ကလိသုတ်အဖွင့်မှ]**

**ထေရော ကိရ ဥတ္တာနကော နိပန္နော သတ္တံ အာဟရိ၊** တဿ သရီရံ ယထာဌိတမေဝ အဟောသိ၊ သီသံ ပန ဒက္ခိဏပဿေန ပရိဝတ္တိတွာ အဋ္ဌာသိ။

အရှင်ဝက္ကလိမထေရ်ဟာ ညောင်စောင်းပေါ်မှာ ပက်လက် လဲလျောင်းရင်း (သူ့ကိုယ်သူ လည်ပင်း) သင်တုန်းဓားနဲ့ လှီးလိုက်သည်၊ သူရဲ့ခန္ဓာကိုယ်ကတော့ နေမြဲတိုင်း ပက်လက်ပါပဲ၊ ဦးခေါင်းကတော့ လက်ယာဘက်ကို လည်၍ စောင်းနေသည်။

အရိယသာဝကာ ဟိ ယေဘုယျေန ဒက္ခိဏပဿေနေဝ ကာလံ ကရောန္တိ၊ တေနဿ သရီရံ ယထာဌိတံယေဝ အဟောသိ၊ သီသံ ပန ဒက္ခိဏပဿေန ပရိဝတ္တိတွာ ဋ္ဌိတံ။

ဟိ–မှန်ပါ၏၊ အရိယသာဝကာ–အရိယာသာဝကတို့သည်၊ ယေဘုယျေန–များသောအားဖြင့်၊ ဒက္ခိဏပဿေနေဝ–လက်ယာနံပါးဖြင့်သာလျှင်၊ ကာလံ ကရောန္တိ–စုတေတတ်ကြလေကုန်၏။

တေန–ထို့ကြောင့်၊ အဿ–ထိုဝက္ကလိ၏၊ သရီရံ–ခန္ဓာကိုယ်သည်၊ ယထာဌိတံယေဝ–တည်နေမြဲတိုင်းသာလျှင် (ဝါ) ထား ထားတဲ့အတိုင်း၊ အဟောသိ–ဖြစ်နေပြီ၊ သီသံပန –ဦးခေါင်းသည်ကား၊ ဒက္ခိဏပဿေန–လက်ျာနံပါးဖြင့်၊ (ဝါ) လက်ယာဘက် စောင်းလျက်၊ ပရိဝတ္တိတွာ–လည်၍၊ ဌိတံ–တည်နေပြီ။

**မှတ်ချက်။** ။ဤအဋ္ဌကထာဖွင့်အရ အရိယာတို့ သေလျှင် ခေါင်းကလေး ညာဘက်စောင်းပြီး သေတတ်ကြသည်–ဟု သိရ၏၊ ထို့ပြင် လက်ခြေခန္ဓာကိုယ်တို့သည်လည်း ပျော့ပျော့ပျောင်းပျောင်း ဖြစ်နေတတ်ကြသည်ဟူ၏၊ အတွေ့အကြုံအရလည်း မိုးကုတ်ယောဂီလောကတွင် ညာစောင်းကလေးများ၊ လက်ခြေ ပျော့ပျောင်းကလေးများ ချုပ်ကြသည်ကို များစွာ တွေ့နေကြရသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အိပ်ပုံအိပ်နည်း လေးမျိုး

၁။ ပြိတ္တာတို့အိပ်ပုံအိပ်နည်း၊
၂။ ပျင်းတဲ့သူများအိပ်နည်း၊
၃။ ကာမဂုဏ်သားတို့အိပ်နည်း၊
၄။ သူတော်ကောင်းတို့အိပ်နည်း။

(၁)ပြိတ္တာကလေးများသည် (ပက်ကျိကောင်လို) အရိုး မရှိကြ၊ ထို့ကြောင့် ရပ်လျက် ထိုင်လျက် ကြာကြာ မနေနိုင်၊ သို့ဖြစ်၍ အိပ်သောအခါ ပက်လက်ကလေးများ အိပ်တတ်ကြ၏။

(၂)ပျင်းရိတဲ့သူများကား အိပ်ပြီဆိုလျှင် အပျင်းထူတဲ့ သူတို့ရဲ့ပုံစံအတိုင်း မှောက်ခုံကြီးတွေ အိပ်တတ်ကြ၏။

(၃)ကာမဂုဏ်သား ယောကျ်ားတို့ကတော့ လက်ဝဲဘက်သို့ စောင်းလျက် အိပ်တတ်ကြ၏။

(၄)သူတော်ကောင်းတို့ အမူအရာကား လျောင်းပြီ ဆိုလျှင် (ကာမဂုဏ်သားတို့နှင့် ဆန့်ကျင်ဘက်) လက်ယာဘက်သို့ စောင်း၍ အိပ်တတ်ကြ၏။

ဤသို့ ပြုမူသည်ကို "လက်ယာနံတောင်းစောင်းလျက် အိပ်သည်"ဟု ဆိုကြ၏၊ သူတော်ကောင်းတို့၏ အမူအရာပင် ဖြစ်သည်။

ထို့ကြောင့် အောက်ထစ်ဆုံး သောတာပန် အရိယာတို့ သေလျှင်လည်း (ယေဘုယျေန) များသောအားဖြင့် လက်ယာဘက်သို့ စောင်းတတ်သည်ဟူ၏။

တစ်ကိုယ်လုံး စောင်းသည် မဟုတ်၊ ခန္ဓာကိုယ်ကတော့ ထားမြဲအတိုင်း ရှိတတ်သည်၊ ဦးခေါင်းတစ်ခုသာလျှင် လက်ယာဘက်သို့ လည်လျက် စောင်းလျက်ဖြစ်–ဖြစ်သွားသည်ဟူ၏။

မယုံကြည်၍ ဦးခေါင်းကို လက်ဝဲဘက်သို့ပြန်၍ စောင်းပေးထား၊ မကြာခင် လက်ယာဘက်သို့ ပြန်လည် စောင်းလာသည်ဟူ၏၊ သူ့သဘာဝပင် ဖြစ်၏။

ဟုတ်ပါသည်၊ ယခုခေတ်တွင် မိုးကုတ်ယောဂီတော်တော်များများ "ညာစောင်းကလေးများ ချုပ်ကြသည်"ကို တွေ့–တွေ့နေရပါ၏၊ စာဆိုနှင့် လက်တွေ့ကိုက်ညီ၍နေကြသည်ကို အားတက်ဖွယ်ရာ တွေ့ကြရပါသည်။

## လှူပုံလှူနည်း ပြုပြင်ပေးတော်မူကြ

အမရပူရမြို့မှာ နေလိုလလို ထင်ရှားတော်မူကြသည့် ဆရာတော်ဘုရားကြီး ၂–ပါး ရှိကြသည်၊ တစ်ပါးက မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ၊ တစ်ပါးကတော့ "မိုးကုတ်ဆရာတော်"လို့ ကျော်ကြားတဲ့ မင်္ဂလာတိုက်ဟောင်းက ဆရာတော် ဦးဝိမလတို့ပါပဲ။

ဒကာ ဒကာမများအပေါ် ကရုဏာသက်တော်မူကြလို့ ဆရာတော်အရှင်ဇနကာဘိဝံသက အလှူလှူကြရာ၌ လှူပုံလှူနည်းကို ပြုပြင်ပေး သင်ပေးတော် မူ၏။

အလားတူပင် မိုးကုတ်ဆရာတော် ဦးဝိမလကလည်း လှူပုံလှူနည်းကို ပြုပြင်ပေး သင်ပေးတော်မူသည်။ သို့ရာတွင် အရှင်မြတ် ၂–ပါး မတူတတ်ကြပေ။

ဆရာတော် အရှင်ဇနကာဘိဝံသက အလှူ လှူကြရာ၌ မကုန်သင့်တာ မကုန်အောင်၊ အပို မယိုဖိတ်စေနဲ့၊ သပ်သပ်ရပ်ရပ် လှူတတ်ကြပစေ၊ ရဟန်းသံဃာတော်များနဲ့ အသုံးမတည့်ရာကို လှူလျှင် အပို ကုန်ကျခြင်းပင် ဖြစ်၏။

အဓိပ္ပာယ်မဲ့ ကုန်ကျလျှင် ကုန်ကျသမျှဟာ နိုင်ငံမှာ ပစ္စည်းယိုဖိတ်ခြင်းပဲ၊ နိုင်ငံရဲ့ တိုးတက်မှုကို နှောင့်နှေးစေတယ်–တဲ့၊ ဤသို့ မိန့်တော်မူသည်။

## ဝဋ်ကျွတ်စေတဲ့ အလှူမျိုး လှူ

မိုးကုတ်ဆရာတော်ကြီးကတော့ လှူတဲ့နေရာမှာ ဝဋ်ကျွတ်တဲ့ အလှူမျိုး ဖြစ်ပါစေတဲ့၊ အများအားဖြင့် အလှူ–လှူပြီဆိုရင် လူ့စည်းစိမ် နတ်စည်းစိမ်တွေကို ဆုတောင်းတတ်ကြတယ်၊ အဲဒါတွေက ဝဋ်ကျွတ်ဖို့မှ မဟုတ်ဘဲ၊ ဝဋ်လယ်ဖို့တွေပဲ။

အဲဒီစည်းစိမ်တွေ ရတော့ ဝဋ်ထဲမှာ ပျော်နေကြရော၊ ရတဲ့ စည်းစိမ်တွေကလဲ ဒုက္ခသစ္စာတွေ၊ ဒုက္ခထဲကနေပြီး ဒုက္ခတွေကို ထပ်တောင်းတာ၊ "ဒုက္ခနည်းသေးလို့ ဒုက္ခကြီးကြီး ပေးပါ" လို့ တောင်းတာနဲ့ တူတယ်–တဲ့။

ဒီတော့ လှူတဲ့အတွက် ပစ္စည်းလဲ ကုန်ရသေး၊ ဝဋ်လဲ မကျွတ်ဘူး–ဆိုတော့ နစ်နာတယ်–တဲ့၊ အဲဒါကြောင့် ဝဋ်ကျွတ်တဲ့အလှူမျိုး လှူတတ်ပါစေ၊ "ဝဋ်ကျွတ်ရပါလို၏၊ ဝဋ်ကျွတ်ရာနိဗ္ဗာန်ကိုသာ ရလိုပါ၏" လို့ ဦးတည်ဆုတောင်းပါ–တဲ့၊ ဤသို့ ပြင်ပေးပုံချင်း ကွာခြားကြပါသည်။

သူ့ရှုထောင့်နှင့်သူ မှန်ကြသည်ချည်းပင် ဖြစ်၏၊ အရှင်ဇနကာဘိဝံသဆရာတော်က ဘဝအရှည်ကောင်းဖို့အတွက် ရည်ရွယ်ဆုံးမသည်၊ မိုးကုတ်ဆရာတော်ကတော့ ဘဝအတိုကောင်းဖို့အတွက် မိန့်မြွက်ဆုံးမသည်။

## ဒါနက သံသရာ မရှည်စေပါဘူး

အချို့က ပြောမိတတ်ကြ၏၊ "ဝဋ်ဒုက္ခကြီးမှ မြန်မြန်ကျွတ်အောင် ဝိပဿနာကိုသာ အားထုတ်ကြ၊ ဒါနတွေနဲ့ ပျော်နေရင် သံသရာရှည်နေမယ်"၊ ဤသို့ လွယ်လွယ်ပင် ပြောတတ်ကြ၏၊ ဤကိစ္စနှင့်ပတ်သက်၍ မိုးကုတ်ဆရာတော်ကြီးက ဤသို့ မိန့်သည်–

"သူတို့နားမလည်လို့ ပြောကြတာ၊ အမှန်မှာ ဒါနက သံသရာ မရှည်စေပါဘူး၊ သူတို့တွေက ဒါနပြုပြီဆိုရင် "ဤကောင်းမှုကြောင့် လူ့စည်းစိမ်၊ နတ်စည်းစိမ်၊ ဗြဟ္မာ့စည်းစိမ် အကြိမ်ကြိမ် ခံစားစံစားပြီးမှ နိဗ္ဗာန်ဝင်ရပါလို၏"လို့ ဆုတောင်းတတ်ကြတာကိုး။

အဲလိုဆိုတော့ သူတို့ဆန္ဒအတိုင်း လူ့ဘုံ နတ်ဘုံ ဗြဟ္မာ့ဘုံတွေမှာ စုန်ဆန်သွားလာနေကြရရော၊ ဒီတော့ ရှည်တာပေါ့။

အမှန်က "ခန္ဓာ့ဝဋ်ဒုက္ခမှ ကျွတ်လွတ်လို၍ လှူပါ၏" ဆိုရင် ဘယ်မှာ သံသရာရှည်လိမ့်မလဲ၊ သူတို့ဟာက ဆုတောင်းလွဲလို့ ရှည်ကြတာ၊ ဆုတောင်းမတတ်လို့ ရှည်ကြတာ၊

ဒီတော့ နည်းမှန် လမ်းမှန် ဆုတောင်းပြီးလှူရင်

ဒါနက သံသရာ မရှည်စေပါဘူး"

ဟူ၍ မိန့်တော်မူပါ၏၊ ဤစကားသည် အထူးအဆန်း မဟုတ်ပါ၊ ရှေးအထက်ကျော်ကာလတို့က ဆရာ့ဆရာ မထေရ်ကြီးများကလည်း ဤအတိုင်းပင် မိန့်လေ့ ရှိတတ်ကြပါ၏–

"ဝဋ္ဋနိဿိတဒါန၊ ဝိဝဋ္ဋနိဿိတဒါန–လို့ (၂)မျိုး ရှိတယ်၊ အလှူလုပ်တဲ့အခါများမှာ ဝဋ္ဋနိဿိတဒါန (ဝဋ်ကိုမှီတွယ်နေတဲ့ဒါန၊ ဝဋ်ဒုက္ခထဲမှာ လယ်နေရမယ့်ဒါန)မျိုး မဖြစ်စေကြနဲ့။

ဝိဝဋ္ဋနိဿိတဒါန (ဝဋ်ကို မမှီတွယ်တဲ့ဒါန၊ ဝဋ်ဒုက္ခကို မတောင့်တတဲ့ဒါန)မျိုး ဖြစ်ကြပစေ"

ဤသို့ မိန့်တော်မူလေ့ရှိတတ်ကြပါ၏၊ ရှေးရှေးမထေရ်ကြီးတို့၏ စကားနှင့် ယခု မိုးကုတ်ဆရာတော်ကြီး၏ စကားသည် မကွာခြားဘဲ တသားတည်းပင် ဖြစ်တော့သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဝိပဿနာခြံရံပြီး လှူတာ အမြတ်ဆုံး

၁။ အလှူဒါန၊ ပြုကုန်ကြ၊ ဉာဏစဉ်ကွပ်ကဲ၊
၂။ ဉာဏ်မကွပ်လျှင်၊ တဏှာဝင်၊ ရလျှင် ဒုက္ခပဲ၊
၃။ ပဋိသန္ဓေ၊ အိုနာသေ၊ ထွေထွေလွန်ဆင်းရဲ၊
၄။ အလှူမတတ်၊ မမြင့်မြတ်၊ ရှုံးဖတ်တင်မည့်ပွဲ၊
၅။ လှူဆဲချိန်ခါ၊ ကိုယ်ခန္ဓာ၊ ဉာဏ်ဝါစူးစိုက်စွဲ၊
၆။ ကိုက်ခဲယားယံ၊ ကျင်နာပြန်၊ ဒုက္ခံပြစ်မြဲ၊
၇။ ခန္ဓာပြကွက်၊ ဒုက္ခစက်၊ ဖြစ်ပျက်ရှုဉာဏ်တွဲ၊
၈။ ဒုက္ခဉာဏ်မြင်၊ လွတ်ကင်းချင်၊ စိတ်စဉ်ပြောင်းကာလွှဲ၊
၉။ ဒုက္ခလွတ်ကြောင်း၊ ဉာဏ်ချင့်လောင်း၊ လှန် ကောင်းမြတ်လှူပွဲ။

(က) အင်္ဂုတ္တရ၊ အဋ္ဌက၊ မိန့်ဟ ရှင်တော်မြတ်၊
(ခ) ရှစ်ခုမြောက်လာ၊ ဒါနသာ၊ ကောင်းစွာ ပြုလုပ်အပ်၊
(ဂ) သမထ ဝိပဿနာ၊ ခြံရံကာ၊ လှူတာ မြတ်ဆုံးမှတ်၊
(ဃ) အလှူတတ်မှ၊ သံသာရ၊ ဒုက္ခတိုမည်မှတ်။

[ဒုလ္လဒေသနာ၊ စတုတ္ထအုပ်မှ]

## အဓိပ္ပာယ်များ ရှင်းလင်းချက်

အင်္ဂုတ္တိုရ်ပါဠိတော်၊ အဋ္ဌကနိပါတ်၊ မျက်နှာ–၇၂တွင် ဒါနပြုလုပ်ပုံ (၈)မျိုးကို မြတ်စွာဘုရား ဟောပြထားတော်မူ၏၊ ထိုတွင် နောက်ဆုံး (၈)ခုမြောက်အမျိုးအစားမှာ ဝိပဿနာခြံရံ၍ လှူသောအလှူဖြစ်၏၊ ထိုအလှူသည် အမြတ်ဆုံးဟု ဆိုထားသည်။ ယင်းနှင့် ဆိုင်ရာ ဋီကာက–

"ခယတော ဝယတော သမ္မသန်
ပဋ္ဌပေတွာ ဒဒတော ဘာဝနာမယံ
ပုညကိရိယဝတ္ထု ဟောတိ"

ဟူ၍ ဖွင့်ဆိုထား၏၊ အဓိပ္ပာယ်မှာ "ဖြစ်ပျက်အားဖြင့် ခန္ဓာကိုယ်ပေါ်၌ သုံးသပ်မှုကို ဖြစ်စေ၍ လှူသောသူ၏ ဒါနသည် ဘာဝနာ ခြံရံပြီး လှူသော ဒါန ဖြစ်၏"၊ အမြတ်ဆုံးဖြစ်သည်။

ထို့ကြောင့်များလေလော၊ ဦးကျော်သိန်း+ဒေါ်တင်လှတို့၏ (ထေရာသန စံကျောင်း)ကို မလှူမီ ကျောင်းဒကာ–ကျောင်းအမ ၂–ဦးလုံးကို တစ်ဝါတွင်းလုံး တရားအားထုတ်စေသေးသည်၊ ပြီးမှ ရေစက်ချပြီး လှူဒါန်းစေ၏။

ဤအဓိပ္ပာယ်တို့ကို ရည်ရွယ်တော်မူပြီးလျှ မိုးကုတ်ဆရာတော်ကြီးက "အလှူဒါနပြုလုပ်ကြလျှ ဉာဏ်ပါ–ပါစေ"ဟု ဦးစွာ ပထမ ညွှန်ကြားတော်မူ ထိုသို့ ဉာဏ်မပါလျှင်ကတော့ တဏှာဝင်ကုန်တော့မည် လူ့ဘုံ နတ်ဘုံ ဗြဟ္မာ့ဘုံတို့ကို တဏှာနဲ့ တောင်းကြတော့မည်ဟူလို၊ တောင်းလို့ရှိလျှင် ပဋိသန္ဓေ အိုနာသေတွေကိုပဲ ဒုက္ခသစ္စာတွေပဲ ရမှာပေါ့။

ထို့ကြောင့် မိုးကုတ်ဆရာတော်ဘုရားကြီး မိန့်လေ့ရှိတာဖြင့်–"ဝိပဿနာမပါဘဲနဲ့၊ သစ္စာမသိဘဲ လုပ်တဲ့ဒါန–သီလတွေကတော့ ဒုက္ခကလေးနဲ့ ဒုက္ခကြီး ကို လဲယူကြတာပါပဲ" တဲ့။

ဒီလို ဖြစ်ရတာဟာ အလှူမတတ်လို့ မြင့်မြတ်မှုသို့ မရောက်တော့ဘဲ အရှုံးသာအဖတ်တင်ပြီး ကျန်ရစ်တဲ့ပွဲ ဖြစ်သွားရတော့သည်တဲ့။

ထို့ကြောင့် လှူဆဲအချိန်အခါမှာ ကိုယ့်ခန္ဓာအပေါ် ဉာဏ်စိုက်ပါ၊ ကိုက်ခဲမှု ယားယံမှု နာကျင်မှု ကလေးတွေ ပြလာမယ်၊ အဲဒါဟာ သစ္စာ တွေပေါ့၊ သူတို့လေးတွေ ပျောက်ကုန်တာ အစားထိုးလာတာကို မြင်အောင် ဉာဏ်နဲ့ကြည့်ပါ။ အဲဒီကျမှ ဒုက္ခသစ္စာတွေပေါ့။

"အဲဒီဒုက္ခသစ္စာတွေမှ လွတ်ချင်လို့ လှူဒါန်းပါ၏"လို့ ဆိုပြီး လှူ၊ အဲဒါဟာ ဝိပဿနာ ခြံရံပြီး လှူတာပဲ၊ အဲလို လှူမှ သံသရာတိုမည်၊ လှူတတ်ကြပါစေ၊ [သမထဝိပဿနာ၊ ခြံရံကာ၊ လှူတာ အမြတ်ဆုံး။]

# ဒုက္ခသစ္စာမှ လွတ်မြောက်လို၍

ရန်ကုန်မြို့၊ မိုးကုတ်ဝိပဿနာအဖွဲ့ချုပ်ကြီးမှ အဖွဲ့ဝင်တစ်ဦးဖြစ်သူ ဦးချန်ထွန်းက သူ့အတွေ့အကြုံကို ပြန်လည်ပြောပြပါ၏၊ ဆရာတော်ကြီးနှင့် အဦးဆုံး တွေ့ရသောအကြိမ်ဟု ဆိုသည်။

"မိုးကုတ်ဆရာတော်ဦးဝိမလဆိုတာ အင်မတန် နာမည်ကြီးနေတယ်၊ မိုးကုတ်ကို သွားစရာကိစ္စလဲ ရှိနေတယ်၊ ကြံ့တုန်းကြုံခိုက်မှာ သင်္ကန်း လှူရမယ်"

ဤသို့ စဉ်းစားပြီးလျှင် မန္တလေးမြို့၊ ဗန္ဓုလသင်္ကန်းတိုက်မှ သင်္ကန်းတစ်စုံ ဝယ်ယူသွားခဲ့သည် ဟူ၏၊ မိုးကုတ်မြို့တွင် ဆရာတော်ကြီးအထံသို့ ချဉ်းကပ်သောအခါ နံနက် ၁၀–နာရီလောက် တစ်ယောက်တည်း ရောက်သွားသည် ဟူ၏၊ ရောက်လျှင် ရောက်ချင်း သင်္ကန်းကို ထုတ်၍ ဆက်ကပ်သောအခါ–

"မင့်သင်္ကန်း အသာချထားပါဦးကွာ၊ မင်း ဘယ်ကလဲ"
"တပည့်တော် ရန်ကုန်ကပါ ဘုရား"
"မင်း တရားထိုင်ဖူးသလား"
"မထိုင်ဖူးပါ ဘုရား"
"အေး ဒါဆိုရင် မင်း တင်ပျဉ်ခွေထိုင်၊ မျက်လွှာချထား၊ မင့်ဉာဏ်နဲ့ မင့်ခန္ဓာထဲ ကြည့်နေ"

ဤသို့ မိန့်ကြွက်ပြီးလျှင် ဆွမ်းဘုဉ်းပေးရန် ဆွမ်းစားကျောင်းသို့ ကြွသွားပါသတတ်၊ နာရီဝက်ခန့် ကြာသောအခါ ပြန်ရောက်လာသည်။

"ဘယ့်နှယ်လဲကွ၊ ဘာတွေ့သလဲဟေ့"ဟု ဆရာတော်က မေးပါသတတ်၊ ထိုအခါ ဦးချန်ထွန်းက–

"တပည့်တော်ဖြင့် ဘာမျှ မတွေ့ပါဘူး၊ ညောင်းတာ ကိုက်တာ ခဲတာတွေ၊ ထုံတာ ကျဉ်တာ နာတာတွေပဲ တွေ့နေတယ်ဘုရား"
"အေး... ဟုတ်ပီ၊ အဲဒါတွေဟာ ချမ်းသာတွေလား၊ ဆင်းရဲတွေလား"
"ဆင်းရဲတွေပါ ဘုရား"
"ဆင်းရဲ" ဆိုတော့ ဒုက္ခတွေပေါ့"
"မှန်ပါဘုရား"
"အဲဒါတွေက မတည်ငြိမ်ဘူး၊ ပြောင်းလွဲနေတယ်"
"မှန်ပါဘုရား"
"ဒုက္ခသစ္စာ" ဆိုတာ ဒါတွေပဲ"

"သြော်... မှန်ပါဘုရား"

"အဲဒီဒုက္ခသစ္စာတွေကို လိုချင်သလား၊ မလိုချင်ဘူးလား"

"မလိုချင်ပါ ဘုရား"

"ကဲ ဒါဆိုရင် အဲဒီလို ဒုက္ခသစ္စာမျိုးတွေကို မလိုချင် မရချင်လို့ ဒီသင်္ကန်းကို လှူပါတယ် ဘုရား" လို့ မင့်စိတ်ထဲက ဆုတောင်းပြီး လှူပါ"

ဤသို့ လှူပုံလှူနည်းကို သင်ပေး၍ ဤအတိုင်း လှူခဲ့ရကြောင်း ပြန်လည် ပြောပြပါသည်။

"သစ္စာသိပြီးမှ လှူ"ဆိုတာ အခုလို ဒုက္ခသစ္စာတွေကို သိအောင်လုပ်ပြီး အဲဒီဒုက္ခသစ္စာမျိုးကို မလိုချင် မရချင်လို့လှူပါသည်၊"ဟု ရည်ရွယ်ပြီး လှူသော အလှူမျိုးကို ဆိုလိုပါသတတ်။

## ဘယ်ဘာသာနဲ့ဖြစ်ဖြစ်၊ ကျင့်နိုင်ဖို့သာ ပဓာန

*မြတ်စွာဘုရားလက်ထက်တော်တုန်းက တစ်နေ့တွင် ဘုရားထံမှောက်သို့ ရဟန်းညီအစ်ကို (၂)ပါး ရောက်လာကြ၏၊ ခေတ်ပညာတတ်များပင် ဖြစ်ကြသည်၊ သူတို့က လျှောက်ကြ၏-

"မြတ်စွာဘုရား... အရှင်ဘုရား ဟောကြားတဲ့ တရားတော်တွေက အင်မတန် ကောင်းမွန်လှပါတယ်၊ ဟိုအရပ် သည်အရပ်၊ ဟိုနယ် သည်နယ်တွေမှာ၊ ဟိုလူမျိုး သည်လူမျိုးတွေက သူတို့ ပြောဆိုသုံးနှုန်းနေကြတဲ့ ဘာသာစကားတွေနဲ့ အရှင်ဘုရားတရားတွေကို သင်ယူမှတ်သားနေကြပါတယ် ဘုရား။

ယခုခေတ်အခါမှာ သက္ကဋဘာသာ (ဆန်းဆကရစ်ဘာသာ)ဟာ အဆင့်အတန်း အမြင့်ဆုံး တည်ငြိမ်၍ အမွန်မြတ်ဆုံး ဖြစ်ပါတယ်။

အဲသည် သက္ကဋဘာသာ (ဆန်းဆကရစ်ဘာသာ)နဲ့သာ အရှင် ဘုရားရဲ့ တရားတွေကို ပြောင်းလွဲတင်ထားပါ ဘုရား။

ဘာသာပြန် ပြောင်းလွဲထားဖို့ ကိစ္စကတော့ တပည့်တော်တို့ ညီအစ်ကို (၂)ပါး တာဝန် ရှိပါစေ၊ တာဝန်ယူပါ့မယ်ဘုရား။

အရှင်ဘုရားရဲ့ မွန်မြတ်လှတဲ့ တရားတွေကို အဆင့်အတန်းနိမ့်ကျတဲ့ အခြားဘာသာတွေနဲ့ သင်ယူမှတ်သားခွင့်မပြုပါနဲ့ဘုရား"

ဤသို့ လျှောက်ကြသောအခါ မြတ်စွာဘုရားက ချက်ချင်း လက်ကာ ပယ်မြစ်တော်မူ၏၊ "ငါဘုရား၏ တရားတော်တွေကို ဘယ်ဘာသာနဲ့ သင်ယူ-သင်ယူ၊ အဓိပ္ပာယ်သိပြီး ကျင့်နိုင်ဖို့သာ ပဓာန"ဟု ဆိုလိုတော်မူ၏၊ ပြီးလျှင် ဆက်လက်မိန့်တော်မူသေးသည်။

## ဟန့်တားခြင်းနှင့် ခွင့်ပြုခြင်း

*န ဘိက္ခဝေ ဗုဒ္ဓဝစနံ ဆန္ဒသော
အာရောပေတဗ္ဗံ၊ ယော အာရောပေယျ
အာပတ္တိ ဒုက္ကဋဿ။

ရဟန်းတို့... ငါဘုရား၏ တရားတော်တွေ[illegible] ဆန်းဆကရစ်ဘာသာ (သက္ကဋဘာသာ) တစ်မျိုးတ[illegible] ဖြင့်သာ ပြောင်းလွဲ၍ တင်မထားရ၊ တင်ထားလ[illegible] ဒုက္ကဋ်အာပတ်သင့်စေ"ဟု ဟန့်တားမိန့်မြွက်တော်မူ[illegible]

* စူဠဝါပါဠိတော်၊နှာ-၂၈၀

ပြီးလျှင် ဆက်လက်၍–

"အနုဇာနာမိ ဘိက္ခဝေ သကာယ နိရုတ္တိယာ ဗုဒ္ဓဝစနံ ပရိယာပုဏိတုံ"

"ရဟန်းတို့... ငါဘုရား၏ တရားတော်တွေကို မိမိ– မိမိတို့၏ ဘာသာစကားဖြင့် (ကြိုက်သလို) ပြောင်းလွှဲ သင်ယူလိုက်နာကျင့်ကြံနိုင်ကြသည်"ဟူ၍ ခွင့်ပြုတော်မူ၏။

"ငါဘုရား၏ တရားတော်တွေကို ဘယ်လူမျိုး၊ ဘယ်ဘာသာ၊ ဘယ်စကားနဲ့ပဲ ပြန်ယူယူ၊ ခွင့်ပြုတော်မူ၏။

**ဘာသာစကား၊** ဘာသာစာပေ နိမ့်တာ မြင့်တာက ပမာနမဟုတ်၊ ငါဘုရား၏တရားတွေကို အဓိပ္ပာယ် သိပြီး ကျင့်နိုင်ဖို့ကသာ ပမာန"

ဤသို့ သဘောထားတော်မူ၏၊ ဤကား မြတ်စွာဘုရား၏ အလိုဆန္ဒတော်ဖြစ်သည်၊ ထို့ကြောင့် လက်ထက်တော်ကစ၍ ဘုရားတရားတော်တွေကို မဂဓပါဠိဘာသာဖြင့်သာမက၊ သက္ကတဘာသာ၊ ဟိန္ဒူ၊ ဘင်္ဂါလီ၊ နာဂရီ စသည်တို့ဖြင့်ပါ သင်ယူနိုင်ခွင့် လေ့လာနိုင်ခွင့် မှတ်သားနိုင်ခွင့် ရှိခဲ့တော့သည်။

ယခုခေတ်တွင်ကား အင်္ဂလိပ်ဘာသာ၊ ပြင်သစ်၊ ဂျာမန်၊ မြန်မာ၊ တရုတ် စသည်တို့ဖြင့်လည်း ကြိုက်သလို လေ့လာနိုင်ကြပြီ။

# မြန်မာတွေကို မြန်မာလို ဟောလို့

မိမိတို့ မြန်မာနိုင်ငံမှာပင် ဘုရားတရားတော်များသည် ပါဠိဘာသာရပ်ဖြင့် တည်ရှိနေခဲ့ကြ၏၊ သို့ဖြစ်၍ တရားသဘော တရားအရသာတို့ကို လူတိုင်း မခံစားနိုင်ကြပေ၊ ပါဠိဘာသာ တတ်ကျွမ်းသော ရဟန်းတော်တို့သာ သိနိုင်ခွင့် ရခဲ့ကြသည်၊ ပါဠိ မတတ်ကျွမ်းသော လူပုဂ္ဂိုလ်များ သိဖို့ **အခွင့်အရေး** မရခဲ့ကြပေ။

ဤသို့ ဖြစ်နေရာတွင် မိုးကုတ်ဆရာတော်ကြီး ဦးဝိမလက မြန်မာလူမျိုးတွေကို မြန်မာလို သက်သက်ဖြင့် ဟောလိုက်တော့၏၊ ထိုအခါ ဆိုလိုသမျှ အဓိပ္ပာယ်တွေ အကုန်သိရသဖြင့် ပါဠိမတတ်ကျွမ်းသော်လည်း တရားအရသာတွေ ခံစားခွင့်ရသွားကြတော့သည်။

ဘုရားရှင်ကိုယ်တော်မြတ်ကြီးက "ငါဘုရား၏ တရားတော်တွေကို ဘယ်ဘာသာနဲ့ ဟောဟော၊ ဘယ်ဘာသာနဲ့ ပြန်ယူယူ"ဟု ခွင့်ပြုတော်မူခဲ့၍သာ ဤသို့ အခွင့်အရေး ရကြခြင်း ဖြစ်လေသည်။

**မှတ်ချက်။** ။"သက္ကတဘာသာ (ဆန်းဆကရစ် ဘာသာ) တစ်မျိုးတည်းနဲ့သာ ဟောကြားရမည်၊ သင်ယူမှတ်သားရမည်၊ အခြားဘာသာတွေနဲ့ မဟောရ၊ မသင်ယူရ–ဟူ၍ ပညတ်တော်မူပါ"

ဤသို့သော လျှောက်ထားချက်ကို မြတ်စွာဘုရားက အကယ်၍များ လက်ခံတော်မူခဲ့ပါလျှင် တရားတော်လည်း လွတ်လွတ်လပ်လပ် ကျယ်ပြန့်ခွင့် မရှိ၊ တရားလိုလားသူတို့လည်း အခက်အခဲနှင့် ကြုံရနိုင်သည်။

ထို့ကြောင့်လည်း မြတ်စွာဘုရားက ပယ်ချတော်မူခဲ့ခြင်း ဖြစ်၏၊ ပယ်ချခဲ့၍လည်း ယခုအခါ မိမိတို့ဘာသာဖြင့် လွတ်လပ်လွယ်ကူစွာ လေ့လာနိုင်ခွင့် ရကြရလေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# စိတ္တာနုပဿနာ ရှုပုံရှုနည်းများ

ဤစိတ္တာနုပဿနာရှုပုံနှင့်ပတ်သက်၍ မိုးကုတ်ဆရာတော်ကြီးကိုယ်တိုင် ဟောပြောချက်တို့မှ ကောက်နုတ်ဖော်ပြပါမည်၊ [မိုး(၃)နှာ-၄၈၄မှ။]

"ဒကာ ဒကာမတို့ သန္တာန်မှာ ဖြစ်နိုင်တဲ့စိတ်၊ ပေါ်နိုင်တဲ့စိတ်က သိပ်မများပါဘူး၊ (၄၅)ပါးပဲ ရှိတယ် (မှန်ပါဘုရား) အဲဒါ သင့်တော်သလို တစ်ခုစီ လှည့်ပေါ်မှာပဲ (မှန်ပါ)

ကာမစိတ်၅၄-ပါးရှိတယ်၊ ကာမဘုံမှာ ဖြစ်နိုင်တဲ့ စိတ်တွေ (မှန်ပါ) အဲဒီအထဲက ဘုရားရဟန္တာတို့ သန္တာန်မှာသာ ဖြစ်တဲ့ မဟာကြိယာစိတ် ၈-ခု၊ ဟသိတုပ္ပါဒ် စိတ်တစ်ခု၊ ပေါင်း ၉-ခု နုတ်၊ (၄၅)ပါးသာ ကျန်တယ် (မှန်ပါဘုရား)

ဒါဟာ တိဟိတ်ပုဂ္ဂိုလ်မှ ၄၅-ပါးလာမှာ၊ ဒွိဟိတ်ပုဂ္ဂိုလ်ဆိုလျှင် (ဉာဏသမ္ပယုတ် ၄-ပါး ထပ် နှုတ်) ၄၁-ပါးပဲ လာနိုင်မယ်၊ (မှန်ပါဘုရား)

စိတ်တွေရှိတာကတော့ "စိတ်တစ်ခုယုတ် ကိုးဆယ်"တောင် ရှိတာ၊ ဒါကို အဖြောင့်ပြောရင် စိတ်ပေါင်း (၈၉)ပါးတောင် ရှိတာ။ (မှန်ပါ) ဒါပေမယ့် အကုန်လုံး ကိုယ်နဲ့ဆိုင်တာမှ မဟုတ်ဘဲ၊ (မှန်ပါဘုရား) ကိုယ်နဲ့ ဆိုင်တာက (၄၅)ပါးပဲ (မှန်ပါ) အဲဒီ၄၅-ပါ ထဲက တစ်ခုခုလှည့်ပေါ်မှာပဲ (မှန်ပါဘုရား) အဲဒီပေါ်တဲ့ စိတ်ကို ဉာဏ်နဲ့ အကဲခတ် (မှန်ပါဘုရား ပျောက်သွားတာ တွေ့မယ် (မှန်ပါ) အဲဒါ စိတ်ကို ရှုတာပဲ။

အဲဒီတော့ "စိတ်ကို ရှုတယ်"ဆိုပေမယ့် စိတ်ကို မတွေ့နိုင်ပါဘူး၊ (မှန်ပါ) စိတ်ကလေးတွေ ပျောက်သွားတာကိုသာ တွေ့နိုင်ပါမယ် (မှန်ပါဘုရား အဲဒါကို "စိတ္တာနုပဿနာ=စိတ်ကိုရှုတယ်"လို့ဆိုတာပဲ (မှန်ပါဘုရား)

အေး... ယောဂီတို့သန္တာန်မှာ ဖြစ်နိုင်တဲ့ စိတ် ပေါင်း(၄၅)ပါးဆိုတာ-

| | | |
|---|---|---|
| (က) | အကုသိုလ်စိတ် | ၁၂ပါး |
| (ခ) | ဟသိတုပ္ပါဒ်စိတ် ဖယ်ထား၍ ကျန်အဟိတ်စိတ် | ၁၇ပါး |
| (ဂ) | မဟာကုသိုလ်စိတ် | ၈ပါး |
| (ဃ) | မဟာဝိပါက်စိတ် | ၈ပါး |
| | စုစုပေါင်း = | ၄၅ပါး |

# ညွှန့်သည်များနှင့် အိမ်သည်များ

ဆရာတော်ဘုရားကြီးကိုယ်တိုင် ဟောထားသော ဟောပြောချက်တို့မှ ကောက်နုတ်ဖော်ပြပါမည်။ [မိုး (၁၁) နှာ-၃၃၆မှ။]

"ဒကာ ဒကာမတို့ သန္တာန်မှာ ဖြစ်နိုင်တဲ့စိတ်တွေ ဘယ်နေရာတွေက ဖြစ်နိုင်သလဲဆိုရင် မျက်စိ၊ နား နှာခေါင်း၊ လျှာ၊ ကိုယ်၊ စိတ်တို့မှ ဖြစ်နိုင်တယ် (မှန်ပါ)

မျက်စိနဲ့ အဆင်းနဲ့ ဆုံတဲ့အခါ မြင်စိတ်ပေါ်တယ် (မှန်ပါဘုရား) နားနဲ့ အသံနဲ့ ဆုံတဲ့အခါ ကြားစိတ် ပေါ်တယ် (မှန်ပါ) နှာခေါင်းနဲ့ အနံ့နဲ့ ဆုံတဲ့အခါ နံစိတ် မွှေးစိတ် ပေါ်တယ် (မှန်ပါ)

လျှာနဲ့အရသာနဲ့ဆုံတဲ့အခါ စားစိတ်ပေါ်တယ် (မှန်ပါ) ကိုယ်ခန္ဓာနဲ့ တွေ့ထိစရာနဲ့ဆုံရင် တွေ့ထိစိတ် ယားနာကောင်းစိတ် ပေါ်တယ် (မှန်ပါဘုရား)

ဒီ၅-မျိုးဟာ တစ်ခါတစ်ရံမှ အကြောင်း တိုက်ဆိုင်မှ ပေါ်လာတတ်ကြတာဆိုတော့ တစ်ခါတစ်ရံမှ

ပေါ်လာတတ်တဲ့ ဧည့်သည်လိုပဲ၊ ဒါကြောင့် "ဧည့်သည် စိတ် ၅–မျိုး"လို့ ခေါ်တယ် (မှန်ပါ)

ဒီဧည့်သည်တွေကလဲ ဝမ်းတွင်းမှာ ပေါ်တာ မဟုတ်ဘူး၊ ကိုယ်ပေါ်အပြင်ဘက်မှာ ပေါ်ကြတာ (မှန်ပါ) ဒါ့ကြောင့် "အပြင်ဧည့်သည်စိတ် ၅–မျိုး" လို့ ခေါ်တယ် (မှန်ပါဘုရား) မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်တို့မှာ ပေါ်တာဆိုတော့ အပြင်ဘက်ပေါ့ (မှန်ပါဘုရား) အပြင်ဧည့်သည် ၅–ယောက်ဆိုပါတော့ (မှန်ပါ)

# အတွင်းဧည့်သည် ၆–ယောက်

တစ်ခါ ဝမ်းထဲ ဟဒယဝတ္ထုပေါ်မှာ ပေါ်တဲ့စိတ်များလဲ ရှိသေးတယ် (မှန်ပါ) တစ်ခါတလေ လိုချင်မက်မောတဲ့ လောဘစိတ် ပေါ်တယ် (မှန်ပါ) တစ်ခါတလေ အလိုမကျ ဒေါသဖြစ်တဲ့ စိတ်များလဲ ပေါ်တယ် (မှန်ပါ) တစ်ခါတလေ တွေဝေမိုက်မှောင်တဲ့ မောဟစိတ်လဲ ဖြစ်တယ် (မှန်ပါ ဘုရား) ဒါက အကုသိုလ် ဘက်က ၃–ခု။

တစ်ခါတလေကျတော့ ပေးချင် ကမ်းချင်၊ လှူချင် တန်းချင်၊ ဝေချင် မျှချင်တဲ့ အလောဘစိတ်ကလေးများလဲ ပေါ်တတ်တယ် (မှန်ပါ)

တစ်ခါတလေကျတော့ မေတ္တာရှိတဲ့ အဒေါသစိတ်လဲ ပေါ်တတ်တယ် (မှန်ပါ) တစ်ခါတလေ ကျတော့ ကိုယ်ရဲ့ လုပ်ငန်းကိုင်ငန်းအပေါ် တွေးတောကြံစည်တဲ့ စိတ်လဲ ဖြစ်တယ် (မှန်ပါဘုရား) ဒါက ကုသိုလ်ဘက်က ၃–ခု။

ဒီ၆–မျိုးဟာလဲ တစ်ခါတစ်ရံမှ အကြောင်းတိုက်ဆိုင်မှ ပေါ်ကြတာဆိုတော့ တစ်ခါတစ်ရံမှ ပေါ်လာတတ်တဲ့ ဧည့်သည်လိုပဲ၊ ဒီဧည့်သည်က အတွင်းမှာ ပေါ်သည့် ဧည့်သည်ပဲ၊ ၆–မျိုးရှိတယ်၊ "အတွင်း ဧည့်သည် ၆–ယောက်"ပေါ့ (မှန်ပါဘုရား)

အပြင်ဧည့်သည်စိတ်၅–မျိုး၊ အတွင်းဧည့်သည်စိတ် ၆–မျိုး၊ ပေါင်း(၁၁)မျိုး၊ ဒီ(၁၁)မျိုးက ဧည့်သည့်စိတ်တွေဆိုတော့ ဧည့်သည်ဟာ ပေါ်ချင်တဲ့အခါ ပေါ်လာသလို ဒီစိတ်တွေလဲ ပေါ်ချင်တဲ့အခါမှ ပေါ်တယ် (မှန်ပါ) အကြောင်းတိုက်ဆိုင်တဲ့အခါမှ ပေါ်လာတယ် (မှန်ပါဘုရား)

ပေါ်လာတဲ့အခါ ကြုံတဲ့အခါ ရှုလိုက်ဖို့ပဲ (မှန်ပါ) ဒီလိုဆိုရင် သူတို့ မပေါ်လာတဲ့အခါ မကြုံတဲ့အခါ ဘယ်လို လုပ်မလဲ။

# အိမ်သည်စိတ် (၂)မျိုးဆိုတာ

အို... သက်စောင့်ရှိပါသေးတယ်၊ သက်စောင့်ဆိုတာ လေကို ထုတ်သောစိတ်၊ လေကိုသွင်းသောစိတ်၊ ဒီစိတ်(၂)ခုက **သတ္တဝါ**တွေ မသေအောင် စောင့်ပေးတဲ့စိတ်၊ အမြဲရှိတယ် (မှန်ပါ) အမြဲရှိတယ်ဆိုတော့ အိမ်မှာ အမြဲနေတဲ့သူလိုပေါ့၊ ဒါ့ကြောင့် သူ့ကို "အိမ်သည်စိတ်"လို့ ခေါ်ရတယ် (မှန်ပါဘုရား) အဲ... သူ့ကိုရှု၊ ဧည့်သည်တွေ မပေါ်ရင် အိမ်သည်ကို ရှု (မှန်ပါ)

ဒီတော့ အရှုခံစိတ်ဟာ အပြင် ဧည့်သည် ၅–မျိုး၊ အတွင်း ဧည့်သည် ၆–မျိုး၊ အိမ်သည် ၂–မျိုး ပေါင်း(၁၃)မျိုး ရှိတယ် (မှန်ပါဘုရား)

ဒေါ်သည်လာတဲ့အခါ ဒေါ်သည်ကို ဦးစားပေး လိုက်ပေါ့ (မှန်ပါ) ဒေါ်သည်မလာတဲ့အခါ အိမ်သည် ပဲ ရှိတာ။ သူ့ကို ရှု၊ (မှန်ပါဘုရား)

လေကို ဝင်အောင် လုပ်တဲ့စိတ်၊ လေကိုထွက် အောင် လုပ်တဲ့စိတ်၊ သူတို့ ၂-ခုက အမြဲတမ်း မျှင်မျှင်ကလေးတော့ ရှိနေတတ်တာပဲ (မှန်ပါ)

"စိတ်ကို ရှု"ဆိုတဲ့ နေရာမှာလ စိတ်ကို တွေ့ နေရမှာ မဟုတ်ဘူး၊ စိတ်ကလေးတွေ ပြောင်းလွဲ ပြောင်းလွဲသွားတာကို တွေ့ရမှာ (မှန်ပါ)

အဖြောင့်ပြောရရင် စိတ်ကလေးတွေရဲ့ အပျက် ကို တွေ့ရမှာ (မှန်ပါ) အဖြစ်ရော အပျက်ရော တွေ့ ရင်တော့ အကောင်းဆုံးပေါ့ (မှန်ပါဘုရား)

## နာမ်ရုပ်ကို ခွဲခြားသိတဲ့ နာမရူပပရိစ္ဆေဒ

ကောင်းပြီ၊ အဲဒီ အရှုခံစိတ် (၁၃)မျိုးလုံးဟာ နာမ်တရားတွေချည်းပဲ (မှန်ပါဘုရား) အဲဒီနာမ်တရား စိတ်တွေဟာ ဘယ်ပေါ်မှာ ပေါ်တာလဲဆိုရင် ရုပ်ပေါ် မှာ ပေါ်တာ (မှန်ပါ) ဒါဖြင့် စိတ်က နာမ်၊ အောက်ခံ က ရုပ်၊ (မှန်ပါ) နာမ်နဲ့ရုပ်ပေါ့ (မှန်ပါ ဘုရား) နာမ် နဲ့ ရုပ်ပေါ်တာပဲ (မှန်ပါဘုရား)

မြင်စိတ်ဆိုလို့ရှိရင် မျက်လုံးရုပ်ပေါ်မှာ ပေါ်ရ တာပဲ (မှန်ပါဘုရား) ဒီတော့ နာမ်ရုပ်ပေါ်တာပဲပေါ့ဗျာ (မှန်ပါဘုရား)

ကြားစိတ်ဆိုလို့ရှိရင်လဲ နားအကြည်ရုပ်ပေါ် မှာ ပေါ်ရတာ (မှန်ပါ) ဒီတော့ နာမ်နှင့် ရုပ်ပဲပေါ့ (မှန်ပါ ဘုရား) အလားတူပဲ နံစိတ်၊ စားစိတ်၊ ယား နာ ကောင်းစိတ်တို့ ပေါ်တဲ့အခါမှာလဲ ရုပ်ပေါ်မှာ နာမ်ပေါ်ကြရတာပဲ (မှန်ပါ) ဒါ့ကြောင့် နာမ်နဲ့ ရုပ် ပေါ်ခြင်းလို့ ဆိုရတာပဲ (မှန်ပါဘုရား)

ဒါဟာ "စိတ္တာနုပဿနာ" ဟောမယ်လို့ ရှေးဦး စွာ နာမ်နဲ့ရုပ်ကို ဝေဖန်လိုက်တာ (မှန်ပါဘုရား)

အတွင်းဒေါ်သည် ၆-ယောက်ဆိုတဲ့ နာမ်တရား များ ပေါ်တဲ့အခါမှာလဲ ဟဒယဝတ္ထုရုပ်ပေါ်မှာ ပေါ်ကြရ တာပဲ (မှန်ပါဘုရား) ဒီတော့ ရုပ်ပေါ်မှာ နာမ်ပေါ်ကြ ရတာပဲ (မှန်ပါဘုရား) ရုပ်နဲ့နာမ်ပေါ်တယ်ပေါ့ (မှန်ပါ ဘုရား)

ပြီးတော့ အိမ်သည်စိတ် ၂-ခု၊ လေကိုသွင်းသော စိတ်၊ လေကို ထုတ်သောစိတ်၊ သူတို့၂-ခုလဲ ဟဒယ ဝတ္ထုပေါ်မှာပဲ ပေါ်ကြရတာ (မှန်ပါဘုရား) ဪ... ဒီလိုဆိုတော့ ရုပ်ပေါ်မှာ နာမ်ပေါ်ရတာပဲပေါ့ (မှန်ပါ ဘုရား)

ဒါဖြင့် "ဘာပေါ်ပေါ်၊ ရုပ်ပေါ်မှာ နာမ်ပေါ်တာ ပဲ" (မှန်ပါဘုရား) ရုပ်နဲ့နာမ်ပေါ်တာပဲ၊ ရုပ်နာမ်ပေါ်တာ ပဲ (မှန်ပါ) ယောကျ်ား မိန်းမ ပေါ်တာလား၊ ရုပ်နာမ် ပေါ်တာလား (ရုပ်နာမ်ပေါ်တာပါဘုရား) ဟုတ်တယ် ရုပ်နာမ်ပဲ ရှိတာ (မှန်ပါ)

ဒါဖြင့် မြင်တာလဲ ရုပ်နာမ်ပေါ်င်းစပ်မှ မြင်တာ (မှန်ပါ) ကြားတာလဲ (ရုပ်နဲ့နာမ်ပေါင်းစပ်မှ ကြားရပါ တယ် ဘုရား)

ဒါဖြင့် ရုပ်နဲ့နာမ်နောက်ထပ်ပြီး အထူးခွဲစရာ မလိုဘူး (မှန်ပါ) ရှင်းသွားပြီနော် (ရှင်းပါပြီ ဘုရား) ဒါဆိုရင် "နာမရူပပရိစ္ဆေဒဉာဏ်" ရသွားပြီ၊ (မှန်ပါ) နာမ်နဲ့ရုပ်ကို ပိုင်းခြားသိတဲ့ဉာဏ်လေ (မှန်ပါဘုရား)

## တစ်ဘဝသောသနာ

# အကြောင်းနဲ့အကျိုး ခွဲခြားစိတ်ဖြာ

ကိုင်း... ရုပ်နဲ့နာမ်ခွဲပြီးတော့ အကြောင်းနဲ့ အကျိုး ခွဲကြဦးစို့ (မှန်ပါ) ဒီမှာ မြင်စိတ်ကလေးဟာ မျက်စိအကြည်နဲ့ အဆင်းနဲ့ တိုက်လို့ ပေါ်လာတာ (မှန်ပါ ဘုရား) ဒွါရနဲ့ အာရုံတိုက်ဆုံလို့ ပေါ်လာတယ် ဆိုပါတော့ (မှန်ပါ ဘုရား) ဒီတော့ မျက်စိအကြည်နဲ့ အဆင်းက အကြောင်း၊ မြင်စိတ်ကလေးက အကျိုး။ (မှန်ပါ)

ကြားစိတ်ကလေး ပေါ်တဲ့နေရာမှာလဲ အတူတူပဲ၊ နားအကြည်ရုပ်နဲ့ အသံရုပ်က အကြောင်း၊ ကြားစိတ်က အကျိုး။ (မှန်ပါ)

နံစိတ် မွှေးစိတ်ပေါ်တဲ့နေရာမှာလဲ နှာခေါင်း အကြည်ရုပ်နဲ့ အနံ့ရုပ်က အကြောင်း၊ နံစိတ်မွှေးစိတ် က အကျိုး။ (မှန်ပါဘုရား)

စားစိတ်ကလေး ပေါ်တဲ့ နေရာမှာလဲ လျှာ အကြည်ရုပ်နဲ့ အရသာရုပ်တို့ကအကြောင်း၊ စားစိတ် နာမ်ကလေးက အကျိုး။ (မှန်ပါ)

ယားနာကောင်းစိတ် ပေါ်တဲ့နေရာမှာလဲ ခန္ဓာ ကိုယ် အကြည်ရုပ်နဲ့ တွေ့ထိစရာရုပ်တို့က အကြောင်း၊ ယားနာကောင်းစိတ်က အကျိုး။ (မှန်ပါဘုရား)

တွေးတောကြံစည်စိတ် ဖြစ်ပေါ်တဲ့နေရာမှာလဲ မနောဒွါရနဲ့ ကြံတွေးစရာ အာရုံတို့က အကြောင်း၊ တွေးတောကြံစည်စိတ်က အကျိုး (မှန်ပါဘုရား)

ဒီတော့ တို့တစ်တွေ စိတ်ဖြစ်ခြင်းရဲ့ အကြောင်း ကို သိရပြီ၊ အာရုံနဲ့ဒွါရတိုက်ဆိုင်ကြလို့ ပေါ်လာတဲ့ စိတ်ပဲ၊ (မှန်ပါ) သိကြား ဗြဟ္မာ၊ ဘုရားလာပြီး ထည့် သွင်းတဲ့ စိတ်မဟုတ်ဘူး (မှန်ပါ)

အဲလိုအကြောင်းရင်းကို သိလိုက်ရတဲ့အတွက် ဝိစိကိစ္ဆာသေတယ်၊ (မှန်ပါဘုရား) စောစောက ရုပ်နဲ့ နာမ်ကို ခွဲပြလို့ သိသွားရတဲ့အတွက် ဒိဋ္ဌိသေတယ်၊ (မှန်ပါဘုရား) ဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာသေဖို့အရေးကြီးတယ်။

# ဉာတပရိညာနဲ့ ဒိဋ္ဌိ ဝိစိကိစ္ဆာကို သတ်

ယောကျ်ား မိန်းမဆိုတာတွေ၊ ပုဂ္ဂိုလ်သတ္တဝါ တွေ မရှိဘူး၊ လူ နတ် ဗြဟ္မာဆိုတာတွေလဲ မရှိဘူး၊ ပေါ်လာသမျှ ရုပ်နဲ့ နာမ်ချည်းပဲလို့၊ ရုပ်နဲ့နာမ်သာ ရှိ တယ်လို့ဆိုတော့ ဒိဋ္ဌိမသေဘူးလား (သေပါတယ်)

ပီးတော့ စိတ်ဆိုတဲ့ နာမ်တရားတွေဟာ အလို လို ပေါ်လာတာလား၊ အကြောင်းတိုက်ဆိုင်လို့ ပေါ် လာတာလား (အကြောင်းတိုက်ဆိုင်လို့ ပေါ်လာတာပါ ဘုရား)

အဲဒီလို အကြောင်းရင်းကို သိလာရတော့ "ဘယ် လို ဖြစ်ပြီး ဘယ်လို ပေါ်လာတာပါလိမ့်" ဆိုတဲ့ သံသယ ဝိစိကိစ္ဆာ ရှိသေးလား (မရှိတော့ပါ ဘုရား) ဒါဖြင့် အကြောင်းရင်းကို သိတဲ့အတွက် ဝိစိကိစ္ဆာ သေတယ် (မှန်ပါ)

ဒီအထိ (၂)ဉာဏ် ရသွားပြီ၊ နာမ်ရုပ်ကို ခွဲခြား သိတဲ့အတွက် နာမရူပပရိစ္ဆေဒဉာဏ်ရယ်၊ အကြောင်း ရင်း တရားကို သိမ်းဆည်းပြီး သိတဲ့အတွက် ပစ္စယ ပရိဂ္ဂဟဉာဏ်ရယ်၊ (၂)ဉာဏ်ရပြီ၊ (မှန်ပါ) ဒါ သိဉာဏ် ပဲ ရှိသေးတယ်၊ ပွားဉာဏ်မပါသေးဘူး (မှန်ပါဘုရား) ဉာတပရိညာနဲ့ ဒိဋ္ဌိ ဝိစိကိစ္ဆာ ခွာရုံပဲ ရှိသေးတယ် (မှန်ပါ)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# စောင့်ပြီး ဉာဏ်နဲ့ဖမ်းယူပါ

အဲဒီသစ်တွေ ကျားတွေက သူတို့ စား ချင်တဲ့ သမင် ဒရယ် ဂျီငယ် စိုင် ဆတ် ကြောက်တတ်တဲ့ ယုန်ကလေးတို့ကို အပြေး လိုက်ဖမ်းသလား၊ ချုံထဲကနေ စောင့်ပြီး ချောင်း ဖမ်းသလား။

(စောင့်ပြီး ချောင်းဖမ်းပါတယ် ဘုရား) ဟုတ်တယ်၊ လိုက်ဖမ်းနေလို့ ဘယ်မီလိမ့်မလဲ၊ သတ္တဝါကလေးတွေက အပြေး မြန်တာပဲ၊ (မှန်ပါ ဘုရား)

ဒီမှာလဲ ဒီအတိုင်းပဲ၊ စောင့်ပြီး ဖမ်းပါ၊ ဉာဏ်နဲ့ဖမ်းပါ (မှန်ပါ) သမာဓိ ထူထောင်ပြီး တော့ တည်ငြိမ်စွာနဲ့ သမာဓိချုံထဲကနေပြီးတော့ ဉာဏ်ကျားကြီးက စောင့်ဖမ်းပါ (မှန်ပါ)

သားကောင်နဲ့တူတဲ့ ဖြစ်–ပျက်ကလေး တွေ ပေါ်လာပြီ ဆိုရင် ဉာဏ် ကျားကြီးက "ဝုန်း"ခနဲ ခုန်ထွက်ပြီး အုပ်ဖမ်းပါ (မှန်ပါ) "ဒါဟာ ဝိပဿနာရှုတာပဲ" (မှန်ပါဘုရား)

ရှေ့ပိုင်းမှာ ဒိဋ္ဌိနဲ့ဝိစိကိစ္ဆာတို့ကို (ဉာတပရိညာ) အသိသဘောနဲ့ ခွာပြီးတဲ့နောက် ဖြစ်ပျက်ရှုတဲ့ သမ္မသန ဉဒယဗ္ဗယတို့ လာကြတော့မယ် (မှန်ပါဘုရား) လက် တွေ့ ရှုတဲ့အခန်းကို ရောက်လာပြီ (မှန်ပါဘုရား)

[ဤအခန်းမှာ မိုးကုတ်ဆရာတော်ကြီး ကိုယ် တိုင် ဟောပြောချက်တို့မှ ကောက်နုတ်ဖော်ပြပါအံ့၊ မိုး(၁၁)နှာ–၃၄၄မှ။]

လက်တွေ့ ရှုပုံရှုနည်းကို ဒီလို လုပ်ကြပါစို့၊ မိလိန္ဒမင်းကြီးက မေးလို့၊ အရှင် နာဂသိန် ရဟန္တာ မထေရ်မြတ်၏ ဖြေကြားပုံ ဖြေကြားနည်း၊ ရှုပုံရှုနည်း ကို ပြောမယ် (မှန်ပါဘုရား)

မိလိန္ဒမင်းကြီးက "အရှင်ဘုရား... ဝိပဿနာ ရှုပုံရှုနည်းကလေး မိန့်ကြားပါ"တဲ့။ ဒီတော့ အရှင် နာဂသိန် မထေရ်က–

"ဒကာကြီး... တောအုပ်မြိုင်လျှိုတို့မှာ သစ်တွေ ကျားတွေ မရှိဘူးလား၊" (ရှိပါတယ် ဘုရား)

## စောင့်ပြီးဖမ်းတာ ဝိပဿနာ

သမာဓိချုံထဲက စောင့်နေပါ၊ ဉာဏ်ကျားကြီးက အသင့်ချောင်းနေပါ၊ မြင်စိတ်ကလေးပေါ်လာ ဖမ်းစား လိုက်၊ (မှန်ပါ) ဖြစ်ပျက် ရှုလိုက်လို့ ပြောတာပါ၊ (မှန်ပါ)

ကြားစိတ်ကလေးပေါ်လာလဲ "ဖျတ်"ခနဲ ဖမ်း ယူပြီး ဖြစ်ပျက်ရှု (မှန်ပါ) အခြားစိတ်တွေလဲ ဒီနည်း အတိုင်း ရှု (မှန်ပါ) ဒီတော့ ဖြစ်ပျက်နဲ့ မဂ်နဲ့ဟာ ကိုက်လျက်–ကိုက်လျက်ချည်း နေမယ် (မှန်ပါဘုရား)

ဒါဟာ စောင့်ပြီး ဖမ်းတာပဲ၊ ဒါဟာ ဝိပဿနာ ရှုတာပဲ(မှန်ပါဘုရား) ဒါ အရှင်နာဂသိန့်နည်း။ (မှန်ပါ)

ကဲ... ဒါဆိုရင် လုပ်တတ်ပြီ၊ သမာဓိတည်း ဟူသော ချုံကြီးထဲမှာ အောင်းပြီး ဉာဏ်တည်းဟူသော ကျားကြီးက ဖြစ်ပျက်တည်းဟူသော သားကောင် ကလေးများကို ဖမ်းရမယ် (မှန်ပါ) အဲဒါကို စာထဲမှာ–

"ယထာပိ ဒီပိကော နာမ၊
နိလီယိတွာ ဂဏှတိ မိဂေ"

လို့ ဆိုတယ်၊ အဓိပ္ပာယ်ကတော့ "တောထဲက သစ်တွေ ကျားတွေဟာ ချုံထဲက အောင်း ချောင်းပြီးတော့ သား ကောင်ကလေးတွေကို ဖမ်းသလို"ဟု ဆိုလိုပါ၏။

## တစ်ဘဝသာသနာ

# ဖမ်းတိုင်း အသေကလေးတွေချည်းမိ

ဘယ်စိတ်ပေါ်ပေါ်၊ ပေါ်လာတဲ့စိတ်ကို ဖမ်းပြီး ဖြစ်ပျက် ရှုပါ (မှန်ပါ) ရှုဖန်များလာတော့ အပျက်ကလေးတွေ များများ တွေ့မယ်၊ အသုဘကလေးတွေ များများ တွေ့မယ်၊ (မှန်ပါ)

အသုဘကလေးတွေ များများ တွေ့လာရင် မုန်းလာမှာပဲ (မှန်ပါ) မုန်းလဲ ဆက်ရှု ဆက်ရှု၊ ကြာတော့ ဆုံးသွားတာကို တွေ့လိမ့်မယ် (မှန်ပါ) အဖြစ်အပျက်ကလေးတွေ ဆုံးသွားတာကို တွေ့မယ် (မှန်ပါ)

အဲဒါဟာ နိရောဓသစ္စာ (နိဗ္ဗာန်)ပဲ၊ (မှန်ပါ) အဲဒီရောက်သည်အထိ ရှုရမှာပဲ (မှန်ပါဘုရား) ကဲ... တော်ကြဦးစို့။ ။

ဒီလိုဖမ်းပါများတော့ အသေကလေးတွေချည်း မိမယ် (မှန်ပါ) အပျက်ကလေးတွေချည်း မိမယ်ပြောတာ (မှန်ပါဘုရား) အပျက်နဲ့ မဂ်နဲ့ ကိုက်–ကိုက်သွားလိမ့်မယ် (မှန်ပါ)

စောစောက ဒိဋ္ဌိကို ခွာထားပြီးပြီ၊ ဝိစိကိစ္ဆာကိုလဲ သတ်ပြီးပြီ၊ အခုဟာက အနုပဿနာအခန်းကို ရောက်နေတယ် (မှန်ပါ) သမ္မသန ဥဒယဗ္ဗယအခန်းကို ရောက်နေတယ် (မှန်ပါဘုရား)

အဖမ်းခံရတာက စိတ်၊ ဖမ်းတာက အနုပဿနာ၊ ပေါင်းလိုက်တော့ "စိတ္တာနုပဿနာ" (မှန်ပါဘုရား)

# ဘာ့ကြောင့် စိတ္တာနုပဿနာ အားသန်ရသလဲ

အချို့က မိုးကုတ်ဆရာတော်ကြီး ပေးလေ့ ရှိတဲ့ ကမ္မဋ္ဌာန်းအပေါ်မှာ စဉ်းစားကြ၏၊ ဆရာတော်ကြီးက အများအားဖြင့် စိတ္တာနုပဿနာ (စိတ်ကို ရှုရတဲ့ကမ္မဋ္ဌာန်း)ကို ဦးစားပေးပြီး ဟောလေ့ပြောလေ့ ရှိတော်မူသည်။

"လယ်တီ ဆရာတော်၊ သထုံဇေတဝန် ဆရာတော် ဘုရားကြီး၊ မိုးညှင်းဆရာတော်ဘုရားကြီး၊ ရွှေတောင် ဦးတိက္ခိန္ဒြိယ၊ ပြည် နိမ္မိန္ဒဆရာတော်ဘုရားကြီး၊ မဟာစည်ဆရာတော်ဘုရား၊ တောင်ပုလု ဆရာတော်ကြီး၊ ဝေဘူဆရာတော် စတဲ့ ဆရာတော်ဘုရားတို့က ရုပ်ကမ္မဋ္ဌာန်းကို အပေးများကြတယ်။

မိုးကုတ်ဆရာတော်ကြီးကျတော့ ဘာလို့များ စိတ္တာနုပဿနာ (စိတ်ကမ္မဋ္ဌာန်း) နာမ်ကမ္မဋ္ဌာန်းကို အပေးများပါလိမ့်"ဟူ၍ စဉ်းစားတတ်ကြ၏။

စဉ်းစား၍ ရသည်ကား–

(က)မိုးကုတ်ဆရာတော် ကြီးက နှစ်ပေါင်း(၃၀) ကျော် အဘိဓမ္မာညဝါတွေ ချ ပို့လာခဲ့၏၊ အဘိဓမ္မာတွေ သန်နေခဲ့သည်၊ မျက်စိဖြင့် မမြင်ရသော အဘိဓမ္မာ စိတ်–စေတသိက်တို့ကို သရုပ် ခွဲလာခဲ့ရမှုက အားသန်နေခဲ့ရသည်၊ အလေ့အကျင့် များနေခဲ့၏၊ ထို့ကြောင့် တစ်ကြောင်း။

(ခ)ထို့ပြင် စိတ်တွေဟာ ရုပ်တွေထက် ပိုပြီး အဖြစ်အပျက် မြန်သည်၊ အဲဒါတွေကို တွေ့ရင် ဒိဋ္ဌိကွာလွယ်မည်၊ ဒိဋ္ဌိကွာရင် သောတာပန် ဖြစ်လွယ်နိုင်၏၊ ထို့ကြောင့် တစ်ကြောင်း။

(ဂ)တစ်ဖန် လက်ယာတော်ရံ အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးကလည်း "သူများစိတ်ကို အကဲခတ်ရတာထက် ကိုယ့်စိတ်ကိုယ် အကဲခတ်ရတာက ပိုပြီး အမှန်တွေ့နိုင်သည်၊ သို့ဖြစ်၍ စိတ်ကို ရှုကြ"ဟု မိန့်တော်မူထား၏။ ထို့ကြောင့် တစ်ကြောင်း။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဤအကြောင်းတို့ကြောင့် မိုးကုတ် ဆရာတော်ကြီးက စိတ္တာနုပဿနာကို အပေးများခြင်း ဖြစ်ပေလိမ့်မည်–ဟု တွက်ဆရသည်၊ တစ်နည်းအားဖြင့် ရုပ်ကို ရှုကြရာ၌ အယူအဆ ဝါဒကွဲများ ရှိကြ၏၊ စိတ်ကို ရှုရာ၌ (နာမ်ကို ရှုရာ၌)ကား ဝါဒကွဲ မရှိ၊ ဤအကြောင်းလည်း ပါပေလိမ့်မည် ထင်ရသည်။

## ဝိဇ္ဇာ–စရဏနဲ့ ပြည့်စုံတဲ့ပုဂ္ဂိုလ်ကြီး

မိုးကုတ်မြို့သည် ရတနာသုံးပါးကို ကြည်ညိုကြ၏၊ အိမ်တိုင်းလိုလိုပင် ဘုရားခန်းကို ကျကျနန ပြင်ဆင်ထားကြသည်၊ ဘုရားပန်း မညှိုးရ၊ ငါးပါးသီလ လုံခြုံရ၏၊ ဘုရားဝတ်တက်လည်း မှန်ရသည်–ဟု ဆို၏။

သို့မှသာ ကျောက်သံပတ္တမြား တူးဖော်တဲ့နေရာ၊ ရောင်းဝယ်တဲ့နေရာမှာ အဆင်ပြေသည်၊ စီးပွားတက်သည်ဟု ယုံကြည်ကြ၏၊ ထို့ကြောင့် ဘုရားကို မှန်မှန် ရှိခိုးကြသည်၊ ယင်းသို့သော အခြေအနေတွင် ဆရာတော်က ဤသို့ တရားဟောတော်မူ၏–

"ဒီကနေ့ ဝိဇ္ဇာနဲ့ စရဏအကြောင်းကို ဟောမယ် (မှန်ပါ) ရတော့ ရနေကြတာပဲ၊ သို့သော် လိုရင်းက မပါဘဲ ဖြစ်နေလို့ (မှန်ပါဘုရား)

"ဝိဇ္ဇာစရဏသမ္ပန္နော၊ သုဂတော၊ လောကဝိဒူ..." သန်းညှနဲ့တို့ ရွတ်နေတာပဲ၊ အုန်းကြည်တို့လဲ ရွတ်နေတာပဲ (ရွတ်ပါတယ် ဘုရား)

ဘုရားရှေ့သွားတဲ့–သွားတဲ့ပြီး ရွတ်ကြတယ် (မှန်ပါ) "အရှင်ဘုရား... အရှင်ဘုရားကတော့ ဝိဇ္ဇာနဲ့လဲ ပြည့်စုံပါပေတယ်၊ စရဏနဲ့လဲ ပြည့်စုံပါပေတယ်၊ ဒါ့ကြောင့် တပည့်တော်က ရှိခိုးပါ၏၊ ရိုသေပါ၏"ဆိုတော့ ခင်ဗျားတို့ဟာက– ဝိဇ္ဇာနဲ့ စရဏကို ရှိခိုးနေကြတယ်၊ (မှန်ပါ ဘုရား)

ဘာလုပ်နေကြတာတုံး (ဝိဇ္ဇာနဲ့ စရဏကို ရှိခိုးနေပါတယ် ဘုရား)

သြော်... ဒကာ ဒကာမတွေကလဲ ဝိဇ္ဇာနဲ့ ပြည့်စုံတဲ့ကိုယ်တော်ကြီး၊ စရဏနဲ့ ပြည့်စုံတဲ့ ကိုယ်တော်ကြီးဆိုပြီး ရှိခိုးနေကြတယ် (မှန်ပါဘုရား)

ရှိမခိုးရဘူး–လို့တော့ ဆရာဘုန်းကြီးက မတားပါဘူး (မှန်ပါ)၊ ဒါပေမယ့် ကျင့်ရမည့်အလုပ် ဆိုတာကို သိစေချင်လို့ မှတ်စေချင်လို့ပါ (မှန်ပါဘုရား)

## ရှိခိုးနေရုံနဲ့ မပြီးသေး၊ ကျင့်ရမှာ

ရှိခိုးတာလဲ ရှိခိုးသလောက်တော့ ကုသိုလ် ရပါတယ်၊ သို့သော် လိုရင်းအကျဉ်းချုပ်က ကျင့်ရမှာ၊ ကျင့်ရမယ့်အလုပ် (မှန်ပါ)

ရှိခိုးရမယ့်အလုပ်က ပဓာန မဟုတ်ဘူး၊ ကျင့်ရမယ့် အလုပ်က ပဓာနပါ (မှန်ပါဘုရား)

ဦးအောင်ဇံဝေတို့ အသုံးချနေတာ ဘုရားရှေ့သွားပြီး "ဝိဇ္ဇာစရဏနဲ့ ပြည့်စုံတဲ့ ကိုယ်တော်ကြီးကို ရိုသေပါ၏၊ ရှိခိုးပါ၏၊ လေးစားပါ၏၊ ကိုင်းညွှတ်ပါ၏၊ ကြည်ညိုပါ၏"

ဒါပဲ လုပ်နေကြတာ (မှန်ပါ) မောင်မြတို့လဲ

ဒါပဲ လုပ်နေတာ (မှန်ပါဘုရား) ကိုယ့်သန္တာန်မှာ ဝိဇ္ဇာဖြစ်အောင်၊ ကိုယ့်သန္တာန်မှာ စရဏ ဖြစ်အောင် တော့ မလုပ်ကြဘူး (မလုပ်မိကြပါဘုရား) လုပ်ရမှာ (မှန်ပါဘုရား)

ဟိုဘက်က သံဃာတော်တွေလဲ နားကြီးကြီးနဲ့ နာကြပါ။

**မှတ်ချက်။** ။ဤကဲ့သို့သော အဟောအပြောမျိုးကို အချို့က ဘဝင်မကျ၊ တစ်မျိုး အဓိပ္ပာယ် ယူကြ၍၊ "ဦးဝိမလက ဘုရားကို ရှိမခိုးရဘူး–တဲ့" ဤသို့ သတင်းလွှင့်ကြသတတ်။

တစ်စွန်းတစ်စကို ယူ၍ ကိုယ် လိုရာ ဆွဲပြီး ပြောခြင်းမျိုး ဖြစ်၏၊ ဆရာတော်က "ဘုရားကို ရှိ မခိုးရဘူး"ဟု တားမြစ်နေခြင်း မဟုတ်ပါ။

"ရှိခိုးနေမှုအလုပ်ထက် ဉာဏ်နဲ့ ခန္ဓာထဲ ကြည့်မှု အလုပ်က ပို၍ ပဓာနကျသည်၊ ခရီးရောက်သည်" ဟု ဆိုလိုရင်း ဖြစ်၏။

# သောက်ဆေး လိမ်းဆေး လုပ်နေကြ

ဝိဇ္ဇာက မျက်လုံးနဲ့ တူတယ်၊ စရဏက ခြေ ထောက်နဲ့ တူတယ်၊ နိဗ္ဗာန်ကို သွားဖို့လေ (မှန်ပါ ဘုရား)

နိဗ္ဗာန်ကို သွားဖို့ရာ စရဏဆိုတဲ့ (အကျင့် ဆိုတဲ့) ခြေထောက်လဲ ပါရမှာ (မှန်ပါ) ပီးတော့ ဝိဇ္ဇာ ဆိုတဲ့ ဉာဏ်မျက်လုံးအမြင်လဲ ရှိရမှာ (မှန်ပါ ဘုရား)

ဒါဖြင့် ဒီ(၂)ခုဟာ ကိုယ့်သန္တာန်မှာ ဖြစ်ပေါ် ဖြစ်ပေါ်သွားရမှာ (မှန်ပါ) ကိုယ် ပြည့်စုံအောင် ကျင့် ရမှာ (မှန်ပါဘုရား)

အဲဒါ... သူများသန္တာန်ရှိတာ သွားပြီး ရှိခိုးနေ တော့ ဗုဒ္ဓါနုဿတိကလေးလောက်ပဲ ဖြစ်တယ် (မှန်ပါ) ကိုယ်တိုင် နိဗ္ဗာန်ရောက်ဖို့တော့ မဖြစ်နိုင်ဘူး (မှန်ပါ ဘုရား)

ဘာလို့လဲဆိုတော့ ကိုယ့်မှာ ခြေထောက်လဲ မပါ၊ မျက်လုံးလဲ မပါ ဖြစ်နေတာကိုး (မှန်ပါ) အင်း... ဒီနေ့တရားကို လှည့်နှံ့တို့ အုန်းကြည်တို့ သေသေချာချာ မှတ်ကြနော် (မှန်ပါဘုရား)

သူများ ပြည့်စုံတဲ့ ဂုဏ်ကို ရှိခိုးနေရုံပဲလား၊ ကိုယ်ကိုယ်တိုင် ခြေထောက်နဲ့ မျက်လုံးဖွင့်ပြီး သွားရ မှာလား၊ ဘယ့်နှယ်လဲ (ကိုယ်ကိုယ်တိုင် မျက်လုံး ဖွင့် ပြီး ကိုယ့်ခြေထောက်နဲ့ သွားရမှာပါဘုရား)

ဦးအောင်ဖေ၊ ဒါ... ဆရာသမားနဲ့ မတွေ့ရင် အခက်ပဲ၊ ခင်ဗျားတို့ လုပ်နေတာတွေဟာ "သောက် ဆေးကို လိမ်းဆေးလုပ်နေတဲ့သဘော"မျိုးပဲ (မှန်ပါ)

သောက်ဆေးကို သောက်မှ ရောဂါပျောက်မှာ ပေါ့ (မှန်ပါ ဘုရား) အပေါ်ယံ လိမ်းဆေးလုပ်နေလို့ ပျောက်ပါ့မလား (မပျောက်နိုင်ပါဘုရား) အေး... တချို့လူတွေ လိမ်းဆေးနဲ့ပဲ သေသွားကုန်ကြတယ် (မှန်ပါဘုရား)

[မိုး(၁၀)နာ–၂၄၇]

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သေခါနီးက သေခါဝေးကို စိုးရိမ်

ဆရာတော်ကြီးမှာ မိမိထံမှောက်သို့ ရောက်လာသူ ဒကာ ဒကာမကြီးများကို အားမရနိုင်သလို ဖြစ်ဟန် တူ၏၊ ကိုယ့်အတွက် ကိုယ်မကြည့်နိုင်ဘူး၊ သားအတွက် သမီးအတွက် မြေးအတွက်တွေ လျှောက်ငဲ့နေသည်ကို တစ်ခါတွင် ဤသို့ ဆိုတော်မူ၏–

"မောင်နိုင်ရေ... သားကလေးအတွက် မလိမ္မာလို့ စိုးရိမ်ရ၊ သမီးကလေးအတွက် မလိမ္မာလို့ စိုးရိမ်ရတယ်ဆိုရင် ငါ မှားပြီဟေ့၊ ကိုယ့်ကိုယ်ကို ဆုံးမ (မှန်ပါဘုရား)

လူကြီးဆိုတော့ ကို၀... သူပြောချင်တာ ပြောနေတတ်တာ (မှန်ပါ) ဘယ်သူက မလိမ္မာသေးဘူး၊ ဘယ်သူက ငယ်သေးတယ် ဆိုရင် အဲဒါ အလွဲ စိုးရိမ်နေတာ (မှန်ပါ ဘုရား)

ကိုယ့်ကိုယ်ကို စိုးရိမ်ပါ (မှန်ပါ) ကိုယ်က ကြီးပြီ၊ သူတို့က ငယ်သေးတယ်၊ (မှန်ပါ) စိုးရိမ်တဲ့ပုဂ္ဂိုလ်က သေခါနီး၊ အစိုးရိမ် ခံရတဲ့ ပုဂ္ဂိုလ်တွေက သေခါဝေး၊ (မှန်ပါ) မပြောထိုက်ဘူးလား (ပြောထိုက်ပါတယ် ဘုရား)

ဒါဖြင့် သေခါနီးက သေခါဝေးတွေကို စိုးရိမ်နေတာ (မှန်ပါဘုရား)

ခင်ဗျားတို့... ဒီလို ပြောတော့ မခံချင်ဘူး၊ သေသေချာချာ စဉ်းစားကြည့်တော့ မဟုတ်ဘူးလား (ဟုတ်ပါတယ် ဘုရား)

ဒါဟာ... သားသမီးနဲ့ မိဘနဲ့ ရန်တိုက်ပေးနေတာ မဟုတ်ဘူး ကို၀ရဲ့ (မှန်ပါဘုရား) ရန်တိုက်ပေးတာလား၊ အမှန်ပြောနေတာလား (အမှန်ပြောနေတာပါဘုရား)

ဘာ့ကြောင့် ပြောရပါလိမ့်မလဲဆိုတော့ ဦးဘရှင်းရေ... သေခါနီးတွေက သေခါဝေးတွေအတွက် စိုရိမ်နေကြလွန်းလို့ (မှန်ပါဘုရား)

မောင်နိုင်တို့ ကိုပေါ်တို့ ဆိုထိုက် မဆိုထိုက် (ဆိုထိုက်ပါတယ် ဘုရား)

ကိုယ်ကဖြင့် ရေထဲနစ်နေတာ မတ်တတ်ရပ်နေတာတောင် ပါးစပ်ရောက်နေပြီ (မှန်ပါ) မြုပ်တော့မယ် (မှန်ပါ)

အဲဒါ ကုန်းပေါ်ကလူ လှမ်းပြီး စိုးရိမ်နေသလို (မှန်ပါဘုရား) ဆိုထိုက် မဆိုထိုက် (ဆိုထိုက်ပါတယ် ဘုရား)

**မှတ်ချက်။** ။ဤသို့လျှင် ဆရာတော်ကြီးက မိုးကုတ်မြို့မှာ မာမာပြင်းပြင်း၊ တင်းတင်းမိုးမိုး၊ ဖိုးဖိုးဇတ်ဇတ်၊ ပြတ်ပြတ်မှန်ရာ မိန့်နေတော်မူခြင်း ဖြစ်၏၊ ဘယ်သူ့ကိုမှ မညှာ၊ ဟုတ်တာကို ရဲရဲကြီး ဖွင့်ဟနေခြင်း ဖြစ်တော့သည်။

[မိုး(၁၀)နှာ–၁၉၀။]

# ဒီ–ဘုန်းကြီးမို့ ပေဟောနေတာ

ဘုရားရှင် ကိုယ်တော်မြတ်ကြီး လက်ထက်တော်တုန်းက အသက်တွေ ၁၂၀–စီရှိပြီဖြစ်တဲ့ ပုဏ္ဏားအိုကြီး ၂–ယောက် ဘုရားထံရောက်လာကြ၏၊ "တပည့်တော်တို့ကို ကယ်တင်ပါ၊ တရားကို တိုတိုကျဉ်းကျဉ်းနဲ့ လိုရင်း ဟောပေးပါ"တဲ့၊ လျှောက်ကြသည်။

အသက်တွေ ကြီးမှလည်း လာသေး၊ ပြီးတော့ "တိုတို ကျဉ်းကျဉ်း ဟောပေးပါ"တဲ့၊ ဘယ်လို လုပ်ကြမည်လဲ၊ ဘယ်လို လုပ်ပြီး ကျယ်ကျယ်ပြန့်ပြန့် သိနိုင်ကြမည်လဲ။

အသက် အရွယ်တွေ ကောင်းတုန်းကတော့

တရားထဲ စိတ်မဝင်စားခဲ့ကြ၊ ကာမဂုဏ်အာရုံတွေနဲ့ပဲ အချိန်ကုန်ခဲ့ကြသည်၊ ယခုလို အိုကြီးချက်မ အရွယ်ကျမှ တရားကို အရေးတကြီး လိုချင်ကြသတဲ့၊ ကယ်တော်မူပါအုံး–တဲ့။

ဤသဘောမျိုးပင် မိုးကုတ်ဆရာတော်ကြီးထံသို့လည်း ရောက်လာတတ်ကြ၏၊ အသက်တွေကကြီးလာကြတော့ နားတွေလဲ ထိုင်း၊ ခါးတွေလဲ ကိုင်း၊ မျက်စိတွေလဲ မှိုင်းလာကုန်ကြပြီ၊ ဉာဏ်တွေလဲ ရှေးတုန်းကလို မဟုတ်ကြတော့၊ ထုံလာကုန်ကြပြီ။

ထိုအခါ ဆရာတော်ကြီးက ထပ်ပြန်တလဲလဲ ဟော၊ ထပ်ပြန်တလဲလဲ ပြော၊ ထပ်ပြန်တလဲလဲ သင်ပြ၊ ထပ်ပြန်တလဲလဲ မေးရနှင့် မသက်သာလှအောင် ဖြစ်ရတော့၏၊ ရှေ့က ဟောသွား၊ နောက်က မေ့လိုက်၊ ထပ်မံ၍ ပြန်သင်ရ၊ ဒါလဲ မေ့–မေ့သွား၊ ကြာတော့ ဆရာတော်ကြီးက ဤသို့ မိန့်တော်မူတော့သည်–

> "ခင်ဗျားတို့ဟာက ကံကောင်းချိန်၊ ဉာဏ်ကောင်းချိန်တွေကိုတော့ ကာမဂုဏ်အာရုံတွေထဲမှာ အသုံးချခဲ့ကြပြီ၊ အခုလို အိုကြီးချက်မ ထုံထိုင်းပြီး အချိန်တွေ လွန်ခါမှ ဘုန်းကြီးဆီ ပြေးလာ၊ ဟောချင်စရာတောင် မရှိဘူး၊ ဒီ–ဘုန်းကြီးမို့ ပေဟောနေတာ"တဲ့။ ။

## ဝဋ်ဘဝတိုတိုနဲ့ မဂ်ဖိုလ်ကို ရပါရစေ

> **"ပီးတော့** လာသေးတယ်၊ သူတို့ ပါးစပ်က ဆုတောင်းကြတာ၊ အင်း... ဘာတဲ့ "ဝဋ်ဘဝ **တိုတိုနဲ့** မဂ်ဖိုလ်ကို ရပါရစေ"တဲ့၊ အံမယ်... **ဝဋ်ဘဝတိုချင်ရင်** ဖြစ်ပျက်မြင်အောင် ရှု၊ ပြီးတော့ မုန်းအောင် ရှု၊ ပြီးတော့ ဆုံးအောင် ရှု၊ ဒါဆို တိုတော့တာပဲ၊ သည့်ထက်တိုအောင်တော့ ဘုန်းကြီးက မဟောနိုင်တော့ဘူး"။

ဤသို့လျှင် ဆရာတော်ကြီးက ခပ်ဘောက်ဘောက် မိန့်နေသည်၊ လူတွေကလဲ လူတွေပဲ၊ ကိုယ်ဖြစ်ချင်တာနဲ့ ကိုယ်လုပ်တာနဲ့ကို မမျှဘူး၊ အလုပ် လုပ်တာက နည်းနည်း၊ ရချင်တာက များများ၊ တောင်းလိုက်တဲ့ ဆုတွေကလဲ စုံနေတာပဲ၊ လိုချင်မှန်း လူသိရုံပဲ ရှိ၊ တကျော်ကျော်နဲ့ အော်ပြီး ရတဲ့ စာတွေ အကုန်ဆိုတော့တာ၊ ကြားလို့တောင် မကောင်းဘူး။

မဂ်ဖိုလ်ကို ရက်တိုတိုနဲ့ ရချင်တယ် ဆိုရင် ရနိုင်လောက်တဲ့ ဖွဲလုံ့လဝီရိယ၊ ရနိုင်လောက်တဲ့ သမာဓိ၊ ရနိုင်လောက်တဲ့ အသိဉာဏ်၊ ရနိုင်လောက်တဲ့ အားထုတ်မှု ရှိရမယ်၊ ကြိုးစားရမယ်၊ တန်ရာ တန်ကြေး အလုပ်နဲ့ ပေးပြီး ဝယ်ရမယ်၊ ဒါဆိုရင် "မရပါနဲ့" တားလို့တောင် မနေဘူး၊ ရကို ရတယ်၊ ဤသဘောမျိုးသာ ဆရာတော်ကြီးက မိန့်တတ်ပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သမ္မာဒိဋ္ဌိနဲ့ သမ္မာသင်္ကပ္ပ ဘယ်သူက အရင်လဲ

အမရပူရ မိုးကုတ်ဆရာတော်ကြီး၏ မင်္ဂလာမဂ္ဂင်ရိပ်သာ (ယခု သံဝေဇနီယဌာန)တွင်း၌ ဦးချစ်ဆွေ+ဒေါ်မမတို့၏ တရားဟောဓမ္မာရုံကြီး ရှိ၏၊ ဓမ္မာရုံကြီး၏ တောင်ဘက်နှင့် အရှေ့ဘက်တွင်လည်း အရိပ်ကောင်းသော မန်ကျီးပင်ကြီးများ ရှိကြသည်။

ထိုအပင်ကြီးများအောက်တွင် ဝါးကွပ်ပျစ်များတင်ထားသော သစ်သားခုတင်ကြီးများ စီတန်း ခင်းထားကြ၏၊ ဆရာတော်ကြီး၏ တရားပွဲ ပြီးပြီဆိုလျှင် ယောဂီ ယောကျ်ားကြီးများ ဝိုင်းဖွဲ့၍ အနားယူရင်း ငြင်းခုံသော နေရာ ဌာနကြီးများ ဖြစ်တော့သည်။ ယနေ့လည်း ငြင်းခုံပွဲကို တစ်ယောက်က စ၍ အဆိုတင်လိုက်၏ –

"သမ္မာဒိဋ္ဌိနဲ့ သမ္မာသင်္ကပ္ပ၊
ဘယ်သူက အရင်ဖြစ်တာလဲ"တဲ့။

တချို့က သမ္မာဒိဋ္ဌိက အရင် ဖြစ်တယ်၊ တချို့က သမ္မာသင်္ကပ္ပအရင် ဖြစ်တယ်၊ သူ မှန်တယ်– ငါ မှန်တယ် ငြင်းနေကြသည်၊ သူ မလျှော့၊ ကိုယ် မလျှော့၊ သို့ဖြစ်၍ ပြဿနာ အပြီးမသတ်။

ထိုအခါ လျှောက်နေကျဖြစ်တဲ့ ဦးမောင်တင့်က ဆရာတော်ကြီးထံ သွားတော့သည်၊ ငြင်းခုံတဲ့ ပြဿနာကို တင်ပြ၏၊ "အဲဒါ ဘယ်သူ မှန်သလဲ ဘုရား၊ အဖြေ ပေးတော်မူပါ…"

ဆရာတော်ကြီးက "နှစ်ဘက်လုံး မှန်တယ်ကွ" ဟု ဖြေလိုက်သည်၊ ထိုအဖြေကို မကျေနပ်၍ "ဘယ်လို လုပ် နှစ်ဘက်စလုံး မှန်တာလဲ ဘုရား"ဟု ထပ်ဆင့် မေးလျှောက်ပြန်၏၊ ထိုအခါကျမှ ဆရာတော်က အကျယ် ရှင်းပြသည်။

"ဒီလိုကွ သမ္မာသင်္ကပ္ပ=ကောင်းသော အကြံအစည်၊ မှန်ကန်သော အကြံအစည်ရှိမှ သမ္မာဒိဋ္ဌိ=မှန်ကန်သော အမြင် ဖြစ်ရတယ်၊ ဒါက ပုထုဇဉ်အနေနဲ့ မှန်တာ၊ ပုထုဇဉ်အနေနဲ့ဆိုရင် သမ္မာသင်္ကပ္ပက အရင် ဖြစ်တယ်ကွ။

အဲ… နောက်တော့၊ အရိယာပိုင်း ရောက်လာတဲ့အခါကျတော့ သမ္မာဒိဋ္ဌိက အရင် ဖြစ်တယ်ကွ၊ သမ္မာဒိဋ္ဌိ ရှိတော့မှ သမ္မာသင်္ကပ္ပ ဖြစ်တာ"ဟူ၍ အဖြေပေးလိုက်တော့သတတ်။

# သမီးကလေးတစ်ယောက် ရချင်သတဲ့

စာရေးသူတို့မှာ မွေးချင်း (၇)ယောက်ရှိကြ၏၊ ယောကျ်ား ၄–ယောက်၊ မိန်းကလေး ၃–ယောက်၊ ထိုတွင် အထက်ပိုင်း ၄–ယောက်က ယောကျ်ားကလေးတွေချည်း ဆက်တိုက် မွေးသည်၊ နောက်မှ မိန်းကလေးတွေချည်း ၃–ယောက် ဆက်တိုက် မွေးပြန်သည်။

ယောကျ်ားကလေးတွေချည်း ၄–ယောက် ဆက်တိုက် မွေးနေသောအခါ တစ်နေ့တွင် စာရေးသူ၏ ဖခင်ကြီးက ပြောသတဲ့–

"တို့… သမီးကလေး တစ်ယောက်လောက်
ရချင်လိုက်တာ"တဲ့။

စာရေးသူ၏ မိခင်ကြီးက "ဘာ လုပ်ချင်လို့လဲ"လို့ မေးတော့ "တို့သေတဲ့အခါ ငိုမယ့်သူ ရအောင်လို့"တဲ့၊ အို… ကြုံကြုံဖန်ဖန်၊ ဖခင်ကြီးကလဲ တောင့်တပလေတယ်။

ထို့နောက် တကယ်ပါပဲ၊ ကံကောင်းထောက်မ သမီးကလေးတစ်ယောက် ရလာတော့၏၊ ဖခင်ကြီးက

ဆ၍ က–ပါသတဲ့၊ "ဘာလို့ က–တာလဲ"မေးတော့ "တို့ သေရင် ငိုမယ့်သူ ရပြီ"တဲ့၊ "ဝမ်းသာလွန်းလို့" တဲ့၊ သြော်... ဖခင်ကြီး။

ဤအကြောင်းအရာများကို တစ်ခါတုန်းက မိခင်ကြီးက ပြန်လည် ပြောပြဖူးပါသည်။

ဖခင်ကြီးက ငိုမည့်သူ ရချင်သတဲ့၊ တကယ်တော့ မငိုဘဲ နေနိုင်မှ ပိုပြီး ကောင်းတာ မဟုတ်ပါလား၊ ဒါမှ တရား ပြည့်တယ် ဆိုနိုင်တာ။

ငိုစေချင်တာဟာ အတ္တဒိဋ္ဌိပဲ၊ ကိုယ့်ဘဝတစ်ခုလုံး သာယာစိုပြည်ချင်တယ်၊ သေသည်အထိ လူတွေစည်စည်ကားကားနဲ့ ဖြစ်စေချင်တယ်ဆိုတာ အတ္တဒိဋ္ဌိလွန်ကဲတာပေါ့။

ပတ်ဝန်းကျင်လောကကြီးကလဲ မသာမှာ ငိုမည့်သူ မရှိလျှင် မျက်နှာငယ်တယ်လို့ ထင်တတ်ကြတယ်၊ ငိုသူတွေ များများနဲ့မှ စည်ကားတယ်–ဆွေတွေမျိုးတွေ ပေါတယ်–လို့ ဂုဏ်ယူချင်ကြတာကိုး။

စာရေးသူ၏ ဖခင်ကြီးသည်လည်း ဤအသိုင်းအဝန်းမျိုးကို တွေ့မြင်နေရ၍ တောင့်တခြင်း ဖြစ်ပေလိမ့်မည်။

# မငိုဘဲနေနိုင်တဲ့ မိသားစု ၆–ဦး

*ဇာတ်တော်ထဲမှာ အံ့သြဖွယ် မိသားစု တစ်ခု တွေ့ရ၏၊ ဖခင်နှင့်သားကြီးတို့က ယာတောသို့ သွား၍ ထွန်တစ်စင်းစီဖြင့် ထွန်နေကြသည်၊ တစ်နေ့ရာတွင် အဆိပ်ပြင်းသော မြွေကြီးက သားဖြစ်သူကို ကိုက်လိုက်ရာ နေရာတွင် "ဘိုင်း"ခနဲ လဲကျသွားရလေ၏။

ဖခင်က ပြေးလာ၍ ပွေ့ထူပြီး ပြုစုရှာပါသည်၊ သို့သော် မရ၊ အဆိပ်ပြင်းလှသောကြောင့် ချက်ချင်းပင် သေသွားရရှာ၏၊ အလောင်းကို သစ်ပင်ရိပ်သို့ ယူလာပြီး သစ်ကိုင်းတို့ဖြင့် အုပ်ထားလိုက်သည်၊ ထို့နောက် ဖခင်က မပြီးသေးသော ယာကွက်ကို ဆက်လက် ထွန်နေ၏။

ခဏကြာသောအခါ ယာတောအနီးမှ ဖြတ်သန်းသွားသော လူကြုံကို မှာလိုက်၏– "ကျွန်တော်တို့အိမ်ကို ပြောလိုက်စမ်းပါ၊ ယနေ့တစ်ယောက်စာသာ ထမင်းဒို့ပါ၊ ပီးတော့ လူကုန် လာခဲ့ကြ–လို့"၊ လူကြုံက မှာလိုက်သည့်အတိုင်း ပြောသောအခါ မိခင်လုပ်သူက "အဲဒါ ဘယ်သူက မှာလိုက်တာလဲ"ဟု မေးမြန်းရတော့၏၊ ဖခင်၏ နာမည်ကို ပြောသောအခါ "သြော်... ငါ့သားကြီး မရှိတော့ဘူးကိုး"ဟု သိပါတော့သတတ်။

ထမင်းဟင်းများ ကျက်သောအခါ တစ်ယောက်စာ ယူခဲ့၍ မိခင်ကြီးက သမီး–ချွေးမ–အိမ်ဖော်မကလေးတို့ကို အကျိုးအကြောင်း ပြောပြပြီး ယာတောသို့ အတူတကွ လာခဲ့ကြသည်။

ယာတောတွင် သစ်ပင်ရိပ်၌ သေသူ၏ ရုပ်အလောင်းကို တွေ့ကြရ၏၊ ကိုယ်စီကိုယ်င မျက်နှာကလေးများ ညှိုးငယ်ကြရုံမှအပ မည်သူမျှ မငိုကြပေ။

ဖခင်လုပ်သူ ထမင်းစားပြီးသောအခါ သစ်ကိုင်းခြောက်တို့ကို စု၍ ရုပ်အလောင်းကို ဝိုင်းအုံမီးသင်္ဂြိုဟ်ကြသည်၊ မမြဲခြင်းသဘောတရားတို့ကို နှလုံးသွင်း၍ မည်သူမျှ မငိုကြပေ။

• ဥရဂဇာတက၊ပါ–၁၂၂၊၄–၁၅၀

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သိကြားမင်း ဆင်း၍ မေးမြန်းရ

ဤသဘောတရားသည် လောက၌ ထူးဆန်းလွန်းနေ၏၊ သိကြားမင်း၏ ပဏ္ဍုကမ္ဗလာအထိ သွား၍ တင်းလေသည်၊ ထို့ကြောင့် သိကြားမင်း ကိုယ်တိုင်ဆင်းလာ စုံစမ်းရလေ၏၊ မငိုဘဲ မီးရှို့နေကြသော မိသားစုကို သွား၍ တွေ့လေသည်၊ အဘိုးအို ဟန်ဆောင်၍ မေးမြန်း၏–

"အဲဒါ ဘာလုပ်နေကြတာလဲဗျ"

"သေသူကို မီးသင်္ဂြိုဟ်နေကြတာပါ"

"ဟုတ်–မထင်ပါဘူး၊ ခင်ဗျားတို့ဟာ သမင်တို့ ဂျီတို့ ယုံတို့ကို ဖုတ်နေကြတာ ထင်ပါရဲ့"

"မဟုတ်ပါဘူး၊ လူသားတစ်ယောက်ကို မီးသင်္ဂြိုဟ်နေကြတာပါ"

"လူသားဆိုရင် ခင်ဗျားတို့ ငိုကြမှာပေါ့ဗျ၊ အခုတော့ တစ်ယောက်ကမှ မငိုကြဘဲဟာ၊ ဆွေမတော် မျိုးမတော်တဲ့ လူမို့လို့လား"

"မဟုတ်ပါဘူး၊ တော်ပါတယ်၊ ကျွန်တော်တို့ သားပါ"

"ဩော်... မွေးစားသားလား၊ ဒါ့ကြောင့် မငိုဘဲ နေနိုင်ကြတာ ထင်ပါရဲ့"

"မဟုတ်ပါဘူး၊ ကျွန်တော်က အဖေအရင်းပါ၊ ဟောဒါက အမေအရင်းပါ၊ ရင်နဲ့ လွယ်[illegible] မွေးထားတဲ့သားပါ"

"နို့ ခင်ဗျားတို့ ဘာလို့ မငိုကြတာလဲ"

"ကျွန်တော် ငိုလို့ ပြန်ပြီး အသက်ရှင်လာမ[illegible] ဆိုရင်တော့လဲ အဟုတ်သားပေါ့ဗျ"

"ဒါဖြင့် ဒီအမေလုပ်တဲ့သူကရော ဘာလို့ မ[illegible] တာလဲ"

"ကျွန်မဟာ ဒီသားကို "လာပါ"လို့ ခေါ်တာ[illegible] မဟုတ်ဘူး၊ မခေါ်ဘဲနဲ့ ကျွန်မရင်ထဲကို ရောက်[illegible] လာတာ၊ အခုကျတော့လဲ "သွားပါ"လို့ ကျွန်[illegible] က နှင်တာ မဟုတ်ဘူး၊ မနှင်ဘဲနဲ့ သွားတ[illegible] အဲဒါကြောင့်..."

"ဩော် ဒီဘက်ကသူငယ်မက ဘာတော်တုံ[illegible]"

"နှမကလေး အရင်းခေါက်ခေါက်ပါ"

"နို့ သူကရော ဘာလို့ မငိုတာလဲ၊ မချစ်[illegible] လား"

"မချစ်လို့ မဟုတ်ပါ၊ ကျွန်မ အစ်ကိုကြီးကို ကျွန်မ ချစ်ပါတယ်၊ ငိုနေခြင်းဖြင့် အကျိုးမရှိ[illegible] ကျန်ရစ်တဲ့ သူတွေ နွမ်းရိရုံမျှသာ ဖြစ်[illegible] မယ်..."

# နိပ်စက်တဲ့ ခင်ပွန်းဆိုးကြီး မို့လား

"ဩော်... ဟိုဘက်က သူငယ်မကရော..."

"အဲဒါက သေသူရဲ့ ဇနီးကလေးပါ..."

"နို့ ဘာလို့ မငိုတာလဲ၊ ခင်ပွန်းက မင့်အပေါ် နိုင့်ထက် စီးနင်း ဆက်ဆံလွန်းလို့လား၊ ခဏခဏ ရိုက်လို့လား၊ မချစ်လို့ မမြတ်နိုးလို့ လား..."

"အဲဒါတွေ တစ်ခုမျှ မဟုတ်ပါ၊ ကျွန်မခင်ပွန်း[illegible] အပေါ် ကျွန်မက သိပ်ပြီး မြတ်နိုးပါတယ်[illegible] ခင်ပွန်းကလဲ ကျွန်မအပေါ် သိပ်ပြီး ကြင်နာ[illegible] တယ်၊ ငိုနေခြင်းဖြင့် အကျိုးမရှိတဲ့အပြင် မနာ[illegible] သူတို့အတွက် သဘောကျစရာတောင် ဖြစ်သွ[illegible] နိုင်ပါသေးတယ်၊ အဲဒါကြောင့် မငိုတာပါ..."

"ဟိုဘက်က သူငယ်မကလေးကရော ဘာတော် သလဲ..."

"ဩော်... အဲဒါလေးကလဲ အိမ်သားတစ်ဦး ပါပဲ၊ အိမ်မှာ အကူအညီ (မွေးချင်းအရင်းပမာ) အဖော်ကလေးပါ..."

"ဒီလိုဆို... မင်းကရော ဘာလို့ မငိုတာလဲ၊ မင့်အရှင်သခင်က မင့်ကို ခဏ ခဏ နှိပ်စက် လွန်းလို့လား၊ ရိုက်လွန်းလို့လား..."

"မဟုတ်ပါ၊ ကျွန်မရဲ့ အရှင်သခင်က သိပ်ပြီး သဘောကောင်းပါတယ်၊ စာနာတတ်ပါတယ်၊ ငဲ့ညှာတတ်ပါတယ်၊ သနားတတ်ပါတယ်၊ ကျွန်မရဲ့ အရှင်သခင်ဟာ (မြွေရေလဲသလို) ဒီဘဝကနေ ဟိုဘက်ဘဝကို ပြောင်းခြင်းမျှသာ ဖြစ်လို့ မငိုဘဲ နေတာပါ..."

**မှတ်ချက်။** ။"မြွေရေလဲသလို" ဆိုတာ သူငယ်မ ကလေးက သူထင်သလို သူသိသလို၊ သူ့ဆန္ဒအရ ပြောခြင်းမျှသာ ဖြစ်၏။

## ဒီအတိုင်း ဆက်လက် ကျင့်သုံးကြပါ

ထိုအခါ လူအိုကြီးက "နေစမ်းပါအုံးဗျ၊ ခင်ဗျား တို့ မိသားစုတွေဟာ ဒီလိုမငိုဘဲ နေနိုင်တာ ဘယ်လို ကျင့်သုံးထားကြလို့လဲဗျ..."ဟူ၍ မေးပါတော့သတတ်၊ ထိုအခါ အိမ်ထောင်ဦးစီးဖခင်လုပ်သူက ရှင်းပြရတော့ သည်။

"ကျွန်တော်တို့ မိသားစု ၆-ဦးစလုံး (မရ ဏဿတိ)ဆိုတဲ့ သေခြင်းသဘောတရားကို အမြဲတမ်း နှလုံး သွင်းနေကြပါတယ်၊ အဲဒီအစွမ်း ကြောင့် မငိုဘဲ နေနိုင်ကြတာပါ..."

ထိုအခါ လူအိုကြီးပုံ "ဖျတ်"ခနဲ ပျောက်သွား ပြီး ထိုနေရာတွင်ပင် "ထပ်"ခနဲ သိကြားမင်းကြီး အသွင် ပေါ်ပေါက်လာတော့၏၊ မိသားစုများလည်း အံ့အားသင့်သွားကြသည်၊ ထိုအချိန်တွင် သိကြားမင်း ကြီးက ထိုမိသားစုကို ချီးကျူးပြီးလျှင် "ဒီအတိုင်း ဆက်လက် ကျင့်သုံးသွားကြပါ"လို့ တိုက်တွန်း မှာ ကြားသွားပါသတတ်-။

## အကုန်လုံး နိဗ္ဗာန်ရောက်ကြပါသလား

*တစ်နေ့တွင် ဂဏကမောဂ္ဂလာနပုဏ္ဏားသည် ဘုရားထံ ရောက်လာ၏၊ အလ္လာပ သလ္လာပ စကား စမြည် ပြောပြီးလျှင် ဘုရားရှင်ကို မေးတော့သည်-

မေး- "အရှင်ဂေါတမ... အရှင်ဂေါတမမှာ တပည့် ပရိသတ်တွေ အများကြီး၊ အဆုံးအမခံသူတွေ မနည်းဘူး၊ ဒီပုဂ္ဂိုလ်တွေ အကုန်လုံး နိဗ္ဗာန်ကို ရကြပါသလား၊ ရောက်ကြပါသလား။

ဖြေ- အကုန်လုံး မရောက်ကြပါ၊ အချို့သာ ရောက် ကြသည်။

မေး- အို့... ဘယ့်နှယ်လဲ အရှင်ဂေါတမ၊ နိဗ္ဗာန် ကြီးကလဲ အထင်အရှားရှိတာပဲ၊ နိဗ္ဗာန်ရောက်

* ဥပရိပဏ္ဏာသပါဠိ၊၅၂

ကြောင်း လမ်းကောင်းအကျင့်တွေလဲ အပြည့်အစုံ ရှိတာပဲ၊ နည်းပေးလမ်းပြကတ်သူ အရှင်ဘုရားလဲ ရှိနေတာပဲ၊ သို့ပါလျက် ဘယ့်နှာကြောင့် အချို့သာ ရောက်ပြီး အချို့ မရောက်ကြပါသလဲ။

ဖြေ– ပုဏ္ဏား... ဤကိစ္စအတွက် သင့်ကိုပင် ပြန်၍မေးရပေဦးတော့မည်၊ သင် ကြိုက်သလို ဖြေပါ၊ "သင်ဟာ ရာဇဂြိုဟ်မြို့ကို သွားတဲ့လမ်းသိပါ၏လော"

"မှန်ပါ သိပါတယ် ဘုရား"ဟု ပုဏ္ဏားက ဖြေဆိုသည်၊ ဘုရားရှင် ကိုယ်တော်မြတ်ကြီးက ဆက်လက်၍ မိန့်တော်မူ၏ -

ခရီးသွားလူတစ်စုက သင့်ကို မေးမယ်၊ "ရာဇဂြိုဟ်မြို့ကိုဘယ်လမ်းကသွားရပါ သလဲ" လို့၊ အဲဒီအခါမှာ သင်က လမ်းညွှန်မယ်–

"ဟောဒီကနေပြီး အရှေ့အရပ်ကို တည့်တည့် သွား၊ တော်တော်လေး သွားမိတော့ လမ်းဆုံ တစ်ခု တွေ့မယ်၊ အဲဒီလမ်းဆုံကနေပြီးတော့ လက်ယာဘက်ကို ချိုးတဲ့လမ်း လိုက်၊ တန်းတန်းသာ လိုက်၊ ဘေးမတက်နဲ့။

အဲလိုနဲ့သွားတော့ ရှေ့နားခပ်လှမ်းလှမ်းမျက်စိတစ်ဆုံးလောက်မှာ သစ်ပင်ကလေးတွေအုံ့အုံ့ဆိုင်းဆိုင်းနဲ့ ရွာနိဂုံးကလေးတစ်ခုကို ဈေးကလေးနှင့်တကွ တွေ့လိမ့်မယ်၊ ရောင်းဝယ်ဖောက်ကားနေကြတဲ့လူတွေကိုလဲ ပြုံးပြုံးရွှင်ရွှင်နဲ့ တွေ့ရလိမ့်မယ်။

အဲဒီရွာနိဂုံးကနေ တစ်ခါ အရှေ့ဘက်ကို တည့်တည့်သွား၊ ဘေးမတက်နဲ့၊ တော်တော်လေး သွားမိတော့ ကြာမျိုးငါးပါးနဲ့ ပြည့်စုံတဲ့ ဖူးပွင့်နေတဲ့ ရေကန်ကြီးတစ်ခု တွေ့လိမ့်မယ်၊ ဒါဆို နီးပြီ။

အဲဒီရေကန်ကြီးကနေ လက်ယာဘက်ကို ယွန်းတဲ့လမ်းကိုသာ လိုက်–လိုက်ရင် ရာဇဂြိုဟ်ကို လှမ်းမြင်နေရပြီ၊ အဲဒီအတိုင်းသာသွား"

## ညွှန်သည့်အတိုင်းသွားမှ ရောက်မှာပေါ့

အဲသည်လို သင်က ညွှန်ကြားလိုက်တယ် ဆိုပါတော့၊ ဒါပေမယ့် အဲဒီသူတွေက သင် ညွှန်ကြားတဲ့အတိုင်း မလိုက်နာဘူး။

တစ်ယောက်က ရှေ့မတိုးဘဲ လမ်းပေါ်ရပ်နေတယ်၊ တစ်ယောက်က လမ်းဘေး ဖဲ့ဆင်းပြီး တခြား လမ်းကို လိုက်နေတယ်၊ တစ်ယောက်ကတော့ လမ်းအတိုင်း နောက်ကိုပြန်လာနေတယ်၊ ကျန်တစ်ယောက်သာလျှင် သင်ညွှန်ကြားတဲ့အတိုင်း သွားလို့ ရာဇဂြိုဟ်ကို ဖြောင့်ဖြောင့်တန်းတန်း ရောက်သွားတယ်။

ပုဏ္ဏား... ရာဇဂြိုဟ်လည်း အထင်အရှား၊ သွားရာလမ်းမကြီးလဲ အမှန်ရှိ၊ ညွှန်ပြတတ်သူ သင်လဲ အရှိပင်။

သို့ပါလျက် တစ်ယောက်သာလျှင် ရာဇဂြိုဟ်ကို ရောက်ပြီး၊ ကျန်တဲ့သူတွေ ရာဇဂြိုဟ်ကို မရောက်သည်မှာ အဘယ့်ကြောင့်နည်း" ဟု ဘုရားရှင်က မေးတော်မူ၏။

ပုဏ္ဏား–ထိုအခါ ပုဏ္ဏားက "အရှင်ဂေါတမ... အကျွန်ုပ်ဘာတတ်နိုင်မှာလဲ၊ ကျွန်ုပ်က လမ်းပြရုံ လမ်းညွှန်ရုံသာ ဖြစ်ပါတယ်"ဟု ပြောဆို၏။

ဘုရားရှင်–"အိမ်း... ဟုတ်တယ် ပုဏ္ဏား၊ နိဗ္ဗာန်လည်းအမှန်ရှိသည်ပင်၊ သွားရာလမ်းကြောင်း အကျင့်ကောင်းများလည်း အပြည့်အစုံ ရှိသည်ပင်၊

နည်းပေး လမ်းညွှန်တတ်သူ ငါဘုရားလည်း ရှိသည်ပင်။

သို့ပါလျက် အချို့သာ နိဗ္ဗာန်ကို ရကြ၏၊ အချို့ကား မရကြ၊ ဤအရာ၌ ငါ ဘုရား ဘာတတ်နိုင်အံ့နည်း၊ ငါဘုရားကား နည်းပေး လမ်းညွှန်ရုံသာ ဖြစ်ပေသည်"ဟု မိန့်တော်မူ၏။

ထိုအခါ ပုဏ္ဏားက သဘောကျသွား၏၊ ဘုရား ရှင်ကိုလည်း ကြည်ညိုသွားလေသည်။

"ဩော်... ဒီလိုဆိုရင် လမ်းညွှန်သည့်အတိုင်း လိုက်နာမှု-မလိုက်နာမှုအပေါ် မူတည်တာပါ ကလား။

လမ်းညွှန်သည့်အတိုင်း ဆိုက်ဆိုက် မြိုက်မြိုက် ရောက်အောင် သွားမှုကား ယောဂီ အတွက် ယောဂီ၏ တာဝန်သာ ဖြစ်လေသည်" ဟု သဘောပေါက်သွားလေ၏။

# သစ္စာ ၄-ချက် ပေါ်လျက် ပေါ်လျက်

ဆရာတော်က သစ္စာ ပေါ်ပုံကို လက်တွေ့ အဖြစ်အပျက်နှင့် အံကိုက်၍ ရှင်းပြတော်မူသည်၊ "မင်း တို့တွေက သစ္စာ-သစ္စာနဲ့ သစ္စာကို တခြားမှာ သွား ရှာရမှာ မဟုတ်ဘူးကွ၊ ကိုယ့်ခန္ဓာထဲမှာပဲ ရှာရမှာ" ဟူ၍ မိန့်ကာ သစ္စာပေါ်ပုံကို အောက်ပါအတိုင်း ရှင်းပြတော်မူ၏။

"ဥပမာ ထမင်း ဆာလာတယ် ဆိုကြပါစို့၊ ဆာလာတာဟာ သုခလား၊ ဒုက္ခလား (ဒုက္ခပါ ဘုရား) အေး... ဆာလာတာ ဒုက္ခပေါ့၊ ဒုက္ခ သစ္စာ ပြတာ (မှန်ပါ) ရုပ်ပါ ညှိုးလာတယ် (မှန်ပါ)

အဲဒီ ဆာတာကို "ဒုက္ခ သစ္စာပဲ" လို့ နောက်ကနေ ဉာဏ်လိုက်ပေး (မှန်ပါ) ဉာဏ်နဲ့ သိလိုက်ပါ (မှန်ပါဘုရား)

အဲဒီတော့ ဆာတာက ဒုက္ခသစ္စာ၊ ဆာ လောင်တဲ့ သဘောကို (ဆာလောင်လို့ ဒုက္ခ ရောက်တဲ့ သဘောကို) ပြောတာနော်၊ (မှန်ပါ) ဒုက္ခသစ္စာပဲလို့ သိတာက မဂ္ဂသစ္စာ (မှန်ပါ ဘုရား)

ဆာတာက ဘာတဲ့ (ဒုက္ခသစ္စာပါ ဘုရား) သိတာက (မဂ္ဂသစ္စာပါ ဘုရား)

အေး... အဲလို ဆာလောင်မွတ်သိပ်တော့ "ကျွေးဦးမှပဲ"ဆိုတဲ့ ခန္ဓာကို ခင်တဲ့ သမုဒယ သစ္စာ လာတယ် (မှန်ပါ) အဲဒါလဲ သိအောင် လုပ်ရမယ် (မှန်ပါဘုရား)

"ငါ့မှာ သမုဒယသစ္စာ လာနေပြီ"လို့ သိပေး၊ မဂ်ကသိပေး(မှန်ပါ) သမုဒယက သမု ဒယသစ္စာ၊ သိတာက ဘာလဲ (မဂ်ပါ ဘုရား)

အေး... အဲလို သိနေတဲ့အခိုက်အတန့် အချိန်ကလေးမှာ ဆာလောင်မွတ်သိပ်တဲ့စိတ် ရှိသေးလား (မရှိတော့ပါ ဘုရား)

နာမ်တရားတို့ မည်သည် တစ်ချိန်တည်း မှာ ၂-ခုပြိုင်ဖြစ်ရိုး မရှိကြဘူး၊ တစ်ခုစီ ဖြစ် ကြရတာ (မှန်ပါ)

ဒါ့ကြောင့် သိတဲ့နာမ်တရား ပေါ်တဲ့အခိုက်မှာ ဆာလောင်တဲ့စိတ်ကလေး ပျောက်ကွယ်ပေးရ တာ (မှန်ပါ)

ဟာ... အဲဒီ ပျောက်ကွယ်တာလေးက ဘာပါလိမ့် (နိရောဓပါဘုရား) အေး... ဟုတ် တယ်၊ နိရောဓသစ္စာပေါ့ (မှန်ပါ)

အဲဒီနိရောဓသစ္စာကိုလဲ သိပေးရမှာပဲ (မှန်ပါဘုရား) ချုပ်ပျောက်သွားတာက နိရောဓ သစ္စာ၊ သိတာက (မဂ္ဂသစ္စာပါဘုရား)

အေး... မင်းတို့တွေ ဣရိယာပုထ်တစ်ခု ပေါ်တိုင်း ပေါ်တိုင်း သိနေမယ်ဆိုလို့ရှိရင် သစ္စာ၄-ချက် ဖြစ်နေ တော့တာပဲ (မှန်ပါဘုရား) [မိုး(၁၀)နာ-၃၅၂-မှ]

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သစ္စာရယ်- သိတာရယ် ၂-မျိုး ကွဲပစေ

နောက်တစ်ခေါက် ပြန်ပြောဦးမယ် (မှန်ပါ)

ခန္ဓာထဲအမူအရာ ပြောင်းတိုင်း သိပေး၊ အမူအရာ ပြောင်းတာက ဒုက္ခသစ္စာ၊ သိတာက ဘာလဲ (မဂ္ဂသစ္စာပါဘုရား)

လောဘတဏှာပေါ်တိုင်းလဲ သိပေးပါ၊ လောဘတဏှာက သမုဒယသစ္စာ၊ သိတာက (မဂ္ဂသစ္စာပါဘုရား)

ဒီလိုဆိုတော့ ဒုက္ခသစ္စာနဲ့ သမုဒယသစ္စာ ပေါ်တိုင်း သိပေး–လို့ ဆိုရာရောက်တော့တာပေါ့ (မှန်ပါ)

ပီးတော့ ဒုက္ခချုပ်သွားတာ နိရောဓ၊ သမုဒယချုပ်တာလဲ နိရောဓပဲ၊ သူတို့ (၂)ခု ချုပ်သွားတာဟာ နိရောဓသစ္စာပဲ (မှန်ပါ) အဲဒါကိုလဲ သိပေး (မှန်ပါဘုရား)

နိရောဓက နိရောဓသစ္စာ၊ သိပေးတာက (မဂ္ဂသစ္စာပါ ဘုရား)

ဒီတော့ သစ္စာ ၄–ချက် မစုံသေးဘူးလား၊ (စုံပါပြီ ဘုရား) အဲဒီလို သိသိနေတာက ဘာတွေကို သိနေရတာလဲ (သစ္စာတွေကိုပါ ဘုရား)

## သစ္စာဆိုတာ ခန္ဓာထဲမှာပဲ ရှိ

အေး... ဒါဟာ သစ္စာကို သိနေသောကြောင့် ဘာဉာဏ် ခေါ်မယ် (သစ္စဉာဏ် ခေါ်ပါမယ်) ခန္ဓာထဲပေါ်တာကို သိမှသာ သစ္စဉာဏ် ဖြစ်မယ်နော (မှန်ပါ) စာထဲ ရှိတာကို သိနေလို့ သစ္စဉာဏ် မဖြစ်ဘူး (မှန်ပါ ဘုရား)

၁။ ဒါဖြင့် စာထဲမှာ ဒုက္ခသစ္စာရှိသလား၊ (မရှိပါဘုရား)

၂။ စာထဲမှာ သမုဒယသစ္စာရှိသလား၊ (မရှိပါဘုရား)

၃။ စာထဲမှာ နိရောဓသစ္စာရှိသလား၊ (မရှိပါဘုရား)

၄။ စာထဲမှာ မဂ္ဂသစ္စာရှိသလား၊ (မရှိပါဘုရား)

မရှိပါဘူး၊ စာထဲမှာ မရှိပါဘူး၊ စာထဲမှာ ရှိတာက မှတ်တမ်းပဲ ရှိတယ် (မှန်ပါ ဘုရား) ခန္ဓာထဲမှာ ဖြစ်ပေါ်တာ ပျောက်ပျက်တာကို စာနဲ့ ရေးပြီး မှတ်တမ်းတင်ထားတာ (မှန်ပါ)

## သစ္စာ ၄–ပါး မှတ်တမ်းစာ

ဟုတ်ပါသည်၊ ကျမ်းစာတို့၌ ရေးသားထားသော “သစ္စာလေးပါး”ဆိုသည်ကား မှတ်တမ်းစာမျှသာ ဖြစ်ပါသည်၊ ထိုစာသဘောတို့ကို သိနေလျှင် မှတ်တမ်းကို သိနေခြင်းမျှသာ ဖြစ်ပါ၏၊ အမှန်တကယ် သစ္စာတရားတို့ကို သိခြင်း မဟုတ်သေး၊ ထိုမှတ်တမ်းစာများမှာ–

ဒုက္ခံ တေဘူမကံ ဝဋ္ဋံ၊
တဏှာ သမုဒယော ဘဝေ။

### တစ်ဘဝသာသနာ

နိရောဓော နာမ နိဗ္ဗာနံ၊
မဂ္ဂေါ လောကုတ္တရာ မတော။ ။

–ဘုံသုံးပါး၌ဖြစ်သော၊ ဝဋ္ဋ–ဝဋ်တရားသည်၊ ဒုက္ခံ–ဒုက္ခသစ္စာ မည်၏၊ တဏှာ–လိုချင်တတ်သော လောဘတဏှာသည်၊ သမုဒယော–သမုဒယသစ္စာ မည်သည်၊ ဘဝေ–ဖြစ်၏၊ နိဗ္ဗာနံ–နိဗ္ဗာန်သည်၊ နိရောဓော နာမ–နိရောဓသစ္စာ မည်၏၊ လောကုတ္တရော–လောကုတ္တရာ ဖြစ်သော၊ မဂ္ဂေါ–မဂ္ဂင်တရားကိုယ်ရှစ်ပါးကို၊ (မဂ္ဂေါ–မဂ္ဂသစ္စာဟူ၍) မတော–သိအပ်၏။

(အဘိဓမ္မတ္ထသင်္ဂဟ)

## သစ္စာလေးပါး ရှင်းလင်းချက်

"ဒုက္ခံ တေဘူမကံ ဝဋ္ဋ=ဘုံသုံးပါး၌ ဖြစ်တဲ့ ဝဋ်တရားသည် ဒုက္ခသစ္စာမည်၏"ဟူရာဝယ် ကာမဘုံ ရူပဘုံ အရူပဘုံသည် ဘုံသုံးပါးဖြစ်၏၊ ကာမဘုံ၌ဖြစ်တဲ့ စိတ်–စေတသိက်သည် ကာမဘူမက၊ ရူပဘုံ၌ဖြစ်တဲ့ စိတ်–စေတသိက်သည် ရူပဘူမက၊ အရူပဘုံ၌ဖြစ်တဲ့ စိတ်–စေတသိက်သည် အရူပဘူမက။

ဤဘုံသုံးပါး၌ဖြစ်သောတရားသည် ဝဋ်ထဲမှာလည်း ပါရမည်၊ ဒုက္ခသစ္စာလည်း ဖြစ်ရမည်၊ ထို့ကြောင့် လောကီ တရားများသာ ကောက်ယူရမည် ဖြစ်၏၊ သို့ဖြစ်၍–

(က) "လောကီစိတ်–၈၁ (လောဘ ကြဉ်သော) စေတသိက်–၅၁၊ ရုပ် ၂၈–ပါးသည် ဒုက္ခသစ္စာ မည်၏"
(ခ) "လောဘမူစိတ် ရှစ်ပါး၌ ယှဉ်သော တဏှာ (လောဘ)သည် သမုဒယသစ္စာ မည်၏"
(ဂ) "နိဗ္ဗာန်သည် နိရောဓသစ္စာ မည်၏"

ဟူ၍ မှုသေ ကျက်မှတ်ခဲ့ကြရသည်။

## မဂ္ဂေါ လောကုတ္တရော မတော

"မဂ်စိတ်လေးခု၌ ရှိသော မဂ္ဂင်တရားကိုယ် ၈–ပါးသည် မဂ္ဂသစ္စာ မည်၏"

ဆိုလိုသည်မှာ မဂ်စိတ်လေးခု၌ စေတသိက် ၃၆–ပါး ယှဉ်ကြ၏၊ ယင်းတို့တွင် ပညာ–ဝိတက်၊ သမ္မာဝါစာ–သမ္မာကမ္မန္တ–သမ္မာ အာဇီဝ၊ ဝီရိယ–သတိ သမာဓိတို့လည်း ပါကြ၏၊ ၎င်းတရားကိုယ်ရှစ်ပါးသည် မဂ္ဂသစ္စာ မည်၏–ဟူလို။

**မှတ်ချက်။** ။ဖိုလ်စိတ်လေးခု၌လည်း မဂ္ဂင်တရားကိုယ်များ ယှဉ်ကြပါ၏၊ သို့သော် နိဗ္ဗာန်ရောက်ဖို့ အကြောင်းများ မဟုတ်သောကြောင့် မဂ္ဂသစ္စာတွင် မပါဝင်ရချေ။

ဤသို့လျှင် သစ္စာလေးပါးနှင့်ပတ်သက်၍ ကျမ်းဂန်တို့၌ တရားကိုယ်အရကောက်တို့ကို တိတိကျကျ ရေးသား မှတ်တမ်းတင်တော်မူခဲ့ကြသည်၊ ဤကား မှတ်တမ်းစာတို့သာ ဖြစ်ကြ၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ရုပ်နာမ်အပေါ် ဘယ်လိုမြင်ရမလဲ

သက္ကရာဇ် ၁၃၂၀–ခု တပေါင်းလ (ခရစ် ၁၉၅၉–ခု မတ်လ)ထဲတွင် အမရပူရ၏ ရာသီဥတုက ပူပြင်းလှ၏၊ သို့သော်လည်း အဝေးမှ ရောက်လာကြသော ယောဂီပရိသတ်တို့ကမူ သဲကြီးမဲကြီးနှင့် တရားနာကြ လက်တွေ့ကိုယ်တိုင်လည်း ကျင့်ကြံအားထုတ်ကြ၍ စိတ်ဓာတ်တွေ ထက်သန်လန်းဆန်းနေကြသည်။

ဆရာတော်ကြီးက "ရုပ်နာမ်အပေါ် ဘယ်လိုမြင်ရမလဲ၊ ဘယ်လိုမြင်မှ အမြင်မှန်ခေါ်မလဲ"ဆိုတာတွေကို ဟောပြတော်မူ၏။

* "မိမိတို့ အခု တရားနာနေကြတာ၊ ထိုင်နေကြတာ နာမ်က အထိုင်ခိုင်းလို့ ရုပ်က ထိုင်နေတယ်လို့ မှတ်ရမယ် (မှန်ပါဘုရား)

ဘယ်သူက အထိုင်ခိုင်းတာလဲ (နာမ်က ပါ ဘုရား) ဘယ်သူက ထိုင်ရတာလဲ (ရုပ်ကပါ ဘုရား) ဒါဖြင့် အခိုင်းသမားနဲ့ အလုပ်သမား နှစ်ယောက်ပဲ ရှိတယ်လို့ မှတ်ရမယ် (မှန်ပါဘုရား) အခိုင်းသမားက နာမ်၊ အလုပ်သမားက ရုပ် (မှန်ပါ)

ဩော်... ဒါဖြင့် ထိုင်နေကြတာ ယောကျ်ားတွေလား၊ မိန်းမတွေလား–လို့ အောက်မေ့တယ်၊ မဟုတ်ပါလား (မဟုတ်ပါဘုရား) ဘယ်သူတွေပါလိမ့် (အခိုင်းသမား နာမ်နဲ့ အလုပ်သမား ရုပ်ပါ ဘုရား) အေး... ဟုတ်တယ်၊ ဒါပဲ ရှိတယ်။

---

# နိဗ္ဗာန်ရောက်တဲ့ အမြင်မျိုးဆိုတာ

အဲဒီရုပ်နဲ့နာမ်၂–ခုကို ဉာဏ်တစ်ခုနဲ့ ကြည့်ရမယ် (မှန်ပါ) အဲဒီလို ကြည့်တဲ့အခါမှာ ရုပ်နဲ့နာမ်က ပြောပါလိမ့်မယ် (မှန်ပါ) ကြမ်းကြမ်းတမ်းတမ်း ပြောမလား၊ သိမ်သိမ်မွေ့မွေ့ ပြောမလား–ဆိုတာ ယနေ့ ဝေဖန်ရမယ် (မှန်ပါဘုရား)

ရုပ်ကို အတုံးအခဲကြီး မြင်နေသေးလို့ ရှိရင် အဲဒါသည် ကြမ်းကြမ်းတမ်းတမ်း မြင်တာ (မှန်ပါ) အဲဒီအမြင်မျိုးက နိဗ္ဗာန်ရောက်တဲ့ အမြင်မျိုး မဟုတ်သေးဘူး (မှန်ပါဘုရား) သဘောကျရဲ့လား (ကျပါတယ်ဘုရား)

ရုပ်အတိုင်း အတုံးအခဲကြီး– အစိုင်အခဲကြီး မြင်နေသေးလို့ရှိရင် နိဗ္ဗာန်ရောက်တဲ့အမြင်မျိုး မဟုတ်သေးဘူး (မှန်ပါဘုရား)

ဒါဖြင့် နိဗ္ဗာန်ရောက်တဲ့အမြင်မျိုးဆိုတာ ဘယ်လိုဟာလဲ၊ အေး... ပျက်ပျက်သွားတာကလေးတွေ၊ ပျောက်ပျောက်သွားတာကလေးတွေ မြင်ရမှာ (မှန်ပါ) အဲဒီလို အမြင်မျိုးမှ နိဗ္ဗာန်ကို ရောက်နိုင်တာ (မှန်ပါဘုရား)

ရုပ်ကို ကြည့်ရင်လဲ ပေါ်ပြီး ပျောက်သွားတာကလေးတွေကို မြင်အောင် ကြည့်ရမှာ (မှန်ပါ) နာမ်တရားတွေကို ကြည့်ရင်လဲ ပေါ်ပြီး ပျောက်သွားတာကလေးတွေကို မြင်အောင် ကြည့်ရမှာ (မှန်ပါ) အဲဒီလို သိမ်မွေ့တဲ့ဖြစ်မှုပျက်မှုကလေးတွေကို မြင်အောင် ကြည့်ရမှာ (မှန်ပါ)

ဘုန်းကြီးက သိမ်မွေ့ခိုင်းတာ မဟုတ်ဘူးနော် သူ့သဘောကကို သိမ်မွေ့နေတာ၊ (မှန်ပါဘုရား)

* မိုး(၂၉)နာ–၅၀၃

## တစ်ဘဝသာသနာ

# ဉာဏ်နဲ့မြင်တဲ့ အမြင်မျိုးဖြစ်ပစေ

ဘယ်လို သိမ်မွေ့သလဲဆိုတော့ ရုပ်ကလေး တစ်ခု၊ ပူတဲ့ရုပ်ကလေးဆိုပါတော့၊ အခုနင်က ဒီနေရာ ပူတယ်၊ အခု မရှိတော့ဘူး၊ အေးတဲ့ ရုပ်ကလေးလဲ အခုနင်က ဒီနေရာ အေးတယ်၊ အခု မရှိတော့ဘူး (မှန်ပါ ဘုရား)

အဲဒီအတိုင်းပဲ အခုနင်က ဒီနေရာ စိတ်ကလေး ပေါ်တယ်၊ အခု မရှိတော့ဘူး၊ အခုနင်က ကောင်းတဲ့ စိတ်ကလေးပေါ်တယ်၊ အခု မရှိတော့ဘူး၊ အခုနင်က ဆိုးတဲ့စိတ်ကလေးပေါ်တယ်၊ အခု မရှိတော့ဘူး (မှန်ပါ ဘုရား)

ရုပ်နာမ်အပေါ် အဲဒီလို မြင်မှသာ နိဗ္ဗာန်ကို မြင်နိုင်တဲ့ အမြင်လို့ မှတ်ပါ (မှန်ပါ) အဲဒီလို "အခု မရှိတော့ဘူး အခုမရှိတော့ဘူး"ဆိုတာကလေးတွေက သိမ်မွေ့နေတော့ ဉာဏ်မှပဲ ထိုးဖောက်သိနိုင်တယ် (မှန်ပါ) ဘာလို့တုံး ဆိုတော့ သိမ်မွေ့ နေတာကိုး (မှန်ပါ)

အဲဒီသိမ်မွေ့တဲ့ တရား၂-ခုကို ထိုးဖောက် သိနိုင်စွမ်း ရှိတဲ့ ဉာဏ်တစ်ခုနဲ့သာလျှင် ကြည့်လို့ မြင်နိုင်မယ် (မှန်ပါ ဘုရား)

မျက်လုံးနဲ့မြင်သလို မြင်မယ်၊ နားနဲ့ကြားသလို ကြားမယ်၊ နှာခေါင်းနဲ့ရှူလို့ ရှိုက်လို့ ရသလို ဒီလို မဟုတ်ဘူးနော (မှန်ပါဘုရား) အဲဒီအမြင်မျိုးက နိဗ္ဗာန် မရောက်နိုင်ဘူး၊ ဉာဏ်နဲ့ မြင်တဲ့ အမြင်မျိုးမှ နိဗ္ဗာန် ရောက်နိုင်တယ် (မှန်ပါဘုရား)

# ဒီဉာဏ်ရရင် ဒီဘဝကိစ္စ ပြီးစီးနိုင်

ဒီတော့ ရုပ်က ပြပြန်လဲ သိမ်သိမ်မွေ့မွေ့နဲ့ ပေါ်ပြီး ပျောက်ပျောက်ပြမယ်၊ (မှန်ပါ) နာမ်ကပြပြန်လဲ သိမ်သိမ်မွေ့မွေ့နဲ့ ပေါ်ပြီး ပျောက်ပျောက်ပြမယ် (မှန်ပါ) အဲဒီလို သိမ်မွေ့နေတော့ ဉာဏ်နဲ့ ကြည့်မှပဲ ဒီဥစ္စာပေါ်ပြီး ပျောက်သွားတယ်ဆိုတာ သိမှာပဲ (မှန်ပါ ဘုရား)

ရုပ်မှာလဲ ပေါ်ပြီးပျက်၊ နာမ်မှာလဲ ပေါ်ပြီးပျက်၊ "ပေါ်ပြီး ပျက်"ဆိုတာ ဖြစ်ပြီး ပျက်ပါပဲ၊ ဖြစ်ပျက်ပါပဲ၊ (မှန်ပါ) အဲဒီ ဖြစ်ပျက်ကလေးတွေက သိမ်မွေ့တယ်၊ အဲဒီ သိမ်မွေ့တာကလေးတွေကို မှန်အောင်ပစ်နိုင်ဖို့ ဉာဏ်အရေးကြီးတယ် (မှန်ပါဘုရား)

သြော်... ဒါဖြင့် ရုပ်၏ ဖြစ်ပျက်မှုကလဲ သိမ်မွေ့ပါကလား၊ နာမ်၏ ဖြစ်ပျက်မှုကလဲ သိမ်မွေ့ပါက လား၊ ဉာဏ်နဲ့သာ မြင်နိုင်တဲ့အရာတွေပဲ (မှန်ပါဘုရား)

ဒီပြင် မျက်လုံးနဲ့၊ နားနဲ့၊ နှာခေါင်းနဲ့၊ လျှာနဲ့၊ ကိုယ်နဲ့ ကြည့်လို့ဖြင့် မမြင်နိုင်ယေဘူး ဦးခင်မောင်တို့ရ... (မှန်ပါဘုရား)

ထိုးထွင်းသိနိုင်တဲ့ ဉာဏ်ကလေးနဲ့ ကြည့်မှပဲ မြင်နိုင်မယ် (မှန်ပါဘုရား)

အဲလို မြင်လာပြီဆိုရင်ဖြင့် ဒကာ ဒကာမတို့ အမြင်မှန် ရပေါ့ (မှန်ပါ) ယထာဘူတဉာဏ် ရပေါ့လို့ ဆုံးဖြတ်ချက်ချ (မှန်ပါဘုရား) သိမ်မွေ့တဲ့ ဖြစ်ပျက် ကလေးတွေကို မြင်လာလို့ရှိရင်ဖြင့် ယထာဘူတဉာဏ် အမြင်မှန်ရပေါ့လို့ ဆုံးဖြတ်ချက်ချ (မှန်ပါဘုရား)

အမြင်မှန် ဆိုတာကို ပါဠိလို သုံးနှုန်းတော့ ယထာဘူတဉာဏ် (မှန်ပါ) သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိဆိုတဲ့ မဂ္ဂင် ငါးပါးနဲ့ မြင်တာ (မှန်ပါဘုရား)

ဒီအမြင်မှန်ရအောင် မဂ္ဂင် ဘယ်နှစ်ပါး ပေါင်းရ သလဲ (ငါးပါး ပေါင်းရပါတယ် ဘုရား) အေး... ဒီ ဉာဏ်ရရင် ဒကာ ဒကာမတွေ... ဒီဘဝမှာပင် ကိစ္စ ပြီးနိုင်တဲ့ ပုဂ္ဂိုလ်လို့ မှတ်ပါ (မှန်ပါဘုရား)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သားမြီးဖျားကို မြားနဲ့ပစ်သလို

သုခုမံ တေ ပဋိဝိဇ္ဈန္တိ၊

ဝါလဂ္ဂံ ဥသုနာ ယထာ။

ယေ ပဥ္စက္ခန္ဓေ ပဿန္တိ၊

ပရတော နော စ အတ္တတော။ ။

ယေ–အကြင်ယောဂီပုဂ္ဂိုလ်တို့သည်၊ ပဥ္စက္ခန္ဓေ–ခန္ဓာငါးပါး ရုပ်နာမ်တရားတို့ကို၊ ပရတော–သူစိမ်းပြင်ပအနေမျိုးအားဖြင့်၊ ပဿန္တိ–ရှုမြင်နိုင်ကြလေကုန်၏၊ အတ္တတော–မပျက်စီးနိုင် မြဲခိုင်ကျစ်လျစ် အနှစ်သာရ အတ္တ ယူ၍ကား၊ နော စ ပဿန္တိ–မတွေးမရှုကြလေကုန်။

တေ–ဒိဋ္ဌိအတ္တ ကင်းစင်ပအောင် လုံ့လကြိုးစားထိုယောဂီများတို့သည်၊ ဝါလဂ္ဂံ–ခရီးကွာဝေး အသေးအမွှား သားမြီးဖျားကို၊ ဥသုနာ–အသင့်ပြင်ထား ဖြောင့်မတ်သော မြားဖြင့်၊ ပဋိဝိဇ္ဈန္တိ ယထာ–ချက်တိုင်းမလွဲ လက်တိုင်းစွဲသည့် လေးပွဲကျော်ကြား လေးတော်သားတို့ စူးဖျားချဉ်းသလောက်၊ အတွင်း ရောက်အောင်၊ ထွင်းဖောက်နိုင်ကြသကဲ့သို့၊ သုခုမံ–ဧကန်ခက်ခဲ သိမ်မွေ့ နက်နဲတဲ့ ရုပ်နာမ် ဖြစ်ပျက်၊ သဘာဝအချက်ကို၊ ပဋိဝိဇ္ဈန္တိ–ဉာဏ်ရောင် ဝင်းသလောက် အတွင်းရောက်အောင် ထွင်းဖောက် သိမြင်နိုင်ကြလေကုန်၏။

အဲဒီလို သိမ်မွေ့နက်နဲတဲ့ ရုပ်နာမ် ဖြစ်ပျက်ကလေးတွေကို ဉာဏ်နဲ့ "တပ်"ခနဲ "တပ်"ခနဲ မြင်တဲ့ အမြင်မျိုးမှ နိဗ္ဗာန်ကို ရနိုင်တယ်တဲ့ (မှန်ပါဘုရား) သိမ်မွေ့သေးငယ်တဲ့ သားမြီးဖျားကို မြားနဲ့မှန်အောင် ပစ်နိုင်သလို ချက်တိုင်းမလွဲ "တပ်"ခနဲ "တပ်"ခနဲ သိမ်မွေ့တဲ့ ရုပ်နာမ် ဖြစ်ပျက်ကလေးတွေကို မြင်အောင် ကြိုးစားပါ–တဲ့။ (မှန်ပါဘုရား)

# ဒီနေရာ ပေါ် ဒီနေရာပဲ ပျက်

ရုပ်တရားဟာ ခဏ ခဏ ဖောက်ပြန်ပျက်စီးနေတယ် (မှန်ပါ) ဘယ်လို ဖောက်ပြန်ပျက်စီး ပြောင်းလွဲနေကြသတုံး ဆိုရင် အေးတဲ့ ရုပ်ဟာ အေးပြီးရင် ချုပ်တာပဲ၊ ပူတဲ့ရုပ် ဖြစ်မလာနိုင်ဘူး (မှန်ပါ)

ပူတဲ့ရုပ်ဟာလဲ ပူပြီးရင် ပူတဲ့နေရာမှာပဲ ချုပ်တယ်၊ အေးတဲ့ ရုပ် ဖြစ်မလာနိုင်ဘူး (မှန်ပါ) ဒါ သဘောပေါက်ရဲ့လား (ပေါက်ပါတယ် ဘုရား)

"အအေးက အပူဖြစ်လာတယ်၊ အပူက အအေးဖြစ်လာတယ်" ဆိုရင် သဿတဒိဋ္ဌိ ဖြစ်နေလိမ့်မယ်၊ (မှန်ပါဘုရား)

အေးတဲ့ရုပ်ဟာ အေးတဲ့နေရာမှာပင် ချုပ်တယ်၊ ပူတဲ့ဆီ နည်းနည်းမှ တစ်စက်မှ မကူးဘူး (မှန်ပါ) ဒီနေရာ ဖြစ် ဒီနေရာပဲ ချုပ်တယ် (မှန်ပါဘုရား)

ပူတဲ့ရုပ်လဲ ထို့အတူပဲ၊ ဒီနေရာဖြစ်ရင် ဒီနေရာမှာပဲ ချုပ်တယ်၊ အေးတဲ့ဆီကို မကူးဘူး၊ (မှန်ပါဘုရား)

ထိုအတူ ဝေဒနာမှာလဲ မျက်လုံးထဲ ဥပေက္ခာဝေဒနာ ပေါ်၊ မျက်လုံးထဲမှာပဲ ပျက်၊ နား၊ နှာခေါင်း၊ လျှာတို့မှာလဲ ပေါ်တဲ့ နေရာမှာပဲ ပျက်တယ်၊ (မှန်ပါဘုရား)

ကိုယ်ပေါ်မှာလဲ သုခဝေဒနာ ပေါ်ရင် ပေါ်ကဲ့နေရာမှာပဲ ပျက်၊ ဘယ်မှ မရွေ့ဘူး (မှန်ပါ) ဒုက္ခဝေဒနာပေါ် ပေါ်တဲ့နေရာမှာပဲ ပျက်တယ် (မှန်ပါဘုရား)

ဒီထိအောင် ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာတို့ ဖြစ်ပေါ်လာကြပြီး ချုပ်ပျောက်သွားကြပုံတို့ကို ပြောပြီးပြီ (မှန်ပါ)

သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာတို့လည်း အတူတူပဲ (မှန်ပါ ဘုရား) ဝိညာဏက္ခန္ဓာအတွက် ဆက်လက်ပြောရဦးမယ် (မှန်ပါဘုရား)

## မမြင်ရတဲ့နေရာမှ မမြင်ရတဲ့နေရာသို့

ရုပ်နာမ်တရားတွေဟာ အကြောင်းတိုက်ဆိုင်တဲ့ အခါ ပေါ်လာကြတယ်၊ ပြီးရင် ပျောက်ကုန်တယ် (မှန်ပါ) မမြင်ရတဲ့နေရာက ပေါ်လာပြီးတော့ မမြင်ရတဲ့ နေရာကိုပဲ ရောက်ကုန်ကြတယ် (မှန်ပါဘုရား)

* "အဒဿနတော အာယန္တိ၊

ဘဂ္ဂါ ဂစ္ဆန္တု ဒဿနံ။

ဝိဇ္ဇုပ္ပါဒေါဝ အာကာသေ၊

ဥပ္ပဇ္ဇန္တိ ဝယန္တိ စ။...တဲ့"

(သင်္ခါရာ–ရုပ်နာမ် နှစ်ပါး သင်္ခါရတရားတို့သည်၊) အဒဿနတော–မမြင်ရရာအရပ်မှ၊ အာယန္တိ–အကြောင်း တိုက်ဆိုင်၍ ပေါ်လာကြကုန်၏၊ ဘဂ္ဂါ–ဖြစ်ပြီး၍ ပျက်စီးချုပ်ပျောက်သွားကုန်သော ရုပ်နာမ် နှစ်ပါး သင်္ခါရတရားတို့သည်လည်း၊ အဒဿနံ–မမြင်ရရာအရပ်သို့၊ ဂစ္ဆန္တိ–ရောက်သွားကြလေကုန်၏၊ အာကာသေ–မိုးကောင်းကင်၌၊ ဝိဇ္ဇုပ္ပါဒေါဣဝ–"ပြိုး" ခနဲ "ပြက်"ခနဲ လျှပ်စီးလက်သကဲ့သို့၊ ဥပ္ပဇ္ဇန္တိ–ဖြစ်လည်း ဖြစ်ပေါ်လာကုန်၏၊ ဝယန္တိ စ–ပျောက်လည်း ပျောက်ကွယ်သွားကုန်၏–တဲ့။ (မှန်ပါဘုရား)

ပီးတော့ စိတ္တယမိုက်မှာ ဟောထားတာလဲ ရှိသေးတယ်၊ ဘာလဲဆိုတော့–

"အကြင်စိတ်သည် ဖြစ်ဆဲ၊ ထိုစိတ်သည် ချုပ်ဆဲ မဟုတ်၊ ချုပ်ဆဲကလည်း ဖြစ်ဆဲမဟုတ်၊ ဖြစ်ချုပ်သွားသောအရာကို့သည် နောက်ထပ် ဖြစ်ချုပ်ဦးမည်လော၊ ဤသို့လည်း မဟုတ်"တဲ့။ (မှန်ပါဘုရား)

ဒီဒေသနာတော်အရဆိုရင်လဲ ဒီနေရာတွင် ဖြစ်၊ ဒီနေရာတွင် ပျက်တဲ့တရားပဲ–လို့ သိနိုင်တယ် (မှန်ပါဘုရား)

ဒါကို ခိုင်တယ်– မြဲတယ် ပြောလို့ ရမလား (မရပါ ဘုရား) ကူးသွားသေးတယ်၊ ဆက် သွားသေးတယ် လို့ကော ယူနိုင်ဦးမလား (မယူနိုင်ပါ ဘုရား) ယူရင် သဿတဒိဋ္ဌိ ဖြစ်နေမှာပေါ့ (မှန်ပါဘုရား)

အေး... ဝိညာဏက္ခန္ဓာဆိုတဲ့ စိတ်တွေလဲ ဒီ အတိုင်းပဲ၊ ဒီနေရာပေါ် ဒီနေရာပျက်ပဲ (မှန်ပါဘုရား)

## တစ်ချိန်တည်းမှာ ၂–စိတ်မဖြစ်

** အညံ ဥပ္ပဇ္ဇတေ စိတ္တံ၊

အညံ စိတ္တံ နိရုဇ္ဈတိ။

အဝီစိ မနုသမ္ဗန္ဓော၊

နဒီသောတောဝ ဝတ္တတိ။ ။

လို့ ဟောထားတယ်၊ အဲဒါကြောင့် တစ်ချိန်တည်းမှာ ၂–စိတ်ပြိုင်၍ ဖြစ်ရိုးမရှိပါ၊ တစ်စိတ်ပြီးမှ တစ်စိတ်၊ တစ်စိတ်ချုပ်ပြီးမှ နောက်တစ်စိတ် ဖြစ်ပေါ်ရပါတယ်။

(ယဒါ–အကြင်အခါ၌၊) အညံ–အခြားသော၊ စိတ္တံ–ရှေ့စိတ်သည်၊ နိရုဇ္ဈတိ–ချုပ်ပျောက်သွား၏၊ (တဒါ–ထိုအခါကျမှ) အညံ–အခြားသော၊ စိတ္တံ–နောက်စိတ်သည်၊ ဥပ္ပဇ္ဇတေ–ဖြစ်ပေါ်လာရ၏၊ အဝီစိ မနုသမ္ဗန္ဓော–အကြားမလပ် ဆက်စပ် ကပ်လျက်၊ နဒီသောတောဣဝ–မြစ်ရေအလျဉ်ကဲ့သို့၊ ဝတ္တတိ–ဖြစ် ပျက် ဖြစ်ပျက်နေ၏။

* မဟာနိဒ္ဒေသပါဠိတော်–၃၃ ** ဒီဃနိကာယ ၁၁၄၁၇၃

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# လောကုတ္တရာမဂ်ဉာဏ် ဘယ်လိုဖြစ်ပေါ်လာ

* ကိုယ်နဲ့လိုက်တဲ့ကမ္မဋ္ဌာန်းကို ရွေးရှုပါ၊ (မှန်ပါ) ရုပ် ကြိုက်ရင် ရုပ် ရှု၊ ဝေဒနာ ကြိုက် ဝေဒနာ ရှု၊ သညာကြိုက် သညာရှု၊ သင်္ခါရကြိုက် သင်္ခါရရှု၊ စိတ်ကြိုက်ရင်လဲ စိတ်ကိုရှုပေါ့ (မှန်ပါ) ဖြစ်ပျက်မြင်လာအောင်သာ ရှု (မှန်ပါ) ဖြစ်ပျက်တွေ ဖြိုင်ဖြိုင်မြင်လာပြီဆိုရင် မှန်ကန်တဲ့လမ်းမပေါ် ခြေချမိပြီ (မှန်ပါဘုရား)

ရှေ့ဆက်ရှု ဆက်ရှု၊ ကြာတော့ မုန်းလာလိမ့်မယ် (မှန်ပါ) ဖြစ်ပျက်တွေကို မုန်းလာလိမ့်မယ် (မှန်ပါ) "မုန်းလာမယ်"ဆိုတာ ဖြစ်ပျက်တွေကို မတွေ့ချင်တော့တာ၊ (မှန်ပါ) မလိုချင်တော့တာ၊ မရချင်တော့တာ (မှန်ပါ) ဒါဆိုရင် ခရီးတစ်ဝက် ရောက်နေပြီ (မှန်ပါဘုရား) ဝမ်းသာပါတော့၊ ဆက်ရှု– ဆက်ရှု– ဆက်ရှု (မှန်ပါ)

ဒီအစီအစဉ် အတိုင်း ဆက်ရှုလိုက်တဲ့ အခါ လောကီ ဝိပဿနာဉာဏ်တွေဟာ ရင့်ကျက်လာမယ် (မှန်ပါ) ဖြစ်ပျက်တွေကို မြင်တဲ့ ဝိပဿနာဉာဏ်၊ ဟုတ်တိုင်း မှန်စွာ မြင်တဲ့ ယထာဘူတဉာဏ်တွေဟာ ရင့်ကျက်လာမယ် (မှန်ပါ) အဲဒီလို ရင့်ကျက်လာတဲ့ အခါ–

**၁။ ပရိပက္ကာ ကမေနေဝံ၊
ပရိဘာဝိတ ဘာဝနာ။
ပရိစ္စဇန္တီ သင်္ခါရေ၊
ပက္ခန္ဒန္တီ အသင်္ခတေ။ ။

၂။ ဇနေတာ နုတ္တရံ မဂ္ဂ–
မာသေဝန ဝိသေသတော။
ကဋ္ဌသံဃဋ္ဋနာ ဇာတာ၊
အစ္စိဓူမာဝ ဘာသုရံ။ ။

ဒါဟာ နာမရူပ ပရိစ္ဆေဒကျမ်းမှာလာတာ (မှန်ပါ) သူ့အဓိပ္ပာယ်ကတော့–

ဧဝံ–ဤနည်းအားဖြင့်၊ ကမေန–အစဉ်အတိုင်း၊ ပရိဘာဝိတ ဘာဝနာ–ပွားများထားအပ်သော ဝိပဿနာဘာဝနာဉာဏ်သည် (ဝါ) လောကီမဂ္ဂင်ငါးပါးသည်၊ ပရိပက္ကာ–တစ်ဆင့်ထက်တစ်ဆင့် ရင့်ကျက်မြင့်တက်လာသည်၊ (သမာနာ–ဖြစ်လတ်သော်)

သင်္ခါရေ–သင်္ခါရတရားတို့ကို (ဝါ) ဖြစ်ပျက်ဖြစ်ပျက် ဖြစ်ပျက် ဖြစ်ပျက်ဆိုတဲ့ သင်္ခါရတရားတို့ကို၊ ပရိစ္စဇန္တိ–စွန့်ခွာလျက်၊ [ရင့်ကျက်တဲ့ ဝိပဿနာဉာဏ်တွေက စွန့်ခွာလျက်ဟု ဆိုလိုသည်။]

အသင်္ခတေ–အသင်္ခတနယ်ထဲ၌ (ဝါ) ဖြစ်ပျက်ဖြစ်ပျက် ဖြစ်ပျက် ဖြစ်ပျက်ဆိုတဲ့ သင်္ခတတရားတွေမရှိရာ အသင်္ခတနယ်ထဲ၌၊ ပက္ခန္ဒန္တိ–ပြေးဝင်လျက်။ အာသေဝန ဝိသေသတော–အထူးအားဖြင့် ကြိမ်ဖန်များစွာ ထုံအပ် အားထုတ်အပ်သော သတ္တိ အစွမ်းကြောင့်၊

အနုတ္တရံ မဂ္ဂံ–အတု မရှိသော မဂ်ကို (ဝါ) လောကုတ္တရာမဂ်ကို (ဝါ) မဂ္ဂင်ရှစ်ပါးကို၊ ဇနေတိ–ဖြစ်ပေါ်စေလေ၏–တဲ့။ (မှန်ပါဘုရား) လောကီမဂ်က လောကုတ္တရာမဂ်သို့ တစ်ဆင့် တက်လာ၏ဟု ဆိုလိုတယ်၊ (မှန်ပါ) [ကိမိဝ–အဘယ်ကဲ့သို့နည်း။]

ကဋ္ဌသံဃဋ္ဋနာ–သစ်သားချောင်းအခြောက် ၂–ခုကို ပွတ်တိုက်ခြင်းကြောင့်၊ ဇာတာ–ဖြစ်ပေါ်လာသော၊ အစ္စိဓူမာ–မီးပွားကလေးသည်၊ ဘာသုရံ–အလင်းရောင်ကြီးကို၊ ဇနေတိဣဝ–ဖြစ်ပေါ်လာစေသကဲ့သို့တည်း–တဲ့ (မှန်ပါဘုရား)

သစ်သားချောင်းအခြောက်၂–ခုကို ပွတ်တိုက်ဖန် များရင် ပူလာပြီး မီးပွားကလေးဖြစ်ရာမှ အလင်းရောင်ကြီး ဖြစ်လာရသလို–

ဒီမှာလဲ အကြိမ်ကြိမ် အဖန်ဖန် လောကီ ဝိပဿနာဉာဏ်နဲ့ အဖြစ်–အပျက်တွေနဲ့ တိုက်ဖန်များပြီး ရင့်ကျက်လို့ တစ်ဆင့် တက်လာတဲ့အနေမျိုး လောကုတ္တရာမဂ်အဖြစ်သို့ ရောက်လာတယ် (မှန်ပါ) လောကီက လောကုတ္တရာ ဖြစ်စေတာပေါ့ (မှန်ပါဘုရား)

အေး… လောကုတ္တရာ မဂ်ဉာဏ် ဖြစ်ပေါ်လာတယ် ဆိုတာ ဒါမျိုးပဲ (မှန်ပါဘုရား)

---

* မိုး(၅)နှာ–၃၁၆ ** နာမရူပ ပရိစ္ဆေဒကျမ်း၊ ဂါထာအမှတ်–၁၇၇၇။

## တစ်ဘဝသာသနာ

# သစ္စာတရားမိုး သွန်ဖြိုးရွာစွေ

သက္ကရာဇ် ၁၃၂၀–ခုနှစ် တပေါင်းလပြည့်ကျော်သောအခါ ထုံးစံအတိုင်း မိုးကုတ်မြို့သို့ ကြွတော်မူ၏၊ ရောက်လျှင် ရောက်ချင်း အနားမယူ၊ တရားဟောတော်မူသည်၊ ပရိသတ်တို့ကလည်း နွေဦးပေါက်ကတည်းက ဆရာတော့်ကို စောင့်မျှော် တောင့်တနေတတ်ကြမြဲဖြစ်၏၊ လည်တဆန့်ဆန့် ဖြစ်တော့သည်။

ဆရာတော်မှာလည်း ကျန်းမာရေးကို တစ်ဘက်က ကြည့်ရင်း အမရပူရ–မန္တလေး–မိုးကုတ်သို့ လှည့်ပတ် ကြွပေးတော်မူခဲ့ပါသည်။

ဆရာတော်၏ ဓမ္မဒေသနာခရီးစဉ်မှာ တောင်ဘက် အစွန်းတွင် အမရပူရ၊ အလယ်တွင် မန္တလေး၊ မြောက်ဘက်အစွန်းတွင် မိုးကုတ်ဟူ၍ တောင်–မြောက် တန်းနေသော မြို့(၃)မြို့ဖြစ်၏၊ အမရပူရ–မန္တလေး–မိုးကုတ်၊ အမရပူရ–မန္တလေး–မိုးကုတ်ဟူ၍ လှည့်ပတ်နေခဲ့သည်။

ဒကာ ဒကာမ သာဝကတို့သည်ကား ဟိုကို ကြွသော် သည်က မျှော်၍၊ သည်ကို ကြွသော် ဟိုက မျှော်လျက်၊ ချိုမြိန်သော တရားအမြိုက်ရည်ကို သောက်သုံး၍ မဝသလို ဖြစ်ကြ၏။

ဘယ်မြို့အလှည့်ပဲ ရောက်ရောက်၊ သစ္စာတရားတို့ကို ဟောပြ၊ သစ္စာတရားမိုးတွေ သွန်ဖြိုးရွာချခဲ့သည် ချည်းသာ ဖြစ်၏၊ တပေါင်းမှ တန်ခူးသို့ ပြောင်းပြီး နှစ်ဟောင်းကုန်၍ သက္ကရာဇ် ၁၃၂၁–ခုနှစ်သစ်ဦးသို့ ကူးလာခဲ့ပြီ၊ ဆရာတော်သည် မိုးကုတ်မြို့မှာပင် သင်္ကြန်ကျတော်မူခဲ့၏။

ဆရာတော်အဖို့မှာကား သင်္ကြန်အခါတော်ရက် ဖြစ်စေ၊ အခါမဟုတ်သည့်ရက် ဖြစ်စေ၊ နှစ်ဟောင်း ဖြစ်စေ၊ နှစ်သစ်ဖြစ်စေ အမှတ်မထားပေ၊ နေ့စဉ်နှင့်အမျှ ဒကာ ကာမတို့အား တရား ပြ၍ တရားရစေဖို့သာ အာရုံ၌ ထားတော်မူသည်။

တန်ခူး၊ ကဆုန်၊ နယုန်၊ ဝါဆိုလပြည့်ခါနီး အထိ မိုးကုတ်မြို့၌ သီတင်းသုံး၍၊ တရားဓမ္မဟောပြကာ တရားအားထုတ်သူများကို ကြပ်မ စောင့်ရှောက်ပေးတော်မူရင်း အချိန်ကို ကုန်လွန်စေတော်မူသည်။

# ကမ္ဗဝါနဲ့ နှင်ထုတ်ခံရမယ်

မိုးကုတ်မြို့မှ ကျောင်းအမ ဒေါ်ဒေါ်အုံ၊ ဒေါ်ဒေါ်ဖုံတို့သည် ဆရာတော်နှင့် အရင်းနီးဆုံး ဖြစ်ကြ၏၊ ကျေးဇူးလည်း များကြ၏။ ထို့ကြောင့်ပင် ဆရာတော်က မကြာခဏ တရားအားထုတ်ဖို့ရန် တိုက်တွန်းတော်မူသည်၊ သို့သော်လည်း စီးပွားရေးက တစ်ဘက် ဖြစ်နေ၍ တရားအားထုတ်ရေးအတွက် အပြည့်အဝ အချိန်မပေးနိုင်ကြပါ၊ ဤသို့ ဖြစ်နေရသည်ကိုပင် ဆရာတော်က အားမရနိုင် ဖြစ်နေရ၏။

တစ်နေ့တွင် ကျောင်းသို့ တရားနာရန် ရောက်လာကြ၏၊ စပ်မိစပ်ရာ ပြောဆိုကြရင်း ဒေါ်အုံက ဆရာတော့်အား လျှောက်မိသည်–

> "ည–ညဆို တော်တော်နဲ့ အိပ်မပျော်ဘူး ဘုရား၊
> သန်းခေါင်လောက်အထိ မျက်လုံး ကြောင်–
> ကြောင်နေတတ်တယ်..."

ထိုအခါ အကွက်ပေါ်လာ၍ ဆရာတော်က ကောက်ကာ ငင်ကာ မိန့်တော်မူတော့၏–

"အေး... ခင်ဗျားတို့နော် ရိုးရိုးတစ္ဆေခြောက်တဲ့ အခါ ပရိတ်ရွတ်ရင် ပျောက်တယ်၊ သရဲခြောက် ရင်လဲ ကမ္မဝါဖတ်ရင် ပျောက်တာပဲ"

"ခင်ဗျားတို့ဟာက ပစ္စည်းတစ္ဆေခြောက်နေတာ၊ ပစ္စည်းတစ္ဆေ ခြောက်တာကျတော့ ပရိတ်ရွတ် လို့လဲ မရ၊ ကမ္မဝါဖတ်လို့လဲ မရ၊ ဒါ့ကြောင့် အိပ်မပျော်တာ..."

တရားကို ဖိဖိစီးစီး အားထုတ်စေချင်၍ မိန့်တော်မူခြင်း ဖြစ်၏၊ တစ်ခါတွင်လည်း ကျောင်းအမ ဒေါ်ဒေါ်ဖုံအား မှတ်မိလောက်အောင် ထိထိမိမိ ခပ်ရင့်ရင့် မိန့်ဆိုဖူး သည်–

မဖုံ... သတိထားပါ၊ ပစ္စည်းတွေစုပြီး သေရင် တစ္ဆေဖြစ်မယ်၊ မကျွတ်ဘဲ ဖြစ်နေလို့ ခြောက် လှန့်နေရင် ခင်ဗျာ့သားသမီးတွေက ကျုပ်ကို လာပင့်မှာ၊ "ပရိတ်ရွတ်ပေးပါ"ဆိုရင် ရွတ်ရ မှာ။ ဟာ... ပရိတ်က ပျော့သေးတယ်၊ ခပ် တင်းတင်း ခပ်ပြင်းပြင်းနဲ့ ကမ္မဝါဖတ်ပြီး နှင် ထုတ်ပေးပါ–ဆိုရင်လဲ ကျုပ်က ကမ္မဝါ ဖတ် ပေးရမှာ၊ အဲဒီလို ကမ္မဝါနဲ့ နှင်ထုတ်ခံရတဲ့ အထိ မရောက်ပါစေနဲ့၊ တရား အားထုတ်စမ်း ပါ"

ဟူ၍ ပြင်းပြင်းထန်ထန် အမိန့်ရှိပါသတတ်။

တရား အားထုတ်စေချင်လွန်းလို့ "ကရုဏာ ဒေါသော"ဆိုသလို အားမရနိုင်၍ ပြောခြင်း မိန့်ဆိုခြင်း အပြစ်တင်ခြင်းမျိုး ဖြစ်၏၊ ဤအချက်တို့ကို ထောက်ဆ ၍ပင် ကျေးဇူးများလှသော ဒကာ ဒကာမတို့အပေါ်၌ ဆရာတော်၏ စေတနာကို ခန့်မှန်းနိုင်တော့သည်။

---

**မှတ်ချက်။** ။ဤအကြောင်းအရာများကို ဒေါ်အုံ၊ ဒေါ်ဖုံတို့နှင့် အရင်းနီးဆုံး ဖြစ်သော မိုးကုတ်မြို့မှ အဖွားငြိမ်းက ပြောပြပါသည်။





ကျောင်းအမကြီး ဒေါ်ဒေါ်အုံ နှင့် ဒေါ်ဒေါ်ဖုံ

## တစ်ဘဝသာသနာ

## ကြီး–ငယ်–ရွယ်လတ်၊ တရားအားထုတ်ရန်

ဆရာတော်က ကျောင်းအမကြီးတို့ကိုသာမက ကျောင်းအမကြီးတို့ရဲ့သား ကိုမြင့်၊ ကိုအောင်ကျော်တို့ကိုလည်း အလစ် မပေး၊ အခွင့်အရေး ရတိုင်း ဆုံးမတော်မူတတ်လေသည်၊ တစ်နေ့သောအခါ၌ ဆရာတော်အား ဆွမ်းကပ်ပြီး၍ ပြန်ခါနီး ကန်တော့သောအခါ–ဆရာတော်က–

"မောင်မြင့်၊ မင့်လုပ်ငန်းကလေးများ အဆင်ပြေရဲ့လားကွ" [ကျောက်လုပ်ငန်းကို ရည်ရွယ်မေးခြင်း ဖြစ်သည်။]

"ပြေပါတယ်ဘုရား၊ အခု ကံတွေ ကောင်းလာသလား မပြောတတ်ပါ၊ လုပ်သမျှ ဟန်ကျ၊ ပစ်တိုင်းတည့်၊ ချက်တိုင်းမှန် ဖြစ်နေပါတယ်ဘုရား"

"အေး… ပစ်တိုင်းတည့်၊ ချက်တိုင်းမှန်" ဆိုတော့ မင်းက ဝမ်းသာမှာပေါ့၊ ဒါပေမယ့် ဒါတွေက လောဘ ဒေါသ မောဟတွေ ဦးစီးပြီးမှ ရတဲ့ပစ္စည်းတွေပါကွာ၊ အကျိုးပေး မဖြူစင်ဘူး၊ ဉာဏ် ဦးစီးပြီးလုပ်တဲ့ အလုပ်ကမှ အကျိုးပေး ဖြူစင်တယ်၊ အဲဒီဉာဏ်က တရားထိုင်လိုက်ရင် ရတယ်၊ တကယ် ကြိုးစားထိုင်လိုက်ရင် တကယ် ရနိုင်တယ်၊ အားထုတ်မှ ရမှာနော်၊ တရားနာနေရုံနဲ့ မရဘူးကွ။

ဒီတော့ အဲဒီဉာဏ်ရအောင် ငါမပြန်ခင် အားထုတ်မလား၊ ဘယ့်နှယ်လဲ–ဟင်"

"မှန်ပါ–အားထုတ်ပါမယ်ဘုရား"

ဤသို့ ဝန်ခံပြီးနောက် အိမ် ရောက်သောအခါတွင် မိခင်ကြီးအား ပြောပြမိကြ၏၊ "ကောင်းတယ် ဟဲ့၊ ဒါ–အကောင်းဆုံးပဲ၊ မင်းတို့ မိတ်ဆွေတွေပါ ခေါ်သွားကြ၊ အားလုံး စုစုရုံးရုံး ပျော်ပျော်ပါးပါးပေါ့"

ဤသို့ မိခင်ကြီး၏ အားပေးမှုအရ သူငယ်ချင်းများ ဖြစ်ကြသည့် ကိုအောင်မြ၊ ကိုတင်၊ ကိုဖေရှင်နှင့် အခြားမိတ်ဆွေတို့ပါ စုစည်းမိကြ၏၊ ပြီးလျှင် ကျောင်းအိပ် ကျောင်းစားအဖြစ်နေပြီး အားထုတ်ကြရာ တစ်လကျော်ကျော်အထိ ဖြစ်သွားပါတော့သတတ်။

ဤသို့လျှင် လူလတ်ပိုင်းများကိုလည်း တရားအားထုတ်ချင်လာအောင် နားဝင်ပီယံပြော၍ ဆွဲဆောင်တော်မူတတ်၏။

## ဈေးရောင်းရင်းလဲ ဖြစ်ပျက်ရှုနေပေါ့

"ဝိပဿနာ"ဆိုတာက နေရာ မရွေး၊ အချိန်မရွေး၊ ဣရိယာပုထ်မရွေး ရှုလို့ရသည်၊ အလုပ်မပျက်၊ အကိုင် မပျက်၊ အထိုင် မပျက် ရှုလို့ ရသည်၊ ဆူဆူပွက်ပွက်အသံတွေကြားမှာနေလျက်လည်း ရှုလို့ ဖြစ်သည်၊ သမထကဲ့သို့ အဝေးသို့ သွား၍ တိတ်ဆိတ်အောင် ဖန်တီးနေဖို့ မလို။

ဤသဘောကို မိုးကုတ်ဆရာတော်ကြီးက မကြာခဏ ပြောတတ်၏၊ တောထဲသို့ တကူးတက ထွက်ပြီး တရားအားထုတ်မှ ဝိပဿနာဖြစ်သည်–ဟု ထင်မှာစိုး၍ မိန့်နေတော်မူခြင်း ဖြစ်ပေလိမ့်မည်၊ တစ်နေ့တွင်–

"မောင်အောင်ချိုတို့… မင်းတို့ကို ခဏ ခဏ သတိပေးနေရတယ်၊ လှည့်ကွက်ကိုလဲ ပြောနေရတာပဲ၊ တရားနဲ့အချိန်များများ နေဖြစ်ကြရဲ့လား–လို့"

"မှန်ပါ ဈေးရောင်းရတာကလဲ တစ်ဘက်ဆိုတော့ အချိန်ပြည့်တော့ မရဘူး ဘုရား"

"အို… ဈေးရောင်းရင်းလဲ တရားရှုလို့ ရတာပဲကွ၊ ဆိုင်ထိုင်နေရင်းလဲ ရှုနေပေါ့၊ အရောင်း

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

အဝယ် ပြောကြတော့လဲ ပြောတဲ့စကားသံတွေ ပျောက်–ပျောက်ကုန်တာပဲ၊ အဲဒါကို ဖြစ်ပျက် ရှုပေါ့ကွ”တဲ့။

ဤသို့လျှင် ဝိပဿနာကို အချိန်၊ နာရီ၊ နေရာ မရွေး၊ ဣရိယာပုထ်မရွေး ရှုနိုင်ကြောင်းကို မိန့်တော်မူလေ့ ရှိပါသည်။

---

**မှတ်ချက်။** ။ဤ အကြောင်းအရာများကို ယခုအခါ ရန်ကုန်မြို့၊ မိုးကုတ်ဝိပဿနာအဖွဲ့ချုပ်ကြီး တွင် ဒုတိယဥက္ကဋ္ဌဖြစ်သူ ဦးအောင်ချီ ကိုယ်တိုင်က ပြန်လည်ပြောပြ၍ သိရပါသည်။

## ပြောသမျှ တရားတွေပဲကွ

တစ်ခါတွင်ကား ဦးအောင်ချီက ရန်ကုန်မှ ပြန်လာရာ မိုးကုတ်မြို့တွင် ဆရာတော်နှင့် ကြုံကြိုက်ဖူးတွေ့ရ၍၊ ဆရာတော်က–

“မောင်အောင်ချီ... မင်း ရန်ကုန်က ပြန်လာ၊ တိတ်ရိကော်ဒါ မပါဘူးလား၊ ဘုန်းကြီးပြောတဲ့ စကားလုံးတွေဟာ တစ်လုံးပြောလဲ တရားပဲ၊ နှစ်လုံးပြောလဲ တရားပဲကွ၊ ကူးထားပါ”

ဟူ၍ မိန့်ပါသတတ်၊ ဆရာတော်က တရားတွေ ကျန်ရစ်စေချင်ဟန် တူပါသည်၊ ဟုတ်ပါ၏၊ ဆရာတော် ပြောသောစကားတို့မှာ တရားမလွတ်ပါ၊ (စတုသစ္စဝိနိမုတ္တော ခမ္မော နာမ နတ္ထိ) ဆိုသလို မိန့်မြွက်သမျှ သစ္စာမှလွတ်သောစကားရယ်လို့ မရှိပါ၊ အခြားသော အကျိုးမဲ့စကားတို့ကိုလည်း အချိန်ကုန်ခံပြီး ပြောလေ့မရှိပါ။

ထို့ကြောင့်ပင် ညပိုင်း–ညပိုင်း၌ အနိပ်ခံရင်း အချိုးအဖွဲ့ခံရင်း နာရီဝက်ခန့် နာရီဝက်ခန့် ပြောသော တရားတို့ကိုပင် တိပ်ခွေဖြင့် အကူး ခိုင်းထားပါသတတ်၊ ထိုတရားတို့ကို ယခုအခါ ကျောင်းဒကာ ဦးကျော်သိန်း ဒေါ်တင်လှတို့၏ သား မောင်ကျော်စိန်က (ည–အလုပ်ပေးတရား)ဟူသော ခေါင်းစီးဖြင့် စာအုပ်ထုတ်ဝေဖြန့်ချိလျက် ရှိပါသည်။

## ဒေါ်သိန်းတင်၏ အတွေ့အကြုံ

မိုးကုတ်မြို့ မင်္ဂလာရိပ်သာမှာ ဖြစ်၏၊ ဆရာတော်ကြီး ဦးဝိမလ မိုးကုတ်မြို့သို့ ကြွ–ကြွလာတိုင်း ဝေယျာဝစ္စပြုသော ဒေါ်သိန်းတင် ဖြစ်သည်၊ ဒကာမကြီး ဒေါ်သိန်းတင်သည် ဆရာတော်ကြီးအတွက် နံနက်စောစောတွင် ယာဂုကျိုနေ၏၊ နံနက်စော ၄–နာရီမထိုးမီ ယာဂုကျက်နေသည်၊ ကပ်ချိန် မရောက်သေး။ အချိန်တွေ ပိုနေ၏။

ထို့ကြောင့် “တရားထိုင်လိုက်ဦးမယ်လေ”ဟု စိတ်ကူးကာ မီးဖိုအနီးမှာပင် ထိုင်လိုက်ပါသတတ်၊ တိတ်ဆိတ်နေချိန်ဖြစ်၍ တရားနှလုံးသွင်းဖို့ အကောင်းဆုံး အချိန် ဖြစ်နေသည်ဟူ၏၊ ခဏချင်းပင် စိတ်တွေ ငြိမ်ကာ သမာဓိတည်၍ ဘယ်လိုကြီး ဖြစ်သွားမှန်းမသိ၊ တစ်ခါမှ မကြုံဖူးတဲ့အဖြစ်မျိုးကြီးနဲ့ ကြုံလိုက်ရပါသတတ်၊ အေးငြိမ်းမှုကြီးတစ်မျိုး ဖြစ်သွားသည်ဟူ၏။

## တစ်ဘဝသာသနာ

ထိုအချိန်မှာ ဆရာတော်ကြီး ဦးဝိမလက ရိပ်သာ ဓမ္မာရုံခန်းမကြီး အထက်ပိုင်း၌ ကုလားထိုင်ကြီးပေါ်မှာ ထိုင်နေပြီ၊ တစ်စုံတစ်ယောက်ကို ကြပ်မ စောင့်ရှောက်နေသလို စောင့်ရှောက်နေသည့်အသွင်မျိုး ဖြစ်၏။

ထိုကျောင်းမှာရှိသော ခန်းနေဦးပဥ္စင်းက ယမန်နေ့ညကပင် စိတ်ကူးထားခဲ့၏၊ သူ့စိတ်ကူးမှာ "နက်ဖြန်ကျရင် ဒေါ်သိန်းတင်အား ခြင်ထောင် အလှူခိုင်းမည်" ဟူ၍ ဖြစ်သည်။

ထို့ကြောင့် မနက်စောစော ခြင်ထောင်ကို ပွေ့လျက် ဒေါ်သိန်းတင်ထံသို့ သွားနေသည်၊ ထိုအခိုက်တွင် ဆရာတော်ကြီးက ဦးပဥ္စင်းအား လှမ်း၍ ပြောသည်–

"ဒေါ်သိန်းတင် မဂ်ကျပြီ ဆိုပါလားကွ…"

ထိုသို့ မိန့်ဆိုချက်အရ ဦးပဥ္စင်းကလည်း ဒေါ်သိန်းတင်ထံသို့ တောက်လျှောက်တန်းသွား၏၊ အနီးရောက်သောအခါ တရားအထိုင်ပင် မဖျက်သေး။

"ဒကာမကြီး ဒေါ်သိန်းတင် ခင်ဗျား မဂ်ကျပြီဆို…"

ဦးပဥ္စင်းက သိချင်ဇောနဲ့ အလောတကြီး မေးသောအခါ ဒေါ်သိန်းတင်က "တပည့်တော်မ ဘယ်သူ့ကိုမှ ဘာမှ မပြောရသေးပါလား ဘုရား" ဟူ၍ ပြန်လည် လျှောက်ထားတော့သတတ်။

## သိက္ခာပုဒ်နည်းတုန်းက ရဟန္တာတွေအဖြစ်များ

*တစ်နေ့တွင် ဓုတင်တောရသဆောင်တဲ့ အရှင်မဟာ ကဿပ ကိုယ်တော်ကြီးက မြတ်စွာဘုရားအား လျှောက်ထားမေးမြန်းသည်–

"အရှင်ဘုရား… ရှေ့ပိုင်းမှာ သိက္ခာပုဒ် နည်းတုန်းက ရဟန္တာတွေ အဖြစ် များကြတယ်၊ ယခု နောက်ပိုင်းမှာ သိက္ခာပုဒ်တွေလဲ များလာရော၊ ရဟန္တာအဖြစ် နည်းသွားလိုက်ကြတာ လွန်ပါရော၊ အဲဒါ ဘာ့ကြောင့်ပါလဲ ဘုရား"

ထိုအမေးကို မြတ်စွာဘုရားက ပြန်လည် ဖြေကြားတော်မူရ၏ –

"ဟုတ်တယ် ကဿပ… သတ္တဝါတွေ အကျင့်သိက္ခာ လျော့ပါးလာတဲ့အခါ သူတော်ကောင်းတရားတွေ ကျဆင်းလာတဲ့အခါ သိက္ခာပုဒ်တွေက များလာရတယ်၊ ရဟန္တာအဖြစ်ကတော့ နည်းကုန်ရတယ်"

"ကဿပ… လောကကြီးအတွင်းမှာ တရားအတုတွေ မဝင်လာသေးသမျှ သူတော်ကောင်းတရား အစစ်တွေဟာ တည်မြဲနေတာပါပဲ"

ကဿပ… လောကကြီးအတွင်းမှာ တရား အတုတွေ ဝင်လာပြီ ဆိုရင်တော့ သူတော်ကောင်း တရား အစစ်တွေဟာလဲ ကွယ်ပျောက်ကုန်ရစမြဲပဲ"

"ဘာနဲ့ တူသလဲဆိုရင် စိန်အတုတွေ ပေါ်လာတဲ့အခါ စိန်အစစ်တွေ ကွယ်ပျောက်ကုန်ရသကဲ့သို့ ဖြစ်သည်"

* နိဒါနဝဂ္ဂသံယုတ်ပါဠိ၊၄၂၂

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အတုတွေပေါ်၍ အစစ်တွေကွယ်ရ

*အဋ္ဌကထာအဖွင့်။ ။ ပွဲလမ်း သဘင်တွင် ဝတ်ဆင်ရန် စိန်ရွှေတို့ကို ဈေးထဲသွား၍ ဝယ်သောအခါ ဆိုင်ရှင်က ပြောပါသတဲ့၊

"ဒါတွေဟာ စိန်အတုပါပဲ၊ ဒါပေမယ့် အစစ်လိုပဲ၊ ရတ်တရက် ခွဲလို့ မရဘူး၊ အရောင်အသွေးလဲ ကောင်းတယ်၊ ဈေးလဲသက်သာတယ်၊ ပွဲလဲ ဝင်ပါတယ်၊ ပျောက်ရှသွားလို့လဲ ကိစ္စမရှိ" ဟူ၍ပြောသောအခါ "ဟုတ်သားပဲ"ဟု သဘောကျကာ ဝယ်ပြီး ဝတ်ကြပါသတတ်၊ ထိုအခါ တကယ့်စိန်အစစ်ရှိသူတို့က စိန်အတုတွေနဲ့ရောကုန်မည်စိုး၍ စိန်အစစ်တွေကို မြေတွင် မြှုပ်ကြ သိမ်းဆည်းကြတော့သတတ်။

ဤနည်းအားဖြင့် အတု ပေါ်သောအခါ အစစ်ကွယ်ပျောက်တတ်လေသည်။

## မဂ်တု(၁၀)ပါး ဝင်လာတတ်

အလားတူပင် တရား အားထုတ်သော ယောဂီသူတော်စင်တို့မှာလဲ ဉာဏ် ကြည်လင်လာသောအခါ သဒ္ဓမ္မပ္ပတိရူပကလို့ ခေါ်တဲ့ တရားအတုတွေ (မဂ်တုတွေ) ဝင်–ဝင်လာတတ်ကြကုန်၏၊ မဂ်တုတွေ ဝင်လာရင် မဂ်အစစ်တွေဟာ ကွယ်ရတော့တာပဲ၊ ထိုမဂ်တုများကား (၁၀)ပါး ရှိ၏၊ ယင်းတို့ကား–

*၁။ ဩဘာသေစေဝ ဉာဏေစ၊
ပီတိယာ စ ဝိကမ္ပတိ။
ပဿဒ္ဓိယာ သုခေစေဝ၊
ယေဟိ စိတ္တံ ပဝေဓတိ။ ။

၂။ အဓိမောက္ခေ စ ပဂ္ဂါဟေ၊
ဥပဋ္ဌာနေ စ ကမ္ပတိ။
ဥပေက္ခာဝဇ္ဇနာယ စေဝ၊
ဥပေက္ခာယ စ နိကန္တိယာ။ ။

၁။ ဩဘာသ=အလင်းရောင်ကြီးများ၊
၂။ ဉာဏ=ဉာဏ်တွေ ထက်မြက်နေ၊
၃။ ပီတိ=ဝမ်းသာမှု လွန်ကဲနေခြင်း၊
၄။ ပဿဒ္ဓိ=ကိုယ်စိတ်ငြိမ်းအေးနေမှု၊
၅။ သုခ=တစ်ကိုယ်လုံး ချမ်းသာမှု စိမ့်နေ၊
၆။ အဓိမောက္ခ=လွန်ကဲသော ယုံကြည်မှု သဒ္ဓါ၊
၇။ ပဂ္ဂဟ=လုံ့လဝီရိယဖွဲ့ထက်သန်နေ၊
၈။ ဥပဋ္ဌာန=စွဲမြဲသော သတိတွေ ကောင်းနေ၊
၉။ ဥပေက္ခာ=ဝိပဿနုပေက္ခာနှင့် အာဝဇ္ဇနုပေက္ခာတို့ ဖြစ်ခြင်း၊
၁၀။ နိကန္တိ=ရှေ့ပိုင်းကိုးမျိုးကို နှစ်သက်တွယ်တာနေခြင်း၊

ဝိပဿနာ အားထုတ်၍ ဉာဏ် ကြည်လင်သောအခါ အဖြစ်အပျက်တွေကို မြင်လာနိုင်၏၊ ထိုအခန်းတွင် ဆိုခဲ့ပြီး(၁၀)မျိုးမှ တစ်မျိုးသော်လည်းကောင်း၊ နှစ်မျိုးသော်လည်းကောင်း လာတတ်၏။

ဝိပဿနာမကျွမ်းကျင်သူတို့က "ဒါ–မဂ်ပဲ"လို့ ထင်တတ်၏၊ "တော်ပြီ"ဆိုပြီး ရှေ့ဆက် အားမထုတ်တော့၊ ဤနည်းဖြင့် တရားမတက်ဘဲ ဖြစ်နေတတ်၏။

* သံယုတ်၊၄၊၃၊နိဒါန၊၁၈၆

### တစ်ဘဝသာသနာ

## မဂ်တုတွေ ဝင်လျှင် ဘယ်လို ဖြစ်သလဲ

ဖော်ပြခဲ့ပြီး(၁၀)ပါးကို "ဝိပဿနုပက္ကိလေသ= ဝိပဿနာညစ်ညူးကြောင်းတရားများ"ဟု အများက ခေါ်ဆိုကြ၏၊ မိုးကုတ်ဆရာတော်ကြီးကတော့ "မဂ်တု (၁၀)ပါး"ဟူ၍ ကင်ပွန်းတပ်တော်မူသည်။

၁။ တရားအားထုတ်၍ ဉာဏ်အားကောင်းလာတဲ့ အခါ သွေးတွေ သန့်ရှင်းကြည်လင်လာ၏၊ ဖြစ်ပျက်တွေကိုလည်း မြင်၏၊ ထိုအခါ စိတ်ကြောင့် ဖြစ်တဲ့ အလင်းရောင်ကြီး ပေါ်လာတတ်သည်။

ထိုသို့ ဖြစ်လာသည်ကို မကျွမ်းကျင်သော ယောဂီက "ငါ့မှာ မဂ်ရပြီ"ဆိုပြီး ထိုအလင်းရောင်ကို ပင် သာယာနေမိ၏၊ အလင်းရောင်ကား အပြစ်မဟုတ်၊ နိကန္တိဖြင့် သာယာနေမိခြင်းက အပြစ်။

အလင်းရောင်ကို "မဂ်"ဟု ထင်နေ၏၊ မဂ်ဟု ထင်ရသည့် အတု၊ မဂ်တု၊ တရားအတု ဖြစ်သည်၊ အတုကို အစစ်ဟု ထင်ပြီး "တော်ပြီ"ဟု ကျေနပ်နေ၏၊ ရှေ့ဆက် တရားသား မတက်တော့။

၂။ ဝိပဿနာဉာဏ်တွေ အားကောင်းလာပြီး တော့ ရုပ်နာမ်ဓမ္မသဘောရတရားတွေကို သုံးသပ်တဲ့အခါ ကြည်ကြည်လင်လင် ထင်မြင်နေ၏၊ ဉာဏ်တွေ သိပ် ထက်နေ၏၊ ဖြစ်ပျက်တွေ ရှင်းရှင်းလင်းလင်း မြင်နေ သည်၊ ယခင်လိုပဲ "မဂ်ရပြီ"ဆိုပြီး သာယာနေမိ၏၊ ရှေ့မတက်တော့။

၃။ တရားအားထုတ်ခိုက်မှာ ဝိပဿနာပီတိတွေ ဖြစ်နေ၏၊ ပီတိ ငါးမျိုး ဖြစ်တတ်သည်၊ သို့မဟုတ် အချို့အဝက် ဖြစ်တတ်သည်၊ "မဂ်ရပြီ"ဆိုပြီး သာယာ နေမိ၏။

၄။ ခန္ဓာကိုယ်ငြိမ်းအေးနေတတ်သည်၊ ထိုအခိုက် မှာဆိုလျှင် ကိုယ်ရော စိတ်ရော ပူလောင်မှု မရှိ၊ လေး ပင်မှု မရှိ၊ ကြမ်းတမ်းမှုလည်း မရှိ၊ မကျန်းမာမှုလည်း မရှိ၊ ကောက်ကျစ်မှုလည်း မရှိ၊ "မဂ်ရပြီ" ဆိုပြီး သာယာနေမိ၏။

၅။ ဝိပဿနာသုခဖြစ်နေသည်၊ ထိုအချိန်မှာ တစ်ကိုယ်လုံး သုခချမ်းသာတွေ စိမ့်ပြီး စီးသွားနေသလို ဖြစ်၏၊ အလွန်မွန်မြတ်တဲ့ ချမ်းသာတွေ ဖြစ်နေသည်၊ "မဂ်ရပြီ"ဟု ဆိုပြီး သာယာနေမိ၏၊ ရှေ့ကို တရား မတက်တော့။

## မဂ်တုတွေကို ဖယ်ရှားပစ်ပါ

၆။ "အဓိမောက္ခ" ဆိုတာ ဝိပဿနာ အခိုက် အတန့်မှာ ဖြစ်တဲ့ သဒ္ဓါ (ယုံကြည်မှု)ကို ဆိုသည်၊ ထိုအခိုက်မှာ စိတ်–စေတသိက်တွေက အလွန့်အလွန် ကြည်လင်ပြီး အင်အားကောင်းတဲ့ သဒ္ဓါဖြစ်လာသည်၊ ဒါကို "မဂ်"ဟု ထင်ပြီး သာယာနေမိတော့၏။

၇။ "ပဂ္ဂဟ" ဆိုသည်ကလည်း ဝိပဿနာနှင့် ယှဉ်တဲ့ လုံ့လဝီရိယကို ဆိုခြင်း ဖြစ်၏၊ ထိုအခိုက်မှာ လျော့လည်း မလျော့လွန်း၊ တင်းလည်း မတင်းလွန်းဘဲ ကောင်းစွာ မြောက်ကြွနေသော ဝီရိယမျိုး ဖြစ်နေ၏၊ မကျွမ်းကျင်တော့ "ဒါ–မဂ်ပဲ"ဟု ထင့်လိုက်ပြီး သာယာ နေမိ၏။

၈။ "ဥပဋ္ဌာန"ကား ဝိပဿနာနှင့် ယှဉ်သော သတိ ဖြစ်သည်၊ တရားအားထုတ်ခိုက်မှာ ကောင်းစွာ ဖြစ်ပေါ်သော သတိကိုဆိုခြင်း ဖြစ်၏၊ သိပ်ပြီး သတိ ကောင်းနေသည်ကိုပင် "မဂ်"ဟု ထင်နေမိ၏၊ သာယာ နေတော့သည်။

၉။ ဥပေက္ခာသည် ဤနေရာ၌ ဝိပဿနုပေက္ခာ၊ အာဝဇ္ဇနုပေက္ခာဟူ၍ ၂–မျိုးရှိ၏၊ ဝိပဿနာရှုတဲ့အခါ

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

သင်္ခါရတရားတို့ကို ဉာဏ်ဖြင့် သိမ်းပိုက်ရာ၌ အလယ် အလတ်ဖြစ်သော ဝိပဿနုပေက္ခာဟူ၍ ဆိုရသောဉာဏ် သည် အလွန် အားကောင်းစွာ ဖြစ်ပေါ်လာတတ်၏၊ မနောဒွါရာဝဇ္ဇနုပေက္ခာလည်း အလွန်အားကောင်းစွာ ဖြစ်ပေါ်လာတတ်သည်။

၁၀။ "နိကန္တိ"သည် ဝိပဿနာနိကန္တိကို ဆိုလို ၏၊ လောဘတဏှာဖြစ်သည်၊ ဖော်ပြခဲ့ပြီး အလင်းရောင်၊ ဉာဏ်၊ ပီတိ၊ ပဿဒ္ဓိ၊ သုခ စသည်တို့ ဖြစ်ပေါ်လာတိုင်း သူက နှစ်သက်တွယ်တာနေမိသည်၊ အလွန်သိမ်မွေ့ စွာဖြင့် နှစ်သက်နေခြင်း ဖြစ်၏။

ဤကဲ့သို့ (၁၀)မျိုး ရှိရာတွင် ရှေ့၉-မျိုးကား အကုသိုလ် မဟုတ်၊ နောက်ဆုံး တစ်မျိုးသာလျှင် အကုသိုလ် ဖြစ်နေသည်၊ နောက်ဆုံး နိကန္တိဖြင့် နှစ် သက်ပြီး ရှေ့ဆက် အားမထုတ်သောကြောင့် တရား မတက်ခြင်း ဖြစ်ရလေသည်။

ထို့ကြောင့် လာသမျှမင်္ဂတုတွေကို ဖြစ်ပျက် ရှုပြီး ဖယ်ရှားပစ်ပါ၊ သို့မဟုတ် သူ့ကို ဂရုမစိုက်နဲ့၊ ကိုယ့်ရှုမြဲဖြစ်ပျက်နဲ့ နေပါ-တဲ့၊ မင်္ဂတုတွေ လာခြင်း ဟာ လမ်းဆုံး မဟုတ်သော်လည်း ကောင်းသော လက္ခဏာကား ဖြစ်ပေသည်။

သူတို့ မလာသေးရင်လဲ မမှန်သေးဘူး၊ လာကို လာရမယ်၊ လာတဲ့အခါ မဖယ်ရှားတတ်ရင်လဲ မမှန် သေးဘူး၊ ဖယ်ရှားကျော်လွှားတတ်ရမယ်။

## သကဒါဂါမ် ဆရာဘကြီးကိစ္စ

တစ်ခါတွင် သကဒါဂါမ်ဆရာဘကြီးအကြောင်း နှင့်စပ်၍ မိုးကုတ်ဆရာတော်ကြီးက အောက်ပါအတိုင်း ဦးအေးမောင်တို့ လူစုအား ပြန်လည် ပြောပြဖူးပါ သတတ်။ သကဒါဂါမ် ဆရာ ဘကြီးသည် နာမည် ကျော် ဓမ္မစေတီဆရာတော်၏ တပည့်၊ မုံရွာ လယ်တီ ဆရာတော်ဘုရားကြီး၏ တပည့် ဖြစ်သည်။

ဆရာ ဘကြီးသည် အနယ်နယ် အရပ်ရပ်ကို လှည့်ပတ် တရားဟောနေသူ ဖြစ်၏၊ နာမည်လည်း ကြီး၏၊ ထက်လည်း ထက်မြက်လှ၏၊ ဟောတဲ့နေရာ တိုင်းမှာလိုလို ပြဿနာလည်း တက်တတ်၏၊ ယခု မိုးကုတ်မြို့ကို ရောက်လာ၍ တရားဟောရန် ကြေညာ တော့၏၊ သူ့ကြေညာဆိုင်းဘုတ်တွင်-

> "စာတတ်ချင်ရင် စာသင်တိုက်ကို သွားကြ၊ သောတာပန် ဖြစ်ချင်ရင်တော့ ကျွန်ုပ်ဆီကို လာ၍ တရားနာလှည့်ကြ၊ တရားပွဲအဆုံးမှာ သောတာပန် တည်စေရမည်"

ဤကြေညာချက်ကို မြို့ပေါ်နှင့် ပတ်ဝန်းကျင်သံဃာ များ၊ အချို့သော လူပုဂ္ဂိုလ်များက မကျေနပ်ကြ၊ "ဒီ လူကြီးနှယ်... ကြီးကျယ်လိုက်တာ"ဟူ၍လည်း ဆိုကြ လေသတတ်။ သို့နှင့် ဝိုင်း၍ ဖမ်းကြလေ၏၊ ထို့နောက် စစ်ဆေးခံရမည်-ဟု ဆို၍ ယခု အစစ်အဆေး ခံရန် မြို့နယ်လုံးဆိုင်ရာ သံဃာစုံ လူကြီးများစုံရာ ရှေ့မှာ ဆရာဘကြီး ရောက်နေရလေပြီ။

> "အဲဒီပွဲမှာ ငါ့ကိုလဲ လာပင့်ကြတယ်ကွ၊ ပီး တော့ ငါ့ကို သံဃာများက တာဝန်ပေးကြတယ်၊ ဒီပြဿနာ ဒီကိစ္စကို အရှင်ဘုရားပဲ စစ်မေး အရှင်ဘုရားပဲ ဖြေရှင်းပေးတော်မူပါဘုရား"တဲ့

သကဒါဂါမ်ဆရာဘကြီး အကျပ်တွေ့နေရလေ ပြီ၊ "မိုးကုတ်မြို့"ဆိုတာ တောင်ပေါ်မြို့၊ ယင်းတောင် ပေါ်သို့ ရောက်ရန်တက်ရာ၌ အကွေ့ပေါင်း(၉၉)ကွေ့ ကို ကွေ့ပတ်ကျော်ဖြတ်ပြီးမှ ရောက်နိုင်၏။

သကဒါဂါမ် ဆရာဘကြီးသည် အကွေ့ပေါင်း (၉၉)ကွေ့ကို ကျော်ဖြတ် တက်လာနိုင်ခဲ့သော်လည်း ယခု တွေ့နေရသည့် အကျပ်အတည်း ကွေ့ကိုကား မကျော်ဖြတ်နိုင်အောင် ဖြစ်နေရတော့သည်။

## တစ်ဘဝသာသနာ

## နှစ်ဘက်လှအောင် စစ်ဆေးပေးရ

"ဒါနဲ့ ငါက မေးလိုက်တယ်၊ သကဒါဂါမိ ဆရာဘကြီး၊ ဆရာကြီးရဲ့ ကြော်ငြာထဲမှာ "သောတာပန် ဖြစ်ချင်ရင် ကျွန်ုပ်ဆီကို လာ၍ တရားနာလှည့်ကြ၊ တရားပွဲအဆုံးမှာ သောတာပန် တည်စေရမည်"လို့ ရေးထားတာ မှန်ပါသလား (မှန်ပါ၊ ရေးထားတာ မှန်ပါတယ် ဘုရား)

"အို... ဒါကတော့ ဆရာကြီး လွန်တာပေါ့၊ ဘုရားတောင်မှ ဒီလို အာမခံချက် မပေးပါဘူး၊ ကျွတ်ထိုက်တဲ့သူ ကျွတ်ကြပစေ၊ မကျွတ်ထိုက်တဲ့သူ ကျန်ရစ်ကြပစေ-ပဲ။"

"ဆရာကြီးက လူတိုင်း လူတိုင်း သောတာပန် ဖြစ်စေချင်တဲ့အနေနဲ့ ဒါဟာ စေတနာ လွန်ကဲသွားတယ် ထင်တယ်"လို့ ဆိုတော့ (မှန်ပါ၊ စေတနာ လွန်ကဲသွားမိပါတယ် ဘုရား)တဲ့ သူက ပြန်လျှောက်တယ်။

"အေး... နောက်ကို ဒါမျိုးလို စေတနာ မလွန်ကဲမိပါစေနဲ့၊ ဒါ နောက်ဆုံး ဖြစ်ပါစေ"လို့ သတိပေးပြီးတော့ သံဃာတော်များဘက်ကို လှည့်၍-

"သံဃာတော် အရှင်မြတ်တို့ဘုရား... ဆရာဘကြီးက စေတနာ လွန်ကဲသွားမိတာပါ"လို့ ယခု လျှောက်ထားနေပါပြီ၊ အခုလို တစ်ကြိမ်တစ်ခါ လွန်ကဲမိသွားတာကို ခွင့်လွှတ်တော်မူကြပါဘုရား"လို့ သူ့ကိုယ်စား လျှောက်ပေးလိုက်တယ်။

"ကဲ-ကဲ... သံဃာတော်များကို အခုလို ကြုံတုန်းကြုံခိုက်မှာ ကန်တော့ရမယ်၊ ကန်တော့ကောင်းပါတယ်၊ ဆရာဘကြီး လက်အုပ်ချီဦးချပါ"လို့ဆိုတော့မှ သံဃာတွေကို ဦးချတယ်၊ ပြီးတော့ ငါ့ကိုလဲ ဦးချတယ်ကွ"တဲ့။

အစပိုင်းကဆိုရင် ငါ့ကိုလဲ ဦးမချဘူး၊ သံဃာတွေကိုလဲ ဦးမချဘူး၊ အခုမှ ဦးချတာ၊ အဲဒီလို နှစ်ဘက်လှအောင် ဆောင်ရွက်ပေးခဲ့ဖူးတယ်-လို့ မိန့်ပါသတတ်။

---

**မှတ်ချက်။** ။ဤအကြောင်းအရာများကို ဝမ်းတွင်းသဲတော မိုးကုတ်ရိပ်သာဘုန်းကြီး ဦးအဂ္ဂ (ဦးအေးမောင်)က ပြောပြ၍ သိရပါသည်။

## သက်တော်-၆၀ အရောက်ဝယ်

မိုးကုတ် ဆရာတော်ကြီးမှာ ယခုအခါ သက်တော် ၆၀-ပင် ပြည့်လာပြီ၊ အနှစ်(၁၀၀)သက်တမ်းနှင့် ကြည့်သော် ယခု တစ်ဝက်ပင် ကျော်လာခဲ့ချေပြီ၊ သို့သော် အနားမယူခဲ့သေး၊ ငယ်စဉ် ရွယ်စဉ်က သံဃာတော်များအား သာသနာအဆက်ရအောင် အဘိဓမ္မာ ညဝါတို့ကို ချပို့ပေးခဲ့၏။

ယခု နောက်ပိုင်းတွင်ကား ကိုယ်တော်တိုင် တရားတွေ အားထုတ်ပြီးနောက် ခန္ဓာဉာဏ်ရောက် တရားတို့ကို ဒကာ ဒကာမတို့အား မနားတမ်း ဟောပေးခဲ့သည်၊ ရှေ့ပိုင်းတွင် ပရိယတ်သာသနာကို ထမ်းဆောင်ခဲ့၍၊ ယခု နောက်ပိုင်းတွင် ပဋိပတ်သာသနာကို ထမ်းဆောင်တော်မူနေသည်၊ နိုင်ရာတာဝန်ကို ထမ်းခြင်း

ပင် ဖြစ်၏၊ ကိုယ်စီကိုယ်င ထမ်းရမည်။

ဒကာ ဒကာမတို့အား နေရဗာန်ခရီးအတွက် ကေန်ပြီးရအောင် ကြီးစွာသော လုံ့လတို့ဖြင့် မမောနိုင် မပန်းနိုင် တရားတွေကို ဖြိုင်ဖြိုင် ဟောပြပေးနေသည်။

ယခုအခါ၊ သာသနာဝယ်၊ နိုင်ရာဝန်ထမ်း၊
မပျက်လှမ်း၍၊ သက်တမ်းတွက်သော်၊
တစ်ဝက်ကျော်အောင်၊ သက်တော်ခြောက်ဆယ်၊
ပြည့်ဖြိုးကြွယ်ခဲ့၊ နားတယ် မရှိ၊ ချိန်လုံးပြည့်မျှ၊
အဓိဆန္ဒ၊ လုံ့လထန်ပြင်း၊ ဖွဲ့မာန်တင်းလျက်
မြိုက်ခင်းရေဆန်၊ နေရဗာန်သို့၊ ကေန်ချောမော
ရောက်အောင် ပြောသည့်... မမော မပန်း
မနားတည်း။ ။

x x



## အလုပ်တွေကို ဖိ၍ လုပ်ခြင်း

သက္ကရာဇ် ၁၃၂၁–ခုနှစ် နတ်တော်လဆုတ် (၁၁)ရက်၊ (ခရစ် ၁၉၅၉–ခု ဒီဇင်ဘာလ ၂၅–ရက် ရောက်)သောအခါ ဆရာတော်မှာ သက်တော်က ၆၀–နှစ် သိက္ခာတော်က (၄၁)ဝါ ရှိလာပြီ၊ ရောမ မထေရ်ကြီး ဖြစ်တော်မူလာ၏၊ ဒကာ ဒကာမတို့ကလည်း အပြည့်အဝ လေးစားလာကြသည်။

သို့ဖြစ်၍ "ဆရာတော်"ဟူသော ဝေါဟာရနောက်က "ဘုရား" ထည့်ကာ "ဆရာတော်ဘုရား" ဟူ၍ သုံးနှုန်းလာကြတော့သည်၊ ထိုမှတစ်ဆင့်တက်ကာ "ဆရာတော်ဘုရားကြီး" ဟူ၍ အားရပါးရ လေးလေး စားစား သုံးနှုန်းလာကြတော့၏။

ဆရာတော် ဘုရားကြီးကလည်း ဤအချိန် ဤကာလများတွင် သာဝကများအတွက် ဖိ၍ အလုပ်–လုပ်တော်မူသည်၊ သစ္စာတရားတွေ များများ ဟောပေးတော်မူ၏၊ "အချိန်က သိပ်ပြီး မကျန်တော့"ဟု သိတော်မူနေ၍ပေလော။

သက္ကရာဇ် ၁၃၂၁–ခု (၁၉၅၉/၆၀–ခု)နှစ်များ ဝန်းကျင်တွင် အချိန်ပို အချိန်အား အလကား မထားဘဲ တရားတွေကိုချည်း အတင်းတက်သုတ်ရိုက်၍ ဟောနေတော်မူသည်၊ အလွန် ပင်ပန်းတော်မူရှာပေလိမ့်မည်၊ တွေ့တဲ့လူဟိုင်းကို "အေး... အလုပ်–လုပ်ကြ၊ အလုပ်လုပ်ကြ၊ အချိန်က သိပ်မရှိတော့ဘူး၊ အချိန်နည်းသွားပြီ" ဟူ၍သာ မိန့်တော်မူတတ်၏။

## အထက်တန်းတွဲကြီးနဲ့ သွားနိုင်အောင်

သက္ကရာဇ် ၁၃၂၁–ခု နှောင်းပိုင်း (၁၉၆၀–ခု) ဝန်းကျင်ကာလတွင်ကား မိုးကုတ်ဆရာတော်ကြီးက ပို၍ အရေးကြီးလာသလို မိန့်နေတတ်၏၊ "အချိန်ရှိခိုက် လုံ့လစိုက်ကြ–"ဟူ၍လည်း မကြာခဏ မိန့်တတ်သည်၊ ဆရာတော်ဘုရားကြီး၏ အမှုအရာများကပင် အရေးကြီးနေသလို ထင်ရသည်။

မန္တလေးက ပွဲစားကြီးတစ်ယောက် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သို့ လာ၍ ဒုလ္လဘ ရဟန်းဝတ်၏၊ ဂန္ဓာရုံတိုက်တွင် နေ့စဉ် နံနက် ဝေလီဝေလင်း အချိန်၌ နံနက်ခင်း ဩဝါဒပေးနေကျဖြစ်သည်၊ ဩဝါဒတွေ နေ့စဉ်နာယူလာရသောအခါ အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီး၏ ခံယူချက်ကို ရိပ်စားမိလာ၏၊ သို့ဖြစ်၍ သူ သဘောပေါက်သလို ဤသို့ ပြောလာသည်–

"တပည့်တော်က သင်္ကန်းဝတ်တော့သာ ဒီဂန္ဓာရုံကျောင်းတိုက်ကို လာဝတ်တာ၊ တရားနာတော့ မဂ်လာတိုက်က မိုးကုတ် ဆရာတော်ကြီး ဦးဝိမလထံ နာနေကျ၊ ဒီတော့ ဆရာတော်ဘုရားကြီး ၂–ပါးရဲ့ ခံယူချက်ကို ရိပ်စားမိလာတယ်။

အခု နေ့စဉ် နံနက်ခင်းဩဝါဒတွေထဲမှာ အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီးက အမိန့်ရှိတယ်–

"ဘဝသံသရာကြီးက ဘယ်လောက်ရှည်ရှည် သွားရဦးမယ် မသိသေးဘူးတဲ့၊ ဒီတော့ ဘဝ သံသရာထဲမှာ မျက်နှာ မငယ်ရအောင် ကောင်းကောင်း နေကြတဲ့၊ စိတ်ကောင်း နှလုံးကောင်း ထားကြ၊ သီလ လုံခြုံအောင် နေကြ၊ ဝိနည်းကိုလဲ လေးစားကြ"တဲ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဘဝခရီးရှည်ကြီးအတွက်

အေး... ရန်ကုန်–မန္တလေး ဒီလောက် ခရီးတို ကလေးတောင် ချမ်းချမ်းသာသာနဲ့ သွားချင်တယ်ဆိုရင် ဒီ့ထက်ရှည်တဲ့ ဘဝသံသရာခရီးကြီးအတွက် ချမ်းချမ်း သာသာ ပို၍ လိုအပ်မှာပေါ့–တဲ့။

အဲဒီအထက်တန်းတွဲတွေ စီးနိုင်ဖို့ဆိုတာ ပိုက်ဆံ များများ ပေးနိုင်မှ (တန်ရာတန်ကြေးပေးနိုင်မှ) စီးရတာ၊ ထို့အတူပဲ ဘဝသံသရာခရီးအတွက် ချမ်းချမ်းသာသာ သွားချင်တယ်ဆိုရင်လဲ အရင်းအနှီး တန်ရာတန်ကြေး များစွာ ပေးရမှာပဲ။

အဲဒီအရင်းအနှီး တန်ရာတန်ကြေးဆိုတာ တခြား မဟုတ်ပါဘူး၊ ဒါန သီလ ဘာဝနာပါပဲ၊ ကောင်းကောင်း နေကြ၊ စိတ်ကောင်း နှလုံးကောင်း ထားကြ၊ သီလ လုံခြုံကြပစေ–တဲ့၊ မိန့်တော်မူတယ်။

ပီးတော့ ဥပမာ ပေးသေးတယ်၊ မင်းတို့တစ်တွေ မန္တလေး–ရန်ကုန်ကို မီးရထားနဲ့ ခရီးသွားတယ် ဆို ကြပါစို့–တဲ့။

ရိုးရိုး တတိယတန်းကနေပြီးတော့ လူတွေ ပြည့်သိပ် ညပ်ကျပ်၊ ညစ်ပတ်နံစော်၊ ဆင်းဆင်းရဲရဲနဲ့ ခရီးသွားချင်သလား။

ဒါမှမဟုတ် အထက်တန်းတွဲကနေပြီး သန့်သန့် ရှင်းရှင်း ဖြူဖြူဖွေးဖွေးနဲ့၊ စားပွဲနဲ့ ကုလားထိုင်နဲ့ ပန် ကာနဲ့ ဖန်မီးချောင်းတွေနဲ့၊ အိမ်သာသန့်သန့်နဲ့၊ ရေမီး အပြည့်အစုံ၊ အစားအသောက်အပြည့်အစုံ၊ လူတွေကလဲ သန့်သန့်နဲ့ ချမ်းချမ်းသာသာ သွားချင်သလား။

ကိုယ့်ကိုယ်ကို မေးကြည့်–တဲ့၊ ဘယ်လို ဖြေမလဲ၊ အထက်တန်း တွဲနဲ့ ချမ်းချမ်းသာသာ သွားချင်တယ် ပြောမှာပဲ–တဲ့။

## ရရာတွဲနဲ့သာ အမြန်လိုက်ကြ

မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလကတော့ အဲလို မပြောဘူး၊ တစ်မျိုးပဲ–

"ဘဝသံသရာ ခရီးရှည်ကြီးကို ဖြည်းဖြည်း အေးအေး ချမ်းချမ်းသာသာနဲ့ ဖိမ်ခတ်ပြီး သွားမနေကြနဲ့၊ မြန်မြန်ရောက် မြန်မြန် အေး တာပဲ"တဲ့။

"ဒီတော့ ရွေးမနေနဲ့၊ ရရာကလိုက်၊ တွဲကောင်း စောင့်မနေနဲ့၊ အထက်တန်းရ အထက်တန်းနဲ့ လိုက်၊ တတိယတန်း တွဲရ တတိယတန်းနဲ့ လိုက်၊ ကုန်တွဲရ ကုန်တွဲနဲ့လိုက်၊ နောက်ဆုံး ထုံးတွဲ မီးသွေးတွဲရလဲ ရရာတွဲနဲ့သာ လိုက်၊ မြန်မြန်ရောက်မှ အေးမယ်"တဲ့။

အဲသည်လို ဆရာတော်ဘုရားကြီး ၂–ပါး ခံယူ ချက်ချင်း မတူတာကို တွေ့ရတယ်–တဲ့၊ အရှင် ဇန ကာဘိဝံသ ဆရာတော်ဘုရားကြီးကတော့ "ဆုကြီးပန်" ကိုး၊ ဒါ့ကြောင့် ဆုကြီးပန်သံ ထွက်တာ။

မိုးကုတ် ဆရာတော်ဘုရားကြီးကတော့ ပြတ် ပြတ်ပဲ၊ စိတ်မြန် ကိုယ်မြန်၊ ခုချက်ချင်း မြန်မြန် ရောက်တာက ကောင်းတယ်၊ ဒုက္ခသက်ရှည်မနေချင် ကြနဲ့–တဲ့၊ သူ့အသံနဲ့သူ ထွက်ကြတာပါပဲ။

ဤသို့လျှင် ပွဲစားကြီးက ဆရာတော်ဘုရားကြီ ၂–ပါး၏ အယူအဆ ခံယူချက်ကို မှတ်ချက်ချလေ သည်။

### တစ်ဘဝသာသနာ

## ရွှေထက် တန်ဖိုးကြီးလိမ့်မယ်

မိုးကုတ်ဆရာတော်ဘုရားကြီး၏ အရှိန်အဝါမှာ လွန်စွာ ကြီးမားလှ၏၊ နေ့စဉ်နှင့်အမျှ တရိပ်ရိပ်တက်နေသလို ဖြစ်သည်၊ သစ္စာတရားတွေကို စဉ်ဆက်မပြတ်ဟော၍ လာခဲ့သောကြောင့်ဟု ဆိုရမည်ဖြစ်၏၊ တရားတော်တို့ကလည်း သစ္စာတရားတွေချည်းဖြစ်၍ မရိုးနိုင်အောင် ဖြစ်တော့သည်၊ ထို့ကြောင့် ဟောသမျှ ပြောသမျှ တရားအသံတွေကို ဖမ်းယူထားကြ၏။

ထိုအချိန်က တိပ်ရီကော်ဒါ (အသံဖမ်းစက်)တို့ကိုလည်း ပေါပေါများများ အသုံးပြုလာကြချိန်ဖြစ်သည်၊ တစ်နေ့တွင် မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလက အမရပူရမှ ဝေယျာဝစ္စပြုသူ ဦးထွန်းတင်အား–

"မောင်ထွန်းတင်ရေ... အခုလို သိပ္ပံပစ္စည်းတွေ ထွန်းကားလာပြီးတော့ အသံတွေ ဖမ်းယူနိုင်တာဟာ အသုံးချတတ်ရင် နိဗ္ဗာန် ရောက်ဖို့ပဲကွ၊ အသုံးမချတတ်ရင်တော့လဲ အပါယ်ငရဲ ဇောက်ထိုးဆင်းရဖို့ပဲ၊ သတိရှိဖို့နော်..."

ဤသို့ အမိန့်ရှိဖူးပါသတတ်၊ ဟုတ်ပါသည်– ဖမ်းယူထားသော သစ္စာတရား တစ်ပုဒ်ကို နာရ၍ တစ်စုံတစ်ယောက် သောတာပန်ဖြစ်သွားလျှင် အနှိုင်းအဆမရှိ ကျေးဇူးများနိုင်သည် မဟုတ်ပါလော။

ထို့ကြောင့် ဖြစ်ပေမည်၊ တစ်ခါက အရင်းအနီးဆုံးဖြစ်သော မိုးကုတ်ကျောင်းအမကြီးဒေါ်ဖုံအား ဆရာတော်ဘုရားကြီးက ဤသို့ အမိန့်ရှိဖူးပါသတတ်–

*"မဖုံ... ကျုပ်ပြောတဲ့ ဟောတဲ့ တရားတွေကို တိပ်ခွေနဲ့ အကုန်ဖမ်းယူထားပါ၊ နောင်ကျရင် ရွှေထက် တန်ဖိုးကြီးလိမ့်မယ်"

---

*ဤအကြောင်းအရာများကို ရန်ကုန်မြို့၊ မိုးကုတ် ဝိပဿနာအဖွဲ့ချုပ်၊ ယခု လက်ရှိ ဥက္ကဋ္ဌကြီး ဦးအောင်ကျော် (အဘွားဖုံ၏သမက်)က ပြန်လည်ပြောပြပါသည်။

## တရားတွေကို ခပ်တွင်တွင် ဟောနေခဲ့

သက္ကရာဇ် ၁၃၂၁–ခုနှစ်အတွင်းမှာ တရားပွဲတွေ အတော် စိပ်စိပ် ဟောလာသည်၊ တပေါင်းလကုန်၍ တန်ခူးလသို့ ကူးကာ ၁၃၂၂–ခုနှစ်သို့သာ ရောက်လာသည်၊ တရားပွဲအရှိန်ကား မပျက်ခဲ့၊ နေ့ဆက်ရက်ဆက်ဖြစ်၍ ပင်ပန်းတော်မူရှာပေမည်၊ ကံ စိတ် ဥတု အာဟာရ တို့ဖြင့် တည်ဆောက်ထားသော ခန္ဓာကိုယ်ဖြစ်၍ အဘယ်မှာလျှင် မပင်ပန်းဘဲ နေချိမ့်မည်နည်း။

တရားဟောနေရင်း တစ်ချက် တစ်ချက်တွင် သလိပ်တွေ ပွလာ၍ ဖြစ်ပါလိမ့်မည်၊ ထွေးခံထဲသို့ ထွေးထည့်သံကြားလာရ၏၊ ဆရာတော်ကား ဤမျှလောက် ကျန်းမာရေးကို အရေးမထား၊ "သေချင်သေသွားပစေ"ဟူသော စေတနာတွေကသာ များစွာလွန်ကဲ နေပုံ ရသည်။

ထုံးစံအတိုင်း မိုးတွင်း ၄လမှာ အမရပူရ၊ ဆောင်း ၄လမှာ မန္တလေး၊ နွေ ၄လမှာ မိုးကုတ်သို့ တက်၍ စက်ပတ်လည်ကာ ဟောပြနေပါသည်။

ယခု ၁၃၂၂–ခုနှစ် သီတင်းကျွတ်လ (၁၉၆၀–ခု အောက်တိုဘာလ)တွင် ဆရာတော်၏ သက်တော်က ၆၁၊ သိက္ခာတော်က ၄၂၊ ဝီရိယတော်ကား မဆုတ်နစ်၊ တရား အသစ် အသစ်တွေကိုသာ ခပ်တွင်တွင် ဟောပြနေတော်မူသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ရန်ကုန်မှ ရောက်လာကြပြန်ခြင်း

သက္ကရာဇ် ၁၃၂၂ ခု တန်ဆောင်မုန်းလဆုတ် ၁၀–ရက် (ခရစ် ၁၉၆၀–ခု နိုဝင်ဘာ ၁၂–ရက်)နေ့တွင် ရန်ကုန်မှ ဦးသံဒိုင်နှင့် ဦးထွန်းရင်တို့ ရောက်လာကြပြန်၏၊ စိတ်ထက်သန်စွာဖြင့် ရောက်လာကြခြင်းဖြစ်လေသည်၊ ယခင်ရောက်နှင့်သော သူတို့နှင့် ယောဂီချင်းချင်း ပေါင်းသင်းဆုံတွေ့ကြရ၏။

နောက်တစ်နေ့ တန်ဆောင်မုန်းလဆုတ် ၁၁–ရက် (၁၃.၁၁.၆၀)နေ့တွင် ဆရာတော်ကြီးက ဦးသံဒိုင်နှင့် ဦးထွန်းရင်တို့ကို အမှူးထား၍ တရားဟောတော်မူတော့သည်၊ ဦးသံဒိုင်နှင့် ဦးထွန်းရင်တို့သည် ယခုစတင်၍ တရားနာနေကြရပြီ။

တစ်ဖန် နောက်ထပ်၍ ရန်ကုန်မှ ဦးသန်းမောင် (ကျားပုံမကောက်ဆေးလိပ်ခုံပိုင်ရှင်)၊ ဦးတင်၊ ဦးအောင်ဖေ (ဝန်ကြီးဟောင်း)၊ သခင်ဝတင်၊ မုံရွာမှ ဦးဒွေး (ဂျစ်ကားတံဆိပ်ရက်ကန်းရုံပိုင်ရှင်) စသော ပုဂ္ဂိုလ်များလည်း ရောက်လာကြပြန်၏။

အဝေးမှ ရောက်လာကြသော ယောဂီပုဂ္ဂိုလ်တို့အား ငဲ့သောအားဖြင့် ဆရာတော်ကြီးက နေ့ အထူးသီးသန့် တရားပွဲကို "အမြဲတမ်းတရားပွဲ"အဖြစ် တိုးတက် သတ်မှတ်၍ ဟောပြပေးတော်မူသည်။

# သမာဓိရလွယ်အောင် ဘယ်လိုလုပ်မလဲ

*ရဟန်းဖြစ်ပါက ကျောင်း၊ အိပ်ရာနေရာ၊ သပိတ်သင်္ကန်း၊ အသုံးအဆောင် စသည်တို့ စင်ကြယ်သန့်ရှင်းနေရမည်၊ ခန္ဓာကိုယ်လည်း နံစော်ပြီး မနေစေနဲ့၊ ရေမိုးတို့ဖြင့် သန့်ရှင်းအောင် ချိုးပေးရမည်၊ ဆံပင်ကိုလည်း ငြီးစီစီကြီးနေအောင် အရှည်ကြီး မထားနှင့်၊ မကြာ မကြာ ရိတ်ပေးပါ။ ပတ်ဝန်းကျင်နေရာအရပ်ကိုလည်း တံမြက်ခတ်ပေးပါ၊ ရှုပ်ပွမနေပါစေနဲ့။

ဤသို့လျှင် ကိုယ်တွင်း ကိုယ်ပ၊ ပတ်ဝန်းကျင်တို့ပါ သန့်ရှင်းနေအောင် စီမံထားကြလျှင် စိတ်ကြည်လင်၍ သမာဓိ ရလွယ်သည်။

အမျိုးသမီး အမျိုးသား ယောဂီများ ဖြစ်ကြလျှင်လည်း ကိုယ့်ဆိုင်ရာ ပတ်ဝန်းကျင်များကို သန့်ရှင်းအောင် ပြုပြင်ကြရမည်၊ အသုံးအဆောင် အဝတ်အစားများနှင့်တကွ ကိုယ်ခန္ဓာပါ သန့်ရှင်းနေအောင် စီမံကြရမည်။

ဤသို့ စီမံထားပါလျှင် စိတ်ကြည်လင်၍ သမာဓိရလွယ်၏၊ သမာဓိရမှလည်း တရားထူးသိမြင်နိုင်သော ဉာဏ်ပေါ်ပေါက်လာပေမည်၊ ဤဉာဏ်ရဖို့အဓိက ဖြစ်၏၊ ဉာဏ်ပေါ်လာအောင် သမာဓိ ထူထောင်ရခြင်းဖြစ်သည်။

---

* (ဝိသုဒ္ဓိမဂ်၊ပ၊၁၂၅)

# ဘုန်းကြီးနှယ် ကြမ်းလိုက်တာ

ဆိုးတဲ့ နွားမကြီးရဲ့ နို့ရည်ကို သောက်ပြီး ကြီးပြင်းလာတဲ့နွားကလေးသည် ဆိုးချင်၏၊ ရိုင်းချင်၏၊ ယဉ်ကျေးအောင် ဆုံးမရန် ခက်သည်၊ သို့ဖြစ်၍ ထို နွားကလေးကို ဖမ်းပြီး ခပ်ကြမ်းကြမ်း ကိုင်ရသောအခါ များလည်း ရှိသေး၏။

ထို့အတူပင် ငါးပါးအာရုံကာမဂုဏ်နို့ရည်တို့ကို သောက်သုံးပြီး ကြီးပြင်းလာရသောလူတို့လည်း များစွာ ရှိကြ၏၊ အာရုံက ကြမ်းခဲ့ကြ၍ လူတို့လည်း ခပ်ကြမ်း ကြမ်းပင် ဖြစ်နေတတ်ကြသည်၊ ထို့ကြောင့် တစ်ခါ တစ်ခါ ဆရာတော်က ခပ်ကြမ်းကြမ်း ကိုင်ထားသည် ကိုလည်း တွေ့ရမည်ဖြစ်၏၊ နမူနာပြရသော်–

* "ဒီခန္ဓာ ဘယ်မှာ အဆုံးသတ်ပါလိမ့် ဆိုရင် မသာမှာ အဆုံးသတ်တယ်၊ (မှန်ပါ) ပြောလိုက် ပါတော့ တိုတိုပဲ မသာမှာ လမ်းဆုံးတယ် (မှန်ပါ ဘုရား)

ဒကာ ဒကာမတွေ တဏှာကြောင့် ဘာဖြစ်သလဲ (ခန္ဓာဖြစ်ပါတယ် ဘုရား) အဲဒီ ခန္ဓာ ဘယ်မှာ စခန်းသတ်ပါလိမ့်၊ (မသာမှာပါ ဘုရား) အားလုံး ဦးခင်မောင်တို့ ခန္ဓာရရင် မသာ ရတာပဲ (မှန်ပါ)

ဒါဖြင့် ဘယ်ခန္ဓာရ–ရပါလို၏ဆိုရင် "ဘယ်မသာ ရ–ရပါလို၏"၊ ဒီအဓိပ္ပာယ်ပဲ ဖြစ်နေတယ် (မှန်ပါ)

ဒါ့ကြောင့် ဘုန်းကြီးတို့ ဒကာ–ဒကာမ တွေ ဘယ်ခန္ဓာမှ မရချင်ကြပါနဲ့ (မှန်ပါဘုရား) ခန္ဓာရရင် ဘာရကြမယ် (မသာ ရပါမယ်)

နိဗ္ဗာန်မရမီစပ်ကြားမှာဖြင့် "နတ်ခန္ဓာ ရရပါလို၏"ဆိုရင် "နတ်မသာချရပါလို၏" ဒီအဓိပ္ပာယ်ပဲ ရတယ် (မှန်ပါ)

"ဗြဟ္မာခန္ဓာ ရ–ရပါလို၏"ဆိုရင်လဲ "ဗြဟ္မာမသာချရပါလို၏" (မှန်ပါ) "လူ့ဘဝ ရ–ရပါလို၏"ဆိုရင်ကော (လူ့မသာ ချရပါ လို၏) အေး... ဒီအဓိပ္ပာယ်ပဲ ရောက်တယ် (မှန်ပါ ဘုရား)

ဒီလိုဆိုတော့ (၃၁)ဘုံ မသာစုံ ဖြစ်ရပါ လို၏ (မှန်ပါ) ဒါတွေ ဖြစ်အောင် ဘယ်သူက လုပ်တာလဲ (တဏှာက လုပ်တာပါ ဘုရား)

ဒါဖြင့် ဒီတဏှာ မသေသရွေ့ ခန္ဓာမျိုး ပြတ်မှာ မဟုတ်ဘူး (မှန်ပါ) ပြတ်ပါ့မလား (မပြတ်ပါ ဘုရား)

ဒါ–ကြမ်းကြမ်း ဟောတာလား၊ အမှန် ပြောနေတာလား (အမှန်ပြောနေတာပါ ဘုရား)

ဒီ အသံ ကြားရတဲ့ ပုဂ္ဂိုလ်တွေက "ဩော်... ဘုန်းကြီးနှယ် ကြမ်းလိုက်တာ"လို့ ထင်ကောင်း ထင်မယ် (မှန်ပါ) ထင်ပေမယ့် ခန္ဓာက ဒါပဲ ပြမှာပဲ (မှန်ပါ)

ခင်ဗျားတို့က ကြမ်းတယ် ထင်ပေမယ့် ခန္ဓာက နပြီး ထွက်လာမှာ မဟုတ်ဘူး၊ (မှန် ပါ ဘုရား) ထွက်ပါ့မလား (မထွက်ပါဘုရား)

ဒါ့ကြောင့် ဒီခန္ဓာ ဘယ်မှာ လမ်းဆုံး မလဲ (မသာမှာ လမ်းဆုံးပါမယ်ဘုရား) အေး... ဟုတ်တယ်။

* မိုး(၅) နာ–၃၄၀

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# စက်တွေ မီးလောင်ကုန်ရင် ကောင်းမယ်

အမရပူရသို့ လာကြ၍ ဆရာတော့်အနီးအနားတွင် ဆရာတော့်အရိပ်ကို ခိုလှုံကြပြီးလျှင် ဟသ်ာတမှ ဦးမာဒင်တို့အုပ်စု၊ ရန်ကုန်မှ ဦးသံဒိုင်၊ ဦးထွန်းရင်၊ ကျားပျံ ဦးသန်းမောင်၊ ဝန်ကြီးဟောင်း ဦးအောင်ဇံဝေတို့ အုပ်စု၊ မုံရွာမှ ဂျစ်ကားတံဆိပ် ရက်ကန်းပိုင်ရှင် ဦးဒွေးတို့အုပ်စုများ အကြိတ်အနယ် ဝိပဿနာအလုပ်ကို အားထုတ်နေကြပြီ။

အချိန်ကလေးရခိုက်အတွင်းမှာ ဝီရိယကို စက်ကုန်လွှတ်ပြီး ကြိုးစားနေကြသည့်အတွင်း ဟသ်ာတမှ ခဏ ခဏ ကြေးနန်းစာ ရောက်နေ၏၊ ဦးမာဒင်၏ သားသမီးများထံမှ ဖြစ်သည်။

ဦးမာဒင်က ဟသ်ာတမြို့ပေါ်တွင် ဆီစက်ကြီးများ (၅)လုံးကို ပိုင်ဆိုင်သူ ဖြစ်၏၊ ဆန်စက်ကြီးများ အချို့ကိုလည်း ပိုင်လိုက်သေးသည်၊ ကြေးနန်းစာတွင်–

"အဖေ... မြန်မြန် ပြန်လာပါ၊ အလုပ်သမားတွေက အရေးဆိုနေကြပြီ၊ အကျပ်ကိုင်နေကြပြီ၊ မည်သို့ ဖြေရှင်းပေးရမည်လဲ"ဟူသော စာမျိုးဖြစ်၏။

ထို့ကြောင့် ဦးမာဒင်မှာ ကမ္မဋ္ဌာန်းခွင်မှ ထွက်၍ ထွက်၍ "မည်သို့ ဖြေရှင်းပေးလိုက်ပါ၊ မည်သို့ စီစဉ်ပေးလိုက်ပါ"ဟု ကြေးနန်းစာ ခဏ ခဏ ပြန်ပေးနေရသည်။ ယင်းကိစ္စကို ဆရာတော် သိသောအခါ ဤသို့ မိန့်တော်မူတော့၏–

"ဦးမာဒင်... ဟသ်ာတမှာ ရှိတဲ့ ခင်ဗျာ့ဆီစက်တွေ၊ ဆန်စက်တွေ အကုန်သိမ်းကျုံးမီးလောင်ကုန်ကြရင် ကောင်းမယ်"ဟူ၍ ဖြစ်သတည်း။

ထိုအခါ ဦးမာဒင်မှာ မျက်ရည်ကလေးများ စမ်းစမ်းစမ်းစမ်းနဲ့ ဖြစ်၍ နေရတော့သတတ်၊ အကြောင်းကို မေးသောအခါ ဆရာတော်က ဆို၍ အပြစ်တင်၍ မျက်ရည်စမ်းရသည် မဟုတ်။

"သြော်... ဆရာတော်က ငါ့အပေါ်မှာ မေတ္တာ ကရုဏာ ကြီးမားစွာဖြင့် တရားရစေချင်လွန်းလို့ ဤသို့ မိန့်တော်မူတာ၊ ငါကလဲ ကိစ္စတွေ များများ၊ လွတ်လွတ်လပ်လပ်နဲ့ တရားကိစ္စ အပေါ်မှာ နှစ်မထားနိုင်လို့ ကိုယ့်ကိုယ်ကိုလဲ အားမရနိုင်လွန်းလို့ပါ"ဟူ၍ ဖြေပါသတတ်။

# ပစ္စုပ္ပန်ခန္ဓာကိုသာ ယူရမှာ

[ဝိပဿနာရှုဖို့ရာ ဦးစွာ ပထမ ရှုစရာပစ္စည်းကို ရှာရပါမည်၊ ရှုစရာပစ္စည်းက ခန္ဓာငါးပါး၊ ဘယ်လို ခန္ဓာမျိုးလဲ သိဖို့လိုအပ်ပါမည်၊ ဤခန္ဓာရွေးပုံနှင့် ပတ်သက်ပြီး မိုးကုတ်ဆရာတော်ဘုရားကြီး ကိုယ်တိုင် ဦးသံဒိုင်နှင့် ဦးထွန်းရင်တို့အား ဟောပြောထားချက်တို့မှ ကောက်နုတ်ဖော်ပြပါမည်။

* "ဒီ–ခန္ဓာကြီးက ပဋိစ္စသမုပ္ပါဒ် ခန္ဓာကြီး၊ ကြောင်းကျိုး ဆက်စပ်နေတဲ့ ခန္ဓာကြီးပဲ (မှန်ပါ) ကဲ... ပြောကြစို့၊ ခန္ဓာငါးပါး အခု ရှိနေတဲ့ ဦးသံဒိုင် ယခု ထိုင်နေတဲ့ ခန္ဓာငါးပါးဟာ ပစ္စုပ္ပန်၊ ဦးထွန်းရင် အခု ထိုင်နေတဲ့ ခန္ဓာငါးပါးဟာ ပစ္စုပ္ပန် (မှန်ပါ) [မိုး(၁) နှာ–၁၆]

ဒီခန္ဓာငါးပါးဟာ ပြောကြစို့...၊ အမေမွေးတဲ့ ခန္ဓာကို ဘုန်းကြီးက မလိုချင်ဘူး၊ ယခု မွေးစ ခန္ဓာငါးပါးကို လိုချင်တယ် (မှန်ပါ)

ကိုင်း... ဦးသံဒိုင်၊ အမေမွေးပေးတဲ့ ခန္ဓာငါးပါကြီးကို မလိုချင်ပါဘူး–တဲ့၊ ဘာလို့လဲဆိုတော့ အဲဒါက ချုပ်ပျောက်ခဲ့ပြီလေ (မှန်ပါ)

* မိုး(၁)နှာ–၁၁

## တစ်ဘဝသာသနာ

အမေမွေးပေးတဲ့ခန္ဓာကြီးကဖြစ်ခဲ့ပြီ– ချုပ်ခဲ့ပြီ၊ အခုအချိန်ထိအောင် ဘာတစ်ကို တစ်စမှ ပါမလာဘူး (မှန်ပါ) ဘုန်းကြီးရှေ့မှာ အခု တရားနာနေတဲ့ ခန္ဓာ ငါးပါးကိုသာ လိုချင်တယ်၊ (မှန်ပါ) ပစ္စုပ္ပန်ကျကျ ခန္ဓာကို လိုချင်တယ် (မှန်ပါဘုရား)

အဲဒီတော့ ယခုအချိန်မှာပေါ်တဲ့ ပဋိစ္စသမုပ္ပါဒ်ကို လိုချင်တယ်၊ ယခုအချိန်မှာပေါ်တဲ့ ပဋိစ္စသမုပ္ပါဒ်ကို ယခုဉာဏ်နဲ့ တိုက်ပေးရမယ် (မှန်ပါ)

"ပဋိစ္စသမုပ္ပါဒ်"ဆိုတာ အကြောင်းကြောင့် – အကျိုးဖြစ်တာကို ပြောတာ (မှန်ပါ)

ပစ္စုပ္ပန်ခန္ဓာငါးပါးကို ပစ္စုပ္ပန်ဉာဏ်နဲ့ကြည့်ပါ၊ (မှန်ပါ) ကိုင်း... ပစ္စုပ္ပန်ခန္ဓာ ပေါ်ပုံ ပြောတော့မယ်၊ [မိုး(၁)နာ–၂၁]

## ပစ္စုပ္ပန်ခန္ဓာဆိုတာ ဒါပဲ

ဦးသံဒိုင် ကိုယ့်ဆိုင်ကို ရောက်သွားတဲ့အခါ ဦးသံဒိုင်ရဲ့မျက်လုံးနဲ့ ဆိုင်က အထည်အလိပ်တွေနဲ့သွားပြီး တိုက်တဲ့အခါ မြင်စိတ် ပေါ်တယ် (မှန်ပါဘုရား) အဲဒီမြင်စိတ်က ဝိညာဏက္ခန္ဓာ (မှန်ပါ)

အဲဒီမြင်စိတ်ဟာ အိမ်က ပါလာတဲ့ မြင်စိတ်လား (မဟုတ်ပါ) အခုမှ ပေါ်လာတဲ့ မြင်စိတ် (မှန်ပါ) တစ်ခါ ဒီမျက်လုံးကရော အိမ်ကပါလာတဲ့ မျက်လုံး ဟုတ်ပါရဲ့လား (မဟုတ်ပါ) အဲဒါက ချုပ်ခဲ့ ပျောက်ခဲ့ပြီ (မှန်ပါ) [စက္ခုပသာဒ=မျက်စိအကြည်ရုပ်ကို ရည်ရွယ်၍ မိန့်တော်မူနေခြင်း ဖြစ်သည်။]

နောက်တစ်ခါ ဒီကုန်ပစ္စည်းတွေကလဲ မနေ့က ထားခဲ့တဲ့ပစ္စည်းတွေ မဟုတ်တော့ဘူး၊ မဟာဘုတ်လေးပါး အဆက်ဆက်နဲ့ ပြောင်းလွဲနေခဲ့ပြီ (မှန်ပါ)

အခုဟာက၊ ခင်ဗျား မြင်နေရတာက ခင်ဗျား ရှေ့မှောက်မှာ တွေ့ရတာက အဆက်ဆက် ပြောင်းလဲပြီး ပေါ်ပေါက်လာရတဲ့ပစ္စည်း (မှန်ပါ)

ဒီတော့ ပစ္စည်းကလဲ ပစ္စုပ္ပန်၊ ခဏ ပစ္စုပ္ပန်၊ မျက်လုံးအကြည်ရုပ်ကလဲ ဒီကျမှ ပေါ်တာ၊ စိတ်ကလဲ ခုမှ ပေါ်တာ (မှန်ပါ) ဒီတော့ မျက်လုံးလဲ အသစ်၊ ပစ္စည်းလဲ အသစ်၊ စိတ်လဲ အသစ် (မှန်ပါ)

အဲဒီလို ၃–ခု ဆုံပြီးတော့ ဖဿဖြစ်၊ ပီးတော့ အကောင်းအဆိုး ခွေးတဲ့ ဝေဒနာဖြစ်၊ မှတ်သားတဲ့ သညာဖြစ်၊ အသစ်ချည်းပဲ၊ အိမ်က ပါလာတာ တစ်ခုမှ မရှိဘူး (မှန်ပါ)

ပီးတော့ ကြည့်လိုတဲ့ စေတနာကလဲ ခုမှ ပေါ်တယ်၊ သင်္ခါရက္ခန္ဓာ (မှန်ပါဘုရား) ဒီအထိ ခန္ဓာငါးပါး ပြည့်သွားပြီ (မှန်ပါ) ဦးသံဒိုင် ခန္ဓာငါးပါး ပြည့်သွားပြီဗျ (မှန်ပါဘုရား)

[မြင်နေရတဲ့ ပစ္စည်းများနှင့် မျက်လုံး အကြည်ရုပ်ကို ရူပက္ခန္ဓာဟု ဆိုလို၏။ ပေါ်လာတဲ့ စိတ်ကလေးတွေကို ဝိညာဏက္ခန္ဓာဟု ဆိုလိုသည်။]

## ဆန်အိတ် ပိုးလိုက်ချင်သေး

အံမယ်လေး... ခင်ဗျားတို့ကို ကယ်တင်ရတာ လွယ်တာ မဟုတ်ဘူးဗျ၊ ကျုပ်က ဆန်အိတ်ပိုးလိုက်ချင်သေး (မှန်ပါ) ဆန်အိတ်ပိုးတာက ဒီကျောနဲ့ပိုးပြီး ဟိုနေရာ ချလိုက်ရင် ပြီးသွားတာပဲ (မှန်ပါ ဘုရား)

ခင်ဗျားတို့ ၂–ယောက် ပိုးရတာက မလွယ်ဘူး၊ လွယ်ပါ့မလား (မလွယ်ပါဘုရား) အေး... မလွယ်လှဘူး၊ သို့သော် ကယ်တော့ ကယ်တင်မှာပေါ့ဗျာ။ [မိုး (၁) နှာ–၃၅။]

မှတ်ချက်။ ။အဘိဓမ္မာသဘောကို ရဟန်းသံဃာတော်များလို အခြေခံမှစ၍ သင်လာခဲ့သူများ မဟုတ်ကြ၊ ဦးသံဒိုင် ဦးထွန်းရင်တို့က အဘိဓမ္မာနှင့် စိမ်းနေခဲ့သူများ ဖြစ်ကြသည်၊ ဤကဲ့သို့သော ပုဂ္ဂိုလ်များအား အဘိဓမ္မာသဘော နားလည်အောင် ပြောရဖို့ မလွယ်ဘူး–ဟု ဆိုလိုတော်မူ၏။

ထို့ကြောင့် မြို့တကာမြို့၊ ဈေးထဲမှာ ဆန်အိတ်သယ်ပိုး၍ အလုပ်လုပ်သူများ၊ မြစ်ဆိပ်ကမ်းမှာ သင်္ဘောပေါ်မှ ဆန်အိတ်သယ်၍ချသူ ပိုးသူများကို လှမ်းမြင်ပြီး ပြောခြင်းဖြစ်ပါလိမ့်မည်၊ "ဆန်အိတ်ပိုးလိုက်ချင်သေး၊ အဲဒါကမှ သက်သာလိမ့်ဦးမည်"ဟု ခက်ခဲပုံကို မြင်လာအောင် မိန့်တော်မူခြင်း ဖြစ်၏။

## ခန္ဓာငါးပါးဆိုတာ အခုပေါ်တဲ့ခန္ဓာ

ကိုင်း... ဒါဖြင့် ခန္ဓာ ငါးပါးကို ခွဲပြမယ်၊ ဟောဒီ ကုန်ပစ္စည်းအဆင်းရုပ်တွေနဲ့ ဟောဒီ ခင်ဗျားတို့ မျက်လုံးရုပ်က အသစ်ရူပက္ခန္ဓာ၊ ဒီဆိုင်ကျမှ ပေါ်လာတဲ့ အသစ်ရူပက္ခန္ဓာ (မှန်ပါ)

ဟောဒီ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာ ၄ပါးတို့က နာမ်ခန္ဓာ ၄ပါး (မှန်ပါ) သူတို့လဲ ခုမှပဲ ပေါ်လာကြတာ (မှန်ပါဘုရား)

ခု ပေါ်တဲ့ ခန္ဓာငါးပါးထဲကမှ "တိဏ္ဏံ သင်္ဂတိ ဖဿော၊ ဖဿပစ္စယာ ဝေဒနာ၊ ဝေဒနာပစ္စယာ တဏှာ" စာမှာ ဆိုတာ (မှန်ပါ) စာကတော့လဲ တစ်ခု ပြီးမှ တစ်ခု စဉ်တန်းပြီး ရေးရတာပေါ့ (မှန်ပါ) စဉ်တန်းပြီး မရေးလို့ ဘယ်ဖြစ်ပါ့မလဲ၊ (မဖြစ်ပါဘုရား)

ဒါပေမယ့် တကယ် ပေါ်ပြီဆိုတော့ နာမ်ခန္ဓာ ၄–ခုလုံး ပေါင်းပြီးပေါ်တာ (မှန်ပါ) ၄–ခုလုံး တစ်ပြိုင်နက် ပေါ်တာ (မှန်ပါဘုရား) အဲဒီလို ဖြစ်စဉ်ကတော့ နာမက္ခန္ဓာလေးပါးဟာ တစ်ပြိုင်နက် ပေါ်– တစ်ပြိုင်နက် ချုပ်တယ် (မှန်ပါ)

ရူပက္ခန္ဓာ ၂–ခု ပေါင်းမိလို့ နာမက္ခန္ဓာ ၄ပါး ဖြစ်တယ် (မှန်ပါ) "၂–ခုပေါင်းမိ"ဆိုတာ ခင်ဗျားတို့ မျက်လုံး ပသာဒရုပ် ရူပက္ခန္ဓာရယ်၊ ဒီ–ဆိုင်ထဲက ပစ္စည်းတွေရဲ့အဆင်းရူပက္ခန္ဓာ၊ ဒီ၂–ခုပေါင်းပြီးတော့ နာမက္ခန္ဓာ၄ပါး ဖြစ်စေတယ် (မှန်ပါဘုရား)

ဒါဟာ အတိတ် ခန္ဓာလား၊ ပစ္စုပ္ပန် ခန္ဓာလား (ပစ္စုပ္ပန် ခန္ဓာပါ ဘုရား) ဟုတ်တယ် ပစ္စုပ္ပန်ခန္ဓာ သက်သက်ပဲ (မှန်ပါ)

ဒါဖြင့် တို့အခုရနေတဲ့ ခန္ဓာငါးပါးဟာဖြင့် အမေ မွေးပေးတဲ့ ခန္ဓာငါးပါး မဟုတ်ပါဘူး (မဟုတ်ပါ ဘုရား) အဲဒီခန္ဓာက မရှိတော့ဘူး၊ ချုပ်ခဲ့ ပျောက်ခဲ့ပြီ (မှန်ပါ)

အခု ပစ္စုပ္ပန်ခန္ဓာကလဲ ဘယ်သူ ဖန်ဆင်းတာမှ မဟုတ်ဘူး၊ အာရုံနဲ့ ဒွါရ တိုက်ဆိုင်လို့ ပေါ်လာတဲ့ ခန္ဓာငါးပါး ပစ္စုပ္ပန်ခန္ဓာငါးပါး၊ (မှန်ပါ) ဒါပဲ ရှိတယ်

ဒွါရနဲ့ အာရုံ တိုက်ဆုံကြလို့ နာမက္ခန္ဓာ၄ပါ ပေါ်လာတယ် (မှန်ပါ) ရုပ်ခန္ဓာတစ်ပါးနဲ့ နာမ်ခန္ဓာ ၄ပါး ပေါင်းလိုက်တော့ ခန္ဓာငါးပါး ဖြစ်လာတယ် (မှန်ပါ ဘုရား) "ခန္ဓာငါးပါး"ဆိုတာ–ဒါပဲ (မှန်ပါ

## တစ်ဘဝသာသနာ

# "ဝိပဿနာရှုရမယ့် ခန္ဓာ" ပြောပြပါ

အခု ဝိပဿနာရှုရမယ့် ခန္ဓာကို ပြောနေတယ်နော် (မှန်ပါ) စာအတိုင်း ပြောနေလို့ရှိရင် မှားကုန်မယ်၊ (မှန်ပါ) ဒါဖြင့် အခု စာတွေက ဘုရားဟောတော်မူထားတာ မဟုတ်လားလို့ စောဒက တက်ချင် တက်မယ် (တက်မယ် ဘုရား)

အို့... ဘုရား ဟောတော်မူတာက ခန္ဓာကို ကြည့်ဟောတာပဲ (မှန်ပါ) စာက မှတ်တမ်း (မှန်ပါ) အခု အဲဒီစာကို ထိုးထွင်းသိတဲ့ ဆရာက ဟောနေတာ (မှန်ပါဘုရား)

စာမှာတော့ "မြင်စိတ်ကလေး"လို့ ဆိုပါတယ် (မှန်ပါ) တစ်ခုတည်း သီးသန့် နေသလိုလိုပဲ (မှန်ပါ) ဒါပေမယ့် "မြင်စိတ်ကလေး"ချည်း နေလို့ ရပါ့မလား (မရပါ ဘုရား)

ဘယ်ရမလဲ၊ နာမ်ခန္ဓာ၄ပါးလုံးတွဲပြီး ပေါ်ရတာပေါ့ (မှန်ပါ) ခွဲနေလို့ ရရဲ့လား (မရပါ) ခွဲကော ခွဲကောင်းရဲ့လား (မခွဲကောင်းပါ ဘုရား) "မြင်စိတ်ကလေး"ချည်းနေလို့ ဘယ်ရမလဲ၊ ဝေဒနာနဲ့ တွဲ၊ သညာနဲ့ တွဲ၊ သင်္ခါရနဲ့ တွဲရတယ်၊ နာမက္ခန္ဓာလေးပါးလုံး တွဲပြီး ပေါ်ရတာ (မှန်ပါ)

ပြန်ပြောဦးမည်၊ ဟောဒီ မျက်စိအကြည်ရုပ်နဲ့ မြင်စရာအဆင်းတို့က ရူပက္ခန္ဓာ (မှန်ပါ) သူတို့ ၂–ခု ဆုံလို့ တစ်ပေါင်းတည်း ဖြစ်ပြီး ပေါ်လာကြတာက နာမက္ခန္ဓာ ၄–ပါး၊ (မှန်ပါ) ရုပ်ခန္ဓာ တစ်ပါးနဲ့ နာမ်ခန္ဓာ ၄–ပါး၊ ပေါင်းလိုက်တော့ ခန္ဓာငါးပါး (မှန်ပါဘုရား)

ဒါ– ပစ္စုပ္ပန် ခန္ဓာပဲ (မှန်ပါ) ဒါကို ဝိပဿနာ ရှုရမှာ (မှန်ပါဘုရား) ဝိပဿနာ ရှုရမယ့်ခန္ဓာဆိုတာ ဒါပဲ (မှန်ပါဘုရား)

[မိုး(၁)နာ–၂၈]

မနေ့တုန်းက ခန္ဓာကို ရှုလို့ မရဘူး၊ တမြန်နေ့က ခန္ဓာကိုလဲ ရှုလို့ မရတော့ဘူး၊ ဘာလို့လဲဆိုတော့ ကုန်ခဲ့ ပျောက်ခဲ့ပြီကိုး (မှန်ပါ) လွန်ခဲ့ပြီ၊ အတိတ်ဖြစ်ခဲ့ပြီ (မှန်ပါဘုရား)

တစ်ခါ နက်ဖြန် ခန္ဓာကိုလဲ ရှုချင်လို့ မရဘူး၊ သန်ဘက်ခါ ခန္ဓာကိုလဲ ရှုချင်လို့ မဖြစ်သေးဘူး၊ (မှန်ပါ) ဘာလို့လဲ ဆိုတော့ လာမှ မလာသေးဘဲကိုး (မှန်ပါ ဘုရား) မရောက်လာသေး၊ အနာဂတ် ဖြစ်နေသေးတယ် (မှန်ပါဘုရား)

အဲဒါကြောင့် "ယခု ပစ္စုပ္ပန်ခန္ဓာကိုသာ ရှုပါ" လို့ ပြော–ပြောနေရတာ၊ (မှန်ပါဘုရား) သဘောပါပြီနော် (ပါ–ပါပြီဘုရား)

# ဘဒ္ဒေက ရတ္တ သုတ်တော်

ဤနေရာတွင် ဘုရားရှင် ကိုယ်တော်မြတ်ကြီး ဟောတော်မူထားသော ဥပရိပဏ္ဏာသမှာ လာတဲ့ ဘဒ္ဒေက ရတ္တသုတ်ကို တင်ပြလိုပါသည်။

ဘုရားရှင် ကိုယ်တော်မြတ်ကြီး သာဝတ္ထိမှာ သီတင်းသုံးတော်မူခိုက် ဘဒ္ဒေက ရတ္တသုတ်ကို ဟောတော်မူပါသည်၊ အကျဉ်းရော အကျယ်ပါ (၂)မျိုးလုံး ဆောရာတွင် ဤနေရာ၌ အကျဉ်းထဲမှ ဂါထာ(၂)ပုဒ်ကို ဖော်ပြလိုပါသည်။

* ၁။ အတီတံ နာန္ဝာဂမေယျ၊
နပ္ပဋိကင်္ခေ အနာဂတံ။
ယ ဒတီတံ ပဟီနံ တံ၊
အပ္ပတ္တဉ္စ အနာဂတံ။ ။

၂။ ပစ္စုပ္ပန္နဉ္စ ယော ဓမ္မံ၊
တတ္ထ တတ္ထ ဝိပဿတိ။
အသံဟီရံ အသံကုပ္ပံ၊
တံ ဝိဒ္ဓါ မနုဗြူဟယေ။ ။

* ဥပရိပဏ္ဏါသပါဠိတော်၊၂၂၆

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အဌကထာဖွင့်နှင့်အညီ နိဿယအနက်

၁။အတီတံ–အတိတ်ဖြစ်သော၊ ယံ–အကြင်ခန္ဓာ ငါးပါးသည်၊ (အတ္ထိ–ရှိ၏) တံ–ထိုအတိတ်ခန္ဓာငါးပါး သည်၊ (ယသ္မာ–အကြင့်ကြောင့်) ပဟီနံ–ချုပ်ပျောက်ခဲ့ပြီ၊ (တသ္မာ–ထို့ကြောင့်) အတီတံ–အတိတ်ဖြစ်သောခန္ဓာ ငါးပါးသို့၊ နာ နွာဂမေယျ (န + အန္ဓာဂမေယျ)– တဏှာဒိဋ္ဌိတို့ဖြင့် မလိုက်ရာ။

အနာဂတံ–အနာဂတ်ဖြစ်သော၊ (ယံ–အကြင် ခန္ဓာငါးပါးသည်၊ အတ္ထိ–ရှိ၏၊ တဥ္စ–ထိုအနာဂတ် ဖြစ်သော ခန္ဓာငါးပါးသည်လည်း၊ (ယသ္မာ–အကြင် ကြောင့်) အပ္ပတ္တံ–မရောက်လာသေး၊ မဖြစ်ပေါ်သေး၊ တသ္မာ–ထို့ကြောင့်) အနာဂတံ–အနာဂတ် ဖြစ်သော ခန္ဓာငါးပါးကိုလည်း၊ နပ္ပဋိကင်္ခေ–(တဏှာဒိဋ္ဌိတို့ဖြင့် မမျှော်လင့်) မတောင့်တရာ။

၂။ယော ဝိဒွါ–အကြင် ယောဂီ ပညာရှိသည်၊ ပစ္စုပ္ပန္နံ–ပစ္စုပ္ပန်ဖြစ်သော၊ ဓမ္မဥ္စ–ခန္ဓာငါးပါးတရားကို သာလျှင်၊ တတ္ထ တတ္ထ–ထိုထိုခဏ ထိုထိုတရားအစုဌ် သာလျှင်၊ ဝိပဿတိ–ရှု၏၊ (ဝိပဿနာရှုရ၏။)

အသံဟိရံ–တဏှာဒိဋ္ဌိတို့သည် မဆွဲငင်အပ် သော၊ အသံကုပ္ပံ–တဏှာဒိဋ္ဌိတို့ကြောင့် ပျက်စီးခြင်း မရှိသော၊ တံ–ထိုဝိပဿနာဉာဏ်ကို၊ (သော ဝိဒွါ– ထိုယောဂီပညာရှိသည်၊) အနုဗြူဟယေ–ပွားများအား ထုတ်ရာ၏။

မှတ်ချက်။ **။မိုးကုတ်ဆရာတော်ကြီးက ခန္ဓာ ကိုယ်တွေ့နှင့် ဤဘဒ္ဒေကရတ္တသုတ်တော်ကို တိုက်ဆိုင် ပြီးလျှင် ဟောတော်မူခြင်း ဖြစ်ပေလိမ့်မည်။**

**အတိတ်ခန္ဓာကိုလည်း ရှုမနေနဲ့၊ မရှိတော့ဘူး၊ ချုပ်သွားပြီ၊ အနာဂတ်ခန္ဓာကိုလည်း၊ ရှုမနေနဲ့၊ မလာ သေး၊ မဖြစ်ပေါ်သေး၊ ထို့ကြောင့် ပစ္စုပ္ပန်ခန္ဓာကိုသာ ရှု–ဟု မိန့်တော်မူခြင်းဖြစ်၏။**

## ဟောစဉ်နှင့် ဖြစ်စဉ်လို့ ၂–မျိုးရှိ

ဟောစဉ်ကတော့ စက္ခုံစ ပဋိစ္စ ရူပေစ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ။ [စက္ခုံစ–မျက်စိအကြည်ရုပ်ကိုလည်း ကောင်း၊ ရူပေစ–အဆင်းရုပ်တို့ကိုလည်းကောင်း၊ ပဋိစ္စ– စွဲ၍၊ စက္ခုဝိညာဏံ–စက္ခုဝိညာဏ်စိတ်သည်၊ (ဝါ) မြင်စိတ်သည်၊ ဥပ္ပဇ္ဇတိ–ဖြစ်၏။] လို့ ဟောရတာပဲ (မှန်ပါ)

မျက်စိအကြည်ရုပ်၊ အဆင်းရုပ် ၂–ခု ပေါင်းမိ လို့ ဝိညာဏ်ဆိုတဲ့ နာမ်တရား ပေါ်လာ၊ (မှန်ပါ) ဝိညာဏ်ဆိုတဲ့ မြင်စိတ်ပေါ်လာတဲ့အခါ သူ့ချည်းပေါ် ကောင်းရဲ့လား (မပေါ်ကောင်းပါ) ဒါဆိုရင် နာမက္ခန္ဓာ ၄ပါးလုံး ပေါ်လိမ့်မယ် (မှန်ပါဘုရား)

ဒီနေရာမှာ "မြင်စိတ်" ဆိုတဲ့ ဝိညာဏက္ခန္ဓာက ခေါင်းဆောင်နေတော့ ကျန်တဲ့ ဝေဒနာက္ခန္ဓာ သညာ... န္ဓာ သင်္ခါရက္ခန္ဓာတို့က လျှိုပြီး လိုက်လာတယ် (မှန်... သူတို့လဲ ပါတော့ ပါတာပဲ၊ ဒါပေမယ့် ငုံ့လျှိုးပြီး ... လိုက်လာခဲ့ကြတယ် (မှန်ပါဘုရား) ဖြစ်စဉ်မှာတော့ အဲဒီလို တစ်ပေါင်းတည်း ပေါ်တယ် (မှန်ပါ)

ဥပမာနဲ့ ပြောရရင် "ဟင်းချိုရည်" ဆိုသလို "ချဉ်ရည်ဟင်း" ဆိုသလိုပေါ့ (မှန်ပါ) "ဟင်းချို" ဆိုပေ မယ့် အငန်ဓာတ်ဆားလဲ ပါ၊ **အစပ်ကလေးလဲ နည်း** နည်းပါ၊ ခရမ်းချဉ်သီးတို့လဲ နည်းနည်းပါတာပဲ (မှန်...

ဒါပေမယ့် ချိုရည်က ကဲနေလို့ "ဟင်းချို"လို့ ပြောရတာ (မှန်ပါ ဘုရား)

"ချဉ်ရည်ဟင်း"လဲ ဒီအတိုင်းပဲ၊ ချဉ်ရည်ဆိုပေမယ့် အငန်ဓာတ်လဲ ပါ၊ အစပ်လဲ ပါ၊ လေးအောင် အချိုမှုန့်ကလေးများလဲ ပါတာပဲ၊ သို့သော် အချဉ်က များပြီး ကဲနေလို့ "ချဉ်ရည်" ပြောရတာ (မှန်ပါဘုရား)

ကျန်တဲ့ဓာတ်တွေလဲငုံ့လျှိုးပြီးပါလာကြတာပဲ (မှန်ပါ)

ဒီအတိုင်းပဲ ဒီမှာလဲ ဝိညာဏက္ခန္ဓာက ခေါင်းဆောင်နေလို့သာ၊ "ဝိညာဏက္ခန္ဓာ"လို့ ပြောရတာ၊ ကျန်တဲ့ခန္ဓာတွေလဲ ငုံ့လျှိုးပြီးပါလာကြတာပဲ (မှန်ပါဘုရား)

ဒီအထိ ဝိပဿနာ မပြောသေးပါဘူး၊ (မှန်ပါဘုရား)

# ဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာကို သတ်ကြဦး

* ဒီ၂-ခုက (အာရုံနဲ့ ဒွါရက) ရုပ်တရားတွေဆိုတော့ ရူပက္ခန္ဓာ (မှန်ပါ) ဒီ၄-ခုကတော့ နာမ်တရားတွေမို့ နာမက္ခန္ဓာ (မှန်ပါ ဘုရား)

အာရုံနဲ့ ဒွါရ သူတို့ ၂-ခုက အကြောင်း၊ နာမက္ခန္ဓာ၄ပါး၊ သူတို့ ၄-ခုကတော့ အကျိုး (မှန်ပါ) အကြောင်း၂-မျိုးက ပဋိစ္စသမုပ္ပါဒ (မှန်ပါ) အကျိုး ၄-မျိုးကတော့ ပဋိစ္စသမုပ္ပန္န (မှန်ပါ)

ဒီလိုဆိုတော့ ခန္ဓာငါးပါးဟာ အကြောင်းနဲ့ အကျိုးပဲ ရှိတယ် (မှန်ပါ) အကြောင်းအကျိုးပဲ ရှိတယ် (မှန်ပါ) ဒီအထဲ ငါ မပါဘူး၊ သူ-မပါဘူး၊ ယောကျ်ား မိန်းမ မပါဘူး၊ ပုဂ္ဂိုလ် သတ္တဝါ မပါဘူး (မှန်ပါ) ပါရဲ့လား (မပါ-ပါဘုရား)

ဟောဒီ အကြောင်း ၂-ပါး၊ ဟောဒီ အကျိုး ၄-ပါး၊ ဒါပဲ ပါတယ် (မှန်ပါ) ဒီလိုဆိုရင် ဒီအထဲ ဒိဋ္ဌိဝင်နိုင်သေးသလား (မဝင်နိုင်ပါ)

ဒါက ရုပ်တရားဖြင့် ရုပ်တရား၊ ငါဝင်မရှုပ်နဲ့ (မှန်ပါ) ဒါက နာမ်တရားဖြင့် နာမ်တရား၊ ငါဝင်မရှုပ်နဲ့ (မှန်ပါဘုရား) ဒါဆို ဒိဋ္ဌိသေပြီ (မှန်ပါ)

ဘယ် ဖန်ဆင်းရှင်ကမှ လာပြီး ဖန်ဆင်းတာ မဟုတ်ဘူး၊ "အကြောင်းကြောင့် အကျိုးဖြစ်တယ်"လို့ သိရင် ဝိစိကိစ္ဆာစင်တယ် (မှန်ပါ)

ဒါက ကံက ပေးတဲ့ စက္ခုပသာဒရုပ်၊ မျက်စိအကြည်၊ (မှန်ပါ) ဒါက ဥတုကဖြစ်စေတဲ့ အဆင်းရုပ်၊ အထည်အလိပ်တွေ (မှန်ပါ) ဒီကံနဲ့ ဥတုပေါင်းလိုက်လို့ သူတို့ကြောင့်-ဟောဒီ နာမက္ခန္ဓာ၄ပါး ပေါ်လာရတယ် (မှန်ပါ)

ဒီ၂-ခုက အကြောင်း၊ ဒီ၄-ခုက အကျိုး (မှန်ပါ) "အကြောင်းကြောင့် အကျိုး ဖြစ်တယ်"လို့ သိတော့ ဝိစိကိစ္ဆာသေ (မှန်ပါ) "ဒါဟာ ရုပ်နဲ့ နာမ်ပဲ ရှိတယ်"လို့ သိတော့ ဒိဋ္ဌိလဲ သေတယ် (မှန်ပါဘုရား) ဒါဖြင့် ဒိဋ္ဌိနဲ့ဝိစိကိစ္ဆာ ကွာနေပြီ (ကွာနေပါပြီဘုရား)

ဒါပေမယ့် ဒီမှာ သိကွာပဲ ရှိပါသေးတယ်၊ (မှန်ပါ) ကွာပုံကွာနည်းက သိကွာ၊ ကျင့်ကွာ၊ ပယ်ကွာလို့ ၃-မျိုးရှိတယ် (မှန်ပါ) အခု သိကွာပဲ ရှိသေးတယ် (မှန်ပါ)

နောက်တော့ ကျင့်ကွာ၊ ကျင့်လို ကွာသွားတာ၊ (မှန်ပါ) အဲဒီနောက် "မလာနဲ့"ဆိုတဲ့အနေမျိုး အာဏာနဲ့ ပယ်ကွာရှိသေးတယ်၊ အားလုံး ၃-မျိုး (မှန်ပါဘုရား)

* မိုး(၁)နှာ-၃၃

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဒိဋ္ဌိနိရောဓာ ဝိစိကိစ္ဆာ နုပ္ပဇ္ဇတိ

လောကကြီးအတွင်းမှာ အရာခပ်သိမ်းတို့သည် အကျဉ်းအားဖြင့် ရုပ်နှင့် နာမ်မျှသာ ရှိကြ၏၊ အကျယ်ချဲ့လျှင် ခန္ဓာငါးပါးဖြစ်ကြသည်၊ ပုဂ္ဂိုလ်သတ္တဝါမပါ၊ သူငါမပါ၊ ယောကျ်ားမိန်းမ မပါ၊ ဤသို့ သိလာသောအခါ ဒိဋ္ဌိကွာလေ၏၊ သက္ကာယဒိဋ္ဌိ ကွာသွားသည်။

တစ်ဖန် ဤရုပ် ဤနာမ် ဤခန္ဓာတို့သည် အလိုလို ဖြစ်ပေါ်လာကြသလော၊ တန်ခိုးရှင်များက ဖန်ဆင်း၍ ပေါ်ပေါက်လာကြသလော၊ မဟုတ်ပါ၊ အကြောင်းကြောင့် အကျိုးအနေအားဖြင့် ဖြစ်ပွားနေခြင်းသာ ဖြစ်၏၊ တစ်စုံတစ်ခုသော တန်ခိုးရှင် ဖန်ဆင်းရှင်တို့က ဖန်ဆင်း၍ ဖြစ်ပေါ်လာသည် မဟုတ်။

"အကြောင်းတရားကြောင့် အကျိုးတရား ဖြစ်ပေါ်နေခြင်းမျှသာ ဖြစ်သည်၊" ဤသို့လျှင် အကြောင်းရင်း အပေါ်မှာ ဉာဏ်ရှင်းသောအခါ ဝိစိကိစ္ဆာလည်း ကွာရတော့၏၊ ဤစကားစဉ်အရ အကြောင်းတရား အပေါ်မှာ ဉာဏ်ရှင်းလျှင် ဝိစိကိစ္ဆာ စင်၏၊ အကျိုးတရား အပေါ်မှာ ဉာဏ်ရှင်းလျှင် သက္ကာယဒိဋ္ဌိ စင်၏။

ဒိဋ္ဌိစင်ဖို့ အရေးကြီး၏၊ ဒိဋ္ဌိစင်လျှင် ဝိစိကိစ္ဆာလည်း စင်တော့သည်၊ ဤသဘောကို ဘုရားရှင် ကိုယ်တော်မြတ်ကြီးက အောက်ပါအတိုင်း ဟောတော်မူ၏။

* ဒိဋ္ဌိနိရောဓာ ခေါ ဘိက္ခု သုတဝတော
အရိယသာဝကဿ ဝိစိကိစ္ဆာ နုပ္ပဇ္ဇတိ။

ဘိက္ခု-ရဟန်း၊ သုတဝတော-ကြားနာအပ်ပြီးသော ဗဟုဿုတ ရှိသော (ဝါ) ဗဟုဿုတ ကြွယ်ဝသော အရိယသာဝကဿ-အရိယာသာဝက၏၊ ဒိဋ္ဌိနိရောဓာ ဒိဋ္ဌိ ချုပ်ခြင်းကြောင့်၊ ဝိစိကိစ္ဆာ-ဝိစိကိစ္ဆာသည်လည်း နုပ္ပဇ္ဇတိ-(န+ဥပ္ပဇ္ဇတိ) မဖြစ်ပေါ်တော့။ ဒိဋ္ဌိချုပ်လျှင် ဝိစိကိစ္ဆာပါ ရောပါသွားသည် ဟူလို။

## ကဲ... ပစ္စုပ္ပန်ခန္ဓာကိုရှာကြစို့

* ဟောဒီ မျက်လုံးက ကံက ပေးတဲ့ မျက်လုံး၊ ကံက ခဏ ခဏ ထည့်ပေးတယ်၊ တစ်လုံး ပျက်ရင်း တစ်လုံး ထည့်ပေးတယ် (မှန်ပါ) ဒါက ဥတုကြောင့် ဖြစ်တဲ့ အထည်အလိပ်တွေ (မှန်ပါဘုရား)

ကံနဲ့ဥတု ရုပ်၂-ခု ပေါင်းလိုက်တော့ နာမ်ပေါ်လာတယ် (မှန်ပါ) စက္ခုံစ ပဋိစ္စ ရူပေစ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ ပေါ်တယ် (မှန်ပါ)

ဒါဖြင့် ရူပက္ခန္ဓာ ၂-ခု ထိခိုက်တာနဲ့ နာမက္ခန္ဓာ ၄-ခု ပေါ်လာတယ် (မှန်ပါ) လက်ခုပ်၂-ခု တီးတာနဲ့ အသံပေါ်လာသလိုပေါ့ (မှန်ပါဘုရား) ဒါ-ခန္ဓာငါးပါး ပေါ်တာပဲ (မှန်ပါ)

အဲဒါကို မေးမယ်၊ အဲဒီခန္ဓာဟာ အတိတ်လား အနာဂတ်လား၊ ပစ္စုပ္ပန်လား (ပစ္စုပ္ပန်ပါဘုရား) ဟာ... ဒါဖြင့် ခင်ဗျားတို့ ပစ္စုပ္ပန်ခန္ဓာတွေ့ပြီ၊ (တွေ့ပါ ဘုရား)

အလားတူပဲ နားနဲ့ အသံနဲ့တိုက်တော့ ခန္ဓာငါးပါးပေါ်၊ နှာခေါင်းနဲ့ အနံ့နဲ့ တိုက်တော့ ငါးပါးပေါ်၊ လျှာနဲ့ အရသာနဲ့ တိုက်တော့လဲ ငါးပါးပေါ် ကိုယ်နဲ့ တွေ့ထိစရာနဲ့ တိုက်တော့လဲ ငါးပါးပေါ် မနောနဲ့ ကြံတွေးစရာနဲ့ တိုက်တော့လဲ ခန္ဓာငါးပါး ပေါ်တာပဲ (မှန်ပါဘုရား)

---

* မိုး(၁)နှာ-၃၆

* အဂ္ဂတ္တိုရ်ပါဠိတော်၊သတ္တက၊၄၄၆

တစ်ခါတလေ နှာခေါင်းနဲ့ချည်း ထပ်ထပ်ပြီးတော့ ရှင်ချင်လဲ ရှင်မှာပေါ့ (မှန်ပါ) တစ်ခါတလေ လျှာချည်းလဲ ငါးပါးနဲ့ ရှင်ချင် ရှင်မှာပေါ့၊ (မှန်ပါ) တစ်ခါတလေ ကိုယ်ပေါက်က ငါးပါးပေါ်၊ တစ်ခါတလေ မနောပေါက်က ငါးပါးပေါ် (မှန်ပါဘုရား)

ဒွါရ ၆-ခုမှာ ခန္ဓာငါးပါး လှည့်ပေါ်တယ် (မှန်ပါ) မျက်လုံးပေါက်က ငါးပါးချုပ်ရင် နားပေါက်က ငါးပါးနဲ့ အသက်ရှင်နေတယ် (မှန်ပါ) နားပေါက်က ငါးပါး ချုပ်ရင် နှာခေါင်းပေါက်က ငါးပါးနဲ့ အသက်ရှင်တယ်၊ (မှန်ပါ)

# ကိုယ့်မသာ ကိုယ် လိုက်ပို့ကြ

သူများ သေတာတော့ မသာလိုက် လိုက်ပို့ဖူးကြတယ် (မှန်ပါ) ကိုယ် သေတာကျတော့ မပို့ဖူးကြဘူး (မှန်ပါ) ဉာဏ်နဲ့လိုက်ပို့ရမှာလေ (မှန်ပါဘုရား) အေး... ကိုယ့်မသာကိုယ် လိုက်ပို့ကြ၊ (မှန်ပါ)

ကိုယ့်အသေ ကိုယ် လိုက်-လိုက်ကြည့်တာ၊ ဉာဏ်နဲ့ ကြည့်တာ၊ ကိုယ့်အသေကို မြင်အောင်ကြည့်တာ ဝိပဿနာပေါ့ (မှန်ပါဘုရား) ဝိပဿနာဆိုတာ ဘာပါလိမ့် (ကိုယ့်အသေ ကိုယ် မြင်အောင်ကြည့်တာပါ ဘုရား)

အေး... မြင်ဖန်များရင် နောက်ထပ် ဒီအသေမျိုး မလိုချင်တော့ဘူး၊ (မှန်ပါ) မုန်းလာမယ် (မှန်ပါ) မုန်းလာလဲ ဆက်ရှု ဆက်ရှု (မှန်ပါ) ကြာတော့ ဆုံးသွားတာကို တွေ့လိမ့်မယ် (မှန်ပါ) အေး... အဲဒီအသေတွေ ဆုံးသည့်တိုင်အောင် ဉာဏ်နဲ့ လိုက်ပါ (မှန်ပါ ဘုရား)

ကဲ... ဒီတွင် ရပ်ကြဦးစို့။

* အဲဒီခန္ဓာတွေကို ကျုပ်တို့က နောက်ကနေပြီး တစ်ဉာဏ်-တစ်ဉာဏ် လိုက်ရမယ်၊ ခန္ဓာတစ်ခုပေါ်ပြီး ပျောက်သွားတာကို နောက်ကနေ တစ်ဉာဏ် လိုက် (မှန်ပါ) မီနိုင်သ**ရွေ့ပေါ့** (မှန်ပါ)

အကုန်မီရမယ် **မဆိုပါဘူး**၊ ဘယ်မီနိုင်လိမ့်မလဲ၊ လက်ဖျောက်တစ်ချက်**အတွင်း** ရုပ်က ကုဋေငါးထောင်ကျော်၊ နာမ်က ကုဋေတစ်**သိန်းကျော်** ဖြစ်ပြီး ပျက်ကြတယ် ဆိုတာကို ဘယ်မီအောင် လိုက်နိုင်လိမ့်မလဲ (မှန်ပါ)

အဲဒါက ဘုရားဖြစ်ပြီးမှ သဗ္ဗညုတာဉာဏ်ကြီးနဲ့ မြင်တဲ့အမြင်ပါ၊ သဗ္ဗညုတာဉာဏ်ကြီးနဲ့ မြင်တာကို ပြောတာ၊ မီအောင် လိုက်ရမယ်လို့ ပြောတာ မဟုတ်ဘူး (မှန်ပါဘုရား)

အဲဒီပစ္စုပ္ပန်ခန္ဓာတွေ ပေါ်ပြီး ပျောက်ကုန်တာကို နောက်ကနေ ဉာဏ်နဲ့လိုက်၊ မီနိုင်သမျှ လိုက် (မှန်ပါဘုရား) ကိုယ့်ခန္ဓာတွေ သေတာ တွေ့မယ်၊ ကိုယ့်အသေ ကိုယ်မြင်မယ် (မှန်ပါ)

---

* မိုး(၁)နှာ-၃၈

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဝိပဿနာ ရှုရမယ့်ခန္ဓာ ဆိုတာ

"ဝိပဿနာ ရှုရတဲ့ ခန္ဓာဆိုတာ ဒီခန္ဓာကြီး မဟုတ်ဘူး၊ အခု မြင်နေရတဲ့ ခန္ဓာကြီး မဟုတ်ဘူး၊ တလှုပ်လှုပ် သွားနေတဲ့ ခန္ဓာကြီး မဟုတ်ဘူး၊ ငုတ်တုတ် ထိုင်နေတဲ့ ခန္ဓာကြီး မဟုတ်ဘူး"လို့ ပြောရင် မကြိုက်ချင်ကြဘူး၊ ဘဝင်လဲ မကျဘူး၊ မကျေနပ်တဲ့ မျက်နှာ၊ မအီသာတဲ့ အသံနဲ့ "ဒီခန္ဓာကြီး မရှုလို့ ဘယ်သူ့ကိုများ သွားရှုရဦးမှာတုံး"လို့ ပြန်၍ စောဒက တက်တတ်ကြ၏။

အဖြေမှာ ယခုတွင်က ဖော်ပြပြီးခဲ့ပါပြီ၊ ယခုတွင်က ဖော်ပြပြီးခဲ့သည့်အတိုင်း (ဘဒ္ဒေကရတ္တသုတ်တော်နှင့် အညီ) ပစ္စုပ္ပန် ခန္ဓာ၊ ချိန်သားကိုက် ခန္ဓာ တစ်စက္ကန့်အတွင်းမှာ ရှုဉာဏ်နဲ့တွေ့ရတဲ့ ပစ္စုပ္ပန် ခန္ဓာသာ ဖြစ်ပါသည်၊ ထိုပစ္စုပ္ပန်ခန္ဓာကိုသာ ဉာဏ်နဲ့ တွေ့အောင် ရှာ၍ ရှုရမည် ဖြစ်ပါသည်။

ထို့ကြောင့် မိုးကုတ်ဆရာတော်ဘုရားကြီးက ထိုပစ္စုပ္ပန်ခန္ဓာကို အဓိပ္ပာယ် ပေါ်လွင်အောင် ဥပမာ အမျိုးမျိုး ဆောင်၍ ဟောလေ့ရှိတတ်ပါသည်။

# ခွေးဟောင်တဲ့ခန္ဓာကြီး မဟုတ်ဘူး

အခု မြင်နေရတဲ့ ခန္ဓာကြီးက အရပ်ရှည်တယ် ပုတယ်၊ ဝတယ် ပိန်တယ် ပြောလို့ ရတယ်၊ ဟို... ပစ္စုပ္ပန် ခန္ဓာက အရပ်ရှည်တယ် ပုတယ်၊ ဝတယ် ပိန်တယ် ပြောလို့ မရဘူး။

အခု မြင်နေရတဲ့ ခန္ဓာကြီးက အသားဖြူတယ် အသားမည်းတယ်၊ လှတယ် မလှဘူး ပြောလို့ ရတယ်၊ ဟို... ပစ္စုပ္ပန်ခန္ဓာက ပြောလို့ မရဘူး။

အခု မြင်နေရတဲ့ ခန္ဓာကြီးက ချိန်တွယ်ကြည့်ရင် လေးဆယ်၊ လေ့ဆယ့်ငါးပိဿာ ငါးဆယ်လောက်တော့ လေးတယ်၊ ဟို... ပစ္စုပ္ပန်ခန္ဓာက အဲလို ချိန်တွယ်လို့ မရဘူး။

အခု မြင်နေရတဲ့ခန္ဓာကြီးက သေရင် သုသာန်ကို ထမ်းပို့ရတယ်၊ ဟို... ပစ္စုပ္ပန်ခန္ဓာက သေရင် အဲလိုထမ်းပို့နေရတာ မဟုတ်ဘူး။

အခု မြင်နေရတဲ့ ခန္ဓာကြီးက သေရင် မီးရှို့ရတယ်၊ မြေမြှုပ်ရတယ်၊ ရေမျှောရတယ်၊ ဟို... ပစ္စုပ္ပန်ခန္ဓာက အဲလို လုပ်ဖို့ မလိုဘူး။

အခု မြင်နေရတဲ့ ခန္ဓာကြီးက လုံးရပ်သဏ္ဌာန် ပုံဟန် နိမိတ် ရှိတယ်၊ ဟို... ပစ္စုပ္ပန်ခန္ဓာက အဲလို မရှိဘူး။

အို... တိုတို ပြောကြစို့၊ အခု မြင်နေရတဲ့ ခန္ဓာကြီးက လမ်းထွက်သွားရင် ခွေးဟောင်တယ် ခွေးအဟောင်ခံရတယ်၊ အဆင်မသင့်ရင် အကိုက်ခံရဦးမယ်၊ ဟို... ပစ္စုပ္ပန်ခန္ဓာကတော့ အဲလို မဟုတ်ဘူး ဟေ့၊ ရှင်းရှင်း ပြောရရင် "ခွေးမဟောင်တဲ့ ခန္ဓာကွ–" တဲ့။

မိုးကုတ်ဆရာတော်ဘုရားကြီးက မိန့်ပါသည်။

တစ်ဘ၀သာသနာ

# ကိုယ့်တရား ကိုယ် နာနိုင်အောင် ကြိုးစားကြ

အမရပူရမြို့၌ ဟောကြားနေသော တရားပွဲ တစ်ခုတွင် (၁)နာရီစေ့၍ တိုက်ကပ်နာရီကြီးက "ဒင်–ဒင်–ဒင်–ဒင်" ဟူ၍ ထိုးသောအခါ ဒကာစိန်က ထ၍ လျှောက်တော့၏။ "ဒကာစိန်" ဆိုသည်မှာ အမရပူရသား ဖြစ်သည်။ အသားညိုညို ၀တုတ်တုတ် ကြီး ဖြစ်၏။ မိုက်စုရပ်တွင် နေထိုင်သည်။ ဆရာတော် ကြီးနှင့် ရင်းနှီး၏။

ဆရာတော်ကြီးက တရားပွဲပြီးလျှင် မိုးကုတ် မြို့သို့ ကြွရန် စီစဉ်ထား၏။ သို့ဖြစ်၍ လျှောက်ခြင်း ဖြစ်သည်။

"အရှင်ဘုရား… အခု နာရီက စေ့သွားတော့ တရားပွဲ ပြီးမယ်၊ တရားပွဲ ပြီးရင် အရှင်ဘုရင်က ကြွတော့မှာ၊ တပည့်တော်တို့ ဘယ်သူ့တရားကို နာရမလဲ ဘုရား"

ဤသို့ ရဲရဲတင်းတင်း လျှောက်သောအခါ မိုးကုတ် ဆရာတော်ကြီးက ဤသို့ ပြန်၍ မိန့်သည်–

"ဪ… ဒါလား၊ အဲဒီလိုဆိုရင် ခန္ဓာကိုယ်ကို အပ်ခဲ့မယ်၊ ကိုယ့်ခန္ဓာကို ကိုယ့်ဉာဏ်နဲ့ ကြည့်၊ ဖြစ်ပျက်တွေ မြင်လာမယ်၊ ဒါဟာ ခန္ဓာနဲ့ နာရတာ၊ ကိုယ့်တရား–ကိုယ်နာရတာပဲ၊ နာနိုင် အောင် ကြိုးစားရစ်ကြ" တဲ့။

"တရားနာတယ်"ဆိုတာ သစ္စာတရားတွေကို နာနိုင်ဖို့ အရေးကြီးသည်။ "သစ္စာတရား" ဆိုတာက လည်း စာထဲကသစ္စာကို ပြောသည်မဟုတ်၊ ခန္ဓာထဲက သစ္စာကို ဆိုလိုသည်။

ခန္ဓာထဲမှာကလည်း ရုပ်နှင့် နာမ်သာ ရှိသည်။ ထိုရုပ်နာမ် ၂–ပါး၊ အကျယ်ချဲ့လျှင် ခန္ဓာငါးပါးတို့သည် ဒုက္ခသစ္စာများ ဖြစ်ကြ၏။

ထိုတရားတို့သည် တည်ငြိမ် နေကြသည် မဟုတ်။ စက္ကန့်မလပ်–မိနစ်မလပ် တရစပ် ဖြစ်ပျက် ပြောင်းလွဲနေကြသည်။ ရွေ့လျားနေကြသည်။ မတည် မငြိမ် ဖြစ်နေကြသည်။ ဖောက်ပြန်နေကြသည်။ ယင်း တို့ အားလုံး ဒုက္ခသစ္စာများချည်း ဖြစ်ကြ၏။

သမာဓိ ထူထောင်၍ ဉာဏ်ဖြင့် ကြည့်လျှင် မြင်နိုင်သည်။ ဖြစ်ပျက်ပြောင်းလွဲနေသော ဒုက္ခသစ္စာ တရား တို့ကို မြင်နိုင်၏။ မြင်သော ဉာဏ်ကား မဂ္ဂသစ္စာ ဖြစ်သည်။ ဒုက္ခသစ္စာကို မဂ္ဂသစ္စာဖြင့် မြင်နိုင်၏။

ဤသည်ကား ကိုယ့်ခန္ဓာရဲ့ အဖြစ်အပျက်ကို ကိုယ့်ဘာသာပြန်၍ မြင်နိုင်ခြင်း ဖြစ်၏။ ကိုယ့်ခန္ဓာက ဟောတဲ့ တရားကို ကိုယ်ကိုယ်တိုင် နာယူနိုင်ခြင်း ဖြစ်သည်။

# ကွမ်းသီးလုံးကလေးများဖြင့်

ဆရာတော်ဘုရား စတင်၍ တရားဟောတော်မူ စဉ်က ပဋိစ္စသမုပ္ပါဒ် စက်ဝိုင်းကြီးမပါသေးပါ၊ အလွတ် ပင် ဟော၍ သဘောပေါက်အောင် ရှင်းပြပေးတော်မူ၏၊ ဟောသောအခါတွင်လည်း ထိုင်ရန် ပလ္လင်မရှိသေးပါ၊ အိပ်ခုတင်ပေါ်ကနေ၍ ဟောပြနေခြင်းသာ ဖြစ်ပါ သည်။

ဘေးနားတွင် ကွမ်းအစ်ကြီးတစ်လုံးရှိ၏၊ ယင်း ကွမ်းအစ်ကြီးထဲမှ ကွမ်းသီးလုံးကလေးများကို ထုတ် ယူပြီး ခုတင်နှုတ်ခမ်းပေါ်တွင် စဉ်တန်းပြသည်။

"ဟောဒါက အဝိဇ္ဇာ၊ ဟောဒါက သင်္ခါရ၊ ဒါ ကတော့ ဝိညာဏ်လို့ သိလိုက်၊ ပြီးတော့

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဒါက နာမ်ရုပ်၊ ဒါက သဠာယတန၊ ဒါက ဖဿ၊ ဒါက ဝေဒနာ–လို့ မှတ်ထားကြ။
ထို့အတူ တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝနှင့် ဇာတိ ဇရာ မရဏာတို့အတွက်(၁၂)လုံးပြည့်အောင် စဉ်တန်းပြနေ၏။

ဆရာတော်၏ တောင်ငူမြို့နယ် ဘော်ပလိအရပ်က ထွက်တဲ့ ရွေးကွမ်းသီးလုံးကလေးများသည် စားသုံးရာတွင်သာမက တရားပြရာတွင်လည်း သူတို့ပါ ပါဝင်၍ အသုံးတော်ခံနေကြသည်တကား...။

## ပဋိစ္စသမုပ္ပါဒ် ဒိုးလိုမွှေ၍

တရားနာ ပရိသတ်ထဲမှ ကျောင်းအမကြီး အဘွား ဒေါ်သက်ရင်ကလည်း ဤသို့ စဉ်းစားနေမိပါသတတ်–

"သြော်... တို့အိမ်က ကွမ်းအစ်ထဲက ကွမ်းသီးလုံးတွေက ကွမ်းဝါးရာတွင် အစားခံကြရုံသာ အသုံးဝင်တယ်။

အခု ဆရာတော့်ကွမ်းအစ်ထဲက ကွမ်းသီးလုံးကလေးများကျတော့ ပရိသတ်များ တရားရဖို့အတွက်ပါ တာဝန် ထမ်းဆောင်နေကြတာပါကလား...။

တကတည်း... ဘုန်းကြီး ကျောင်းသားကလေးတွေ စိတန်းပြီး အလုပ် လုပ်နေကြသလို သူ့တာဝန်နဲ့ သူ။

နယ်နယ် မဟုတ်ကြဘူးနော၊ သူတို့ကလေးတွေက ပုထုဇဉ်ဘဝမှ တစ်ဆင့်တက်၊ သောတာပန် သကဒါဂါမ် စတဲ့ဘဝတွေအတွက် သူတို့အကူအညီ ပေးနေကြတာကလား..."

ဤသို့ စဉ်းစားနေမိသည် ဆို၏၊ ဤနည်းအားဖြင့် ဆရာတော်ဘုရားက ကွမ်းသီးလုံးကလေးများ၏ အကူအညီကို ယူကာ ပဋိစ္စသမုပ္ပါဒ်ကို ညက်အောင် ကြေအောင် ဒိုးလိုမွှေ၍ သင်ပြပေးတော်မူခြင်း ဖြစ်လေသည်။

## ပလ္လင်နှင့် စားပွဲနှင့် ပနံ့တင့်

ဤသို့အားဖြင့် ဟောကြားတော်မူလာခဲ့ရာ တရွေ့ တရွေ့နှင့် ပရိသတ်တွေ များ–များလာသည်၊ အစဦးပိုင်းတွင်ကား တရားဟောသည့်ဟန်မျိုး မဟုတ်ဘဲ မရှင်းလင်း၍ စာမေးလာသူတို့အား ရှင်းလင်းပြဟန်မျိုးသာ ဖြစ်သေး၏။

ဤသို့ ရှင်းပြရသည်မှာ ဆရာတော့်အဖို့ အဆန်းမဟုတ်တော့ချေ၊ အဘယ့်ကြောင့်ဆိုသော် အဘိဓမ္မာ ညဝါများကို ချပို့စဉ်ကလည်း ဤသို့ပင်လျှင် မမြင်ရသော သဘောတရားများကို မြင်ရသလို နေအောင် ရှင်းပြနေကျ ဖြစ်သောကြောင့်တည်း၊ ထို့နောက်ပိုင်းတွင်မှ ပရိသတ်ထဲက ဒကာများက–

"ဒီလို မဟုတ်သေးပါဘူး၊ တရားဟောပလ္လင် သီးသန့် ရှိရဦးမှာပေါ့၊ ပြီးတော့ ကွမ်းသီးလုံးကလေးများ ချပြဖို့ရာ ရှေ့မှာ စားပွဲလဲ ထားပေးရမှာပေါ့"

ဟု ပြောလာကြတော့၏၊ ထို့နောက်မှ စီစဉ်ပေးကြသောကြောင့် ကျယ်ကျယ်ပြန့်ပြန့် ငုတ်တုတ်ကုလားထိုင် ပလ္လင်မျိုးနှင့် ရှေ့မှာ စားပွဲတစ်ခု ရောက်လာကြတော

သည်၊ ဤအခြေအနေသည် ယခင်ကထက် ပိုမို၍ ပန်တင့် အဆင်ပြေလာတော့၏။

"တရားဟောပလ္လင်"ဆိုသော်လည်း ရေးအစဉ် အလာ သုံးစွဲလေ့ရှိသော နောက်မှီတကဲနှင့် ဝဲယာနဂါး နှစ်ကောင်၊ ပန်းထောင်ပန်းခက်၊ ပန်းလက် ပန်းကြွတို့ နှင့် ရွှေချထားသော ပလ္လင်မျိုး မဟုတ်ပါချေ၊ ထိုပလ္လင် မျိုး ဆိုလျှင်လည်း ရှေ့တွင် ကွမ်းသီးလုံးတင်၍ ပြရာ ၌ မမြင်သာနိုင်ချေ။

ထို့ကြောင့် လွတ်လွတ်လပ်လပ် ထိုင်၍ရအောင် ကျယ်ကျယ်ပြန့်ပြန့် ဝုတ်တုတ်ကုလားထိုင်မျိုးနှင့် ကွမ်း သီးလုံးတင်၍ ပြလို့ရအောင် ရှေ့တွင် စားပွဲတစ်လုံးကို ချပေးကြခြင်းမျှသာ ဖြစ်လေသည်။

ဤသို့ ဖြစ်လာသောအခါ တရားနာပရိသတ် တို့မှာ ပို၍ မြင်သာလာ၏၊ တင်၍ပြသော ကွမ်းသီးလုံး ကလေးများကို အထင်းသား ပို၍ မြင်လာရတော့သည်၊ ဤနည်းဖြင့် ကြာမြင့်စွာ ဟောပြောလာတော်မူခဲ့၏။

## ကွမ်းသီးလုံးမှ ပလတ်စတစ်ဘဝသို့

ဤနည်းအားဖြင့် ဆရာတော်ဘုရား ဟောကြား တော်မူလာခဲ့ရာ သက္ကရာဇ် ၁၃၂၂-ခု တန်ဆောင်မုန်းလ (ခရစ် ၁၉၆၀-ခု နိုဝင်ဘာလ) ရန်ကုန်မြို့မှ ဦးသံခိုင်နှင့် ဦးထွန်းရင်တို့ ရောက်လာကြသည့် အချိန်တိုင်အောင်ပင် ဖြစ်၏။

ရန်ကုန်မှ လာသူများသည် ယောဂီအသစ်များ သက်သက် ဖြစ်ကြ၍ ဆရာတော်က ပဋိစ္စသမုပ္ပါဒ်ကို အောက်ခြေမှ စပြီး နောက်တစ်ခေါက် အသေးစိတ် ရှင်းပြတော်မူပြန်သည်၊ ထုံးစံအတိုင်း ကွမ်းသီးလုံး ကလေးများကပင် တာဝန်ထမ်းကြရ၏။

ထိုအခြင်းအရာကို ဦးသံခိုင်နှင့်အတူ ပါလာသော ဦးထွန်းရင်က သေသေချာချာ စေ့စေ့စပ်စပ် ကြည့်၍ နာယူနေ၏၊ ဦးထွန်းရင်သည် ရန်ကုန်မြို့တွင် ပန်းချီ ဘလောက် ဒီဇိုင်းလုပ်ငန်း ပိုင်ရှင် တစ်ဦးဖြစ်၏၊ ထို့ကြောင့် ပန်းချီမျက်စိဖြင့် ကြည့်ရှုနေခဲ့သည်။

ဆရာတော့်ထံမှာ ရက်အတန်ကြာသောအခါ ဆရာတော်နှင့် ရင်းနှီးမှု ဖြစ်လာ၏၊ ဆရာတော်အား လည်း မရှင်းလင်းသည်တို့ကို အနည်းအပါး လျှောက် ထား လျှောက်ထားကြည့်သည်၊ ဆရာတော်က စိတ် ရှည်ရှည်နှင့် ရှင်းပြပေးတော်မူ၏၊ ဤနည်းအားဖြင့် အတော်ရင်းနှီးလာသောအခါ ဦးထွန်းရင်က လျှောက် ထား တောင်းပန်ကြည့်သည်-

"ဆရာတော်ဘုရား ယခု ဆရာတော် ပဋိစ္စ သမုပ္ပါဒ် ပြတဲ့အခါ ကွမ်းသီးလုံးကလေးတွေကို ချ-ချပြီး ပြပါတယ်၊ ကွမ်းသီးလုံးအစား ပို၍ မြင်သာအောင် ပို၍ ကြီးတဲ့ အရာဝတ္ထုကလေး များ စီစဉ်ပေးရင် လက်ခံမလားဘုရား..."

"အို... ဒါက မြင်လွယ်အောင်၊ သဘော ပေါက်လွယ်အောင် ကိုယ်စားချပြတဲ့ပစ္စည်းပဲကွ၊ တရား နာတဲ့ ပရိသတ် မြင်လွယ် ထင်လွယ် သဘောပေါက်လွယ်ရင် ပြီးတာပဲ၊ ဘာပစ္စည်း ဖြစ်ဖြစ် ရတယ်"

ဤသို့ မိန့်၍ လက်ခံသောအခါ ဦးထွန်းရင်သည် အချိန်မဆိုင်းတော့ဘဲ ဈေးထဲသို့သွားကာ ပလတ်စတစ် ခွက်ငယ်ကလေးများကို ဝယ်ပြီး လှူတော့သည်။

ဤနည်းအားဖြင့် ပဋိစ္စသမုပ္ပါဒ် ပြရာ၌ အထောက်အကူပြုပစ္စည်း ကွမ်းသီးဘဝမှ ပလတ်စတစ် ခွက်ငယ်ဘဝသို့ တက်လာရတော့သည်။

---

**မှတ်ချက်။** ။ပလတ်စတစ် ခွက်ကလေးများ မှာ မျက်နှာဝ အချင်း တစ်လက်မခွဲခန့်၊ အမြင့် နှစ် လက်မခန့်စီ ရှိကြ၏၊ အရောင်မျိုးစုံ ပြောင်ပြောင် လက်လက်နှင့် မျက်စိပသာဒလည်း ရှိသည်၊ ကိစ္စပြီး၍ ထပ်ထားလျှင် နေရာလည်း ကျဉ်း၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# စက်ဝိုင်းကြီး ဖြစ်ပေါ်လာပုံ

ဆရာတော်သည် ပလတ်စတစ်ခွက်ကလေးများကို ချကာချကာဖြင့် ပဋိစ္စသမုပ္ပါဒ်ကြောင်းကျိုးဖြစ်ပုံ၊ လယ်ပုံ၊ ပြတ်ပုံတို့ကို ပြသတော်မူ၏၊ ရှေးကထက်ပို၍ ပရိသတ်တွေ ထင်ထင်ရှားရှား မြင်သာလာသည်၊ ကျေနပ်မှုတွေ ဖြစ်ကြရ၏၊ နှစ်သက်မှုတွေ ဖြစ်ကြရ၏၊ အတန်ကြာသောအခါ ဦးထွန်းရင်သည် တစ်ဆင့်တက်၍ လျှောက်ပြန်၏–

"ဆရာတော်ဘုရား... ဆရာတော်ဘုရားရဲ့ ဟောပြချက်အရ ပဋိစ္စသမုပ္ပါဒ်အကြောင်း– အကျိုး ဆက်နေပုံတွေကို တပည့်တော်တို့ နားလည်ရပါတယ်။

အကြောင်းကို မဖြတ်တတ်ရင် ပဋိစ္စသမုပ္ပါဒ် ချားရဟတ်လို လယ်ရပုံ ပတ်ရပုံကိုလဲ တပည့်တော်တို့ သဘောပေါက်ရပါတယ်။

ဒီတော့ ကြောင်းကျိုးဆက်နေပုံ၊ မဖြတ်တတ်ရင် လယ်ရပုံ၊ ဖြတ်တတ်လို့ ရှိရင်လဲ ပြတ်သွားပုံတို့ကို ဆရာတော်ဘုရားက စာရွက်ပေါ်မှာ ရေးပြစေချင်ပါတယ် ဘုရား...။

အဲဒါကို တပည့်တော်တို့က ပုံကြီးချဲ့ပြီးတော့ သုံးထပ်သားတို့လို အပေါ်မှာ ရေးမယ် ရေးပြီးတော့ ဆရာတော့်ဘေးမှာ ထောင်ပေးမယ်၊ အဲလိုဆိုရင် ဆရာတော် ရှင်းပြရတာ လွယ်မယ် ထင်တယ်ဘုရား၊ ပို၍လဲ သက်သာမယ် ထင်တယ် ဘုရား..."

ဤသို့ လျှောက်ထားသည်ကို ဆရာတော်ကြီးက "အေးကွ... ဒါဆိုရင် ဒကာ ဒကာမတွေ ပိုပြီး အမြင်ရှင်းမယ်၊ ပို၍လဲ သိလွယ်မယ်ကွ၊ ငါ စီစဉ်လိုက်အုံးမယ်" ဟု မိန့်တော်မူကာ လက်ခံတော်မူပါသတတ်။

# စက်ဝိုင်းကြီး ဖြစ်ပေါ်၍လာ

နောက်တစ်နေ့တွင် စာရွက်ငယ်ပေါ်၌ သပ်သပ်ရပ်ရပ် ဝိုင်းထားသော စက်ဝိုင်းကလေး၊ ယင်း၏ အတွင်း၌ ပဋိစ္စသမုပ္ပါဒ်အင်္ဂါ ၁၂–ပါး၊ သူ့နေရာနှင့်သူ အကန့်–အကန့်ခြား၍ ထည့်သွင်းပြထား၏၊ သစ္စာအားဖြင့်လည်း ခွဲပြထားသည်၊ အလွှာအားဖြင့်လည်းကောင်း၊ ကာလအားဖြင့် လည်းကောင်း၊ အစပ်အားဖြင့် လည်းကောင်း၊ ဝဋ်အားဖြင့်လည်းကောင်း၊ အခြင်းအရာအားဖြင့်လည်းကောင်း ခွဲခြားစိတ်ဖြာ၍ ပြထား၏။

ထိုသို့ စီစဉ်ထားသော စက်ဝိုင်းကလေးကို ဦးထွန်းရင်တို့အား ပေးအပ်ချီးမြှင့်သည် ဆို၏။

ယင်းကိုမှ တစ်ဖန် ဦးထွန်းရင်တို့က သုံးထပ်သား အပြားကြီးပေါ်တွင် ပုံကြီးချဲ့ကာ စက်ဝိုင်းကြီးရေးလိုက်ကြ၏၊ ပြီးလျှင် ယင်းစက်ဝိုင်းကြီးအတွင်း၌ (ဆရာတော် ညွှန်ပြထားသည့်အတိုင်း) သူ့နေရာနှင့်သူ စာသားတို့ကို သွင်း၍ ပေးလိုက်သည်၊ ထိုအခါမှစ၍ ဆရာတော်၏ ဘေးနားတွင် ပဋိစ္စသမုပ္ပါဒ် စက်ဝိုင်းကြီး ပေါ်ပေါက်လာတော့၏။

ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်းကြီးနှင့် ပြကာမှ ပို၍ပင် စိတ်ဝင်စားစရာ ဖြစ်လာကြသည်၊ ပရိသတ်တို့က များ၍ များ၍ လာသောအခါ စက်ဝိုင်းကြီးအတွင်းက စာသားတို့ကို ဝေးတဲ့သူတို့က သဲသဲကွဲကွဲ မမြင်ကြရ

ထို့ကြောင့်နောက်ပိုင်းတွင်ဝေးတဲ့သူများ မြင်ရအောင်ရယ်၊ နောက်တစ်နည်း ကိုယ့်အိမ်မှာ ကိုယ့်ဘာသာကိုယ် ပြန်၍ လေ့လာနိုင်အောင်ရယ် ရည်ရွယ်၍ စက္ကူစက်ဝိုင်းအသေးစားကလေးတွေပါ စီစဉ် ရိုက်နှိပ်ဖြန့်ဝေပေးလေသည်၊ ယခုအခါတွင်ကား လူတိုင်းအနှံ့ အိမ်တိုင်းအနှံ့ မြို့ရွာအနှံ့ ပြန့်၍နေတော့သည်။

## ကြောင်းကျိုး ဆက်စပ်နေဟန်ပြ စက်ဝိုင်း



## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဤစက်ဝိုင်းအတွင်း၌ ပဋိစ္စသမုပ္ပါဒ်အင်္ဂါ ၁၂-ပါးကို ကိုယ်ထည်အဖြစ် တည်ထား၍ အသွယ် ရှစ်သွယ်အားဖြင့် ဝေဖန်နိုင်သည်။

မူလအားဖြင့် နှစ်ဖြာ၊ သစ္စာအားဖြင့် နှစ်ခု၊ အလှ္ဂာအားဖြင့် လေးလှ္ဂာ ပါသည်၊ အင်္ဂါအားဖြင့် တစ်ဆယ့်နှစ်ပါး၊ ကိုယ်ထည်အဖြစ် ထား၍ ပါရှိ၏၊ အစပ်အားဖြင့် သုံးစပ်၊ ဝဋ်အားဖြင့် သုံးသွယ်၊ ကာလအားဖြင့် သုံးဖြာ၊ အခြင်းအရာအားဖြင့် နှစ်ဆယ် ပါရှိသည်၊ အားလုံး (၈)သွယ်ဖြစ်၏။

**မှတ်ချက်။** ။ဤသို့ ပဋိစ္စသမုပ္ပါဒ် စက်ဝိုင်း **စီစဉ်သည်ကို** အချို့က အမြင်မကြည်ကြ၊ အသစ်အဆန်း **ထွင်သည်** ဟုအပြစ်ဆိုလိုကြ၏၊ အသစ်အဆန်းထွင် **သည်** မဟုတ်ပေ၊ ရှေးကပင် ရှိခဲ့၏၊ မိုင်းကိုင်ဆရာတော် **ဘုရားကြီး စီစဉ်**ထားသော ပဋိစ္စသမုပ္ပါဒ် စက်ဝိုင်း ရှိ **သည်။**

**မန္တလေးမြို့**တော်ကြီးတွင် မင်းတုန်းမင်းကြီး **လက်ထက်က** မင်း ကိုးကွယ်ခံ အကျော်အမော် **(ပဏ္ဍိတမဇေ သိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု)** ဘွဲ့တံဆိပ်တော်ရ မိုင်းကိုင် ဆရာတော်ဘုရားကြီးသည် **(ဝိထိပုံ၊ ဘုံစဉ်၊ ဆန်းပုံ၊ သိမ်ပုံ)** ကျမ်းစာအုပ်ကြီးတစ်အုပ် ရေးသား ထုတ်ဝေဖူးသည်။

အလျား ၁၂လက်မ၊ အနံ ၈လက်မခန့် ရှိ စာအုပ်ကြီး ဖြစ်သည်၊ မန္တလေးမြို့၊ ကျောက်သွေးတန်း၊ တမ္ဗဒီပတိုင်း စာပုံနှိပ်တိုက်မှ သက္ကရာဇ် ၁၂၈၀-ခု နှစ်တွင် ရိုက်နှိပ်၏၊ ယင်းစာအုပ်ကြီး စာမျက်နှာ(၆၈) တွင် ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်း ပါသည်။

မိုးကုတ် ဆရာတော်ဘုရားကြီး၏ အနီးတွင် ယင်းစာအုပ်ကြီး ရှိ၏၊ သို့သော် မိုးကုတ်ဆရာတော်ဘုရားကြီးက ယင်းစက်ဝိုင်းကို အကုန် ကူးယူသည် မဟုတ်၊ ပုံတူ ကူးချသည်ကား မဟုတ်၊ အခြေခံမျှသာ အမှီပြုဟန် ရှိသည်၊ အဘယ့်ကြောင့်ဆိုသော် အတွင်းစာသားချင်း ထားပုံ သိုပုံချင်း မတူကြသောကြောင့် ဖြစ်လေသည်။

**မှတ်ချက်။** ။၁၃၂၂-ခု တပေါင်းလဆန်း ၁၄-ရက် (ခရစ် ၁၉၆၁-ခု ဖေဖော်ဝါရီ ၂၇-ရက်)နေ့တွင် ဟောသောတရားပွဲ၌ ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်းကြီးကို ဆရာတော်ကြီး ထောက်ပြနေပြီ၊ ထိုအချိန်မှစတင်၍ ပဋိစ္စသမုပ္ပါဒ် စက်ဝိုင်းကြီးကို အသုံးပြုနေလေပြီ။

[မိုး(၅) နှာ-၁၁၅။]

## ဆရာတော်ဘုရားကြီး ကိုယ်တိုင်ဟော ပဋိစ္စသမုပ္ပါဒ်ဒေသနာ

(၁၇.၁၁.၆၁)

"ခါတိုင်းတော့ ဒီလိုအဝိုင်းကြီးနဲ့ မပြခဲ့ပါဘူး၊ ပုံတန်း-တန်းပြီး ပြနေခဲ့ပါတယ်၊ အခုတော့ဖြင့် ကုသိုလ်လုပ်တဲ့ပုဂ္ဂိုလ်တွေကလဲ ပါလာပြန်တော့ စာရွက် စက်ဝိုင်းတွေ ဝေကြ ကမ်းကြ၊ လှူကြ တန်းကြနဲ့၊ တစ်ခါ ပုံစံကြီးကိုလဲ မောင်ထွန်းရင်တို့က လုပ်ပြီးပေးပြန်တော့ သိဖို့အကြောင်းတွေ ဖြစ်လာတော့တယ်"

[မိုး(၆)နှာ-၉၇။]

ဤသို့အစချီပြီးလျှင် မိုးကုတ်ဆရာတော်ဘုရားကြီးက ကိုယ်တော်တိုင် ပဋိစ္စသမုပ္ပါဒ်ဒေသနာတော်ကို အခြေခံမှစပြီး ဟောပြတော်မူထားပါသည်။

ယင်းဟောပြောချက်ဒေသနာတို့ကား မိုးကုတ်ဝိပဿနာစာအုပ်အမှတ်စဉ်(၆)တွင် စာမျက်နှာ(၉၀)မှစ၍-

(၁၇.၁၁.၆၁) (၁၈.၁၁.၆၁)

(၁၉.၁၁.၆၁) (၂၀.၁၁.၆၁)

(၂၁.၁၁.၆၁) နေ့စွဲတို့ဖြင့်

အပြည့်အစုံ ဟောပြထားလျက် ရှိပါသည်၊ အသစ်အသစ် ယောဂီများကို ငဲ့ညှာ၍ ဆရာတော်ဘုရားကြီးက ပြန်လည် ဟောပြခြင်း ဖြစ်ပါသည်-တဲ့။

## ပဋိစ္စသမုပ္ပါဒ်ကို အခြေခံလျက်

ဆရာတော်ဘုရား၏ ဟောပြောပုံမှာ ကြုံရာကျပန်းဟောသည် မဟုတ်ပေ၊ အမြဲတမ်း ပဋိစ္စသမုပ္ပါဒ်ကို အခြေခံတော်မူ၏၊ ပြီးမှ သစ္စာကို ပြတော်မူသည်၊ ထို့ကြောင့် ဆရာတော်ဘုရား၏ တရားတော်များကို လေ့လာကြည့်လျှင် ရှေ့ပိုင်း၌ အကြောင်းအကျိုး ပဋိစ္စသမုပ္ပါဒ်ကို ပြတော်မူ၏၊ ပြီးမှနောက်ပိုင်းတွင် သစ္စာဆိုက်အောင် ပြသည်ကို တွေ့ကြရပေမည်။

ထို့ကြောင့် မိုးကုတ်ဆရာတော်ကြီး တရားဟောပြီဆိုလျှင် ဘေးနားတွင် ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်းကြီးကို တွေ့ကြရမည် ဖြစ်၏၊ ထို့နောက် ဆရာတော်ကြီးက တုတ်ကြီးတစ်ချောင်းဖြင့် ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်းကြီးကို ထောက်၍ ထောက်၍ ရှင်းပြနေသည်ကို တွေ့ရပေမည်။

တစ်ခါတစ်ရံတွင်မူ ရှေ့နားက စားပွဲ မျက်နှာပြင်ပေါ်တွင် ပလတ်စတစ်ခွက်ကလေးများကို ချကာ ချကာဖြင့် ရှင်းပြနေသည်ကိုလည်း ဖူးတွေ့နိုင်ပြန်၏၊ ဤသည်ကား အများနှင့် မတူသော ဟောဟန်ကလေးများ ဖြစ်တော့သည်။ [ရန်ကုန်မြို့၊ ဦးသံဒိုင်၏ တိုက်၌ ဟောစဉ်တုန်းက ရိုက်ကူးထားသော ရုပ်ရှင်ပိတ်ကားပေါ်တွင် ဆရာတော်ကြီးက တုတ်ကြီးဖြင့် ထောက်ပြနေသည်ကို ဖူးတွေ့နိုင်၏။]

ရှေး အခါက နှုတ်တော် သက်သက်ဖြင့် ရိုးရိုးဟောပြရှင်းလင်းခြင်းထက် ယခုလို စက်ဝိုင်းကြီးဖြင့် တစ်မျိုး၊ ခွက်ကလေးများဖြင့် တစ်ဖုံ၊ နည်းမျိုးစုံအောင် ရှင်းပြသောအခါ ပို၍ နားလည်လွယ်ကြသည် ဆို၏၊ ပို၍ သဘောပေါက်လွယ်ကြသည် ဟူ၏။

## လက်ချောင်းကလေးများ ချိုး၍–ချိုး၍

မြတ်စွာဘုရား ဓမ္မစကြာတရားဦး ဟောတော်မူစဉ်တုန်းက ဖြစ်သည်၊ ပဥ္စဝဂ္ဂီများ တရားနာရာ၌ ထင်လွယ် မြင်လွယ်အောင် ကိုယ်တော်မြတ်ကြီးက လက်ချောင်းကလေးများကို ချိုး၍ ချိုး၍ ပြကာ ဓမ္မဒေသနာများ ဟောကြားတော်မူခဲ့ဖူးပါသည်။

> "ဒါက–ကာမဂုဏ်အာရုံဘက် နစ်မျောတဲ့ ကာမသုခလ္လိကာနုယောဂလမ်း၊ ဒီဘက်ကတော့ ခန္ဓာကိုယ်ကို လွန်လွန်ကဲကဲ ညှဉ်းဆဲတဲ့ အတ္တကိလမထာနုယောဂလမ်း။
>
> အဲဒီလမ်း၂–သွယ်ရဲ့ကြား အလယ်ကောင်က သွားတာကတော့ မဇ္ဈိမာပဋိပဒါလမ်း၊ ငါ ဘုရားသွားတဲ့လမ်း"

ဤသို့ ပြရာတွင် ထိုစဉ်က ကိုယ်တော်မြတ်ကြီး၏ လက်ချောင်းကလေးတို့သည် အထောက်အကူပြုပစ္စည်းကလေးများ ဖြစ်၍သွားကြတော့၏။

ဤသို့လျှင် အဘ ဘုရားရှင်ကိုယ်တော်မြတ်ကြီးကို အတုယူ၍ အထောက်အကူပြုပစ္စည်းကလေးများဖြင့် ဟောကြားလေသလော မပြောတတ်၊ ပို၍ သဘောပေါက်ကြသည်ကား အမှန်ပင် ဖြစ်တော့သည်။

ထို့ကြောင့် မိုးကုတ်ဆရာတော်ကြီးကို ကြည်ညိုကြ လေးစားကြ ကျေးဇူးတင်ကြ၏၊ သို့ဖြစ်၍ ကဗျာဆရာ တစ်ဦးက ကြည်ကြည်နူးနူးဖြင့် တေးထပ်ကို ရေးစပ်လျက် အောက်ပါအတိုင်း မိုးကုတ်ဆရာတော်ကြီးအား ပူဇော်ထားလေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## စက်ဝိုင်းပြပညာ၊ ယှဉ်စရာမြင်ဘူး တေးထပ်

၁။ ဆယ့်နှစ်ထွေ ကွက်သိုင်းချ၊ တွက်နိုင်းဆ သင်္ချာ၊

၂။ စက်ဝိုင်းပြ ပညာမှာ၊ ယှဉ်စရာ မြင်ဘူး။

၃။ လေးမဂ်ဆိုက် ခေမာဝင်အောင်၊ ဒေသနာစဉ် ဟောတဲ့ထေရ်မူး။

၄။ ဖြစ်ပျက်တဲ့ ကျွန်သံသရာ၊ လွန်ရန်သာ ရည်စူး။

၅။ ဝန်ခန္ဓာ မကြည်နူးပါနှင့်၊ ဝစီကျူး မြွက်ရှာ။

၆။ ဒေသနာ ထုတ်ပြန်ပြ၊ ရုပ်နာမ်ဓမ္မ ရှုကြခါခါ။

၇။ သမုဒယ တွယ်အာသာကို၊ အဆွယ်တဏှာ ပယ်ကာချ၊

၈။ အလယ်ဓမ္မာအရ မဂ်လမ်းအဖြာဖြာ၊ တက်လှမ်း ဘာဝနာ။

၉။ ဘဝဂ်လွှမ်းတဲ့ အာသဝါကို၊ မသာယာ ရှုံမုန်း နိုင်မှလေး။ ။

ရှင်းလင်းဖော်ပြချက်။ ။မိုးကုတ် ဆရာတော်ကြီးသည် ပဋိစ္စသမုပ္ပါဒ် အင်္ဂါ(၁၂)ရပ်ကို စက်ဝိုင်းကြီး ထဲမှာ အကန့်–ကန့်၍ အကွက်ချပြီးလျှင် သူ့နေရာနှင့် သူ အင်္ဂါရပ်တွေကို သွင်းပြထားတော်မူ၏၊ ဒေသနာစဉ် ကိုလည်း လေးမဂ် လေးဖိုလ်ဆိုက်အောင် စီစဉ်ဟောပြ တော်မူ၏။

ပထမ ဖြစ်ပျက်တွေ မြင်အောင်ရှုပါ၊ ဖြစ်ပျက် တွေ မြင်ပြီးနောက် ဖြစ်ပျက်ကို လွန်မြောက်အောင် ရည်စူး၍ ခန္ဓာဝန်ကို မကြည်နူး မမက်မောပါနှင့်ဟု ခဏ–ခဏ ဝစီမြွက်ပြီး မှာတော်မူသည်။

ထို့ပြင် သမုဒယတဏှာကို ပယ်နိုင်ဖို့ မဇ္ဈိမာ ပဋိပဒါအလယ်လမ်းဖြင့် တက်လှမ်းပါ၊ ပွားများပါ၊ ဒါမှသာ ဘဝဂ်တိုင်အောင် လွှမ်းတဲ့ အာသဝတရား တွေကို မသာယာဘဲ ရှုံမုန်းနိုင်လိမ့်မယ်၊ ရှုံမုန်းနိုင်မှလဲ ပဋိစ္စ သမုပ္ပါဒ် စက်ရဟတ် ပြတ်နိုင်မှာ ဖြစ်တယ်– ဟူလို။ ။

ဤသို့လျှင် ကဗျာဆရာက မိုးကုတ်ဆရာတော် ကြီးအား ချီးကျူး ဂုဏ်ပြု ပူဇော်ထားသည်၊ "ပဋိစ္စ သမုပ္ပါဒ်နှင့် ပတ်သက်လာလျှင်တော့ အခုခေတ်မှာ မိုးကုတ် ဆရာတော်ကြီးဟာ အကျော်အမော်ကြီးပါပဲ၊ ဒိုးလိုမွှေနိုင်တဲ့ ပုဂ္ဂိုလ်ကြီးပါပဲ–တဲ့၊ ယှဉ်ပြိုင်မည့်သူ တောင် မမြင်ဘူး"–တဲ့။ ဤသို့ ဂုဏ်ပြုထားသည်။

"ပဋိစ္စသမုပ္ပါဒ် ဒိုးလိုမွှေ၊
ခုခေတ်အနေ မိုးကုတ်ပါပဲ"

## လူမိုက်ခေါင်းကို ခေါက်သလို

မိုးကုတ်ဆရာတော်ကြီးရဲ့ ပဋိစ္စသမုပ္ပါဒ်စက်ဝိုင်း ကြီးကဖြင့် ဟည်းနေအောင် ခန့်ညားလှပါ၏၊ ကွက် ကွက် ကွင်းကွင်းနှင့် "ထင်း"ခနဲ နေအောင်လည်း ရှင်းလှပါသည်၊ တရားဟောနေတော်မူခိုက်တွင် ဘေး နားက ဝိုင်းဝိုင်းကြီး ရပ်တည်ပြနေသည်မှာလည်း လမင်းကြီးလို ကျက်သရေ ရှိလှပါသည်။

အကွက်ကြီး ၄–ကွက်တွင် ဆိုင်ရာ ဆိုင်ရာ ပဋိစ္စသမုပ္ပါဒ် အင်္ဂါရပ်တွေ ထည့်သွင်း၍ လောက သဘာဝနှင့် ဟပ်ပြီး ကျကျနန သရုပ်ခွဲပြလျှင် လုလု ပပ အဓိပ္ပာယ်တွေ ပေါ်လာကြပါသည်။

လူမိုက်တွေ လူလိမ်လူကောက်တွေက ပရိယာယ် ကြွယ်ကြွယ် သုံး၍ ကိုယ့်အကုသိုလ် ကိုယ့်အပြစ်ကို ဖုံးကြသော်လည်း လုံးဝ မလုံ၊ ပဋိစ္စသမုပ္ပါဒ်ဖြင့် စစ် လိုက်လျှင် ဓာတ်မြစ်ပါ ဖော်လျက် ဘွား–ဘွားကြီး ပေါ်လာတတ်ကြ၏၊ လူမိုက်ခေါင်းကို "ဒေါင်"ခနဲ နေအောင် ခေါက်သလို ဖြစ်သွားသည်။

## တစ်ဘဝသာသနာ

ဒါန သီလ စတဲ့ ကုသိုလ်ကိစ္စတွေမှာ အဝိဇ္ဇာဖုံး၍ မသိလုံးထွားထွားဖြင့် ဝဋ်စည်းစိမ်တွေကို တောင့်တပြီး ပြုလုပ်တတ်ကြ၏၊ အကောင်းတွေထင်၍ တောင့်တမိခြင်း ဖြစ်သည်။

"ဒါဟာ ဒုက္ခသစ္စာတွေဟဲ့" "ရလာမယ့်အကျိုးတွေဟာ ဒုက္ခ သစ္စာတွေဟဲ့"လို့ လူမိုက်ခေါင်းကို "ဒေါင်"ခနဲနေအောင် ခေါက်သလို ပဋိစ္စသမုပ္ပါဒ်က ထောက်ပြ၏။

တစ်ဖန် သန်းခေါင် လကွယ်၊ တောအုပ်လယ်မှု အဝိဇ္ဇာမှောင်ထုကျ၍ ပြုလုပ်သမျှ အကုသိုလ်တို့၏ အကျိုးသည်လည်း ဒုက္ခသစ္စာတွေပင် ဖြစ်သည်၊ "နင်မသိဘူးလားဟဲ့"လို့ ဆိုဘိသကဲ့သို့ "ဒေါင်"ခနဲ နေအောင် ခေါက်လိုက်ပြန်၏၊ "အံမယ်လေး... ကြောက်ပါပြီဗျ"ဟု လူမိုက်က ဆိုရသလို ဖြစ်သည်။

ထို့ပြင် ကုသိုလ်၊ အကုသိုလ်ရောရှ်၍ ပြုလုပ်သမျှသည်လည်း ဒုက္ခတွေပင် ရော၍ နှော၍ အကျိုးကို ရစေပြန်၏၊ ဒုက္ခသစ္စာတွေပင် ဖြစ်သည်၊ အခေါက်ခံရပြန်၏၊ "အံမယ်လေးဗျ ကြောက်ပါပြီ၊ ဟိုတုန်းက မသိခဲ့လို့ပါ"ဟု ဆိုရလောက်အောင် ဖြစ်ပြန်သည်။

ဤသို့ ပဋိစ္စသမုပ္ပါဒ်နှင့် တိုင်းကြည့် ထောက်ကြည့်လေတိုင်း လူမိုက်တို့အဖို့ အခေါက် ခံရသလို ဖြစ်၏၊ သို့ဖြစ်၍ ဤသို့ ဆိုကြသည်

"ပဋိစ္စသမုပ္ပါဒ် တုတ်နဲ့ထောက်၊
လူမိုက်ခေါင်းကိုခေါက်–ဒေါက်၊
ဘာ–ခုမှ ကြောက်ပါပြီလဲ"

## အောင်မြင်ခြင်း၏ အကြောင်းရင်းတစ်ခု

အစဉ်အလာအားဖြင့် သိနေကြတာက "တရားဟောတယ်ဆိုရင် အသံကောင်းကောင်းနဲ့ ဂါထာရွတ်၊ အနက်ပေး၊ အဓိပ္ပာယ်ပြော၊ ဝတ္ထုကြောင်း သာကေတွေနဲ့ လုလုပပ မြိုင်မြိုင်ဆိုင်ဆိုင်" ... သည်လိုပဲ ထင်ခဲ့ကြပါတယ်။

မိုးကုတ်ဆရာတော်ကြီးကား ထိုသို့ မဟုတ်ချေ၊ ဆန့်ကျင်ဘက်ကြီးပင် ဖြစ်၏၊ ပါဠိကို နည်းနိုင်သမျှ နည်းထားသည်၊ မရွတ် မဖြစ်ပါမှ နည်းနည်းပါးပါး ရွတ်တတ်သည်၊ ရွတ်ပြန်တော့လည်း တစ်ပုဒ်ချင်း အနက်ပေးနေသည် မဟုတ်၊ ထို ပါဠိ စာပိုဒ်စု၏ အဓိပ္ပာယ်ကို ငုံခြုံပြီး ဘာသာ ပြန်လိုက်သည်။

သည်တော့ အားလုံးက နားလည်ကြတာပေါ့၊ နားလည်တော့ "ကောင်းတယ်"လို့ ပြောလာတော့တာပေါ့၊ ဒါဟာ အောင်မြင်ခြင်းရဲ့အကြောင်းရင်းတစ်ခုပါပဲ။

ဆရာတော်ကြီး ပြောနေတဲ့ စကားတွေဟာ ဝါကျ မှန်လှတယ်တော့ မဟုတ်ဘူး၊ သူ့စကားလုံးတွေကို လိုက်ပြီး စာနဲ့ ကူးကြည့်ရင် ပေါ်လာတယ်၊ ဝါကျ မမှန်ဘူး၊ ဒါပေမယ့် စုလိုက် ပေါင်းလိုက်တော့ အဓိပ္ပာယ်တွေ ပေါ်လာတယ်၊ သိပ်ကောင်းတဲ့ အချက်အလက်တွေ ဖြစ်လာတယ်။

## ခင်ဗျားတို့ လူပါးတွေပဲ

ဆရာတော်ကြီးက အဝေးမှ ရောက်လာကြတဲ့ ယောဂီတွေကို အထူးပို၍ သတိပေး၏၊ တရားအလုပ်တွင် ကြိုးကြိုးစားစား အားထုတ်စေချင်သည်၊ ထို့ကြောင့် တစ်နေ့တွင် တရားပွဲထဲ လူပုံ့အလယ်၌ ဦးသံဒိုင်နှင့် ဦးထွန်းရင်တို့ကို ဤသို့ ဆိုတော်မူ၏–

"ဦးသံဒိုင်တို့ ကိုထွန်းရင်တို့...

ခင်ဗျားတို့က လူပါးတွေပဲ..."

ဤသို့ မိန့်လိုက်သောအခါ ဦးသံဒိုင်နှင့် ဦးထွန်းရင်တို့သည် "ဒိန်း"ခနဲ တုန်လှုပ်ထိတ်လန့်သွားကြ၏၊ ၂-ယောက်လုံးပင် လူပုံအလယ်မှာ ခေါင်းငုံ့ပုဝင်သွားကြတော့၏။ "ဘာများပါလိမ့်"ဟုလည်း နားစွင့်နေကြသည်။

"ဘာလို့လဲဆိုတော့ ဦးသံဒိုင်က အရောင်းအဝယ်လုပ်ငန်းတွေနဲ့ ရန်ကုန်မှာ ဝင်ငွေတွေ ကောင်းတယ်၊ ကိုထွန်းရင်ကလဲ ဘလောက်လုပ်ငန်းတွေနဲ့ ဝင်ငွေတွေ ရှိတာပဲ၊ ဒါတွေကို ချုပ်တည်းဖယ်ထားခဲ့ပြီးတော့ ဒီ(အမရပူရ)ကို ရောက်လာကြတာ မဟုတ်လား (မှန်ပါ ဟုတ်ပါတယ်ဘုရား)

ဒါကြောင့် "အတော်ပါးတဲ့လူတွေ"လို့ ဆိုရတာပဲ၊ ဘာပါးတုံးဆိုတော့ "လူလယ်တွေ၊ လူနတ်တွေ၊ လူလိမ်တွေ"လို့ ဆိုလိုတာ မဟုတ်ဘူးကွ၊ ကိလေသာထုပါးလို့ ဒီရောက်လာကြတာ၊ ဒါ့ကြောင့် "လူပါးတွေ"လို့ ပြောတာ (မှန်ပါ ဘုရား)

စာလိုတော့ "အပ္ပ ရဇက္ခ"လို့ ခေါ်တာပေါ့၊ "အပ္ပ ရဇက္ခ"ဆိုတာ "ကိလေသာမြူနည်းပါးသူ"လို့ အဓိပ္ပာယ်ရတယ်ကွ (မှန်ပါဘုရား)

အေး... ဒါ့ကြောင့် လူပါးတွေပီပီ ထိထိ ရောက်ရောက် ဖြစ်အောင် လုပ်ကြစမ်းကွာ (မှန်ပါဘုရား)

ထိုအခါကျမှ ဦးသံဒိုင်တို့ ဦးထွန်းရင်တို့ဟာ အသက်ရှူလာနိုင်ကြတော့၏၊ စောစောကမူ ထိတ်လန့်မှုန်းကျပ်သွားတော့သည်၊ အခုမှပဲ ခေါင်းထောင်လာနိုင်တော့၏၊ တော်ပါသေးရဲ့။

---

**မှတ်ချက်။** ။စာအုပ်အမှတ်စဉ်(၁)နှာ-၄၅၃။

## အများအတွက် ခန္ဓာကိုယ်ပြုပြင်နေရ

ကုန်ခဲ့တဲ့နှစ်က စပြီး ယခုနှစ်အထိ တရားပွဲတွေက ပို၍ စိပ်လာသည်၊ ထို့ကြောင့် ပင်ပန်းမှုဒဏ်ကများလွန်းလာ၍လော မပြောတတ်၊ ယခု ၁၃၂၂-ခုဆောင်းတွင်းပိုင်း တပို့တွဲလဆန်း ၄-ရက်နေ့မှာ မန္တလေးမြို့ ဦးချစ်ဆွေ+ဒေါ်မမတို့ နေအိမ်စံကျောင်းတွင် ဆရာဝန်ကြီးတို့ဖြင့် ကြပ်မကုသနေရပြန်၏။

ကျန်းမာရေးအတွက် အထူး ဂရုစိုက်နေကြရသည်၊ ဆရာဝန်တို့ဖြင့် ဆေးထိုး၊ ဆေးစား၊ မြန်မာအနှိပ်သမား၊ အကြောပြင်ဆရာတို့ဖြင့်လည်း ပြုပြင်နေရသည်။

ညနေခင်းအချိန်များတွင် စကြံကြွတော်မူတတ်၏၊ တစ်ခါတစ်ရံ မန္တလေး အောင်ပင်လယ် ကန်တော်ကြီးအထိ လမ်းလျှောက်သည်၊ တစ်ခါတစ်ရံတွင်လည်း ရန်ကင်းတောင်ခြေ၊ တစ်ခါတစ်ရံ မန္တလေး တောင်ခြေတို့ကို ကားဖြင့် ကြွ၍၊ ထိုအနီးရောက်မှ ခြေကျင်စင်္ကြံကြွတတ်သည်၊ နောက်က ဒကာ တစ်ယောက်စ နှစ်ယောက်စ လိုက်ရတတ်၏။

စဉ်ဆက်မပြတ် ပျက်စီးနေသော ခန္ဓာကိုယ်ကြီးမှန်းကား သိပါ၏၊ ထိုသို့ သိသော်လည်း အများအတွက် တရားဟောစရာတွေက များစွာ ကျန်သေးသောကြောင့် ခန္ဓာကိုယ်ကြီးကို ပြုပြင်ပေးနေရသည်။

## အမည်းအဖြူ မရောတဲ့ကံ အားကိုး

ဒကာ ဒကာမတို့... ကံ ၄-မျိုးရှိတယ် (မှန်ပါ) နံပါတ်(၁)က အမည်းကံ၊ နံပါတ်(၂)က အဖြူကံ၊ နံပါတ် (၃)က အမည်းအဖြူရောတဲ့ကံ၊ နံပါတ်(၄)က အမည်းအဖြူ မရောတဲ့ကံ (မှန်ပါဘုရား) မှတ်မိပြီလား၊ (မှတ်မိပါပြီ ဘုရား)

၁။ အမည်းကံ
၂။ အဖြူကံ
၃။ အမည်း+အဖြူရောတဲ့ကံ
၄။ အမည်း+အဖြူမရောတဲ့ကံ

ဒါတွေဟာ မဇ္ဈိမပဏ္ဏာသ ကုက္ကုရဝတီသုတ်မှာ လာတယ် (မှန်ပါ) အဲဒီမှာ အမည်းကံ ဆိုတာက ကာယကံ သုံးပါး၊ ဝစီကံလေးပါး၊ မနောကံသုံးပါး ပေါင်း(၁၀)ပါး။ အဲဒါတွေ ပျက်ပြားနေပြီ။

ပုဂ္ဂိုလ်တစ်ယောက်မှာ အဲဒီ(၁၀)ပါး မကောင်းဘူးဆိုရင် ဒုစရိုက်(၁၀)ပါးတွေ လုပ်မိနေပြီ၊ အကုသိုလ်တွေ လုပ်မိနေပြီ၊ အကုသလကမ္မပထ(၁၀)ပါး လုပ်မိနေပြီ၊ အဲဒါတွေဟာ အမည်းကံတွေပဲ (မှန်ပါ) အကျိုး ပေးရင် အမည်းကိုပဲ အကျိုး ပေးမှာပေါ့ (မှန်ပါဘုရား)

ပုဂ္ဂိုလ်တစ်ယောက်မှာ ဆိုခဲ့ပြီး(၁၀)ပါး ကောင်းနေတယ်ဆိုရင် သုစရိုက်(၁၀)ပါး ဖြစ်နေပြီ၊ ကုသိုလ်တွေ လုပ်မိနေပြီ၊ ကုသလကမ္မပထ(၁၀)ပါး ဖြစ်နေပြီ၊ အဲဒါတွေဟာ အဖြူကံတွေပေါ့ (မှန်ပါဘုရား) အကျိုးပေးရင် အဖြူကိုပဲ အကျိုးပေးမယ် (မှန်ပါ)

ပုဂ္ဂိုလ်တစ်ယောက်မှာတော့ အမည်းရော+အဖြူရော ရှိနေယင် အမည်း+အဖြူရောတဲ့ကံ ဖြစ်နေပြီ၊ (မှန်ပါ) အကျိုးပေးရင် အမည်း+အဖြူရောလျက် အကျိုးပေးမှာပဲ (မှန်ပါဘုရား)

* နံပါတ်(၄)ကတော့ အမည်း+အဖြူမရောတဲ့ကံ (မှန်ပါ) "အမည်းအဖြူမရောတဲ့ကံ"ဆိုတာ မဂ်လေးပါး၌ ယှဉ်တဲ့ စေတနာကံကို ပြောတာ (မှန်ပါဘုရား) အကျိုးပေးရင် အမည်းအဖြူမရောတာကို အကျိုးပေးမှာပဲ (မှန်ပါ) "အမည်း+အဖြူမရော"ဆိုတာ နိဗ္ဗာန်ကို အကျိုး ပေးမှာ (မှန်ပါဘုရား) ဒါ့ကြောင့် နံပါတ်(၄)ကံဖြစ်အောင် လုပ်ကြ (မှန်ပါဘုရား)

* အကဏှံ အသုက္ကံ့ ကမ္မက္ခယကရံ
စတုမဂ္ဂစေတနာကမ္မံ အဓိပ္ပေတံ။

## ဆိုင်ရာကိုယ်စီ အကျိုးပေးကြခြင်း

အဲဒီလေးမျိုးတွင် အမည်းကံက အပါယ်လေးပါးကို အကျိုးပေးမယ်၊ အပါယ်ကို ပို့မယ် (မှန်ပါ)

အဖြူကံက လူ့ပြည် နတ်ပြည် ဗြဟ္မာ့ပြည် အကျိုးပေးမယ် (မှန်ပါ)

အမည်း+အဖြူ ရောတဲ့ကံက သုခ-ဒုက္ခ ရောပြီး အကျိုးပေးမယ် (မှန်ပါ) ဥပမာ အကုသိုလ်ကံက တိရစ္ဆာန်ဘုံသို့ ပို့လိုက်တယ် (မှန်ပါ) ဘုရင့်နန်းတော်မှာ မင်္ဂလာဆင်ကြီး သွားဖြစ်တယ် (မှန်ပါ) ချမ်းချမ်းသာသာ နေရစားရပေမယ့် တိရစ္ဆာန် ဖြစ်နေရတယ် (မှန်ပါဘုရား)

တစ်ခါ ကုသိုလ်ကြောင့် ဘုရင့်နန်းတော်မှာ မင်းသားသွား၍ ဖြစ်ရသော်လည်း လူစဉ်မမီသူ ဆွံ့အ-နေသူ ဖြစ်နေပြန်ရင်လဲ ဒါရောနေတာပဲ (မှန်ပါဘုရား)

အဲ... နောက်ဆုံး အမည်း+အဖြူမရောတဲ့ကံကတော့ အကောင်းဆုံးပဲ၊ အားအကိုးရဆုံးပဲ၊ (မှန်ပါ) ဒီကံကို ပေါက်မြောက်အောင်မြင်အောင် လုပ်နိုင်ရင် အားအကိုးရဆုံးပဲ (မှန်ပါဘုရား)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အား အကိုးရဆုံး နံပါတ်(၄)ကံ

ကိုယ့်ကိုယ်ကို စစ်ဆေးကြည့်ကြ၊ ငါ့ဘဝမှာ ကုသိုလ်များသလား အကုသိုလ်များသလားလို့ (မှန်ပါ) အကုသိုလ်များရင်တော့ အပါယ်ကို သွားရမှာပဲ (မှန်ပါ)

ကုသိုလ်များရင်တော့ သုဂတိဘဝတွေပေါ့ (မှန်ပါ) အကုသိုလ်+ကုသိုလ် (အမည်း+အဖြူ) ရောနေပြန်လဲ မကောင်းဘူး၊ (မှန်ပါ) ဒါတွေဟာ အမည်းအဖြူ ရောတဲ့ အကျိုးတွေနဲ့ သံသရာထဲမှာ မျောနေကြတာပဲ (မှန်ပါ) ကောင်းပါ့မလား (မကောင်းပါဘုရား)

အေး.. ကိုယ့်ကိုယ်ကို စစ်ဆေးကြည့်လို့ အမည်းကံတွေ တွေ့တာနဲ့ ထိုင်ပြီး ညည်းမနေနဲ့ (မှန်ပါ) စိတ်အားငယ်မနေနဲ့ (မှန်ပါ) ဟောဒီ နံပါတ်(၄)ကံကိုသာ ပေါက်မြောက်အောင် ဖွဲ့တင်းလိုက် (မှန်ပါ) လွတ်မြောက်သွားနိုင်တယ် (မှန်ပါဘုရား)

ကုက္ကုဋမိတ္တမုဆိုးကြီးတို့၊ မိလကမုဆိုးကြီးတို့ ဟာ ပေါက်မြောက်အောင် ကြိုးစားလိုက်ကြတော့ အပါယ်ဘေးမှ လွတ်မြောက်ကုန်ကြတယ် မဟုတ်လား (မှန်ပါဘုရား) အေး... ဒီနံပါတ်(၄)ကံအားကိုးကြပါလို့ တိုက်တွန်းလိုက်တယ် (မှန်ပါဘုရား)

## မန္တလေးမြို့ တရားသဘင်ကြီး

ဆရာတော်၏ ကျန်းမာရေးမှာ အတော်ကောင်းလာပြီ၊ သက္ကရာဇ် ၁၃၂၂-ခု တပို့တွဲလပြည့်နေ့ (၁၉၆၁-ခု ဇန်နဝါရီလ ၃၀-ရက်နေ့)မှစ၍ မန္တလေးမြို့ကြီးအတွက် တရားသဘင်ကြီး ကျင်းပတော်မူသည်၊ ညစဉ် ညတိုင်း ၇-နာရီမှ ၈-နာရီအထိ တရားဓမ္မ ဟောပြပေးတော်မူ၏၊ တရားတစ်ပွဲလျှင် (၁)နာရီမျှသာ ဟောပေးတော်မူလေ့ရှိသည်။

ပရိသတ်တို့သည် မန္တလေးမြို့ပေါ်ကသာမက၊ စစ်ကိုင်း တံတားဦး မြစ်ငယ် ကျောက်ဆည် စဉ့်ကိုင် စသည်တို့ကပါ ကားများဖြင့်၊ ရထားများဖြင့်လာကြ၍ နာကြသည်၊ တစ်ည တစ်ညလျှင် ပရိသတ် (၅၀၀၀) ငါးထောင်ကျော် (၆၀၀၀) ခြောက်ထောင်ခန့်မျှ ရှိသည်။

ဦးချစ်ဆွေ+ဒေါ်မမတို့၏ ကျယ်ဝန်းလှသော ခြံဝင်းကြီးသည်ပင် ပရိသတ်တို့ဖြင့် ပြည့်လျှံကုန်၍ လမ်းမကြီးများပေါ်သို့ ပြန့်ကျဲကုန်ကြသည်၊ ကြာသော် ဝန်းကျင်ပတ်ချာ လေးဘက်လေးတန် လမ်းမကြီးများ ကားအသွားအလာပိတ်ဆို့ကုန်ရတော့၏၊ ပရိသတ်တွေ များပြားလွန်း၍ ယာဉ်ထိန်းရဲများက လာရောက်အကူအညီ ပေးကြရတော့သည်။

တရားကို ကြည်ညို၍ လာသောအခါ တရားနာ ပရိသတ်တို့ကိုပါ ကြည်ညိုလာကြဟန် တူသည် "တရား နာ၍ အပြန် ပုဂ္ဂိုလ်များကို ကားများဖြင့် အခမဲ့ လိုက်ပို့ပေးပါမည်"ဟု ပရိသတ်အတွင်းမှ ဆိုလာကြသည်၊ ဤသို့သော သဒ္ဓါတရားများပါပေ။

## တစ်ဘဝသာသနာ

# နိဗ္ဗာန်ကူးတို့ ပို့ကြသူများ

ဤသို့လျှင် ဘဝယာဉ်ခရီးအတွက် ယူတတ်သော သူများ ရကြလေ၏၊ မန္တလေးမြို့သူ မြို့သားတို့ကား ဤမျှလောက်ပင် စံတင်ရလောက်အောင် သဒ္ဓါတရား ထက်သန်ကြလေသည်။

ပရိသတ်တွေများလွန်း၍ အရေအတွက်ကို သိချင်သောကြောင့် ထေရာသနစံကျောင်း ကျောင်းအမ ဒေါ်တင်လှက "မည်သို့ တွက်ရပါမည်နည်း"ဟု စဉ်းစားနေမိပါသတတ်၊ နောက်မှ အကြံပေါ်လာသည် "ယပ်တောင်တစ်ခုစီ ကမ်းကြည့်မည်"။

ထိုအကြံအစည်အတိုင်း သူ၏ မွေးနေ့ဖြစ်သော တပေါင်းလပြည့်ကျော်(၇)ရက်နေ့တွင် ကြွလာသော ပရိသတ်ကြီးကို ယပ်တောင်တစ်ခုစီ ကမ်းလှမ်းလှူဒါန်းကြည့်၏။ ယပ်တောင် (၆၀၀၀) ခြောက်ထောင် မလောက်အောင် ဖြစ်တော့သည် ဟူ၏။

ဤနည်းအားဖြင့် အခမဲ့ နိဗ္ဗာန်ကူးတို့ ကားများဖြင့် ပို့ပေးကြသည်၊ အချို့က ကိုယ်ပိုင်ကားကလေးများဖြင့် ဆုံသမျှ တင်ဆောင်ခေါ်သွားကြ၏၊ အချို့ကမူ သက်သက် ကုသိုလ်ယူလို၍ ဘတ်စ်ကားကြီးများကို ငှားရမ်းခေါ်ဆောင်လာကြသည်။

တရားပွဲ ကွင်းပြင်ကြီး၏ ခပ်လှမ်းလှမ်းတွင် လမ်းမကြီးများပေါ်၌ တရားနာလာကြသော ကိုယ်ပိုင်ကားကလေးများ၊ နိဗ္ဗာန်ကူးတို့ ပို့ကြမည့် ကားကြီးကားငယ်များ ပြည့်ကျပ်နေအောင် နေရာလပ် မရှိစောင့်ကြိုနေကြသည်။

တရားပွဲပြီး၍ ပရိသတ်ကြီးအုံကြွ ထ၍ ပြန်မည်ပြုသောအခါ "ဘယ်ကို သွားကြမလဲခင်ဗျ၊ ဘယ်ကို လိုက်ပို့ရမလဲ ခင်ဗျ၊ အခမဲ့ ပို့ပေးပါမယ် ခင်ဗျ"ဟူ၍ ဆိုကာ ကြိုဆိုကြလေ၏၊ ပြီးလျှင် တူရာ တူရာတို့ကို ခေါင်း၍ အိမ်တိုင်ယာရောက်လိုက်လံပို့ဆောင်ပေးကြ၏၊ ဤနည်းအားဖြင့် ကုသိုလ်ယူကြလေသည်။

# နိဗ္ဗာန်ဆိပ်ဦးပမာ အခွင့်သာ

မန္တလေးမြို့၊ ရွှေလှံရပ်၊ ဦးချစ်ဆွေ+ဒေါ်မမတို့၏ ဝင်းခြံနေအိမ်ကြီးသည် ယခုအခါ မိုးကုတ် ဆရာတော် ဘုရားကြီး သီတင်းသုံးတော်မူသည့်အပြင် သစ္စာတရားတို့ကို ဟောပြရာဋ္ဌာနကြီးတစ်ခုလည်း ဖြစ်၍နေချေပြီ။

နယ်လေးရပ်မှ ပရိသတ်တို့ ဝိုင်းအုံရောက်လာကြ၍ တရားဓမ္မတို့ကို နာကြားကြသဖြင့် "နိဗ္ဗာန်ဆိပ်ကြီး"သဖွယ်လည်း ဖြစ်နေသည်၊ အခွင့်အလမ်းသာကြ၏။

အိမ်သူ အိမ်သားတို့ကလည်း ဆရာတော်ဘုရားကြီးအပေါ်၌ ဖခင်ကြီးသဖွယ် သံယောဇဉ် တွယ်၍နေကြလေပြီ၊ ဆရာတော်ဘုရားကြီးကလည်း ဖခင်ကြီးပမာ အရာရာ၌ ဆုံးမတော်မူ၏ -

"ဟဲ့... မောင်ချစ်ဆွေ+မမ...၊ နင်တို့က ဓမ္မာရုံ ကျောင်းဒကာ ကျောင်းအမများ ဖြစ်ကြတယ်၊ ဒါနတော့ လုပ်ကြပါရဲ့၊ ဘာဝနာဘက်က နည်းနေကြအုံးမယ်"

သူများတွေက ဒီအိမ် ဒီဝင်းခြံကြီးကို လာ-လာပြီး တရားနာကြတယ်၊ ပီးတော့ ကိုယ့်နေရာကိုယ် တရားအားထုတ်ကြတယ်။

ကိုယ့်အိမ်ဝင်းခြံကို အမှီပြုပြီး သူများတွေ အကျိုးဖြစ်ကြသလောက် ကိုယ်က အကျိုးမဖြစ်ဘဲ နေကြအုံးမယ်..."

ဆရာတော်ဘုရားကြီးက မကြာ မကြာ သတိပေးတော်မူ၏၊ သို့သော်လည်း ကျောင်းအမ ဒေါ်မမကမူ အသက် ၄၀-ဝန်းကျင် အရွယ်ဖြစ်၍ စီးပွားရေးနယ်ပယ်က မထွက်နိုင်သေး၊ သို့ဖြစ်၍ ဝိပဿနာလုပ်ငန်းခွင်အတွက်လည်း အချိန်များများ မပေးသေး။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# စည်းစိမ်ဥစ္စာဆိုတာ အမဲရိုးနဲ့တူ

ကျောင်းဒကာ ဦးချစ်ဆွေက ဆရာတော်ကြီး သတိပေးသည်ကို သဘောပေါက်၏၊ ဆရာတော်ကြီးက "အသေ မဦးခင် ဉာဏ်ဦးအောင် အားထုတ်ကြနော၊ ကံကောင်းတုန်း၊ ဉာဏ်ကောင်းတုန်း၊ အရွယ်ရှိတုန်း၊ အင်အားပြည့်တုန်း အားထုတ်ကြ"ဟူ၍ ခဏ ခဏ သတိပေးသည်၊ သို့ဖြစ်၍ တရားလုပ်ငန်းခွင်တွင် အချိန် များများ ဝင်နေလေပြီ။

ကျောင်းအမ ဒေါ်မမကမူ မနက်လင်းလာ၊ စားသောက်ဖွယ်တို့ကို စီမံပြီးလျှင် ဂျစ်ကားတစ်စီး ဖြင့် မြို့တွင်းက မိမိတို့ပိုင် "စခန်းသာပွဲရုံ"သို့ သွား မြဲ ဖြစ်လေ၏၊ ညနေတိုင်မှ ပွဲရုံသိမ်း၍ ဂျစ်ကားဖြင့် ပြန်လာ၊ အိမ်ဝင်းခြံဝရောက်သောအခါ "ပေါ်-ပေါ်" ဟူ၍ ဟွန်းတီးတတ်လေသည်။

ဤသို့ နေ့စဉ် နေ့တိုင်း ပြုလုပ်နေသည်ကို တစ်နေ့တွင် ဆရာတော်ဘုရားကြီးက ရက်ရက်စက်စက် မညှာမတာ ဆိုတော့၏။

> "ဟယ်... ဟွန်းတီးသံကြားလို့ ငါက ပြတင်း ပေါက် လှပ်ကြည့်မိတယ်၊ ခွေးမကြီး တစ်ကောင် အမဲရိုးကြီး ကိုက်ချီပြီး ပြန်လာတာ တွေ့သဟဲ့"

ဤသို့ တူးတူးခါးခါး ပစ်ပစ်ခါခါ ဆိုသော်လည်း ဒေါ်မမက မနာတတ်၊ ရယ်ကျဲကျဲ လုပ်နေတတ်သည်၊ "ဆရာတော်ကြီးက ဒီလို ဆိုတာ မနာဘူးလား"ဟု ဘေးက မေးကြသောအခါ "မနာပေါင်"တဲ့၊ "အဖေကြီး က ဆိုတဲ့ဥစ္စာ၊ ပန်းပွင့်နဲ့ ပေါက်တာလိုပဲ၊ မနာပေါင်"တဲ့၊ ဤသို့လျှင် ဒေါ်မမအတွက် အပြောရခက်နေသည်။

ဆရာတော် ဘုရားကြီး ဆိုလိုတဲ့ အဓိပ္ပာယ်မှာ (အင္ဂုတ္တိုရ်ပါဠိ ပရိယာယ်မှာ) "စီးပွားဥစ္စာ စတဲ့ ငါးပါး အာရုံ ကာမဂုဏ်တို့သည် အမဲရိုးနှင့် တူကြကုန်၏"ဟူ၍ ဘုရားဟောဒေသနာတော်အရ ဆိုလိုက်ခြင်း ဖြစ်ဟန် တူ၏။

အဓိပ္ပာယ်မှာ အသား မပါ အညှီနံ့ကလေး ယဲ့ယဲ့သာ ရှိသော အမဲရိုးတစ်ခုကို ခွေးပိန်ကလေး တစ်ကောင်က ရရှိသွားသတဲ့၊ သူ့ကိုယ်သူလည်း ကံကောင်းလို့ ရတယ်-ဟု ထင်မှတ်နေသတဲ့။

ဒါနဲ့ တခြား ခွေးတွေ မမြင်ရလောက်တဲ့ ချောင်ကျကျနေရာကို သွားပြီး ဝါးနေသတဲ့၊ ဝါးရင် ဝါးရင်း အာခံတွင်းက တံတွေးတို့ဖြင့် စိုလာတဲ့အခါ ပို၍ အရသာရှိမလိုလို၊ အသားတွေပဲ ထွက်လာမလိုလို အောက်မေ့ရသတဲ့။

အဲဒါလို "ကလပ်-ကလပ်"နဲ့ ဆက်လက် ဝါးနေသော်လည်း အားရတယ် မရှိ၊ ဝ-တယ်လို့လဲ မရှိ၊ သူများကိုလည်း မပေးနိုင်၊ လွှတ်လည်း မလွှတ်နိုင် ဖြစ်ရသတဲ့။

ဤဥပမာအတိုင်းပင် ငါးပါးအာရုံကာမဂုဏ် သည်လည်း ဝ-တယ်လို့မရှိ၊ ဝ-နိုးနိုးဖြင့်သာ နောက် ဆုံးတွင် လက်လွှတ်လိုက်ရမြဲဖြစ်လေသတဲ့၊ ထို့ကြောင့် မြတ်စွာဘုရားက အမဲရိုးနှင့် ဥပမာနှိုင်းခြင်း ဖြစ်လေ သည်။

## သူတို့အပေါ် ဆရာတော်၏ စေတနာ

ကျောင်းအမ ဒေါ်မမသည် ဆရာတော်ကြီး၏ ဆုပူမှုကို ခဏ ခဏ ခံရ၏။ သူ့အဖို့ မထူးဆန်းတော့ချေ၊ ဆရာတော်ကြီးကလည်း သူတို့၏ ဆေးကုသမှုကို ယူ၊ သူတို့အိမ်မှာ သွားနေ၊ သူတို့ဆွမ်းကို စားနေပါလျက် အညှာမပေး၊ ဆူစရာရှိလျှင် ဆူလိုက်သေး၏၊ သူတို့မိသားစုအပေါ် စေတနာထား၍ ဆူခြင်းဖြစ်သည်။

ဒေါ်မမမှာ တစ်ခါတစ်ရံ အားလပ်သော နေ့များတွင် အိမ်အောက်ထပ်၌ အေးအေးဆေးဆေး အနားယူ၍ ပန်းပန်မိရာ အငယ်ဆုံး သားကလေးက အော်၍ ဆိုင်တတ်သည်။

"ဟောဒီမယ် ဘဘ ဘုန်းဘုန်း ဘုရား... မေမေ ခေါင်းမှာ ပန်းတွေ ပန်နေတယ်..."

ဟု ကောင်ကလေး၊ တိတ်တိတ်နေစမ်း၊ ဘဘဘုန်း ကြားသွားမယ်..."

ဤသို့လျှင် ဆရာတော်ကြီးနှင့် အိမ်သူ အိမ်သားတို့၏ ဆက်ဆံရေး လေးစားမှုကိုလည်း တစေ့တစောင်း အကဲခတ်နိုင် သိရှိ ကြည်ညိုရနိုင်လေသည်။

---

**မှတ်ချက်။** ။ဤ အကြောင်းအရာများကို ဦးချစ်ဆွေ+ဒေါ်မမတို့ ကိုယ်တိုင်က ပြန်လည် ပြောပြခြင်း ဖြစ်ပါသည်။ ။

## တရားတွေ ကျန်ရစ်စေချင်လို့

မန္တလေးမြို့၊ ရွှေလုံရပ်၊ ဦးချစ်ဆွေ+ဒေါ်မမတို့ အိမ်မှာ သီတင်းသုံးတော်မူစဉ်က ဖြစ်သည်၊ တစ်နေ့တွင် သုံးစံအတိုင်း ည၇-နာရီမှ ၈-နာရီအထိ တရားတစ်ပွဲ ဟောကြား၍ ပြီးပြီ၊ ပရိသတ်တို့လည်း ပြန်ကုန်ကြလေ ပြီ။

ဓမ္မာရုံ ကျောင်းအမ အိမ်ပိုင်ရှင် ဒေါ်မမသည် လည်း ဆရာတော်ဘုရား တရားဟောပြီးပြီ ဖြစ်၍ ဖျော်ရည်တစ်ခွက်သွား၍ ဆက်ကပ်၏။

ထို့ကြောင့် ဆရာတော်အနားတွင် (၁)ဦးထွန်းအောင် (ရှမ်း+မြန်မာရောင်းဝယ်ရေးပွဲရုံ) (၂)ခရစ်ယာန် သာသနာ မေးသော ဦးဖေဝင်း (၃)ဓမ္မာရုံ ကျောင်းအမ အိမ်ပိုင်ရှင် ဒေါ်မမ၊ ဤသုံးဦးမျှသာ ရှိကြ၏။

* စပ်မိစပ်ရာ စကားအနည်းငယ် ဆက်လက်ပြောဆိုနေကြရာ ည၉-နာရီခန့်လောက် ရောက်သွားသည်၊ ထိုအခါကျမှ ဆရာတော်က မိန့်တော်မူတော့၏-

"ဟေ့... မောင်ထွန်းအောင်၊ အသံဖမ်းဖို့ တိပ်ရီကော်ဒါ ယူခဲ့၊ ပြင်စမ်းကွာ-၊ တရားဟောမယ်၊ တရားတွေ ပေါ်လာတယ်"

ဤသို့ မိန့်နေ၍ ခါတိုင်းကဲ့သို့ တိပ်ရီကော်ဒါကို အနီးသို့ ယူလာ၊ မိုက်ကရိုဖုန်းကို ရှေ့မှာ ချ၍ ပြင်ဆင်ပေးလိုက်ရတော့၏၊ ထိုအခါ ဆရာတော်က တရားတစ်ပွဲ ဟောနေပြန်ပါတော့သည်၊ အနီးတွင်ရှိသော (၃)ယောက်က နာကြရတော့၏။

ပရိသတ်က (၃)ယောက်မျှသာ ရှိသော်လည်း ဟောသောအခါတွင်ကား လူပေါင်းအမြောက်အမြားကို ဟောနေသလို အော်၍ဟောနေ၏၊ အသံကို မြှင့်၍တင်၍ အားရပါးရ ဟောနေတော်မူသည်ဆို၏၊ တိပ်ခွေတစ်ခွေစာ တစ်နာရီအပြည့်ပင် ဟောပေးတော်မူပါသတတ်။

မှတ်ချက်။ ။ဆရာတော်က သူ့ကိုယ် သူ "အသက်တမ်းက သိပ်မကျန်တော့ဘူး"ဟူ၍ သိနေ၍လော မပြောတတ်၊ ရသမျှ အချိန်ကလေးအတွင်း တက်သုတ်ရိုက်၍ ဟောပေးနေသလို ဖြစ်၏၊ ပေါ်လာသမျှ တရားတွေလည်း ပျောက်ပျက်မသွားစေချင်လို့၊ ကျန်ရစ်စေချင်လို့ ဖြစ်ဟန်တူသည်။

---

* ဤအကြောင်းအရာများကို တရားနာ (၃) ယောက်တွင် ပါဝင်ခဲ့သော ဦးထွန်းအောင် (ယခုအခါ ရှမ်းပြည်၊ တောင်ကြီးမြို့၊ မိုးကုတ် ဝိပဿနာ အဖွဲ့ခွဲ ဥက္ကဋ္ဌ)က ပြန်လည် ပြောပြပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အများအတွက် အကျိုးဖြစ်ပါစေ

ကျမ်းပြုအကျော် ဆရာတော် အရှင် ဇနကာ ဘိဝံသသည် ညမှောင်မှောင် သူ့ကျောင်းကလေးပေါ်၌ လှည့်ပတ်၍ စင်္ကြံကြွနေရင်းမှ ရုတ်တရက် ရပ်တန့်သွားတတ်၏၊ ပြီးလျှင် ခဲတံနှင့် စာရွက် ရှိရာသွားပြီး ညမှောင်မည်းမည်းတွင် ခပ်ကျဲကျဲစမ်း၍ ပေါ်လာသမျှ အတွေးတို့ကို အကြမ်းစား ရေးမှတ်–တို့ထားတတ်သည်။

ထို့အတူပင် ကျမ်းပေါင်းများစွာတို့ကို ပြုစုတော်မူခဲ့သော လယ်တီ ဆရာတော်ဘုရားကြီးသည်လည်း အတွေးကောင်းတစ်ခု၊ အကြံကောင်းတစ်ခု ပေါ်လာပြီဆိုလျှင် ချက်ချင်း ကောက်၍ ပျောက်မသွားအောင် ရေးတတ်သည်ဟူ၏။

တစ်ခါသော် ရေချိုးနေရာမှ "ဘွား"ခနဲ ထလာပြီးလျှင် သင်းပိုင်ရေစိုကြီးဖြင့် ခပ်သွက်သွက်လာကာ ခဲတံနှင့် စာရွက်ကို အတင်းတောင်း၍ ရေးမှတ်တော့သည် ဟူ၏။

အတွေးကောင်း အယူအဆကောင်း အချက်အလက်ကောင်းကလေးတို့သည် ပေါ်–ပေါ်လာတတ်ကြသော်လည်း အရေးထဲကျလျှင် ပျောက်–ပျောက်ကုန်တတ်၏၊ ထို့ကြောင့် ပျောက်ပျက်မကုန်ခင် ဤသို့ မှတ်တမ်းတင်တော်မူကြခြင်း ဖြစ်ပေလိမ့်မည်။

ထို့အတူ ယခုအခါ မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလမှာလည်း သူ့ခန္ဓာထဲ၌ တရားတွေ ပေါ်နေပါလိမ့်မည်၊ ပေါ်နေသော တရားတို့ကို သူ့ဉာဏ်ဖြင့် မြင်နေပါလိမ့်မည်၊ ဤအစဉ်တို့ကို ပျောက်ပျက်မကုန်ခင် ဟောပြလိုခြင်း ပြောပြလိုခြင်းတို့ကြောင့် ရုတ်တရက် တရားပွဲစီမံစေခြင်း ဖြစ်ပေလိမ့်မည်။

ထို့ပြင် ဟောသမျှ ပြောသမျှတို့လည်း နောက်ပုဂ္ဂိုလ်များအတွက် ကျန်ရစ်စေလိုဟန်တူ၏၊ "အများအတွက် အကျိုးဖြစ်ပါစေ၊ တရားရလိုသူတို့အတွက် ရပါစေ" ဤစေတနာတို့ကြောင့် အသံဖမ်းယူထားဖို့ပါ သတိပေးခြင်း ဖြစ်ပါလိမ့်မည်။

## လေငန်းရောဂါ စွဲကပ်လာခြင်း

ထိုသို့ နေ့စဉ်မှန်မှန် ည၇–နာရီမှ ၈–နာရီအထိ တရားတွေ ဟောပြောလာခဲ့ရာ ၁၃၂၂–ခု တန်ခူးလပြည့်ကျော် ၂–ရက် [၁၉၆၁–ခု ဧပြီလ ၁–ရက်]နေ့တွင်ကား တရားဟောယင်း အပြင်ပလေအေးမိသဖြင့် ဆရာတော် လေငန်းရောဂါစွဲတော့၏၊ ထို့ကြောင့် တရားဟောခြင်းကို ခေတ္တရပ်နားထားရတော့သည်။

ဆရာတော်က တရားဟောပြီဆိုလျှင် အပြင်လောကကို အာရုံပြုတော့ဟန် မတူ၊ ထိုမျှမက မိမိခန္ဓာကိုယ်ကိုပါ မညှာတော့ပေ၊ တရားကိုသာလျှင် တစ်ခုတည်း အာရုံပြုထားဟန် တူသည်။

ထို့ကြောင့် တစ်ခါ တစ်ခါတွင် အပြင်ပလေအေးမိတတ်ခြင်း၊ ပန်ကာလေမိတတ်ခြင်းများ ဖြစ်ရတတ်၏ ယခုလည်း ထိုသဘောမျိုးဖြစ်၍ အနည်းငယ် ကျန်းမာရေး ချွတ်ယွင်းထိခိုက်လာရလေသည်။

ယင်းသို့ ကျန်းမာရေး ထိခိုက်လာသောအခါ ရန်ကုန်မှ ဦးအောင်ဖေ၊ ဦးသံဒိုင်တို့သည် မန္တလေးမှ

ဦးချစ်ဆွေတို့နှင့် တိုင်ပင်ကြပြီး ဒေါက်တာ ဆိုနီကို ပင့်ကြ၏၊ ဆေးထိုးဆေးစားနည်းဖြင့် ကုသကြသည်။

မြန်မာ့နည်း မြန်မာ့ဟန်အနေဖြင့်လည်း (အမရပူရမြို့၏ အနောက်မြောက်ဘက်တွင် ရှိသော) ရှမ်းကလေးကျွန်းရွာမှ နာမည်ကျော် လက်နှိပ်ဆရာကြီး ဦးထူးကို ပင့်၍ နှိပ်စေကြပါသေးသည်။

သင်္ကြန်အကြိုဦးတွင် ရောဂါက ဝင်ရောက်လာလေရာ တရားဟောကို ခေတ္တရပ်ထားရင်းဖြင့် သင်္ကြန်တွင်းသို့ ရောက်လာလေ၏၊ သင်္ကြန်တွင်း၌ မဟောနိုင်ခဲ့ပေ၊ ဤနည်းအားဖြင့် သင်္ကြန်လွန်ကာ ၁၃၂၃-ခုနှစ်သစ်သို့ ကူးပြောင်းလာခဲ့တော့သည်။

## သွေးကြောထဲ သွေးခဲကလေးတွေ ပိတ်

ထို့နောက် ဆရာဝန်ကြီး ဒေါက်တာ သာလှကိုလည်း ပင့်ကြသေး၏၊ သို့သော် အကြောင်းမညီညွတ်၍ လိုက်ပါမလာနိုင်ပါ၊ အကြံဉာဏ်ပေးရုံသာ ပေးလိုက်နိုင်ပါသည်။

"ဆရာတော်ဘုရားကြီးရဲ့ လေငန်းရောဂါက သွေးကြောထဲမှာ သွေးခဲကလေးတွေ ပိတ်ဆို့နေတာပါ၊ ဆီးချိုနဲ့ သွေးတိုးမှာ မယုတ်မလွန်မျှတနေရင် စိုးရိမ်စရာ မရှိပါဘူး။

အခုခေတ်မှာက ခေတ်မီ အင်္ဂလိပ် စားဆေး၊ ထိုးဆေးကောင်းတွေလဲ ရှိနေပြီပဲ၊ ပီးတော့ မြန်မာလက်နှိပ်သယ်ကိုလဲ လက်မလွှတ်ပါနဲ့၊ အနှိပ်ခံပါ"

ဟူ၍ အကြံဉာဏ်ပေးလိုက်သည် ဆိုပါ၏၊ ဤသို့လျှင် ဆရာဝန်ကြီးများနှင့်ရော၊ မြန်မာလက်နှိပ်သယ်နှင့်ပါ ကုသလိုက်ရာ သိပ်မကြာခင် ကျန်းမာရေး ပြန်လည်ကောင်းမွန်လာတော့သည်။

## တရားဟောမှုကိုတော့ မတားပါနဲ့

ဆရာဝန်ကြီးများက "တရားဟောမှုကို ခေတ္တရပ်ထားပါဦးဘုရား" ဟူ၍ လျှောက်ထားပိတ်ပင်ကြ၏၊ သို့သော် ထိုစကားကို ဆရာတော်ဘုရားက လက်မခံချင်ပေ၊ "အချိန် သိပ်မကျန်တော့ဘူး" ဟူ၍ မမိန့်ရုံတမည်သာ ရှိတော့သည်၊ ခပ်မဆိတ်နေရင်းက တရားပွဲတွေ ဆက်လက် ကျင်းပဟောပြနေတော့သည်သာ။

ဤနေရာတွင် ဆရာတော်အရှင်ဇနကာဘိဝံသနှင့် တူသွားပြန်၏၊ ဆရာတော် အရှင်ဇနကာဘိဝံသကလည်း အတော်အတန် နေမကောင်းသဖြင့် "စာပို့ချမှုကိစ္စ ခေတ္တနားထားပါဦး" ဟု ဆရာဝန်ကြီးများက လျှောက်လျှင် ပြုံးပြီး နေတတ်၏၊ ပြီးလျှင် နားမထောင်၊ စာချမြဲ ချသည်သာ။

ထို့နောက် ကျန်သမျှ ရက်ပိုင်းတွင် မိုးကုတ်သို့ တက်ကာ ထုံးစံအတိုင်း တရားဓမ္မဟောပြတော်မူ၏၊ ဆရာတော်ဘုရားကြီး ဦးဝိမလ (သူတို့မိုးကုတ်အခေါ် ဆရာတော်ဦးဝိမလ) ရောက်လာပြီဆိုလျှင် တရားနာကြမည့် ပရိသတ်တို့ကား တစ်သိုက်တစ်မြုံကြီး လိုမ့်၍ ရောက်လာတတ်ကြသည်။

ဆရာတော်ဘုရားကြီး၏ ဟောပြချက်တို့ကား သစ္စာတရားများ ဖြစ်၍ ဖြစ်စဉ်ကိုက် ဖြစ်နေကြ၏၊ ထို့ကြောင့်လည်း ရိုး၍မသွား၊ နာ၍ မဝ၊ ကြား၍ မတင်းတိမ် ဖြစ်ကြရသည်၊ အသိဉာဏ်လည်း တိုးပွားကြရ၏။

# နာ၍ မဝနိုင် မရိုးနိုင်သော တရား

မိုးကုတ်ဆရာတော်ကြီး၏ ဟောပြောချက်တို့က မှန်ကန်လွန်းလှ၍ သစ္စာတရားတွေ ဖြစ်နေကြ၏၊ ထို့ကြောင့် ရိုး၍ မသွား၊ နာကြား၍ မဝနိုင်အောင် ဖြစ်နေကြတော့သည်၊ ဤကိစ္စနှင့်ပတ်သက်၍ ရန်ကုန်မြို့၊ သမိုင်းရပ်၊ အောင်သိဒ္ဓိလမ်းမှ မိုးကုတ်ယောဂီ ဦးမင်းဆွေ (နိုင်ငံ့ဂုဏ်ရည်ပထမဆင့်)က ပြောပြဖူး၏–

> "မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့ ပဋိစ္စသမုပ္ပါဒ် ဒေသနာ သစ္စာလေးပါး တရားစာအုပ်တွေကို နံပါတ်(၁)ကစပြီး နံပါတ်(၁၀)အထိ စဉ်တန်း ဖတ်တာ (၁၃)ခေါက်ပေါက်တယ်"တဲ့။
>
> "ဒါပေမယ့် ရိုးမသွားဘူး၊ တစ်ခေါက်ထက် တစ်ခေါက် အသိဉာဏ်တွေ တိုး–တိုး သာ လာတော့တယ်"တဲ့။
>
> အသိဉာဏ် တိုးတော့ သဘောပေါက်၊ သဘောပေါက်တော့ ဖတ်လို့ ပို၍ ပို၍ ကောင်း နေတော့တာပေါ့"တဲ့။

ရှမ်းပြည်တောင်ပိုင်း၊ မိုးနဲမြို့၊ ဓမ္မစေတီကျောင်းတိုက် အတွင်းက မိုးကုတ် ဝိပဿနာ အဖွဲ့ခွဲ(၈၃)ကလည်း ဤသဘောအတိုင်းပင် ပြောကြပါသည်။

ဘာ့ကြောင့်လဲဆိုတော့– သူတို့အဖွဲ့ဝင်များက လည်း ဆရာတော်ဘုရားကြီးရဲ့ တရားစာအုပ် (၃၃)အုပ်၊ သစ္စာအနက် ၁၆–ချက် စာအုပ် ၂–အုပ်၊ ဒုလ္လဘ ဒေသနာ(၇)အုပ် တို့ကို အစဉ်အတိုင်း ဖတ်ကြပါသတဲ့၊ နေ့စဉ် နေ့တိုင်း တရားနာရမည့်အချိန်ကို သတ်မှတ်ထားကြပါသည်၊ အချိန်ကျလျှင် အဖွဲ့ဝင် အကုန်လုံး လာကြရ၏။

**အသံ** ပီပီသသနှင့် အာရှင်း လျှာရှင်းရှိသော ပုဂ္ဂိုလ်တစ်ယောက်က ဖတ်ပြရသည်၊ ကျန်အဖွဲ့ဝင် အားလုံးက ငြိမ်သက်စွာ နာကြရ၏၊ တစ်နေ့လျှင် တစ်ပုဒ် ဖတ်၍ နာကြသည်၊ ပြီးလျှင် မှတ်ထား၍ ရပ်နားကြ၏၊ ထို့နောက် တရားထိုင်ကြသည်။

ဤနည်းအားဖြင့် ကျင့်သုံးလာကြရာ ထိုစာအုပ်များ (၄၂) အုပ်ကို **အခေါက်ခေါက် အခါခါ** ပေါက်မြောက်ကြပါသတတ်၊ သို့သော်လည်း ဆရာတော်ဘုရားကြီးရဲ့ တရားတို့က ရိုး၍မသွား၊ နာကြား၍မဝ၊ တင်းမတိမ်နိုင်အောင် ဖြစ်ကြရပါသတတ်။

ထို့ကြောင့်ပင် သူတို့တွေက ဤကဲ့သို့လျှင် ဂုဏ်တင်၍ ပြောတတ်ကြပါသည်–

> "တရားတော်တွေက မှန်ကန်လွန်း၍ အစမ်းသပ်ခံနိုင်တယ်၊ ပီးတော့ အကြိမ်ကြိမ်နာလို့လဲ မဝဘူး၊ အနာခံနိုင်တယ်၊ တစ်ခေါက်ထက် တစ်ခေါက် ဖတ်တိုင်းနာတိုင်းလဲ ဉာဏ်တွေ တိုး–တိုးလာတယ်"တဲ့။ ဘာလို့ ဒါလောက် ကောင်းရတာလဲ ဆိုတော့–ငြင်းမရအောင် မှန်လွန်းလို့"တဲ့။

## တစ်ဘဝသာသနာ

# ခန္ဓာကိုယ်တွေ့ တရားများဟော

မိုးကုတ်ဆရာတော်ကြီးက "တရားဟောတော့မယ်" ဆိုလျှင် တန်းပြီး မဟောသေးပါ၊ မဟောမီ နာရီဝက်ခန့် (သို့မဟုတ်) တစ်နာရီခန့် တရားထိုင်ပါသေးသည်။

တရားဟောချိန် နီးကပ်လာသောအခါ မည်သူ့အားမျှ ဧည့်ခံစကားမပြောတော့ပါ၊ မည်သူ့အားမျှလည်း တွေ့ခွင့်မပေးတော့ပါ၊ အခန်းတွင်းသို့ ဝင်၍သွားတော့သည်၊ ချောင်းကြည့်လျှင် တရားထိုင်နေသည်ကို တွေ့ကြရတော့၏။

တရားဟောချိန်ရောက်၍ တရားဟောဓမ္မာရုံမှ ကြေးမောင်း ထိုးပြီး အချက်ပေးသောအခါကျမှသာ အခန်းတွင်းက ထွက်လာပြီး ပလ္လင်ပေါ် တက်တော့သည်။

ထို့ကြောင့် ဖြစ်ပါလိမ့်မည်၊ ဆရာတော်ကြီး ဟောပြသော တရားတို့ကို လေ့လာကြည့်ပါက ကျက်တရားများ မဟုတ်သည်ကို တွေ့ကြရမည် ဖြစ်၏၊ ကိုယ်တိုင် တရားထိုင်၍ ကိုယ်တိုင် ခန္ဓာကိုယ်၌ တွေ့သော တရားတို့ကို ပြန်လည် ထုတ်ဖော်ဟောပြခြင်းမျိုးသာ ဖြစ်ပါသည်။

ပါဠိတော်၊ အဋ္ဌကထာတို့ကို မကြည့်မဟုတ်ပါ၊ ကြည့်ရှုပါသည်၊ ကြည့်ရှုပြီးလျှင် ထိုပါဠိတော်၊ ထိုအဋ္ဌကထာတို့၌ လာသော အကြောင်းအရာတို့ကို နောက်ခံထား၏၊ စံအဖြစ် မဏ္ဍိုင်ထူထားသည်၊ ပြီးလျှင် ယခုလုပ်ငန်းခွင်၌ ကိုယ်တိုင် တွေ့ရသော အဖြစ်အပျက်များနှင့် ဟပ်ပြီး တပ်တပ်အပ်အပ် လက်ဆုပ်လက်ကိုင် ရှင်းပြပေး၏၊ ဤသို့သော အဟောအပြောမျိုးသာ ဖြစ်လေသည်။

ထို့ကြောင့်လည်း မိုးကုတ် ဆရာတော်ကြီး၏ ဟောပြောချက်ဒေသနာတို့မှာ လက်တွေ့ ဆန်ခြင်း၊ သဘာဝကျခြင်းတို့ ဖြစ်ကြရလေသည်။

# လျှာရှည်လို့ သံသရာရှည်ရတာ

ဆရာတော်ကြီးကား တရားဟောပြီဆိုလျှင် ဒိုးဒိုးဒေါက်ဒေါက်နဲ့ ခပ်ဆတ်ဆတ်ပင် ပြောတတ်သည်၊ သူ့ဝါသနာ သူ့ဓလေ့ပင် ဖြစ်၏၊ ဤသို့ ပြက်ပြက်ဟောတတ်သည်ကို မုန်လွန်း၍ မခံနိုင်ကြသည်လည်း ရှိကြ၏။ ဥပမာ–

> "ဘုရားရှေ့မှာ သွားပြီး ရှာရှည်မနေကြနဲ့၊ ရှာရှည်လို့ သံသရာ ရှည်ရတာ၊
>
> "ဤကောင်းမှုကြောင့် နောင် အရိမေတ္တေယျဘုရား ပွင့်တဲ့အခါ ဆီမီးငါးတိုင်ကြာငါးခိုင်နဲ့ လက်ဦး ဖူးတွေ့ရပါလို၏"

ဘာ–ညာဆိုတာတွေဟာ ရှာရှည်တာပေါ့၊ နောက်ဘုရားကျမှ–ဆိုတော့ ဒီအတွင်းတစ်ခုလုံး သံသရာရှည်သွားရတော့တာပေါ့။

အခု ဂေါတမဘုရား ပေးတာ မလိုချင်ဘူး၊ နောက်မေတ္တေယျဘုရားပေးတာကျမှ ယူမယ်–ဆိုတဲ့ အဓိပ္ပာယ် ရောက်နေတယ်။ နောက်ဘုရား စောင့်အုံးမယ်–ဆိုတဲ့သဘော။

"အခု ဘုရားက နိဗ္ဗာန်ကို ပေးနိုင်ပါလျက်နဲ့ နောက်ဘုရားကျမှ" ဆိုတဲ့ ဥစ္စာဟာ သက်သက်အကြောင်တိုက်–ဖြောင်တိုက် ရွဲ့တာပဲ၊ ဒါ–တော်ပါ့မလား။

ဒီဘုရားရှေ့ထားပြီးတော့ နောက်ဘုရားကို မျှော်တာ အားနာစရာကြီး၊ ခင်ဗျားတို့မို့ အားမနာတယ်။"

ဤသို့သောအပြောမျိုး အဟောမျိုးကလေးများကြောင့် အောင့်သက်သက် ဖြစ်ကြ၏၊ မုန်လွန်းနေ၍ အောင့်ခြင်းဖြစ်သည်။

မည်သူ့ကိုမျှ ရည်ရွယ်၍ ကွက်၍ ပြောသည် မဟုတ်၊ အားလုံးဖြစ်နေတဲ့အနေအထားကို ပြင်နိုင်ဖို့ သတိရအောင် ပြောခြင်းသာ ဖြစ်သည်။

သို့သော် ကြာလာသည့်အခါ အစိုင်အခဲ ဖြစ်လာကြပြီးလျှင် တိတိလင်းလင်း ဆန့်ကျင်လာကြတော့၏၊

"ဒီကိုယ်တော်ကို အသိုင်းအဝိုင်းမှ ကြဉ်မယ်" ဟူ၍ ဖြစ်လာကြတော့သည်။

# ကိုယ့်ကိုယ်ကို မုန်းတာ ကြာပြီ

လောကကြီးက အခက်သားပဲ၊ လူတိုင်းကြိုက်အောင်တော့ ဘယ်ပြောနိုင်လိမ့်မလဲ၊ ဘုရားတောင် လူတိုင်း မကြိုက်ဘူး၊ ဆရာတော် ဦးဝိမလကိုကား အဘယ်မှာ ဆိုဖွယ်ရာ ရှိအံ့နည်း၊ မပြောဘဲ နေလို့လဲ မဖြစ်ဘူး၊ ပြောစရာရှိတာတော့လဲ ပြောရမှာပဲ၊ ပြုပြင်ချင်တဲ့သူကိုး။

* နိန္ဒန္တိ တုဏှိမာသီနံ၊
နိန္ဒန္တိ ဗဟုဘာဏိနံ။
မိတဘာဏိမ္ပိ နိန္ဒန္တိ၊
နတ္ထိ လောကေ အနိန္ဒိတော။

အဓိပ္ပာယ်က–

၁။ စကားမပြောဘဲ တိတ်တိတ်ကလေး နေတဲ့ သူကိုလဲ ကဲ့ရဲ့တာပဲ။

၂။ စကားတွေ သိပ်များတဲ့သူကိုလဲ ကဲ့ရဲ့တာပဲ။

၃။ နှိုင်းနှိုင်းချိန်ချိန် ပြောတဲ့သူကိုလဲ ကဲ့ရဲ့တာပဲ။

၄။ လောကမှာ ကဲ့ရဲ့လွတ်သူ မရှိပါဘူး၊

[လောကေ–လောကကြီးအတွင်း၌၊ အနိန္ဒိတော–ကဲ့ရဲ့လွတ်သောသူသည်၊ နတ္ထိ–မရှိချေ။]

စစ်ပြီးခေတ်တွင် စစ်အတွင်းက ယိုယွင်းခဲ့သော အရာတို့ကို နိုင်ငံ့ ခေါင်းဆောင်တို့က နေရာတိုင်းမှာ အသီးသီး ပြုပြင်နေကြ၏၊ ထို့အတူ ဘာသာရေးဘက်တွင်လည်း ယိုယွင်း တိမ်းချော်နေသော အယူအဆ အပြောအဆို အပြုအမူတို့ကို ပြုပြင်နိုင်ရန် မိုးကုတ်ဆရာတော် ဦးဝိမလက ထောက်ပြနေသည်။

"ဤသည်တို့ကို မကြိုက်"ဟု ဆိုသောအခါ ဘာတတ်နိုင်မည်နည်း၊ ရင်းနှီးသူ ဒကာများက လာ၍ လျှောက်ကြ၏၊ "အရှင်ဘုရားကို ကြဉ်ကြမလို့–တဲ့၊ သတိပြုတော်မူပါ"ဟု ဆိုသောအခါ ဆရာတော် ဦးဝိမလက "သူတို့က ခုမှ ကျုပ်ကို ကြဉ်ကြတာ၊ ကျုပ်က ကျုပ်ကိုယ် ကျုပ် ကြဉ်ထားတာ ကြာလှပြီ"ဟု မိန့်ပါသတတ်၊ နည်းနည်းကလေးမှ မျက်နှာ မပျက်၊ အေးအေးဆေးဆေးပင် မိန့်နေသည်ဟူ၏။

အရင်းနှီးဆုံး ကျောင်းအမကြီး ဒေါ်ဖုံကလည်း ဆရာတော်ထံသို့ ရောက်လာလျှောက်ထား၏–

"အရှင်ဘုရားကို မုန်းကြတယ်"

"ဩော်... ကျုပ်ကို မုန်းကြသတဲ့လား"

"တင်ပါဘုရား၊ အရှင်ဘုရားရဲ့ ပြောပုံ–ဆိုပုံတို့ကို မကြိုက်လို့ မုန်းကြသတဲ့ ဘုရား"

"သူတို့က ခုမှ မုန်းကြတာပါ၊ ကျုပ်က ကျုပ်ကိုယ် ကျုပ် မုန်းနေတာ ကြာပြီ"

ဤသို့ပင် ဆရာတော်က အေးအေးဆေးဆေး ပြန်၍ မိန့်တော်မူပါသတဲ့။

**မှတ်ချက်။** ။ဆရာတော်၏ စကားလုံးများတွင် "ကျုပ်က ကျုပ်ကိုယ်ကျုပ် ကြဉ်ထားတာ ကြာလှပြီ"ဟူသော စကား၊ "ကျုပ်ကိုယ်ကျုပ် မုန်းနေတာ ကြာလှပြီ"ဟူသော စကားလုံးတို့မှာ စဉ်းစားစရာဖြစ်၏၊ သို့သော် မည်သူမျှ မစဉ်းစားမိခဲ့ကြ။

* ဓမ္မပဒ၊၄၊၃၊၂၁၀

## တစ်ဘဝသာသနာ

## မိုးကုတ်ကျောက်တစ်လုံး ဖြစ်၍လာခဲ့

မိုးကုတ်သား ဦးလယ်သည် ကျောက်အကြောင်းကို ကောင်းကောင်း နားလည်၏၊ အပြင်ပန်းကို မြင်ရုံမျှဖြင့် ကျောက်၏ အတွင်းက အရည်အသွေးကို အကဲခတ်နိုင်သည်၊ ထို့အတူ ဆရာတော်လေး ဦးဝိမလကိုလည်း အပြင်ပန်း မြင်ရရုံမျှဖြင့် အတွင်းက အရည်အသွေးကို အကဲခတ်နိုင်လေသည်။

ထို့ကြောင့် အရအမိ မိုးကုတ်မြို့သို့ ပင့်ခဲ့၏၊ အနီးကပ် ပြုစုလုပ်ကျွေးသည်၊ ဆရာတော်လေး၏ ပါရမီကိုလည်း ကူညီဖြည့်စွမ်း၏၊ ဆရာတော်လေးက မိုးကုတ်တောင်တန်း ဘော်ပတန်းတွင် ခိုအောင်းခဲ့သည်၊ ထို့ကြောင့်လည်း (တောင်ထွက်ကျောက်တစ်လုံးကဲ့သို့) တန်ဖိုးဖြတ်၍မဆုံး မိုးကုတ်ကျောက်တစ်လုံး ဖြစ်၍လာခဲ့သည်။

သက္ကရာဇ် ၁၃၂၃–ခုနှစ် ဝါကျွတ်ပြီးသောအခါ ဆရာတော်ဘုရား၏ သက်တော်မှာ ၆၂–နှစ်၊ သိက္ခာတော် ၄၃–ဝါ ရှိလာပြီ၊ ထိုအချိန်တွင် မိုးကုတ်မြို့မှ ကျောင်းဒကာကြီး ဦးလယ် နေမကောင်း ဖြစ်၍ လာရောက်ပင့်ကြ၏၊ သို့ဖြစ်၍ သီတင်းကျွတ်လပြည့်ကျော် (၇)ရက်နေ့တွင် ကြွရောက်လိုက်ပါသွားရသည်။

ကျောင်းဒကာကြီး ဦးလယ်သည် ဆရာတော်လေး ဦးဝိမလကို မိုးကုတ်မြို့သို့ ရောက်အောင် ပထမ ဦးဆုံး တာဝန်ခံ၍ ပင့်သောပုဂ္ဂိုလ်ဖြစ်၏၊ ပြီးလျှင် သူ့အိမ်မှာ တရားပွဲတွေ ကျင်းပသည်၊ စစ်ကြိုခေတ်က ၉–နှစ်၊ စစ်ပြီးခေတ်တွင် ၄–နှစ် ဖြစ်၍ နှစ်ပေါင်း (၁၃)နှစ်မျှ တိုင်လေ၏၊ တရားလိုလားသော ပုဂ္ဂိုလ်များ ကျေးဇူးများကြရသည်။

## ဒကာရင်းအား ဟောကြားတဲ့တရား

ကျောင်းဒကာကြီး ဦးလယ်သည် ဆရာတော်အတွက်လည်း ကျေးဇူးများ၏၊ ပရိသတ်အတွက်လည်း ကျေးဇူး များသည်၊ သို့ဖြစ်၍ ဒကာ ဦးလယ်အား ဆရာတော်က ခန္ဓာဉာဏ်ရောက် သစ္စာတရားတို့ကို ကြိမ်ဖန်များစွာ ဟောကြားတော်မူခဲ့၏၊ ယခုလည်း ထပ်မံ ဟောကြားရပေဦးမည်–

"ခန္ဓာရှိတဲ့သူတိုင်း ဝေဒနာရှိရတာပဲ ဒကာကြီးရဲ့၊ အဲဒီဝေဒနာကို ကြပ်ကြပ် သတိပြုပါ၊ (မှန်ပါ) ဝေဒနာသိရုံတွင် ရပ်မထားပါနဲ့၊ ဝေဒနာရဲ့ အဖြစ်အပျက်တွေကိုပါ သိတဲ့အထိ ဉာဏ်နဲ့ ကြည့်ပါ။ (မှန်ပါ)

ဝေဒနာသိရုံတွင် ရပ်ထားရင် နာမရူပ ပရိစ္ဆေဒဉာဏ်ပဲ ရှိသေး၊ (မှန်ပါ) ဝေဒနာရဲ့ အဖြစ်အပျက်ကိုသိမှ ဥဒယဗ္ဗယဉာဏ် (မှန်ပါ)



ကျောင်းဒါယကာကြီး ဦးလယ်

ဒီကျမှ ဝိပဿနာအဆင့်ကို ရောက်တာ (မှန်ပါ ဘုရား)

အဲဒါကြောင့် ရှုသာနေပါ၊ အစပိုင်းတော့ ဝေဒနာကိုပဲ တွေ့နေရမှာပါပဲ၊

ကြာလာတော့ ဝေဒနာကိုတောင် မတွေ့ ရတော့ဘူး၊ ဝေဒနာရဲ့ အဖြစ်အပျက်တွေကိုသာ တွေ့ရတော့မယ်။ (မှန်ပါဘုရား)

အဲဒီလို ဝေဒနာရဲ့အဖြစ်အပျက်တွေကို ချည်း သိလာတဲ့အဆင့် ရောက်မှ "ဝေဒနာ ကျော်တယ်"လို့ ဆိုရတယ်။ (မှန်ပါဘုရား)

အဲဒီလို ဝေဒနာ ကျော်တဲ့ အဆင့်ကို ရောက်လဲ ဆက်ရှု၊ မရပ်နဲ့၊ ဆက်ရှု–ဆက်ရှု၊ မှန်းလာလိမ့်မယ်။ (မှန်ပါ)

အဲဒီလို မှန်းလာလဲ ရပ်မနေနဲ့၊ ဆက်ရှု ဆက်ရှု–ဆက်ရှု၊ မီးပွတ်သော ယောက်ျားကဲ့သို့ ဆက်သွား၊ မရပ်နားနဲ့၊ ဆက်ရှု–ဆက်ရှု (မှန် ပါ ဘုရား)

နောက်တော့ ဖြစ်–ပျက်တွေ ဆုံးသွား တာကို တွေ့လိမ့်မယ်၊ (မှန်ပါ ဘုရား) ဖြစ်–ပျက်တွေ ဆုံးသွားပြီး၊ ဖြစ်–ပျက်တွေ မရှိတာ ကို တွေ့လိမ့်မယ် (မှန်ပါ) အဲဒီလို တွေ့သည် တိုင်အောင် ကြိုးစားပါ (မှန်ပါဘုရား)

ဤသို့ မိန့်ပါသတဲ့၊ ဤနည်းအားဖြင့် (၅)ရက်တိုင်တိုင် သစ္စာတရားတွေချည်း ဟောကြားပေးပါသတတ်၊ အနီး ကပ်လည်း တရားရှုမှတ်ရာတွင် ကြပ်မတ်၍ မလွတ် အောင် ညွှန်ကြားပေးနေပါသတတ်။

ထို့နောက် ကျောင်းဒကာကြီး ဦးလယ်သည် သူ၏ အသက်(၇၉)နှစ်မြောက်မွေးနေ့အဖြစ် သံဃာ တော်တို့ကို ပင့်ပြီး လှူဖွယ်ပစ္စည်းတို့ကို လှူဒါန်းသည်၊ ဆရာတော်ဘုရားကြီး ဦးဝိမလသည်လည်း ကျေနပ် လောက်အောင် တရားပြပြီးပြီဖြစ်၍ ၁၃၂၃–ခု သီတင်း ကျွတ်လပြည့်ကျော်(၁၂)ရက်နေ့တွင် အမရပူရသို့ ပြန် လည် ကြွလာတော်မူ၏။

## နိဗ္ဗာန်မျက်မှောက်ပြုတာ ဘယ်လိုလဲ

ဤ အကြောင်းအရာများနှင့် ပတ်သက်၍ မိုးကုတ် ဆရာတော်ကြီး ကိုယ်တိုင် ဟောပြောချက် တို့မှ ကောက်နုတ်ဖော်ပြပါမည်။ [မိုး(၅)နှာ–၃၇၂မှ။]

မိလိန္ဒမင်းကြီးက အရှင်နာဂသိန်ကို မေးတယ်၊ မိလိန္ဒမင်းကြီးက ဗဟုသုတကြွယ်ဝတာကိုး (မှန်ပါ) အရှင်နာဂသိန်က သူ့ထက်တောင် ကြွယ်ဝသေး၊ ဒါ တွင်မက ရဟန္တာလဲ ဖြစ်သေးတယ် (မှန်ပါ ဘုရား) တွေ့ကြတော့ မေးတာပဲ–

"အရှင်ဘုရား... အရှင်ဘုရားတို့ကတော့ ကိစ္စ တွေပြီးလို့ နိဗ္ဗာန်ကို အာရုံပြုနိုင်တဲ့ ပုဂ္ဂိုလ်တွေ၊ တပည့်တော်လဲ နိဗ္ဗာန်ကို ရချင်ပါတယ်။

ဒီတော့ ဘယ်လိုရှုပြီး ဘယ်လိုနိဗ္ဗာန် ဘက် ကူးသွားတယ်–ဆိုတာလေး အမိန့်ရှိပါ ဦး"တဲ့ (မှန်ပါဘုရား)

"ပီးတော့ နိဗ္ဗာန်ကို မျက်မှောက်ပြု တယ် – ဆိုတာ ဘယ်လိုဟာလဲ၊ သိပါရစေ ဘုရား" တဲ့ (မှန်ပါ)

ဒီတော့ အရှင်နာဂသိန် ရဟန္တာမြတ်ကြီးက ဖြေပါတယ် (မှန်ပါ)

"ဒကာကြီး... ဦးစွာ ပထမ ကိုယ်နဲ့ လိုက်တဲ့ ကမ္မဋ္ဌာန်းတစ်ခုခုကို ရွေးပြီး ရှုပါ၊ ဖြစ်ပျက်တွေ မြင် လာအောင် ရှုပါ"တဲ့၊ (မှန်ပါ ဘုရား)

ဖြစ်ပျက်တွေ ဖြိုင်ဖြိုင်မြင်လာပြီဆိုရင် ဝမ်းသာ ပါတော့ (မှန်ပါ) ဖြစ်ပျက်–မဂ်၊ ဖြစ်ပျက်–မဂ်နဲ့သာ မိအောင် ရှုနေ၊ (မှန်ပါ) ကြာတော့ မှန်းလာလိမ့်မယ် (မှန်ပါ)

## နိဗ္ဗာန်ဘက်သို့ ရှုဉာဏ်ကူးသွားပုံ

ဆိုလိုတာက အစပထမတော့ လောကီဝိပဿနာဉာဏ်ဟာ ဖြစ်ပျက်တွေကို မြင်နေတယ် (မှန်ပါ) ဖြစ်ပျက်တွေဘက်မှာပဲ ရှိတယ် (မှန်ပါ)

ဒီရှုတဲ့ဉာဏ်ဟာ ပထမတော့ ဘယ်ဘက်ကို လှည့်နေတုန်း (ဖြစ်ပျက်တွေဘက် လှည့်နေပါတယ်) လောကီကိုး (မှန်ပါ) အဲလိုနဲ့ တဖြည်းဖြည်း ရင့်လာတော့ တစ်ဆင့်တက် လောကုတ္တရာ မဂ်ဖြစ်ပြီး–

အနုပ္ပါဒံ ဩက္ကမတိ–မဖြစ်တဲ့ဘက်သို့ လှည့်သွားတယ် (မှန်ပါ) အဖြစ်အပျက်မရှိတဲ့ နယ်ထဲသို့ သက်ဝင်သွားတယ်–တဲ့ (မှန်ပါ) လောကုတ်ဖြစ်သွားတာကိုး (မှန်ပါဘုရား)

ဇဝံ ခေါ မဟာရာဇ သမ္မာ ပဋိပန္နော နိဗ္ဗာနံ သစ္ဆိကရောတီတိ=ဒါပဲ… မင်းကြီး၊ နည်းမှန်လမ်းမှန် ကျင့်ကြံတဲ့သူ နိဗ္ဗာန်မျက်မှောက်ပြုတယ်ဆိုတာ (မှန်ပါဘုရား)

အဲသည်လို အရှင်နာဂသိန်က ပြန်လည် ဖြေကြားပါသတဲ့ (မှန်ပါဘုရား)

မုန်းလာလဲ ဆက်ရှု ဆက်ရှု၊ (မှန်ပါ) "မုန်းတယ်" ဆိုတာ ဖြစ်ပျက်တွေကို မလိုချင် မရချင်ဘဲ ဖြစ်လာတာ (မှန်ပါ) အဲလို ဖြစ်လာလဲ ဆက်သာရှု (မှန်ပါ) အဲဒီနောက်ပိုင်းမှာ–

* "တဿ တံ စိတ္တံ အပရာပရံ
မနသိကရောတော ဥပ္ပါဒံ အတိက္ကမိတွာ
အနုပ္ပါဒံ ဩက္ကမတိ၊ ဇဝံ ခေါ
မဟာရာဇ သမ္မာ ပဋိပန္နော နိဗ္ဗာနံ
သစ္ဆိကရောတီ"တိ။

လို့ အရှင်နာဂသိန်က မိန့်လိုက်တယ် (မှန်ပါဘုရား) သူ့အဓိပ္ပာယ်က ဒီလို–

အပရာပရံ–တပြောင်းပြန်ပြန် အဖန်ဖန် အထပ်ထပ်၊ မနသိကရောတော–အရှုခံတရားအပေါ်မှာ နှလုံးသွင်းသော၊ တဿ–ထိုယောဂီပုဂ္ဂိုလ်၏၊ တံ စိတ္တံ–ထိုစိတ်သည်၊ (ဝါ) ထိုစိတ်နှင့် ယှဉ်သော လောကီဝိပဿနာဉာဏ်သည်။

ဥပ္ပါဒံ အတိက္ကမိတွာ–အဖြစ်ကို ကျော်လွန်၍၊ အနုပ္ပါဒံ ဩက္ကမတိ–မဖြစ်တဲ့နယ်ထဲသို့ သက်ရောက်သွားတော့၏ (မှန်ပါ)

## ဘုရားအကြိုက်ဆုံး ပူဇော်နည်း

၁၇.၆.၆၂

(မိုးကုတ်မြို့မှာ ဟောသောတရား)

ဘုရားကိုယ်တော်မြတ်ကြီး ပရိနိဗ္ဗာန်စံတော့မယ်ဆိုတော့ အင်ကြင်းပင်တွေကလဲ အခါမဟုတ်ဘဲ ပွင့်ပေးကြတယ်၊ ပူဇော်ကြတယ်၊ စတုမဟာရာဇ် တာဝတိံသာက နတ်တွေကလဲ လာကြပြီးတော့ ပန်းတွေ ကြဲကြ၊ ဗြဟ္မာတွေကလဲ အင်မတန် မွှေးကြိုင်လှတဲ့ နံ့သာမှုန့်တွေ လာပြီး ကြဲကြတယ်၊ (မှန်ပါဘုရား)

ပီးတော့ ကောင်းကင်မှနေပြီး နတ်တွေက ငြိမ့်ညောင်းတဲ့ တူရိယာသံတွေနဲ့ ပူဇော်ကြတယ်၊ အင်မတန် ကြီးကျယ်တဲ့ အနေအထားတွေ၊ အခြေအနေတွေ၊ အခမ်းအနားတွေ ဖြစ်လာကြတယ် (မှန်ပါ)

အဲဒါတွေကို အရှင်အာနန္ဒာက အံ့အားသင့်မိတဲ့အတိုင်း မြတ်စွာဘုရားကို လျှောက်မိတယ် "မြတ်စွာဘုရားကို ဝိုင်းဝန်းပူဇော်ကြတဲ့ ပူဇော်ပွဲကြီးကဖြင့် ကြီးကျယ်ခမ်းနားလှပါတယ် ဘုရား"တဲ့၊ ဒီတော့

* မိလိန္ဒပဉှာပါဠိ၊၃၁၁

မြတ်စွာဘုရားက–

"ဒီပူဇော်နည်းတွေက ကုသိုလ်တော့ ရပါတယ် ကွာ– ဒါပေမယ့် ငါဘုရား အကြိုက်တော့ မဟုတ်သေးဘူး"တဲ့ (မှန်ပါဘုရား)

"ငါဘုရားရဲ့အကြိုက်က ဓမ္မာနုဓမ္မပဋိပန္န = တရားရအောင် ကျင့်တဲ့အကျင့်၊ (မှန်ပါဘုရား) ကိုယ့်ဉာဏ်နဲ့ ကိုယ့်ခန္ဓာထဲက ရုပ်နာမ်တွေရဲ့ အဖြစ်အပျက်တွေကို မြင်အောင် ကြည့်နေတဲ့ အလုပ် (မှန်ပါ) အဲဒီအလုပ်–လုပ်နေရင် ငါ ဘုရားကို ပူဇော်နေတာပဲ၊ ငါ ဘုရားရဲ့ အကြိုက်ဆုံး ပူဇော်နည်းပဲ" (မှန်ပါဘုရား)

တရားနဲ့ ပူဇော်တာ ကြိုက်တယ်ဆိုလို့ ကိုပေါ်တို့ ကိုဝတို့ ကိုစံမြတို့ မောင်နိုင်တို့က ရွတ်နေတာတွေ သွားမယူနဲ့ (မှန်ပါဘုရား) "ဣတိပိ သော ဘဂဝါ အရဟံ သမ္မာသမ္ဗုဒ္ဓေါ" စသည်ဖြင့် ရွတ်နေတာတွေကို သွားမယူလိုက်ကြနဲ့ (မှန်ပါဘုရား)

အဲဒါတွေက ကုသိုလ်တော့ ရပါတယ်၊ ဘုရား အကြိုက်တော့ မဟုတ်သေးဘူး၊ (မှန်ပါ) ဘုရားအကြိုက်က ဘာတဲ့တုံး (တရားကျင့်ပြီး ပူဇော်တာပါ ဘုရား) အေး... မှန်တယ်၊ ဘုရား ညွှန်ကြားတဲ့အတိုင်း ဘဝသံသရာဝဋ်ဒုက္ခမှ လွတ်မြောက်အောင် တရားကျင့်နေရင် ဘုရားကို ပူဇော်ရာရောက်တယ်၊ အဲဒါ ဘုရား အကြိုက်ဆုံး ပူဇော်နည်းပဲ (မှန်ပါဘုရား)

# ဘုရားက သာဓု သုံးကြိမ်ခေါ်

ဘုရားရှင် ကိုယ်တော်မြတ်ကြီးက "နောက် ၃–လလွန်ရင် ပရိနိဗ္ဗာန်စံတော့မယ်"ဆိုတော့ ဟိုနယ် ဒီနယ်က ကြားကြားသမျှ ကိုယ်တော်တွေ ရောက်လာကြတယ် (မှန်ပါ) ဘုရားနား ဝိုင်းနေကြတာပေါ့၊ (မှန်ပါ) ကိုယ်တော်တစ်ပါးကတော့ မလာဘူး၊ ချုံထဲက ထွက်တယ်လို့ မရှိဘူး၊ တရားအားထုတ်နေတာ (မှန်ပါဘုရား)

အဲဒီကိုယ်တော်လုပ်ပုံကို အများသံဃာတွေက မကျေနပ်ကြဘူး၊ ဒါနဲ့ ဘုရားကို တိုင်ကြတာပေါ့လေ (မှန်ပါ) ဘုရားက အဲဒီကိုယ်တော်ကို အခေါ်ခိုင်းတယ်၊ "ငါဘုရားအမိန့်၊ လာခဲ့"တဲ့၊ (မှန်ပါ)

အခေါ်ခိုင်းတယ်ဆိုရင်ပဲ ဘေးက ကိုယ်တော်တွေက အတော်သဘောကျနေပြီ၊ ဘယ်လိုများ လုပ်မလဲ၊ ဒဏ်ပေးမလား၊ သာသနာထဲက နှင်ထုတ်မလား (မှန်ပါ)

ရောက်လည်း လာရော ဘုရား ကိုယ်တော်မြတ်ကြီးက မေးတော့တာပဲ "ဘာ ပြုလို့ ငါဘုရား အနားလာပြီး သူများတွေလို ဝေယျာဝစ္စ မပြုသလဲ"

"မှန်လှပါ၊ တပည့်တော်ရဲ့ ရည်ရွယ်ချက်က ဘုရားသက်တော် ထင်ရှားရှိစဉ်မှာပင် အာသဝေါကုန်ခန်း ရဟန္တာ ဖြစ်အောင် ကြိုးစားမယ်၊ ဘုရားကို တရားနဲ့ပူဇော်မယ် ဆိုပြီး အချိန်ပြည့် အားထုတ်နေလို့ မလာဖြစ်တာပါဘုရား..."

ထိုအခါ မြတ်စွာဘုရားက "သာဓု သာဓု သာဓု" လို့ ၃–ကြိမ်ခေါ်တော်မူပါသတဲ့၊ ထို့ပြင်လဲ အခြားရဟန်းတို့ဘက်ကို လှည့်ပြီး မြတ်စွာဘုရားက–

"သင်တို့တစ်တွေလဲ ဤရဟန်းကဲ့သို့ ငါဘုရားကို တရားနဲ့ ပူဇော်ကြ"လို့

မိန့်တော်မူပါသတဲ့ (မှန်ပါဘုရား) ဤအခြေအနေကို ထင်ပေါ်လာစေလို၍လည်း မြတ်စွာဘုရားက ထိုရဟန်းကလေးကို ခေါ်၍ မေးတော်မူခြင်း၊ စစ်တော်မူခြင်း သာဓုခေါ်တော်မူခြင်း ဖြစ်ပါသတတ် (မှန်ပါဘုရား

## တစ်ဘဝသာသနာ

# ရန်ကုန်သို့ သွားစရာရှိနေ၍

ဆရာတော်မှာ ထုံးစံအတိုင်း ဆောင်းတွင်းပိုင်း၌ မန္တလေးမှာ တရားဟော၍၊ နွေရောက်သောအခါ မိုးကုတ်သို့ တက်ပြီး တရားဟောရသည်၊ နှစ်စဉ်နှစ်တိုင်း ဤသို့ပင် စက်ပတ်လည်နေခဲ့သည်။

ယခုနှစ်တွင်လည်း နွေပေါက်စကပင် မိုးကုတ်သို့ ရောက်၍ မိုးကုတ်မှာပင် သင်္ကြန်ကျကာ ၁၃၂၄–ခု နှစ်သို့ ကူးပြောင်းလာခဲ့သည်။

ယခုနှစ် ရန်ကုန်သို့ သွားစရာကိစ္စရှိနေ၍ မိုးကုတ်မြို့မှာ တန်ခူး၊ ကဆုန်၊ နယုန် လကုန်သည် အထိသာ နေတော်မူမည်။

# ကောသမ္ဗီသုတ် (မဟာပစ္စဝေက္ခဏာ ၇–ချက်)
# သောတာပန်စိတ်ထား အင်္ဂါ ၇–ပါး

ဆရာတော်ဘုရားကြီး ဦးဝိမလက ဤကောသမ္ဗီသုတ်ကို မိုးကုတ်မြို့မှာ သက္ကရာဇ် ၁၃၂၄–ခုနှစ် နယုန်လပြည့်ကျော် ၁၄–ရက် (လကွယ်)နေ့၊ (ခရစ် ၁၉၆၂–ခု ဇူလိုင်လ ၁–ရက်နေ့)တွင် ဟောတော်မူခဲ့၏။

ဤကောသမ္ဗီသုတ်ကို ဟောရာ၌ ဓမ္မပဒ အဋ္ဌကထာ ပဌမအုပ်နှင့် မူလပဏ္ဏာသပါဠိတော်တို့တွင် ပါသော အကြောင်းအရာတို့ကို ပေါင်းစပ်၍ ဟောပြထားတော်မူခြင်း ဖြစ်သည်။

တရားအလုပ် လက်တွေ့ အားထုတ်ကြသော ဒကာ ဒကာမတို့အတွက် မိမိတို့ အခြေအနေကို မိမိတို့ ချိန်ဆတတ်အောင် တိုင်းတာစရာ ပေတံ ပေးတော်မူခြင်း ဖြစ်၏။

တစ်ခါသော် ကောသမ္ဗီပြည်၌ ရဟန်းတွေ ၂–ပက္ခ ကွဲဖူးကြသည်၊ ဃောသိတာရုံကျောင်းတိုက်ကြီး၌ ဖြစ်၏၊ တစ်ဘက်တွင် ဝိနည်းမိုရ်ပုဂ္ဂိုလ်က ခေါင်းဆောင်၊ အခြားတစ်ဘက်တွင် သုတ္တန်ဆောင် ဓမ္မကထိကပုဂ္ဂိုလ်က ခေါင်းဆောင်၊ တစ်ဘက် တစ်ဘက် လျှင် သံဃာ(၅၀၀)ငါးရာခန့်စီ ရှိကြသည်။

ဘုရားရှင် ကိုယ်တော်မြတ်ကြီးက ၂–ဘက် ခေါင်းဆောင်များကို ခေါ်၍ ဖျန်ဖြေရေးတရား ဟောတော်မူ၏၊ မရ၊ သို့ဖြစ်၍ ကိုယ်တော်တစ်ပါးတည်း ပလလဲတောသို့ ကြွသွားတော်မူသည်။

ပလလဲတောတွင် ဝါကပ်တော်မူ၏၊ တစ်ဝါတွင်းလုံး ဆင်ကြီးက အလုပ်အကျွေးပြုသည်။ ဝါကျွတ်သောအခါ အရှင်အာနန္ဒာအမှူးရှိသော ရဟန်း (၅၀၀) ငါးရာတို့က ပြန်ပင့်ကြသဖြင့် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်သို့ ပြန်လည် ရောက်ရှိတော်မူပြီ။

ထိုအခါ ကောသမ္ဗီ ပဋိပက္ခပွဲကြီးတွင် ပါဝင်ကြသော ၂–ဘက်သော ကိုယ်တော်များ ဘုရားထံသို့ လာ၍ တောင်းပန်ကန်တော့ကြ၏၊ ဤပွဲတွင် ဘုရားရှင်က ဟောတော်မူခြင်း ဖြစ်သည်။

"ပုထုဇဉ်တို့ စိတ်ထားနှင့် အရိယာတို့ စိတ်ထား မတူကြဘူး၊ အောက်ဆုံး အရိယာဖြစ်တဲ့ သောတာပန်နဲ့ ပုထုဇဉ်တောင် မတူကြဘူး"

ဟူ၍ အစချီကာ "သောတာပန် စိတ်ထား အင်္ဂါ ၇–ပါး" ကို ဟောကြားတော်မူသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သောတာပန်စိတ်ထား အင်္ဂါ(၇)ပါး

၁။ အရိယာအဆင့်သို့ ရောက်သော်လည်း မပယ်ရသေးသော ကိလေသာများကြောင့် လွန်ကျူးမိတတ်၏၊ လွန်ကျူးမိလျှင် ဉာဏ်ဖြင့် ချက်ချင်းရပ်နိုင်သဖြင့်–
(က)သောတာပန်က ဖြစ်ကြောတို့၏၊
(ခ)ပုထုဇဉ်က ဖြစ်ကြောရှည်သည်။

၂။ မပယ်ရသေးသောကိလေသာများကို ငြိမ်းအေးအောင် လုပ်မယ်လို့–
(က)သောတာပန်က အမြဲတမ်း စိတ်ထားရှိ၊
(ခ)ပုထုဇဉ်က ထိုစိတ်မျိုးမထား။

၃။ ဤဘုရားသာသနာမှာသာလျှင် သောတာပန် သကဒါဂါမ် အနာဂါမ် ရဟန္တာများအဖြစ်ဖြင့် ထွက်ရပ်လမ်း ရှိသည်၊ အခြား တိတ္ထိတွေရဲ့ သာသနာမှာ မရှိဟူ၍–
(က)သောတာပန်က ယုံကြည်သည်၊
(ခ)ပုထုဇဉ်က အခြားသာသနာမှာလည်း ရှိလိမ့်ဦးမည်ဟု ယူဆ။

၄။ အပြစ်သင့်သွားလျှင် အချိန်ဆွဲ၍မထား၊ နံနက်သင့်လျှင် နံနက်၊ ညနေ သင့်လျှင် ညနေ ချက်ချင်း–
(က)သောတာပန်က ကုသ၊
(ခ)ပုထုဇဉ်က ထိုသို့ မကုသ။

၅။ (က)သောတာပန်က အပြစ်သင့်မှာ စိုးရွံ့၊ သီလပျက်မှာ ကြောက်သည်။
(ခ)ပုထုဇဉ်က ထိုသို့ မစိုးရွံ့၊ သီလပျက်မှာလည်း အမှုမထား။

၆။ သစ္စာတရားတွေ၊ အမှန်တရားတွေကို ဟောပြီဆိုလျှင်–
(က)သောတာပန်က စိတ်စိုက်၍ နာနေနိုင်၏။
(ခ)ပုထုဇဉ်က ထိုတရားတွေ နားထဲ မရောက်။

၇။ သစ္စာတရားတွေကို နာယူပြီးပြီဆိုလျှင်လည်း ပြော၍မပြီး၊ ချီးကျူး၍မဆုံး၊ ကြည်နူးမှုတွေ ဖုံးပြီးလျှင်–
(က)သောတာပန်က တပြုံးပြုံးနှင့် ကျေနပ်နေ၏။
(ခ)ပုထုဇဉ်က ထိုသို့ ခံစားမှု မရနိုင်။

ဤသို့လျှင် မတူကြကြောင်းကို ဟောထားသော တရားတော်ဖြစ်သည်၊ အမှန်မှာ လက်တွေ့ အားထုတ်နေကြသော ဒကာ ဒကာမများ ကိုယ့်ကိုယ်ကို ချိန်ဆတိုင်းတာနိုင်ရန် ဟောတော်မူခြင်း ဖြစ်၏။

"ဣမေဟိ ခေါ ဘိက္ခဝေ သတ္တင်္ဂေဟိ သမန္နာဂတော သောတာပန္နောနာမ ဟောတိ"

ဤအင်္ဂါရပ် (၇)ပါးနှင့် ညီညွတ်လျှင် ကိုယ့်ကိုယ်ကို ဆုံးဖြတ်ချက် ချနိုင်ပြီ "သောတာပန်"လို့၊ အင်္ဂါရပ် (၇)ပါး မပြည့်သေးလျှင်လည်း ပြည့်စုံအောင် ကြိုးစားဖို့ သတိပေးတရားလည်း ဖြစ်သည်။

[ဆောင်] ဖြစ်ကြောတို၊ ငြိမ်းလိုစိတ်၊
ထွက်ရိပ်ကင်း၊ ချက်ချင်းကု၊
ပျက်မှုစိုး၊ တိုး၍စိုက်၊
လိုက်လိုက်ဖို၊ ကြည်ညိုခုနစ်တန်၊
သောတာပန်။ ။

## တစ်ဘဝသာသနာ

# အချိန်ရှိခိုက် လုံ့လစိုက်ကြ–တဲ့

"တရားအားထုတ်တဲ့ ကိစ္စကို အသက်ကြီးမှ အားထုတ်ရတယ်"လို့ တချို့က စွဲထင်နေတတ်ကြသည်၊ မိုးကုတ်ဆရာတော်ကြီးကမူ ထိုသို့ မဟုတ်ချေ။

"ကံကောင်းတုန်း၊ ဉာဏ်ကောင်းတုန်း အားထုတ်ထားကြ၊ အသက်အရွယ်ရှိတုန်း၊ အားအင်တွေ ပြည့်တုန်း ကြိုးစားထားကြ၊ အချိန်ရှိခိုက် လုံ့လစိုက်ကြ..."တဲ့။

ဤသို့ ခဏ ခဏ သတိပေးတော်မူတတ်၏၊ ဟုတ်ပါသည်၊ ကျမ်းဂန်တို့ကလည်း (ဗြဟ္မစာရီ ယုဝါ သိယာ) တဲ့၊ "သူတော်ကောင်းအလုပ် အားထုတ်တော့မည့်သူဆိုတာ ငယ်ရွယ်နုပျိုသူ ဖြစ်ပါစေ"တဲ့။

အသက်ကြီးခါမှဆိုလျှင် လိုအင်ဆန္ဒအတိုင်း ဖြစ်ဖို့ ခဲယဥ်းလာတတ်၏၊ ဘုရားလက်ထက်တုန်းက အသက်(၁၂၀)တစ်ရာ့နှစ်ဆယ်စီ ရှိကြတဲ့ ပုဏ္ဏားအိုကြီး ၂–ယောက် ဘုရားထံကို ရောက်လာပြီး တုန်တုန်ယင်ယင်နဲ့ လျှောက်ကြ အကူအညီ တောင်းကြ၏၊ "တပည့်တော်တို့ကို ကယ်တင်တော်မူပါအုံး..."တဲ့၊ ဟော... သည် အခြေအနေကြီးတွေ ရောက်ကာမှ ဘယ်လိုလုပ် ကယ်တော့မလဲ။

ကိုယ့်မှာရှိခဲ့တဲ့ အားတွေ အင်တွေ၊ အစွမ်းသတ္တိတွေ၊ အသက်အရွယ်တွေကိုတော့ ကာမဂုဏ်နယ်ထဲမှာ အကုန်အသုံးချပစ်ခဲ့ပြီ၊ အခု အရွယ်နှောင်းကာမှ အကူအညီ တောင်းဖို့ သတိရလာသတဲ့။

အိုဒဏ် နာဒဏ်တွေက ဖိလာပြီ၊ တယိယိနဲ့ မသက်သာ၊ နားထိုင်း ခါကိုင်းတွေကလဲ ပေါ်လာ၊ သွားကျိုး ပါးကျိုးနဲ့ နံရိုးကျဲကျဲ ဆံပင်ဖြူမွဲမွဲနဲ့၊ ချွဲကလေး ကပ်ကပ်၊ ချောင်းကလေးက တဟက်ဟက်၊ အနေခက်တဲ့ဘဝ ရောက်လာရင် ဘာမျှ မကောင်းတော့ဘူး။

## ဘဝဆည်းဆာ မိုးချုပ်၍လာ

၁။ အများ မုန်းစရာပ၊
ခါးကုန်းလို့ ဆံကေဖြူ။

၂။ အသက်ကြီးပြန်တော့
ပျက်စီး ကိုယ်ခန္ဓာက
အိုဒဏ်နာ ရန်ရှာချက်ကယ်ကြောင့်
ခွေယိုင်ကာ နေထိုင်ခက်လှတယ်
နှောက်ယှက်ဘေးထူ။

၃။ မကြားပါ နားမှာလေးတဲ့ပြင်
အားမပါ သွားလာနေးပါဘိ
ဝါးတောင်ဝှေး ဖေးတွယ်ကူ
ရှေးငယ်မူနှင့် လွန်ကွာဝေး။

၄။ အရိုးပဒေသာ... အဘိုးဝေဒနာက
လေအလာ ကြွေကာ သက်ရှာမယ့်
နွေအခါ ရွှေဝါရွက်လိုပ
မြေအလွာ ခွေကာ စက်တော့မည်ထင့်
ချောင်းတဟက်ဟက်ကယ်နှင့်
အပြောင်းခက်ပါဘိ၊
(အိုကွယ်...) စောင်းလျက်မိတ်မှေး။ ။

ဤသို့လျှင် အဘိုးအိုတစ်ဦးရဲ့ပုံကို ထင်မြင်လာအောင် ကဗျာဆရာ လှသိန်းဝင်း (ကနီ)က ခြယ်မှုန်းပြထားလေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အယောဃရ မင်းသားလေး

*ငါးရာ့ငါးဆယ်ဇာတ်တော်ထဲတွင် အယော ဃရဇာတ်ဆိုတာ ပါရှိ၏။ [အယောဃရ=သံလှောင်ချိုင့်၊ သံလှောင်အိမ်ဟု အဓိပ္ပာယ် ရသည်။] ဇာတ်တော် အကျဉ်းချုပ်မှာ နန်းတော်၌ မိဖုရားကြီး၏ ယခင် မွေးသော သားကလေး ၂-ယောက်တို့ကို ဘီလူးမက အတင်း တရကြမ်း လာ-လာ လုၡ-လု၍ စားစား သွားခြင်း ခံရသည်။

ယခု တတိယသားကလေး ဖွားခါနီးတွင် ရှင် ဘုရင်ကြီးက အမတ်ကြီးတို့နှင့် တိုင်ပင်၍ ကြီးမားလှ စွာသော သံလှောင်ချိုင့် သံလှောင်အိမ်ကြီးတစ်ခု တည် ဆောက်ကြလေ၏၊ ထိုအတွင်း၌ မိဖုရားကြီးကို သွင်း၍ ကိုယ်ဝန်ကို စောင့်ရှောက်ကြလေသည်။

အချိန်စေ့သောအခါ ဘုန်းလက္ခဏာနှင့် ပြည့်စုံ သော ဘုရားလောင်းသားတော်ကလေး ဖွားမြင်လာ၏၊ "အယောဃရကုမာရ=သံလှောင်အိမ်မင်းသားကလေး" ဟု နာမည်တွင်သည်။

ထိုသံလှောင်အိမ်ကြီးအတွင်းမှာ ကစားကွင်း ပန်းခြံ ဥယျာဉ် အတတ်ပညာ သင်ရာဌာနတို့ကို အစုံ အလင် စီမံထား၏၊ မင်းသားကလေးအား ထိုအတွင်းမှာ ပင် ဆရာတွေကို ခေါ်၍ အတတ်ပညာတွေ သင်ပေး သည်။

အသက် ၁၆-နှစ် အရွယ် ရောက်သောအခါ အတတ်ပညာတွေ စုံလင်၍ ခွန်အားဗလနှင့်လည်း ပြည့်စုံလာ၏၊ သူရသတ္တိရဲရင့်မှုအပြည့်လည်း ဖြစ်လာ သည်။

ထိုအခါ "ထီးနန်း အပ်နှင်းမည်"ဟု ဖခမည်း တော်ကြီးက စီမံ၍ ၁၂-ယူဇနာပတ်လည် ကျယ်ဝန်း သော ဗာရာဏသီမြို့တော်ကြီးကို အလှအပ တန်ဆာ ဆင်စေ၏။

ထို့နောက် "မင်္ဂလာဆင်တော်ကြီးပေါ်တွင် တင် ၍ မြို့တော်ကို လက်ယာရစ်လှည့်ပြီးမှ နန်းတော်သို့ ဆောင်ယူခဲ့ကြ"ဟု အမိန့်တော်မှတ်သည်။

## ဘီလူးမဘေးမှ လွတ်သော်လည်း

အမတ်ကြီးတို့လည်း ဘုရင်ကြီး စီမံသည့် အတိုင်း ဆောင်ရွက်ကြရ၏၊ မြို့တော်ကြီးကို လှည့်လည် ကြည့်ရှုရင်း မင်းသားကလေးက စဉ်းစားနေမိပါ သတတ်၊ သူ၏ စဉ်းစားခန်းမှာ-

"ဤမျှလောက် လှပတင့်တယ် ကြီးကျယ်တဲ့ မြို့တော်ကြီးကို ဖခမည်းတော်ကြီးက ယခု လောက် ကြာအောင် ကြည့်ရှုခွင့် မပေးတာ ကျွန်ုပ်မှာ အပြစ်ရှိလို့လား"

ဤသို့ အမတ်ကြီးတို့အား စဉ်းစားမိသည့်အတိုင်း မေးမြန်းစုံစမ်းတော့၏၊ အမတ်ကြီးတို့က ဟုတ်တိုင်း မှန်ရာ သံတော်ဦးတင်ကြရလေသည်-

"အရှင့်သားမှာ အပြစ်ရှိလို့ မဟုတ်ပါ၊ အရှင့် သားရဲ့ အစ်ကိုတော် ၂-ယောက်ကို ဘီလူးမက စား-စားသွား၍ အရှင့်သားကိုကျတော့ ယခုလို သံလှောင်အိမ်ကြီးနဲ့ စောင့်ရှောက်ရခြင်း ဖြစ်ပါ သည်၊ ထို့ကြောင့် အပြင်ဘက်ကို ထွက်ခွင့် မပေးခြင်း ဖြစ်ပါသည်"

ထိုသို့ သံတော်ဦးတင်သံကို ကြားရသောအခါ ထပ်မံ၍ စဉ်းစားခန်း ဝင်မိပြန်ပါသတတ်-

"ငါသည် ဆယ်လပတ်လုံး အမိဝမ်းထဲမှာ

* ဇာတကဋ္ဌ၊ စတုတ္ထ၊ ဝီသတိ၊ ၄၉၅

လောဟကုမ္ဘီငရဲကဲ့သို့ ကျင်ကြီးပြင် ဝန်းရံလျက် နေခဲ့ရတယ်။

အမိဝမ်းပြင်ဘက် ရောက်ပြန်တော့လဲ ၁၆–နှစ်တိုင်တိုင် သံလှောင်အိမ်ကြီးအတွင်းမှာ မလွတ်မလပ်နေခဲ့ရပြန်ရော၊ အပြင်လောကကြီး ကိုတောင် ကြည့်ခွင့်မရခဲ့၊ ဥဿဒငရဲထဲ ပစ်ချခံရ သလိုပဲ။

ယခုလို စောင့်ရှောက်ခဲ့ကြလို့ ဘီလူးမ လက်က လွတ်သော်လဲ တကယ်တော့ အိုဘေး နာဘေး သေဘေးတို့လက်ကတော့ မလွတ်နိုင် သေးပါဘူး။

အိုနာသေဘေးတို့မှ လွတ်ဖို့အရေး ကျန် ပါသေးတယ်၊ လွတ်အောင် ကြိုးစားရဦးမယ်။

တော်ပြီ၊ မင်းစည်းစိမ်ကို အလိုမရှိတော့၊ ခမည်းတော်ကို တောင်းပန်၍ ယနေ့ပင် တော ထွက်၊ ရသေ့ရဟန်းပြုတော့အံ့”

နန်းတော်သို့ ရောက်သောအခါ ဤအတိုင်းပင် ဖခမည်း တော်ကြီးကို တောင်းပန်၍ တောထွက်သွားလေတော့ သည်။ ။

## တောင်ခုနစ်ထွေ ရေခုနစ်ထပ်

ဟုတ်ပါသည်၊ သားတော်၏ အသက်ဘေးမှ ကာကွယ်လို၍၊ သေဘေးကို ရှောင်ကွင်းလို၍ ဖခင် ဘုရင်ကြီးက သံလှောင်အိမ်ကြီး စီမံထားသည်၊ ထို သံလှောင်အိမ်ကြီးဖြင့် စောင့်ရှောက်ခဲ့ကြ၏၊ ခေတ္တမျှ ဘီလူးမဘေးမှ လွတ်မြောက်ခဲ့ရသည်။

သို့သော် အိုဘေး နာဘေး သေဘေးတို့မှ လွတ်အောင်ကား သံလှောင်အိမ်ကြီးဖြင့်လည်း မရ၊ ကောင်းကင် မြေလျှိုး ရေဝယ်တိုး၍၊ ပုန်းလျှိုးနေခိုသော် လည်း မလွတ်နိုင်ပုံကို အောက်ပါအတိုင်း ဘုရားရှင် ကိုယ်တော်မြတ်ကြီးက ဟောပြထားတော်မူသည်။

န အန္တလိက္ခေ န သမုဒ္ဒမဇ္ဈေ၊
န ပဗ္ဗတာနံ ဝိဝရံ ပဝိဿ။
န ဝိဇ္ဇတိ သော ဇဂတိပ္ပဒေသော၊
ယတ္ထဋ္ဌိတံ နပ္ပသဟေယျ မစ္စု။ ။

(ဓမ္မပဒ၊၄၊၁၂၈)

အဓိပ္ပာယ်မှာ–

“သေမင်း မနှိပ်စက်တဲ့နေရာ မရှိ၊ ကောင်းကင် ဘက်နေ၍လည်း မလွတ်၊ ယုဇနာပေါင်း ရှစ်သောင်း လေးထောင်နက်တဲ့ မဟာသမုဒ္ဒရာရေထဲ ဆင်းငုံ့နေ၍ လည်း မရ၊ မည်သူမျှ မသိအောင် တောင်ခေါင်းထဲ ဝင်၍ ပုန်းအောင်းနေလို့လည်း မဖြစ်”ဟု ဆိုလိုသည်။

“ဇရာ မရဏ၊ ဒုက္ခဝဋ်တွင်း၊ အိုရခြင်းနှင့်၊ သေမင်းလွတ်အောင်၊ ဘယ်သို့ ရှောင်အံ့၊ တောင်ခုနစ် ထွေ၊ ရေခုနစ်ထပ်၊ လေးကျွန်းရပ်ခွင်၊ ကောင်းကင် သမုဒ္ဒရာ၊ စကြဝဠာမြေထဲ၊ ပုန်းခိုလွှဲလည်း၊ အမြဲမချွတ်၊ သေဘေးဝဋ်မှ၊ မလွတ်တို့သာ၊ မလွဲရာတည့်”။ ။

သုံးဆယ့်တစ်ဘုံအတွင်း ရောက်လာကြတဲ့ သတ္တဝါဟူသမျှကို သေမင်းက အလွတ်မပေး၊ အိုဘေး နာဘေးများလည်း ပါသေး၏၊ မည်သူ့ကိုမျှ ချန်၍ မထား။

ကောင်းကင်တက်နေ၍လည်း မလွတ်၊ သမုဒ္ဒရာ ထဲ ငုံ့ဆင်းနေ၍လည်း မရ၊ တောင်ခေါင်းထဲ ပုန်းအောင်း နေလို့လည်း မလွတ်၊ သီတာခုနစ်တန်၊ တောင်စဉ် ခုနစ်ထပ်၊ အကြားရပ်တို့၌ ပုန်းနေ၍လည်း မရဟု ဆိုလိုပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## တစ်ကိုယ်လုံး အသုံးမကျတော့ချေ

(ဇဝ် တထာပိ– သို့ကလို ရွတ်တွ ယွင်းယို
တအိုတည်း အိုကြပါကုန်သော်လည်း) ကောတဏှာ–
တစ်ခုတည်းသောအရာ မက်မော တွယ်တာတတ်တဲ့
"တဏှာ"သည်ကား၊ တရုဏာယတေ–ဘယ်အခါမှ
မအို ပျိုသည်ထက်ပျို စိုသည်ထက်စိုရွှမ်းလျက် အမြဲတမ်း
လန်းဆန်း၍ နေတတ်လေသည်တကား။ ။
[ပဉ္စတန္တ ရမှ အဆိုအမိန့်ဖြစ်၏။]

ဓိယန္တိ ဓိယျတော ကေသာ၊
ဒန္တာ ဓိယန္တိ ဓိယျတော။
ဓိယျတော စက္ခုသောတာစ၊
တဏှေကာ တရုဏါယတေ။ ။

ဓိယျတော (ဓိယျန္တ ဿ)–လူအိုကြီး၏၊
ကေသာ–ဆံပင်တို့သည်၊ ဓိယန္တိ–ဖြူဖြူဖွေးဖွေးနှင့်
အိုသွေး ပေါက်ကြလေကုန်၏–တဲ့။

ဓိယျတော (ဓိယျန္တ ဿ)–လူအိုကြီး၏၊ ဒန္တာ–
သွားတို့သည်၊ ဓိယန္တိ–ယိမ်းယိုင်ရွတ်ခွေ နုံကြနုံကြလေ
ကုန်၏။

ဓိယျတော (ဓိယျန္တ ဿ)–လူအိုကြီး၏၊ စက္ခု
သောတာစ–မျက်စိနှင့် နားတို့သည်လည်း၊ ဓိယန္တိ–
သဲသဲကွဲကွဲ မကြား, မည်းမည်း မည်းမည်းနှင့် သွား
သလို, မှုန်ဝါးဝါး ဖြစ်ကြလေကုန်၏။

ခန္ဓာကိုယ်တစ်ခုလုံး အိုမင်း ယိုယွင်း ရွတ်တွ၍
ရောဂါဘယအဖုံဖုံ၊ သေရခြင်း မျိုးစုံတို့သည် သစ္စာနဲ့
ပြောရမယ်ဆိုရင် ဒုက္ခသစ္စာတွေချည်းပဲ (မှန်ပါဘုရား)

အဲဒီဒုက္ခတွေ ဖြစ်အောင် ဖန်တီးတဲ့ တဏှာက
တော့ သမုဒယသစ္စာပေါ့ (မှန်ပါဘုရား) သူကတော့
မအိုပဲ အမြဲတမ်း လန်းနေသတဲ့ (မှန်ပါဘုရား) အို...
သည်လိုဆိုရင် အညံ့သစ္စာ ၂–ပါးနဲ့ အမြဲနေတာကို
(မှန်ပါဘုရား)

## ရွံမုန်းစရာကြီး ဖြစ်ချေပေါ့

ဆံပင်တွေ ဖြူ နားတွေ အူ၊ အသားရေ ညှိုး
သွားတွေ ကျိုးလို့၊ မျက်စိတွေ မှိုင်း ခါးတွေ ကိုင်းတဲ့
အပြင် တစ်ကိုယ်လုံး ရွတ်တွ ယွင်းယို၊ လူအိုကြီး
ဖြစ်လာလေပြီ၊ လက်တွေ တုန်– ခြေတွေ တုန်၊
ကတုန်ကယင်ကြီး ဖြစ်လာပြီ။

အားအင်တွေ ခန်းခြောက်၊ ပျိုတဲ့ ရုပ်တွေ
ပျောက်ပြီးတော့၊ အိုတဲ့ရုပ်တွေ ရောက်လာကုန်ကြပြီ၊
ရင်အုံတွေ ချိုင့်– ပါးတွေ ချိုင့်လို့၊ မျက်တွင်း
ဟောက်ပက် ချောင်းကလေးက တဟက်ဟက်။

တောင်ဝှေးလက်ကိုင်ကချော်ကချွဲ့နဲ့၊ အဖော်မဲ့
လာချေပြီ၊ ပွဲလယ်သဘင် သုံးမဝင်၍၊ ပွဲပြင်တွင်လည်း
သုံးမကျ၊ မုန်းစရာလူကြီး ဖြစ်ချေပေါ့။

တစ်ဘဝလုံး အသုံးမကျ၊ အရှုံးနဲ့သာ နေ
မည့်မတာ တဏှာခိုင်းသမျှ ဆောင်ရွက်ရ၊ ကိုယ့်တာ
ကိုယ့်တာ မကျန်တော့။

## တစ်ဘဝသာသနာ

# ဆံဖြူကြီးနဲ့ သုံးမဝင်ပြီ

၁။ ရွတ်တွယွင်းယို ခွေယိုင်နွဲ့လို့၊
တွေမှိုင်သနဲ့ လက်ခြေတုန်၊
နေထိုင်မတဲ့ ရက်တွေကုန်ပြီ၊
သက်မသေရုံ ကျန်ပါတော့၊

၂။ အရိုးခေါက်ခက် မှိန်တိမ်တိမ်ငယ်၊
ပိန်တလိန်လိန် အိုမင်းချေပေါ့နော့။

၃။ ရှုံ့တီး ရှုံ့တွ သားအရေ၊
သွားကြွေ အားတွေ မသန်ပျော့။

၄။ စားလေ ဝါးလေ အန်တအော့နဲ့၊
တန်ပေါ့ မာန်လျော့ ဇရာကောင်။

၅။ တောင်ဝှေး လက်ကိုင် အဖော်နွဲ့နဲ့၊
ကချော်ကချွဲ ယောင်တီး ယောင်တောင်တောင်။

၆။ နတီး နတ ပိန်ချောင်ချောင်ငယ်၊
မှိန်တမှောင်မှောင် အမြင်မှေးလို့၊
ဘဝင်သွေးက ခုန်ဆွခုန်ဆွနေ၊
ကြုံမှ ကြုံရပလေ။

၇။ ရင်အုံချိုင့်လို့ ခါးကိုင်းချေပြီ၊
နားထိုင်းဝေတေ ယောင်ငေးမှိုင်လို့လေး။

၈။ ဆံဖြူကြီးနဲ့ သုံးမဝင်တယ်၊
မုန်းချင်စဖွယ် လွန်ကောင်းပါဘိလေး။ ။

(လယ်တီပဏ္ဍိတ ဦးမောင်ကြီး)

# အိပ်မနေကြနဲ့၊ အချိန်နည်းသွားပြီ

သာကီယမျိုး ဘဒ္ဒိယမင်း၏ စစ်သူကြီး ဖြစ်ခဲ့သူ သောဏသည် ရဟန်းဘောင်သို့ ဝင်လာ၏၊ စစ်သားဘဝက လာခဲ့သည် ဖြစ်၍ စိတ်ကြမ်း ကိုယ်ကြမ်း ရှိလှသည်၊ အများသူငါကို အားကျ၍ ရဟန်းပြုလာသော်လည်း ရဟန်းတရားကိုကား ဟုတ်တိပတ်တိ အားမထုတ်။

စားကာ အိပ်ကာဖြင့် အချိန်ကုန်၏၊ တစ်ညလုံး အိပ် တစ်နေ့လုံးအိပ်ဆိုသလို ထုံထိုင်းသုန်မှုန်နေသည်၊ ဤသို့သော အခြေအနေကို သတိရစေခြင်းငှာ မြတ်စွာဘုရားက ဤသို့ မိန့်တော်မူ၏–

န တာဝ သုပိတုံ ဟောတိ၊
ရတ္တိ နက္ခတ္တမာလိနီ။
ပဋိဇဂ္ဂိတု မေဝေသာ၊
ရတ္တိ ဟောတိ ဝိဇာနတံ။ ။

(အပဒါန်ပါဠိတော်)

နက္ခတ္တမာလိနီ–နက္ခတ်ပန်းတို့ဖြင့် ဆန်းကြယ်လှပသော၊ ရတ္တိ–ညဉ့်သည်၊ သုပိတုံ–အိပ်နေဖို့ရာ၊ န တာဝ ဟောတိ–ဖြစ်လာသည် မဟုတ်၊ (နက္ခတ္တမာလိနီ–နက္ခတ်ပန်းတို့ဖြင့် ဆန်းကြယ်လှပသော)၊ သော ရတ္တိ–ဤညဉ့်သည်၊ ဝိဇာနတံ–ရှေ့ရေး နောက်ရေး ထောက်တွေးသိတတ်ပုဂ္ဂိုလ်မြတ်တို့အတွက်၊ ပဋိဇဂ္ဂိ တုံ ဧဝ–နိုးနိုးကြားကြားတရားအားထုတ်ဖို့ အလို့ငှာသာလျှင်၊ ဟောတိ–ဖြစ်ပေါ်လာ၏။

သူ့အဓိပ္ပာယ် ရှင်းလှပါသည်–

"ကောင်းကင်တစ်ခွင် နက္ခတ်ပန်းတို့ဖြင့် ဆန်းကြယ်လှစွာ ဖြူဖွေးတောက်ပနေသော ညသည် တမှိန်းမှိန်း တဖိန်းဖိန်းဖြင့် ဘယ်ယိမ်း–ညာတွန့် လူးလွန့်ကာ အိပ်နေဖို့ မဟုတ်။

ဤကဲ့သို့ သာယာအေးမြ ကြည်နူးဖွယ်ကောင်းလှသော ညသည် ရှေ့ရေး နောက်ရေး ထောက်တွေး

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

သိတတ်ပုဂ္ဂိုလ်မြတ်တို့အတွက် နိုးနိုးကြားကြားနဲ့ တရားအလုပ် အားထုတ်ဖို့အတွက်သာ ဖြစ်သည်"ဟူလို။

မိုးကုတ်ဆရာတော်ဘုရားကြီးက ဤကိစ္စများနှင့်ပတ်သက်ပြီး အောက်ပါအတိုင်း တစ်နေရာတွင် မိန့်ထားသည်–

"ယောဂီတွေထဲမှာ ဖျင်းတာရယ်–ပျင်းတာရယ် (၂)မျိုး ရှိတယ်၊ အဲဒီထဲက ဖျင်းတဲ့သူကို နားလည်အောင် စိတ်ရှည်ရှည်နဲ့ ဘုန်းကြီး ပြောပေးနိုင်ပါတယ်။

အဲ... ပျင်းတဲ့ သူကိုတော့ ဘုန်းကြီး ဘယ်လိုမှ မတတ်နိုင်ဘူး၊ အဲဒါက ခက်တယ်" တဲ့။

## တိုက်တွန်းနှိုးဆော်ချက်

ဥဋ္ဌဟထ နိသီဒထ၊
ကော အတ္ထော သုပိတေန ဝေါ။
အာတုရာနဉှိ ကာ နိဒ္ဒါ၊
သလ္လဝိဒ္ဓါန ရုပ္ပတံ။ ။

(ဘိက္ခဝေ–ရဟန်းတို့) ဥဋ္ဌဟထ–အိပ်ရာမှထကြကုန်လော့၊ နိသီဒထ–ဝိပဿနာစခန်း ကြိုးပမ်းဖို့ရာ ထိုင်ကြကုန်လော၊ ဝေါ–သင်တို့အား၊ သုပိတေန–အိပ်နေခြင်းဖြင့်၊ ကော အတ္ထော–အဘယ်အကျိုးရှိအံ့နည်း။

ဟိ–တိုက်တွန်းသင့်၏၊ အာတုရာနံ–ကိလေသာဒဏ်ချက်ဖြင့် အခံခက်ကြကုန်သော၊ သလ္လဝိဒ္ဓါနံ–ငြောင့်ငါးစင်းတို့ ရင်တွင်းထုတ်ခတ် စူးဝင်အပ်ကုန်သော၊ ရုပ္ပတံ–လောကစံကြောင့် ဖောက်ပြန်တုန်လှုပ်ကြကုန်သော၊ (တုမှာကံ–သင်တို့၏၊) နိဒ္ဒါ–အိပ်ပျော်ငိုက်မျဉ်းနေခြင်းသည်၊ ကာ–အဘယ်အကျိုးရှိအံ့နည်း။

ဤသို့လျှင် နှိုးဆော် တိုက်တွန်းထားတော်မူသည်။

## ဟောဒီ ၃–မျိုးက ရယ်ကြသတဲ့

အလင်္ကာကျမ်းက ရယ်ခြင်း ၆–မျိုး ရှိသည်ဟုပြ၏၊ သို့သော်လည်း ယခုခေတ်တွင် အများအပြားပြောနေတတ်ကြသည်မှာ ရယ်ခြင်း ၃–မျိုးရှိ၏–တဲ့၊ ဤ ၃–မျိုးက ရယ်နေကြသည်–တဲ့။

၁။ မြေပြင်ကြီးက ရယ်ခြင်း၊

၂။ ကျောင်းကြီးက ရယ်ခြင်း၊

၃။ စိန်ရွှေရတနာတွေက ရယ်ခြင်းတို့ ဖြစ်ကြပါသတတ်။

(၁)တိုင်းပြည်အုပ်ချုပ်မင်းလုပ်သော ရှင်ဘုရင်ကို ဂုဏ်တင်သောအားဖြင့် "ရေမြေ့သေဌ်နင်း၊ ပြည့်ရှင်မင်း" "ရေမြေကို အစိုးရတော်မူသော အရှင်မင်းမြတ်ကြီး" ဟူ၍ အမတ်ကြီးတို့က လျှောက်တင်တတ်ကြသည်၊ ထိုအခါ ရေပြင် မြေပြင်တို့က–

"အလို... အိုဘေး၊ နာဘေး၊ သေဘေး၊ ဘေး၊ ကွဲဘေး အစရှိတဲ့ ဘေးတွေထဲကနေ ဒီကောင်ကလေးက ငါတို့ကို တကယ် အစိုးရတယ်များ ထင်နေရော့လား"

ဟု ပြော၍ လက်ခုပ် လက်ဝါး တီးပြီး၊ တဟီးဟီး တဟားဟားနှင့် ရယ်မောနေတတ်ကြသတဲ့။ အလ တူပင် လယ်မြေယာမြေတွေ များစွာကို ပိုင်ဆိုင်သော သူဌေးတို့ကို "လယ်ပိုင်ရှင်ကြီး" "မြေပိုင် ကြီး"ဟု ဂုဏ်ပြုခေါ်ဝေါ်သောအခါတွင်လည်း လ

မြေ–ယာမြေတို့က ရယ်မောကြသတတ်။

(၂)တစ်ဖန် ဘုန်းတော်ကြီးတို့ကလည်း "ဒါဟာ ငါ့ကျောင်းဟဲ့၊ ငါ့ကန်ဟဲ့၊ ငါ့သပိတ်၊ ငါ့ပရိက္ခရာဟဲ့၊ ငါပိုင် ငါစိုး၊ ငါ့ကျောင်းနား မသီကြနဲ့ဟဲ့"ဟူ၍ မိန့်ကြသောအခါ ကျောင်းကန်သပိတ်ပရိက္ခရာတို့က တစ်ယောက်နဲ့ တစ်ယောက် လက်တို့ပြီး ရယ်နေတတ်ကြသတဲ့။

"အံမယ်လေး... တို့ကို သူက ပိုင်သတဲ့၊ သူကဖြင့် မကြာခင် ပျံတော်မူတော့မှာ၊ ဒီတော့ တို့တစ်တွေဟာ ထိုက်ရာ ဘုန်းကြီးရဲ့ လက်ထဲရောက်ကြရမယ်ဆိုတာ သူ မစဉ်းစားမိဘူးတဲ့လား"

ဟုပြောရင်း တသောသောနှင့် ရယ်မောနေတတ်ကြသတဲ့။

(၃)ထို့အတူ လူတွေကလည်း "ငါ့အိုး ငါ့အိမ်၊ ငါ့စိန် ငါ့ရွှေ၊ ငါ့ငွေ ငါ့ဥစ္စာ၊ ငါ့ရတနာတွေ"လို့ ဆိုကြတဲ့အခါ စိန်ရွှေရတနာတို့က ရယ်ကြပြန်တာပဲတဲ့–

"အလိုလေး... တို့ကဖြင့် ဟိုလူ့အသုံးအဆောင် ဖြစ်လိုက်၊ ဒီလူ့အသုံးအဆောင် ဖြစ်လိုက်ရနဲ့ နားရတယ်လို့ကို မရှိဘူး၊ အိုးအိမ် ခြံမြေ စိန်ရွှေရတနာဆိုတာ အဆင့်ဆင့် လက်တွေ ပြောင်းနေတာပဲ၊ ကံကောင်းသူ့ထံမှာ နားကြရတာ မဟုတ်လား၊ ဒါကိုများ တို့ကို ပိုင်စိုးကြသတဲ့ ဟဲ ဟဲ ဟဲ"

ဟူ၍ သရော်ကာ ဟက်ဟက်ပက်ပက် ရယ်မောနေကြသတတ်၊ ဤသို့လျှင် ငါပိုင် ငါစိုး ငါ့တန်ခိုးဟု မာနတွေနဲ့ လွှမ်းမိုး၊ တဏှာတွေနဲ့ ရစ်ပတ် ဒိဋ္ဌိတွေနဲ့ သိမ်းပိုက်ထားရင်းပင် ပစ္စည်းဥစ္စာရတနာတို့က ထိုသူ့ကို စွန့်ခွာသွားကြမြဲဖြစ်သတည်း။

# ရှစ်ရှားသီးပိုင်းမျှသာ ပိုင်ပါတော့ကလား

ဗုဒ္ဓဘာသာဝင်တိုင်း အားလုံး သိနေကြတဲ့ သီရိဓမ္မာသောကမင်းကြီးသည် ဘုန်းမီးနေလတောက်ပခဲ့၏၊ မင်းကြီး၏ အရှိန်အဝါအာဏာသည် မြေအောက်တစ်ယူဇနာ၊ ကောင်းကင် တစ်ယူဇနာ ပြန့်နှံ့သည်။ ကြိမ်စကြာဖြင့် ရိုက်ခေါ်လျှင် ကာလနဂါးကြီးပင် မနေနိုင်၊ လာရောက်ရသည်ဟူ၏။

အလှူဒါနဘက်မှာလည်း စံတင်ရလောက်အောင် ဖြစ်၏၊ ရေတွင်းပေါင်း ရှစ်သောင်းလေးထောင်၊ ရေကန်ပေါင်း ရှစ်သောင်းလေးထောင်၊ စေတီပေါင်း ရှစ်သောင်းလေးထောင်၊ ကျောင်းပေါင်း ရှစ်သောင်းလေးထောင် ဆောက်လုပ်လှူဒါန်းသည်။

"သာသနာတော်မှာ ငွေအသပြာ ကုဋေ (၁၀၀) တစ်ရာ လှူဒါန်းမည်"ဟု အဓိဋ္ဌာန်ပြီးလျှင် လှူဒါန်းခဲ့၏၊ သို့သော် မပြည့်တတ်၊ ၉၆–ကုဋေ လှူပြီးချိန်မှာ မကျန်းမမာ ဖြစ်လာသည်၊ အိပ်ရာထက်တွင် အားပျော့နေပြီ။

"ကုဋေ (၁၀၀) ပြည့်အောင် လှူပါ"ဟု လေသံပျော့ပျော့ဖြင့် မှာကြားနေသော်လည်း နောက်ပုဂ္ဂိုလ်တို့က မလှူချင်ကြ၊ အာဏာတန်ခိုး အရှိန်အဝါတို့က လျော့လာပြီ မဟုတ်ပါလော။

တစ်ချိန်က ဇမ္ဗူဒိပ်တစ်မြေပြင်လုံးကို အစိုးရခဲ့သော ရှင်ဘုရင်ကြီးသည် ယခု နောက်ဆုံးအချိန်၌ ဆေးဆရာက ရောဂါအတွက် ပေးထားသော ရှစ်ရှားသီးပိုင်းကလေး တစ်ခြမ်းမျှကို သာလျှင် ပိုင်တော့၏၊ ထို့ကြောင့် ဤသို့ ညည်းရှာသည်–

သကလံ မေဒနိံ ဘုတွာ၊
ဒတွာ ကောဋိသတံ သုခီ။
အဒ္ဓါ မလက မတ္တဿ၊

အန္တေ ဉာဿရတံ ဂတော။ ။
သကလံ မေဒနိ'–ဣန္ဒိယတစ်ကျွန်း မြေပြင်အဝှန်းတစ်ခုလုံးကို၊ ဘုတွာ–စည်းစိမ်အဖြစ်ဖြင့် ခံစားစံစားပြီး၍၊ ကောင်ဋိသတံ–ကုဋေတစ်ရာကုန်အောင်၊ ဒတွာ–စွန့်ကြဲပေးကမ်း လှူဒါန်းပြီး၍၊ သုခီ–အချမ်းသာကြီး ချမ်းသာသူ ဖြစ်ပါလျက်။

အန္တေ–သေခါနီးရာ နောက်ဆုံးအချိန်အခါ၌၊ အဒ္ဓါ မလက မတ္တဿ–ဆေးဆရာပေးထားတဲ့ ရှစ်ရှားသီးကလေး တစ်ခြမ်းမျှကိုသာလျှင်၊ ဉာဿရတံ–စိုးပိုင်သူ၏အဖြစ်သို့၊ ဂတော–ရောက်ရပါပေ့ါကလား။

**မှတ်ချက်။** ။ယခု မသေသေးလို့ ရှစ်ရှားသီးကလေး တစ်ခြမ်းကို ပိုင်သေးတာ၊ သေပြီဆိုရင် ရှစ်ရှားသီးကလေး တစ်ခြမ်းတောင် ပိုင်တော့မှာ မဟုတ်တော့ဘူး၊ သတိထားဖွယ် သံဝေဂ ယူဖွယ်ပေတကား။

# သစ္စာမသိတာ ကြောက်စရာအကောင်းဆုံး

၂၆.၆.၆၁
(မိုးကုတ်မြို့မှာ ဟောသောတရား)

ဒကာ ဒကာမတို့ ဘုရားရှင် ကိုယ်တော်မြတ်ကြီး အမြင်နဲ့ ပြောတာ၊ "သစ္စာ မသိတာ ကြောက်စရာ အကောင်းဆုံးပဲ"တဲ့၊ (မှန်ပါ)

ဦးဘရှင်းရေ… အခု ဒီဘဝကနေပြီး နောက်ဘဝ လူပြန်ဖြစ်ချင်တယ်ဆိုတဲ့လူတစ်ယောက်ကို အကဲခတ် (မှန်ပါဘုရား) လူပြန်ဖြစ်ချင်တယ်ဆိုတော့ မောင်နိုင် လူ၏အစ ဇာတိက လာမှာ (မှန်ပါ)

ဇာတိ ဘာသစ္စာ (ဒုက္ခသစ္စာပါဘုရား) ဩော်… လူပြန်ဖြစ်ချင်တဲ့သူဟာ သစ္စာသိလို့လား မသိလို့လား (မသိလို့ပါဘုရား)

လူပြန်ဖြစ်ချင်တယ်ဆိုတော့ ပဋိသန္ဓေနေချင်သေးလို့ (မှန်ပါ) အိုလဲ အိုချင်သေးလို့ (မှန်ပါ) နာလဲ နာချင်သေးလို့ (မှန်ပါ) ပီးတော့ သေလဲ (သေချင်သေးလို့ပါ ဘုရား) အဲဒါတွေဟာ ဘာသစ္စာ (ဒုက္ခသစ္စာတွေပါ ဘုရား)

မောင်နိုင် အဲဒါ အကဲခတ်စမ်း၊ အဲဒါတွေ လိုချင်တာ ဘာကြောင့်ပါလိမ့် (သစ္စာမသိလို့ပါ ဘုရား) ကြောက်စရာကောင်းလိုက်ပါဘိ (မှန်ပါ) ဒါကြောင့် သံသရာရှည်ရတာ (မှန်ပါဘုရား)

ဦးဘရှင်းရေ… အခု ဘုန်းကြီး ပြောနေတဲ့ ဟိုဘဝ ဒီဘဝ ဆုတောင်းတဲ့ ပုဂ္ဂိုလ်တွေဟာ ခင်ဗျားတို့ ရှေ့မှာပဲ ကြားနေရတွေ့နေရပါတယ် (မှန်ပါ) ဘုရားဖူးသွားကြပြီးတော့ ဘုရားရှေ့မှာ ဆုတောင်းလိုက်ကြတာ (မှန်ပါ) တန်ခိုးကြီးတဲ့ဘုရားတွေရှေ့မှာဆိုရင် ပိုပြီး ပေါတာပေ့ါကွ မောင်နိုင်ရ (မှန်ပါဘုရား)

သစ္စာမသိတဲ့သူတွေဟာ သုခကို တောင်းယူနေသလား၊ ဒုက္ခကို တောင်းယူနေသလား၊ အကဲခတ်ကြစမ်း (ဒုက္ခကို တောင်းယူနေကြပါတယ်ဘုရား) ကိုင ကြောက်စရာကြီးပါလား (မှန်ပါ ဘုရား)

ဇာတိကို ဒုက္ခသစ္စာလို့ မသိတော့ လူဖြစ်ရပ လို၏၊ နတ် ဖြစ်ရပါလို၏၊ ဗြဟ္မာ ဖြစ်ရပါလို၏၊ အကြိမ်ကြိမ်များ ဖြစ်ရပါလို၏–ဆိုတော့ ဩော်… ဒုက္ခ အကြိမ်ကြိမ် ရောက်ရပါလို၏ ဆုတောင်းတာနဲ့ မတူပေဘူးလား၊ (တူပါတယ် ဘုရား)

ဒုက္ခကို မရ–အရ တောင်းယူနေကြတာ (မှန်ပါ) ပိုက်ဆံကြေးငွေ အကုန်ကျခံပြီးတော တောင်းတာ (မှန်ပါ) စက်ရှင်မင်းကြီးထံ ငွေထိုးပြီး သေမိန့်ချပေးပါလို့ တောင်းပန်တာနဲ့ တူနေတ (တူပါတယ်ဘုရား)

အေး… အဲဒါကြောင့် ပြောနေတာ "သ မသိတာ ကြောက်စရာ ကောင်းလှပါတယ်"လို့ (မှ ဘုရား) ဟုတ်ဘူးလား (ဟုတ်ပါတယ် ဘုရား)

## အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်ခံရခြင်း

သက္ကရာဇ် ၁၃၂၄-ခု ဝါဆိုလဆန်း ၁-ရက် (၂.၇.၆၂)နေ့တွင် မိုးကုတ်မြို့မှ အမရပူရသို့ ယခုနှစ် စောစော ပြန်လည်ကြွခဲ့၏၊ အကြောင်းမှာ ရန်ကုန်မြို့သို့ ကြွ၍ တော်လှန်ရေးအစိုးရက ဆက်ကပ်သော အဂ္ဂမဟာ ပဏ္ဍိတဘွဲ့ကို လက်ခံရန် ကိစ္စရှိနေ၍ ဖြစ်သည်။

ဤအဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် လက်ခံရေးနှင့် ပတ်သက်ပြီး ဆရာတော်အား ကြိမ်ဖန်များစွာ အတန် တန် လျှောက်ထားကြရ၏၊ ဝိုင်းဝန်း၍ တောင်းပန်ကြ ရသည်၊ ဆရာတော်က "မယူလို လက်မခံလို"ဟု ဆိုကာ ပယ်-ပယ်ချနေခဲ့သည်။

> "ဘုန်းကြီး ယခုလို သာသနာတော်အတွက် အလုပ်-လုပ်နေတာဟာ (ပရိယတ် -ပဋိပတ် နှစ်ရပ်လုံး ဆောင်ရွက်လာခဲ့တာဟာ) အဂ္ဂမဟာ ပဏ္ဍိတဘွဲ့ရအောင် လုပ်နေတာ မဟုတ်ဘူး"

ဟူ၍လည်း မိန့်မြွက်ကာ ငြင်းဆန်နေတော်မူပါသတတ်၊ ဟုတ်ပါသည်၊ ဆရာတော့်အတွက်တော့ မလိုအပ်ဘူး- ဟူ၍ ပြောနိုင်ပါ၏၊ ပို၍ ဂုဏ်တက်မလာနိုင်ပါ၊ သို့ ရာတွင် တပည့် ဒကာ ဒကာမတို့အတွက် လိုအပ်လှပါ သည်၊ အမှန် လိုအပ်လှပါ၏။

သို့ဖြစ်၍ မန္တလေးမြို့၊ ဗိုလ်ချုပ်လမ်း ဆီစက် ပိုင်ရှင် ဦးစံရီ၊ ဝန်ကြီးဟောင်း ဦးအောင်ဇေယျ၊ ဝန်ကြီး ဟောင်း မြန်အောင် ဦးတင်တို့ ဦးဆောင်ကြ၍ မိန့်မိန့် မားမား ဒကာများ စုပေါင်းကြပြီး တောင်းပန်လျှောက် ထားကြရပြန်၏-

> "မှန်ပါ ဆရာတော်အတွက်တော့ ဟုတ်ပါတယ် ဘုရား၊ အဂ္ဂမဟာပဏ္ဍိတဘွဲ့ရခြင်းကြောင့် ထူး ပြီး ဂုဏ်တက်မလာနိုင်ပါဘူး၊ မလိုအပ်ပါဘူး၊ ဒါပေမယ့် တပည့်တော်များအတွက်တော့ လို အပ်ပါတယ် ဘုရား..."
>
> နောင်အနာဂတ်အတွက် ဆရာတော်ရဲ့ လက်ငုတ်ကို ဆက်လက်ပြီး အလုပ်-လုပ်ကြ တဲ့အခါ တပည့်တော်တို့မျက်နှာမငယ်ရအောင် ချီးမြှောက်တော်မူပါဘုရား"

ဤသို့ ဖွတ်လျှောက်ထားတောင်းပန်ကြတော့မှ နောင် လာနောက်သားတို့ကို ငဲ့သောအားဖြင့် ဆက်လက်ပြီး မငြင်းဆန်ဘဲ နေတော့သည်ဟူသတတ်။ ။

## မန္တလေးမှ မီးရထားဖြင့် ရန်ကုန်သို့

ဤသို့ လျှောက်ထားချက်ကို ခွင့်ပြုတော်မူပြီး လျှင် သက္ကရာဇ် ၁၃၂၄-ခု ဝါဆိုလဆန်း ၄-ရက် (၁၉၆၂-ခု ဇူလိုင်လ ၅-ရက်)နေ့ ညနေတွင် မန္တလေးမှ ရန်ကုန်သို့ မီးရထား သီးသန့်တွဲလုံးဖြင့် ကြွလာတော် မူသည်။

ကြည်ညိုကြသော ဒကာ ဒကာမတို့က သီးသန့် တွဲအဖြစ် မီးရထားဌာနမှ တစ်တွဲလုံးငှားကြခြင်းဖြစ်၏၊ ဆရာတော်ကြီး စိတ်ချမ်းသာ ကိုယ်ချမ်းသာဖြစ်အောင် စီမံကြခြင်း ဖြစ်သည်၊ ပြီးလျှင် ယင်းတွဲဖြင့် ဒကာ ဒကာမတို့လည်း ဝေယျာဝစ္စပြုရန် လိုက်ပါလာကြ၏။

ဤသို့ မိုးကုတ် ဆရာတော်ကြီး ကြွမည့် အကြောင်းကို တစ်ယောက်စကား တစ်ယောက်နားဖြင့် သိကုန်ကြပြီးလျှင် လမ်းခရီးတစ်လျှောက် မြို့တိုင်းလိုလို၊ ဘူတာတိုင်းလိုလိုပင် လာရောက်ကြည်ညိုကြ၏၊ ဆရာ တော်ကြီးအား ဖူးမြော်ကန်တော့ကြသည်၊ အုံ့မခန်းပင် ဖြစ်ကြရ၏။ ကြက်သီးမွေးညင်း တဖျင်းဖျင်း ထလောက် အောင် ဖြစ်ကြရသည်။

ဆရာတော်ကြီး၏ တန်ခိုးတော်၊ ဟောကြားပေး သော သစ္စာတရားတော်တို့၏ တန်ခိုးတော် ပေ တ ကား...။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ညောင်လေးပင် ဘူတာတွင်

ခရီးစဉ်အတိုင်း မီးရထား သီးသန့်တွဲလုံးဖြင့် ကြွတော်မူလာရာ ၁၃၂၄–ခု ဝါဆိုလဆန်း ၅–ရက်နေ့ နံနက်(၁၀)နာရီခန့်တွင် ညောင်လေးပင်မြို့ဘူတာသို့ ဆိုက်လေ၏၊ ဆရာတော့်ကို ဖူးရန် ထွက်လာကြသော ပရိသတ်ကြီးကား "မြို့လုံးကျွတ်ထွက်လာလေသလား" ထင်မှားရလောက်အောင် များပြားလွန်းလှသည်။

ဘူတာရုံကွင်းကြီး အပြည့်မျှ ကြိတ်ကြိတ်တိုး ဖြစ်သွားကြတော့သည်၊ ညောင်လေးပင်မြို့သို့ ဆရာတော် ကြွမလာသည်မှာလည်း အတော်ကြာသွားပြီဖြစ်၍ လွမ်းဆွတ်သလို ဖြစ်ကြသလော မပြောတတ်၊ ဆရာတော်ကြီးကို မမြင်ရ မြင်ရအောင် လုယက်တိုးခွေ့၍ ဖူးမြော်ကြ ပူဇော်ကြတော့သည်။

အချို့က လှူဖွယ်တန်းဖွယ် စားသောက်ဖွယ် ခဲဖွယ် ဘောဇဉ်တို့ဖြင့် ရထားပေါ်သို့ တက်လာကြပြီး လှူင် ဆရာတော်ကြီးအား ကပ်လှူကြ၏၊ ရထားပေါ်တွင် "နေ့ဆွမ်း" ဆက်ကပ်ကြရာ ၂၅–မိနစ်ခန့်မျှ ကြာသည်။

ဆွမ်းကိစ္စပြီးသောအခါ ပရိသတ်တို့အား ဆုံးမ သြဝါဒ အနည်းငယ်မျှ ပေးပါသေး၏၊ သို့ဖြစ်၍ မီးရထား ဆိုင်ရာ အရာရှိတို့ကလည်း လေးစားကြည်ညိုကြသဖြင့် (သြဝါဒပြီးအောင်) ခါတိုင်းထက် နာရီဝက် ကျော်ကျော် ပို၍ ရပ်နားပေးပါသည်။

အားလုံး ကိစ္စပြီးကြသောအခါ ညောင်လေးပင် ဘူတာမှ မီးရထားကြီး တရွေ့ရွေ့ ဆက်လက် ထွက်ခွာလာပြီ၊ သို့သော်လည်း အချို့သော ဒကာရင်း ဒကာမရင်းတို့က မဆင်းကြ၊ ရထားပေါ်တွင် ဆက်လက် လိုက်ပါလာကြသည်၊ ထို့နောက်–

"ဆရာတော်ဘုရား... ညောင်လေးပင်မြို့ကို ရှေးတုန်းကလိုပင် နှစ်စဉ် ကြွရောက် တရား ဟောပေးတော်မူပါဦး ဘုရား"

ဤသို့ လျှောက်ကြ၏၊ အငမ်းမရ မဝနိုင်သော ဖူးမြော်ခြင်းမျိုး၊ လျှောက်ထားခြင်းမျိုးဖြင့် လျှောက်ထားကြ၏၊ ထိုအခါ ဆရာတော်က–

"အေး... ငါ့ရပ်နာမ်ခန္ဓာကြီး မပြိုကွဲသေးလို့ အကြောင်းညီညွတ်ရင် မင်းတို့မြို့ကို လာပြီး တရားဟောရမှာပေါ့ကွာ၊ ဒကာ ဒကာမတို့ကလဲ တရားကို အမြန်ဆုံးရအောင် ကြိုးစားကြ။

ငါ့ခန္ဓာကြီးကဖြင့် ဟော့... သေဘက်ကို ဒုန်းစိုင်းပြေးနေတော့တာပဲ"

ဟု မိန့်တော်မူ၏၊ ဒကာ ဒကာမတို့လည်း ဆရာတော် သတိပေးသမျှ၊ ဆုံးမသမျှ သြဝါဒကို နာခံရင်း ညောင်လေးပင်မှနေ ဒိုက်ဦးမြို့အထိ လိုက်ပါလာကြ၏၊ ပြီးမှ ဆင်း၍ လက်အုပ်ကလေးများ ချီပြီး ကျန်ရစ်ခဲ့ကြတော့သည်။

# ပဲခူးဘူတာကြီးတွင်လည်း

ပဲခူးဘူတာကြီးသို့ မီးရထားကြီး ဝင်လေပြီ၊ ဤဘူတာကြီးတွင်လည်း ပြည့်ကျပ်နေသော ပရိသတ်ကြီးကို တွေ့ရပြန်၏၊ ဆရာတော်ဘုရားကြီးကို ဖူးမြော်လို၍ အငမ်းမရ စောင့်နေကြသော ပရိသတ်ကြီး ဖြစ်ပါသတဲ့၊ ဤမြို့ကား ဆရာတော်ဘုရားကြီး၏ အစ်မ အရင်း သီလရှင် (ဒေါ်သုစာရီ–ခေါ်) ဒေါ်ကီတ္တိနေထိုင်သောမြို့ ဖြစ်သည်။

ဤပဲခူးဘူတာကြီးတွင်လည်း ညောင်လေးပင်

ဘူတာနှင့် မခြား များပြားလှသော ပရိသတ်ကြီးကို တွေ့ရပြန်၏၊ "ဆရာတော်ဘုရားကြီးကို ဖူးပါရစေ"တဲ့၊ ပရိသတ်ထဲက အော်၍ ကျစ်တိုးနေသည်၊ ဘူတာကွင်းကြီး အပြည့်အညပ်မျှပင် ဖြစ်၏၊ အစ်မလေး သီလရှင် ဦးဆောင်သော သီလရှင် ပရိသတ်ကြီးကလည်း တစ်ကွင်းလုံး "ဝါထိန်"သွားအောင် များလှပါဘိတောင်း။

ဒကာ ဒကာမတို့က ဆရာတော်ဘုရားကြီးကို ကြည်ညိုကြလွန်း၍၊ သစ္စာတရားတွေကို ဟောပေးသည့်အတွက် ကျေးဇူးတင်ကြလွန်း၍ သူတို့ ကြည်ညိုချင်သလို ကြည်ညိုနေကြတော့သည်။

ကြည်ညိုကြပုံမှာ မန္တလေးမှ ထွက်လာပြီးနောက် ဘူတာခပ်ကြီးကြီးတွေ ရောက်တိုင်း ခပ်ဖျောက်ဖျောက် လာရောက်ကြည်ညိုနေကြပြီ၊ အချို့က စားဖွယ်သောက်ဖွယ်ဖြင့်၊ အချို့က ဖယောင်းတိုင်တို့ဖြင့်၊ အချို့က ပန်းတို့ဖြင့် ပူဇော်သွားကြ ဖြန့်ကြဲသွားကြ၏။

## ကြည့်လို့ ကောင်းကြသေးရဲ့လား

ဤနည်းအားဖြင့် ပန်းတွေ ပူဇော်လာခဲ့ကြရာ ညောင်လေးပင်ဘူတာသို့ ရောက်သောအခါတွင်ကား အလွန်အကျွံ ဖြစ်ကုန်ကြတော့၏၊ ဆွမ်းဘောဇဉ် မုန့်ခဲဖွယ်တို့အပြင် ပန်းခိုင် ပန်းခက် ပန်းစည်း ပန်းကုံးတွေက တပုံတပင်ကြီး ဖြစ်ကုန်ကြတော့သည်။

ဆရာတော် ဘုရားကြီးအနီးတွင် ပန်းပွင့်တွေ ဖြန့်ကြဲကြ၏၊ ဆရာတော်ဘုရားကြီး သွားသော လမ်းတစ်လျှောက်တွင်လည်း ပန်းပွင့်ဝတ်မှုန်တို့ဖြင့် ဖြူးထားကြသည်၊ အပ်ချည်ဖြင့် သီထားသော ပန်းပွင့်တို့ကိုကား ရထားတွဲအတွင်း၌ အသွယ်–အသွယ်တန်းလိုက်ကြတော့၏၊ အချို့ပန်းခိုင်တွေကို ရထားတွဲ၏ အပြင်ဘက်တွင် ဝေနေအောင် စိုက်ထိုးထားကြသဖြင့် "ပန်းရထားကြီး" ဖြစ်သွားတော့သည်။

ထို့ကြောင့် အစ်မလေး ဦးဆောင်သော သီလရှင်အဖွဲ့က ရထားတွဲအနီးသို့ ကျစ်တိုးဝင်လာ၍ စကားပြောသောအခါ ဆရာတော်ကြီးက–

"ကဲ... ငါလာတာ ကြည့်လို့ ကောင်းကြသေးရဲ့လား–ဟဲ့"တဲ့

မိန့်တော်မူတော့သည်၊ ပန်းတွေ ဝေနေအောင် ရထားတွဲကြီးကို ချိတ်ဆွဲခြယ်သထားကြသည်ကို ရည်ရွယ်၍ မိန့်တော်မူခြင်း ဖြစ်၏။

## တရားရထိုက်တဲ့သူတွေ ရပါစေ

"အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ခံယူရန် ရန်ကုန်သို့ ကြွလာသည်"ဟု ဆိုသော်လည်း ဆရာတော်ဘုရားကြီး၏ မနောအာရုံထဲမှာကား အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် မရှိပေ၊ ဒါက အဓိက မဟုတ်ချေ။

ကျွတ်ထိုက်တဲ့သူများ ကျွတ်ပါစေ၊ တရား ရထိုက်တဲ့သူများ ရပါစေ၊ သိထိုက်တဲ့သူများ သိပါစေ၊ ဤစေတနာတွေသာ ဖုံးလွှမ်းနေတော်မူခဲ့သည်။

"ရန်ကုန်ရောက်လျှင် ရက်တိုတိုကလေးအတွင်းမှာ တရားတွေ အများကြီး သိသွားရအောင် ပွဲခပ်များများ ဟောပေးမှ ဖြစ်မယ်"ဤသို့ တွေးနေရာမှ ဒကာတစ်ဦးက အနီးသို့ ရောက်လာ၏။

စပ်မိစပ်ရာ ပြောရင်း လျှောက်ထားရင်းက အဂ္ဂမဟာပဏ္ဍိတဘွဲ့အကြောင်းသို့ ရောက်သွားသည်၊ ထိုအခါ ဆရာတော်ဘုရားကြီးက ဤသို့ မိန့်တော်မူတော့၏–

"ငါ အခုလိုလာတာ အဂ္ဂမဟာပဏ္ဍိတဘွဲ့ လိုချင်လို့ မဟုတ်ပါဘူး၊ ဒါက အဓိက မဟုတ်ပါဘူး၊ ရန်ကုန်က တရားရထိုက်တဲ့ ဒကာဒကာမတွေ တရားရပါစေတော့–လို့ ဒီလိုရည်ရွယ်ချက်နဲ့ လာတာပါ"

ဤသို့ မိန့်တော်မူ၏၊ ဟုတ်ပါသည်၊ ဤ အဂ္ဂ မဟာပဏ္ဍိတဘွဲ့ လက်ခံတော်မူပါရန်ကိုပင် ဒကာများက အတန်တန် လျှောက်ထား၍ ယူရသည် မဟုတ်ပါလော။

# ရန်ကုန်ဘူတာကြီးသို့ ဆိုက်ရောက်




အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် လက်ခံရန်ကြွစဉ်က ရန်ကုန်ဘူတာကြီး၌ ရထားပေါ်မှအဆင်း

ဆရာတော် စီးနင်းလိုက်ပါလာခဲ့သော မီးရထားကြီးသည်၁၃၂၄–ခု ဝါဆိုလဆန်း၅–ရက်(၆.၇.၆၂)နေ့ မွန်းလွဲ ၂–နာရီခန့်တွင် ရန်ကုန်ဘူတာကြီးသို့ ဝင်လေပြီ၊ စောင့်စားမျှော်လင့်ကြိုဆိုနေကြသော ပရိသတ်ကြီးကို အံ့မခန်း မြင်ကြရတော့၏၊ ရန်ကုန်ဆိုမှ တကယ့်ရန်ကုန်ပါပေ၊ ဆရာတော်ဘုရား၏ ဘုန်းကံအရှိန်အဝါကားကြီးမားလှဘိခြင်း။

ရန်ကုန်မြို့ မျက်နှာဖုံးလူကြီးများဖြစ်ကြသည့် ဦးဘိုးငြိမ်းကုမ္ပဏီပိုင်ရှင် ဦးသံဒိုင်၊ ကျားပုံမကောက်ဆေးလိပ်ရုံ ပိုင်ရှင် ဦးသန်းမောင်၊ ဝန်ကြီးဟောင်း ဦးအောင်ဇေဝ၊ ဝန်ကြီးဟောင်း (မြန်အောင်) ဦးတင်၊ မြန်အောင် ဦးချန်ထွန်း၊ ကုန်ဈေးတန်း ဦးချစ်မောင် ဒေါ်သန်းသန်း၊ ဦးမြ၊ ဦးဆင်–ဒေါ်ငွေး၊ သခင်ဝတင်၊ ဘလောက်နှင့်ပုံနှိပ်တိုက်ပိုင်ရှင်ဦးထွန်းရင်၊ (ဆန်း) ဦးညွန့်၊ (ဟံဇား) ဦးညွန့်၊ ဦးဘသောင်း၊ ဟင်္သာတမြို့ စက်ပိုင်ရှင်ဦးမြ၊ စက်ပိုင်ရှင်ဦးမာဒင် စသောလူကြီးလူကောင်းများ ဦးဆောင်ကြိုဆိုကြသည်။

ဆရာတော်ဘုရားကြီးကို ကြိုဆိုငံ့လင့်နေကြသော ပရိသတ်ကြီးကား အစီအစဉ်တကျ ရှိလှပါသဖြင့် ကြက်သီးဖြန်းဖြန်းထကြရပါတော့သည်၊ ရန်ကုန်ဘူတာကြီးဝင်းအတွင်းနှင့် အပြင် ပလက်ဖောင်းတို့အပေါ်မှာ ၅၀၀၀ ကျော် ၆၀၀၀–မက (ငါးထောင်ကျော် ခြောက်ထောင်မက) ရှိမည်ဟု ထင်ရ၏၊ ဖွေးဖွေးလှုပ်မျှ ဖြစ်ကြရတော့သည်။



အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် လက်ခံရန်ကြွစဉ်က ရန်ကုန်ဘူတာကြီးအတွင်း ဆရာတော်ဘုရားကြီးအား ကြိုဆိုကြပုံ

# ကြည်ညိုဖွယ် မြင်ကွင်းကြီး

ကျားပျံမကောက် ဦးသန်းမောင်က သူ့စိတ်ကူးဖြင့် စီစဉ်ထားပုံမှာ ရန်ကုန်မြို့ပေါ်မှာ ရှိသမျှ သူတို့ပိုင် ဆေးလိပ်ခုံပေါင်းစုံတို့မှ ထောင်ပေါင်း များစွာသော ဆေးလိပ်သမ အမျိုးသမီးတွေ အကုန်လုံးကို သိမ်းကျုံး ခေါ်ထားလိုက်သည်၊ ထို့နောက် လူတစ်ဦးလျှင် ဗန်းမော် တဘက် အမွေးစုတ် အကောင်းစားကြီးတွေ တစ်ထည်စီ ဝေငှထား၏။

"ဆရာတော်ဘုရားကြီး ရထားပေါ်မှ ဆင်းကြွလာလျှင် ဆင်းသည့်နေရာမှစ၍ အမွေးစုတ် တဘက်ကြီးတွေကို ဆက်၍ ဆက်၍ အုတ်သမံတလင်းပေါ်မှာ ခင်းကြရမည်၊ ဆရာတော်ဘုရားကြီး၏ခြေ– မြေပေါ်မှာ မကျစေရ။

ဆရာတော်ဘုရားကြီး သွားမည့် လမ်းကြောင်းအတိုင်း အမွေးစုတ် တဘက်တွေ ဆက်၍ ဆက်၍ ခင်းပါ၊ ဘူတာကြီး၏ အပြင်ဘက် ထွက်၍ ဆရာတော်ဘုရားကြီး စီးမည့်ကားသို့ ရောက်သည့်တိုင်အောင် တဘက်တွေ ဆက်၍ ဆက်၍ ခင်းထားပါ။

ပီးတော့ ဆရာတော်ဘုရားကြီး နင်း၍ နင်း၍ ကြွသွားပြီးလျှင် ပြီးချင်း ကိုယ့်တဘက် ကိုယ် နောက်က လိုက်ရုပ်သိမ်းပါ၊ ပြီးလျှင် အပိုင်ယူကြ…"

ဤသို့လည်း ပြောထားသည်၊ ဆေးလိပ်သမတို့လည်း ပြောသည့်အတိုင်း ပြုလုပ်ဆောင်ရွက်ကြသည်၊ ရှည်လျား ဝေးကွာသော လမ်းမကြီးတစ်လျှောက်လုံး အမွေးစုတ် တဘက် အကောင်းစားကြီးတွေ ဆက်၍ ဆက်၍ ခင်းထားကြရာ အံ့သြဖွယ်ကြီး ဖြစ်တော့၏၊ ကြည်ညိုဖွယ် မြင်ကွင်းကြီးတစ်ခုလည်း ဖြစ်တော့သည်။ အံ့သြဘနန်း ကြက်သီးဖြန်းမျှ၊ ထုံမွှမ်းကြည်ညို၊ လူထိုထို…။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဦးသံဒိုင်၏တိုက် ယာယီစံကျောင်းသို့

ထို့နောက် ရန်ကုန်ဘူတာကြီးမှတစ်ဆင့် ဆင်းဒဝစ်လမ်း၊ အမှတ် -၃၃၊ ဦးသံဒိုင်+ဒေါ်တင်တင်တို့၏ တိုက်အိမ် (ယာယီစံကျောင်း)သို့ ကားကြီး ကားငယ် အသွယ်သွယ်တို့ဖြင့် ပင့်ဆောင်ကြလေသည်၊ များပြားစွာသော ကားတန်းကြီးမှာ မဆုံးနိုင်အောင် ရှည်လျားလှသဖြင့် လက်ဖျားခါရအောင် အံ့သြရလေ၏။

ကျားပျံမကောက် ဦးသန်းမောင်က "ဆရာတော်ဘုရားကြီး ရန်ကုန်ကို ကြွလာလျှင် စီးဖို့"ဆိုပြီး ထိုခေတ်က အကောင်းဆုံး အမျိုးအစား-ဈေး အများဆုံးပေးရသော မော်တော်ကားကြီးတစ်စီး ဝယ်ထားသည်၊ "မည်သူမျှ မစီးရ၊ ဆရာတော်ဘုရားကြီးကို အဦးဆုံး စီးစေမည်၊ အဦးဆုံး အသုံးပြုစေမည်၊ ဒါမှ မင်္ဂလာယူရာလဲ ရောက်တယ်"ဟု ဆိုထား၏။

ယင်းကားကြီးဖြင့် ရန်ကုန်ဘူတာကြီးမှ ဦးသံဒိုင်၏ အိမ်သို့ ပင့်ကြသည်၊ ကားကြီးပေါ်အရောက်တွင် ဆရာတော်ကြီးက ကောက်ကာငင်ကာ မိန့်တော်မူတော့၏ -

"အေး... မင့်ထမ်းစင်ကြီးနဲ့ ငါ့အလောင်းကောင်ကြီးနဲ့ကတော့ တယ်...လိုက်သကွာ..."

ဤသို့ အမိန့်ရှိလိုက်ရာ ဦးသန်းမောင်ကြီးတို့ လူစုမှာ သူ့ကိုယ်ကြည့်၊ ကိုယ့်သူကြည့်နဲ့ မျက်စိမျက်နှာပျက်ဖြစ်ကုန်ကြတော့သည်၊ ဆရာတော်ကတော့ မှန်မှန်ပင်ဖြစ်၏၊ တရားသဘောနှင့် ပြောခြင်း ဖြစ်သည်။

## တရားပွဲသဘင် နေ့တိုင်းယင်

ဤနည်းအားဖြင့် ဆရာတော်ဘုရားကြီးသည် ဦးသံဒိုင်+ဒေါ်တင်တင်တို့၏ တိုက်အိမ် (ယာယီစံကျောင်း)သို့ ရောက်တော်မူလာ၏၊ ခရီးပန်းလာမှုကိုပင် ပမာဏ မထားဘဲ "တရားဟောမည်"ဟု မိန့်တော်မူတော့သည်၊ "တစ်နေ့လျှင် ၂-ကြိမ် ဟောပေးမည်"ဟု မိန့်တော်မူ၏။

ထို့ကြောင့် နောက်တစ်နေ့ ၁၃၂၄-ခု ဝါဆိုလဆန်း ၆-ရက် (၇.၇.၆၂) တနင်္ဂနွေနေ့ နံနက်မှစတင်၍ တစ်နေ့လျှင် ၂-ကြိမ်-

"နံနက်ပိုင်း ၇နာရီမှ ၈-နာရီထိ တစ်ကြိမ်၊ ညပိုင်းတွင်လည်း ၇-နာရီမှ ၈-နာရီအထိ တစ်ကြိမ် တရားဟောတော်မူပါလိမ့်မည်"

ဟူ၍ ကြေညာပေးကြရလေသည်၊ ရက်တိုတိုကလေး အတွင်းမှာ တရားဓမ္မတွေကို အရေးတကြီး ဖိပြီးဟောရမှာမို့ ဖြစ်လေသလော မပြောတတ်။

ထိုနေ့နံနက်က တစ်ကြိမ်ဟောပြီးလျှင် နေ့လယ်ပိုင်း၌ အဂ္ဂမဟာပဏ္ဍိတ ပူဇော်ပွဲ ကျင်းပရာဖြစ်တဲ့ ကုက္ကိုင်း၊ ဟာမစ်တစ်လမ်း၊ မဟာစည်သာသနာ့ရိပ်သာသို့ ကြွတော်မူသည်။

ညပိုင်းတွင် ဦးသံဒိုင်+ဒေါ်တင်တင်တို့၏ တိုက်၌ ၇-နာရီမှ ၈-နာရီအထိ တရားတစ်ပွဲ ဟောပေးတော်မူပြန်၏၊ ထိုစဉ်က မြင်ကွင်းကျယ်ရုပ်ရှင် ရိုက်ကူးထားခဲ့ကြသည်။

ဆရာတော်ဘုရားက တုတ်ကြီးတစ်ချောင်းဖြင့် ပိတ်ကားစက်ဝိုင်းကြီးပေါ် ထောက်ကာ ထောက်ကာဖြင့် ရှင်းလင်းဟောပြ ပေးတော်မူပါသတတ်။

## အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်ပွဲ

နိုင်ငံတော် တော်လှန်ရေးအစိုးရက နိုင်ငံအတွင်းမှာ ပူဇော်သင့် ပူဇော်ထိုက်သော ဆရာတော်ကြီးတို့ကို ရွေးချယ်၍ ဘွဲ့တံဆိပ်တို့ဖြင့် ဆက်ကပ်ကာ ပူဇော်မှုပြုနေကျ ဖြစ်၏၊ ထိုနှစ်က အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ခံယူရသော ဆရာတော်ပေါင်း(၂၈)ပါး ရှိတော်မူသည်။

ယခု "မိုးကုတ်ဆရာတော်"ဟူ၍ အများက ခေါ်ဝေါ်ကြသော ဆရာတော် ဦးဝိမလကိုလည်း "ပူဇော်ထိုက်၍ ပူဇော်သည်"ဟု သူတို့ ဆိုကြသည်၊ ထိုမှတစ်ပါး-

"ပိဋကတ်စာပေချပို့ရာ၌ ကျော်ဇောခြင်း၊ ကျမ်းပြုတော်မူခြင်း၊ သတ္တဝါဝေနေယျတို့အား တရားဓမ္မ ဟောပြတော်မူခြင်း၊ ယင်းသို့လျှင် ပိဋကတ္တယဆေက၊ အဘိဓမ္မာပါကဋ၊ ဂန္ထကာရက စသော ဂုဏ်ထူးဝိသေသရှိတော်မူသည်"

ဟု ဂုဏ်ပြုရေးသားထားကြ၏၊ ယင်းဂုဏ်တို့ကြောင့် ၁၃၂၄-ခု ဝါဆိုလဆန်း ၇-ရက် (၈.၇.၆၂) တနင်္ဂနွေနေ့၊ မွန်းလွဲ ၁-နာရီအချိန်တွင်-

ရန်ကုန်မြို့၊ ကုက္ကိုင်းရပ်၊ ဟာမစ်တစ်၊ သာသနာ့ရိပ်သာ၊ ဖလ်ယဉ်ဓမ္မာရုံကြီး၌၊ ပြည်ထောင်စုမြန်မာနိုင်ငံ၊ တော်လှန်ရေးအစိုးရ၊ သာသနာရေးဌာနမှ ဆရာတော် ဘဒ္ဒန္တ ဝိမလအား (အဂ္ဂမဟာပဏ္ဍိတဘွဲ့) တံဆိပ်တော် ဆက်ကပ်လှူဒါန်း ပူဇော်ကြလေသည်။

## ထိုနှစ်က အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခြင်း ခံယူတော်မူရသော ဆရာတော်ကြီးများ

၁။ ဖြူးမြို့၊ မြို့ထောင့်ကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ဇဝန၊ သက်တော် ၈၇၊ သိက္ခာတော် ၆၇။

၂။ အင်းစိန်ခရိုင်၊ တိုက်ကြီးမြို့နယ်၊ ဦးတိုရွာ၊ လမ်းသစ်ကျောင်း၊ ဆရာတော် ဘဒ္ဒန္တ ဝိသုဒ္ဓ၊ သက်တော် ၈၅၊ သိက္ခာတော် ၆၅။

၃။ ယိုးဒယားပြည်၊ လန်းပန်မြို့၊ ဝပ်တမအိုးကျောင်း၊ ဆရာတော် ဘဒ္ဒန္တ နေမိန္ဒ၊ သက်တော် ၈၄၊ သိက္ခာတော် ၆၄။

၄။ စဥ့်ကူးမြို့နယ်၊ ဆည်သည်ရွာ၊ မော်လမြိုင်ကျောင်း၊ ဆရာတော် ဘဒ္ဒန္တ ကုသလာဘိဝံသ၊ သက်တော် ၈၃၊ သိက္ခာတော် ၆၄။

၅။ ကချင်ပြည်နယ်၊ ဟိုပင်မြို့၊ အရှေ့ကျောင်းကြီး၊ ဆရာတော် ဘဒ္ဒန္တ ကုဝေရ၊ သက်တော် ၈၁၊ သိက္ခာတော် ၆၂။

၆။ စစ်ကိုင်းတောင်ရိုး၊ ဣန္ဒာသယချောင်း၊ လောကမှန်ကူတိုက်၊ ဆရာတော် ဘဒ္ဒန္တ ပညာ၊ သက်တော် ၈၀၊ သိက္ခာတော် ၆၀။

၇။ ပြည်မြို့၊ ပွင့်လှသိမ်ကုန်းကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ တိက္ခ၊ သက်တော် ၈၀၊ သိက္ခာတော် ၆၀။

၈။ ပဲခူးခရိုင်၊ ပြွန်တန်ဆာမြို့၊ သာသနသောဘဏိကာရုံကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ဉာဏိန္ဒ၊ သက်တော် ၇၉၊ သိက္ခာတော် ၆၀။

၉။ မအူပင်မြို့၊ မြို့လယ်ကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ အာစိဏ္ဏ၊ သက်တော် ၇၈၊ သိက္ခာတော် ၅၈။

၁၀။ ရန်ကုန်မြို့၊ အလယ် တောရ ကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ရေဝတ၊ သက်တော် ၇၇၊ သိက္ခာတော် ၅၈။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

၁၁။ ရန်ကုန်မြို့၊ ကြည့်မြင်တိုင်၊ ဇေယျဝတီကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ဥက္ကံသ၊ သက်တော် ၇၄၊ သိက္ခာတော် ၅၄။

၁၂။ အမရပူရမြို့၊ ဗားကရာတိုက်၊ မြသိန်းတန် ဆရာတော် ဘဒ္ဒန္တ ဉာဏုတ္တရ၊ သက်တော် ၇၃၊ သိက္ခာတော် ၅၃။

၁၃။ စစ်တွေမြို့၊ ဂြစ်ဘက်ကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ သောဘိတ၊ သက်တော် ၇၁၊ သိက္ခာတော် ၅၂။

၁၄။ ရန်ကုန်မြို့၊ ဘုရားဖြူကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ပညာဝံသ၊ သက်တော် ၆၉၊ သိက္ခာတော် ၄၉။

၁၅။ သီဟိုဠ်ကျွန်း၊ ကိုလံဘိုမြို့၊ မာလိဂါဝတ္တသုမ္မောရာမကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ထုဥာဝေ အရိယဝံသ၊ သက်တော် ၆၇၊ သိက္ခာတော် ၄၈။

၁၆။ ဝန်းသိုမြို့၊ ခန္တီး စာသင်တိုက်၊ ဆရာတော် ဘဒ္ဒန္တသုဇန၊ သက်တော် ၆၇၊ သိက္ခာတော်၄၈။

၁၇။ မန္တလေးတိုင်း၊ မင်းကွန်း ရတနာ ဂူချောင်၊ ဆရာတော် ဘဒ္ဒန္တ ဣန္ဒာသနိ၊ သက်တော် ၆၆၊ သိက္ခာတော် ၄၆။

၁၈။ ပုသိမ်မြို့၊ မြောင်းမြကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ဓမ္မာနန္ဒ၊ သက်တော် ၆၄၊ သိက္ခာတော် ၄၄။

၁၉။ မုံရွာခရိုင်၊ မုံရွေး မဟာဇေတဝန်ကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ဥတ္တမဗုဒ္ဓိ၊ သက်တော် ၆၄၊ သိက္ခာတော် ၄၄။

၂၀။ စစ်ကိုင်းတောင်ရိုး၊ ရွှေစေတီသာသနာ့ရိပ်သာ၊ ဆရာတော် ဘဒ္ဒန္တ သုန္ဒရာဘိဝံသ၊ သက်တော် ၆၃၊ သိက္ခာတော် ၄၂။

၂၁။ အမရပူရမြို့၊ မင်္ဂလာတိုက်၊ ဆရာတော် ဘဒ္ဒန္တ ဝိမလ၊ သက်တော် ၆၃၊ သိက္ခာတော် ၄၂။

၂၂။ မြောင်းမြမြို့၊ ဇေယျမေဒနီကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ပဏ္ဍိတ၊ သက်တော် ၆၂၊ သိက္ခာတော် ၄၂။

၂၃။ သီဟိုဠ်ကျွန်း၊ ကိုလံဘိုမြို့၊ ဝိဇ္ဇောဒယကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ဝိမလ၊ သက်တော် ၆၂၊ သိက္ခာတော် ၄၂။

၂၄။ ခနေပြူမြို့၊ သဒ္ဓမ္မ ဇောတိကာရာမ ပါဠိ တက္ကသိုလ်၊ တောင်ပေါ်ကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ စန္ဒရံသီ၊ သက်တော် ၆၂၊ သိက္ခာတော် ၄၂။

၂၅။ ရန်ကုန်မြို့၊ မိုးညှင်းဝိပဿနာတိုက်သစ်၊ ဆရာတော် ဘဒ္ဒန္တ ဣန္ဒြိယ၊ သက်တော် ၅၈၊ သိက္ခာတော် ၃၈။

၂၆။ မန္တလေးမြို့၊ အရှေ့ပြင်၊ ရွှေဂူပါဠိတက္ကသိုလ်ကျောင်းတိုက်၊ ဆရာတော် ဘဒ္ဒန္တ ဣန္ဒြိယ၊ သက်တော် ၅၇၊ သိက္ခာတော် ၃၇။

၂၇။ ရန်ကုန်မြို့၊ ဗားကရာတိုက်၊ တိလောကာရုံကျောင်း၊ ဆရာတော် ဘဒ္ဒန္တ တိလောကာဘိဝံသ၊ သက်တော် ၅၆၊ သိက္ခာတော် ၃၇။

၂၈။ ရန်ကုန်မြို့၊ ကြည့်မြင်တိုင်၊ ဥယျာဉ်တိုက်၊ စံဝတီကျောင်း ဆရာတော် ဘဒ္ဒန္တ သုဇာတာလင်္ကာရ၊ သက်တော် ၅၄၊ သိက္ခာတော် ၃၄။

## ရန်ကုန်မြို့တွင် တရားသဘင်များ

ဆရာတော်သည် အမရပူရ၊ မန္တလေး၊ ညောင်လေးပင်၊ မိုးကုတ်တို့၌သာ ကျယ်ကျယ်ပြန့်ပြန့် တရားဓမ္မ ဟောပြတော်မူခဲ့သည်၊ ဤရန်ကုန်မြို့ကြီးတွင်ကား တစ်ကြိမ်တစ်ခါမျှ တရားဓမ္မ ဟောပြဖူးခြင်း မရှိခဲ့သေးပေ၊ ထို့ကြောင့် ရန်ကုန်သို့ ခေတ္တရောက်နေခိုက်တွင် "တရားဓမ္မ ဟောပြပေးမည်" ဟု မိန့်တော်မူခြင်း ဖြစ်သည်။

သာမန်အားဖြင့် နံနက်ပိုင်းတစ်ပွဲ၊ ညပိုင်းတစ်

သတ်မှတ်ထား၏၊ သို့သော် မရပါပေ၊ ဒကာရင်း ဒကာမရင်းများနှင့် တရားနာပရိသတ်တို့က နံနက်ပိုင်း မှစ၍ ည–ညဥ့်နက်သည့်တိုင်အောင် တစ်ဖွဲ့ပြီး တစ်ဖွဲ့ ရောက်–ရောက်လာတတ်ကြ၏၊ ဆရာတော် မနားရ တော့ပေ၊ တရားမေးကြ၏။

ရောက်လာသမျှ ဒကာ ဒကာမတို့အား ထိုက်တန်သမျှ ဆုံးမဩဝါဒပေးရ၏၊ တရားရှုမှတ်နည်းကို ညွှန်ပြရသည်၊ ဒကာ ဒကာမတို့က လျှောက်ကြ၏–

"ဆရာတော်ဘုရား... နှစ်စဉ်နှစ်တိုင်း တပည့်တော်တို့ ရန်ကုန်ကိုလဲ ကြွရောက်ပြီး တရားချီးမြှင့်ပေးတော်မူပါ ဘုရား"

"အေး... ငါ့ခန္ဓာကြီးက ပြောပါလိမ့်မယ်"

ဤမျှသာ ပြန်လည် မိန့်ကြားပါသတတ်၊ ဒကာ ဒကာမတို့ကား ဤစကားကို နားမလည်ကြပေ၊ ရန်ကုန်ကို နှစ်စဉ် ကြွလာဖို့လောက်သာ စိတ်ရောက်နေကြတော့သည်။

ဆရာတော်ဘုရားကြီး ရောက်ခိုက်–ဆိုပြီးတော့ အချို့ကလည်း သူတို့ မသိသော အခဲအကတ်ကလေးများကို ကပ်၍ မေးကြ၏၊ လျှောက်ကြ၏၊ "အခွင့်ကောင်း အခါကောင်းပဲ"ဟု သဘောထားကာ ဆရာတော် ဘုရားကြီးကို အားနာ မနေနိုင်ကြတော့ပေ၊ ဆရာတော်ဘုရားကြီးကလည်း အားလုံးကိုပင် ကျေနပ်မှု ရအောင် စိတ်ရှည်ရှည်ထား၍ ဖြေကြားပေးတော်မူသည်။

ထိုအထဲတွင် "ခရစ်ယာန် ဦးဖေဝင်း" မေးလျှောက်၍ ဆရာတော်ကြီး ဖြေကြားထားသောအချက်များ၊ အမြတ်တော်မင်းကြီး ဦးလွန်းဖေ မေး၍ ဆရာတော်ကြီး ဖြေထားသော အချက်အလက်များ ပါရှိသည်။

# ရန်ကုန်မြို့၊ ဘုရားကြီးကျောင်းတိုက်၌ မိန့်ကြားသော ဩဝါဒ

"မိုးကုတ် ဆရာတော်ကြီး ရန်ကုန်မြို့သို့ အကြောင်းအားလျော်စွာ ရောက်လာသည်မှာ အင်မတန့် ကြုံတောင့်ကြုံခဲကြီးဖြစ်၏၊ မိမိအတွက် ဆရာသမားလည်း တော်ဖူးသည်၊ သို့ဖြစ်၍ အခွင့်ကောင်းကြုံခိုက်မှာ ပင့်ဖိတ်ပြီး သံဃာတော်များနှင့်တကွ ဩဝါဒခံယူမည်..."

ဤသို့လျှင် ရန်ကုန်မြို့၊ ၆–ထပ်ကြီး၊ ဘုရားကြီးကျောင်းတိုက်မှ ပဓာနနာယက တိုက်ပိုင်ရှင်ဆရာတော်ကြီး ဦးကောဏ္ဍညက သတိရ စဉ်းစားနေမိပါသတတ်၊ ဤစဉ်းစားချက်အရ လာရောက် ပင့်ဖိတ်ကြသဖြင့် ၁၃၂၄–ခု ဝါဆိုလဆန်း(၈)ရက် (၉.၇.၆၂)နေ့ ညနေတွင် လိုက်ပါကြွရောက်ဩဝါဒပေးတော်မူသည်။

"ဒီ၆–ထပ်ကြီး ဘုရားကြီးကျောင်းတိုက်ဟာ ထင်ရှား ကျော်ကြားတဲ့ ပရိယတ္တိစာသင်တိုက်ကြီး တစ်ခု ဖြစ်ပါတယ်၊ သာသနာတော်မှာ ပရိယတ္တိ စာပေသင်ကြားပို့ချမှုဆိုတာ ရေကန်ကြီး တစ်ခု အတွက် ကန်ဘောင်ကြီး ဆည်တာ ဖို့တာနဲ့ တူတယ်။

"ပဋိပတ်"ဆိုတဲ့ လက်တွေ့ ကျင့်ကြံအားထုတ်မှုကတော့ ကန်အတွင်း၌ ရေတွေ တည်ရှိလာတာနဲ့ တူတယ်။

"ပဋိဝေဓ"ဆိုတဲ့ တရားထူးသိမြင်မှု ရမှုကတော့ ရေကန်အတွင်းက ကြာပင်တွေ ဖူးကြ ပွင့်ကြ၊ ဆွတ်ချူး၍ လှပစွာ ပန်ဆင်ရခြင်းတို့နဲ့ တူတယ်။

ဒီစကားတွေဟာ အဋ္ဌကထာမှာ လာတဲ့စကားတွေပါပဲ၊ ပါဠိတွေ ရွတ်မနေပါဘူး။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ကြာပွင့်ဖို့ ရေရှိ၊ ရေရှိဖို့ ဘောင်ဆည်ပါ

ဒီစကားတွေ အားလုံးကို ချုပ်လိုက်တော့–

(က)ပရိယတ်က ကန်ဘောင်နဲ့ တူတယ်၊

(ခ)ပဋိပတ်က ရေတွေနဲ့ တူတယ်၊

(ဂ)ပဋိဝေဓကတော့ ကြာဖူး ကြာပွင့်တွေနဲ့ တူတယ်။

ဒါကို နောက်ပြန်ပြောရင် ကြာဖူး ကြာပွင့်တွေ ရဖို့၊ ကြာပင်တွေ ပေါက်နိုင်ဖို့ဆိုတာ ရေရှိမှ ပေါက်နိုင်တာပဲ၊ အဲဒီရေတွေကလဲ ကန်ဘောင်ကန်သင်း ရှိမှ တည်နိုင်ကြတာပဲ။

ဒါ့ကြောင့် ကန်ဘောင်ကန်သင်းနဲ့ တူတဲ့ ချပို့သင်ကြားမှု ပရိယတ်လုပ်ငန်းဟာ အရေးကြီး အဓိကကျတဲ့ လုပ်ငန်း–လို့ မှတ်ယူတော်မူကြပါ။

ယခု အရှင်ဘုရားတို့ ချပို့သင်ကြားနေတယ်ဆိုတဲ့ ပရိယတ်လုပ်ငန်းဟာ "သာသနာမှာ အခြေအမြစ် ကျတဲ့လုပ်ငန်းပဲ၊ ဒီလုပ်ငန်းကို ငါတို့ လုပ်နေတာပါလား"လို့ အောက်မေ့လိုက်ကြစမ်းပါ။

တပည့်တော်လဲ နှစ်ပေါင်း(၃၀)လောက် စာချလာခဲ့ပါတယ်၊ တစ်နေ့ကို စာ(၂)ဝါ ချပါတယ်၊ စာတစ်ဝါ တစ်ဝါမှာ သံဃာ ၂၀၀–ကျော် ၃၀၀–ခန့်မှ ရှိပါတယ်၊ အဲသည်လို စာတွေ ချလာပြီးမှ တက်လာတဲ့ ဓမ္မကထိကပါ။

# ပရိယတ်မှ ပဋိပတ်အထိ တက်ပါ

အဲဒီလို စွမ်းနိုင်တဲ့ ပုဂ္ဂိုလ်တွေက သာသနာတော်မှာ အရေးကြီးပြီး အဓိကကျတဲ့ ပရိယတ်ကို ချပို့ပေးတော်မူကြပါ၊ ပြီးတော့ ငယ်ရွယ်ကြသေးတဲ့ သာသနာ့ အညွန့်အညှောက်ကလေးများကလဲ နောင်အနာဂတ်အတွက် ဆက်လက်ပြီး သာသနာတော်ကို ထမ်းဆောင်နိုင်ဖို့ရာ လေးလေးစားစားနဲ့ တတ်မြောက်အောင် သင်ယူကြပါ၊ အဲဒီလို သာသနာတော်မှာ အရေးကြီးတဲ့အဆင့်တွေ–

နံပါတ်(၁)က ပရိယတ်၊

နံပါတ်(၂)က ပဋိပတ်၊

နံပါတ်(၃)က ပဋိဝေဓ၊

လို့ ရှိကြရာမှာ ယခု အရှင်ဘုရားတို့က နံပါတ်(၁) အခြေခံကျတဲ့ ပရိယတ်လုပ်ငန်းကို ရွက်ဆောင်နေကြတာ မှန်ပါတယ်၊ အဓိကကျတဲ့လုပ်ငန်းကို ထိန်းကိုင်ထားကြတာ ဟုတ်ပါတယ်။

"သို့သော်... ဒီပရိယတ်လုပ်ငန်းနဲ့ချည်း တစ်သက်စလုံး အချိန် မကုန်ကြပါစေနဲ့၊ ပဋိပတ်ကိုလဲ ရောက်အောင် သွားကြပါဦး၊ ဒါကို လေးလေးနက်နက် သတိပေးပါတယ်"

ဘာလို့လဲ ဆိုတော့ ပရိယတ်တွေ မကွယ်မပျောက်အောင် သင်အံ ပို့ချ စောင့်ရှောက်ကြတယ်ဆိုတာ နွားတွေ မပျောက်အောင် အငှားကျောင်းတဲ့ နွားကျောင်းသားနဲ့ တူတယ်၊ အချိန်တန် သူ့ခြံ သွားသွင်းလိုက်ရတာပဲ၊ ကိုယ် မပိုင်ဘူး၊ နွားနို့အရသာလဲ မခံစားရဘူး။

ပဋိဝေဓကတော့ နွားပိုင်ရှင်ကြီး နွားနို့သောက်ရတာနဲ့ တူတယ်၊ ပိုင်ပြီကိုး၊ ဒါ့ကြောင့် နွားနို့တွေ သောက်ရအောင် နို့ညှစ်ခြင်းနှင့်တူတဲ့ ကျင့်ကြံမှု ပဋိပတ်ကိုလဲ လုပ်ကြပါဦး"ဟု တိုက်တွန်းပြီးလျှင် သလ္လေခသုတ်နှင့်တွဲကာ ဩဝါဒပေးတော်မူသွားပါသည်။

## တစ်ဘဝသာသနာ

# ပရိယတ်သမားနှင့် ပဋိပတ်သမား

* သာဝတ္ထိမြို့မှာ သူငယ်ချင်း ၂-ယောက် ဘုရားတရားတော်ကို နာရ၍ သာသနာ့ဘောင်သို့ ရောက် လာကြ၏၊ တစ်ပါးက တောထဲသို့ ဝင်၍ ဝိပဿနာ အားထုတ်တော့သည်။

ကျန်တစ်ပါးကမူ "စာပေသင်ကြား ပို့ချမှုဆိုတဲ့ ပရိယတ်သည် သာသနာတော်၏ အခြေခံ အုတ်မြစ် ဖြစ်၏၊ သူမရှိလျှင် သာသနာကွယ်မည်၊ အရင်းအမြစ် ဖြစ်၏၊ ထို့ကြောင့် ဂန္ထဓူရဆိုတဲ့ ပရိယတ်တာဝန်ကို ထမ်းဆောင်မည်"ဟု ဆိုကာ ပိဋကတ်တွေကို သင်ယူ သည်။

အစဉ်အတိုင်း သင်ယူ လေ့ကျက်လာခဲ့ရာ တိပိဋကဓရ (ပိဋကတ်သုံးပုံဆောင်) ပုဂ္ဂိုလ်ကြီးအထိ ဖြစ်လာ၏၊ ရံဖန်ရံခါ ဓမ္မကထိကလည်း လုပ်သည်၊ ဂိုဏ်းတပည့် (၅၀၀) ပါးရာခန့်အား စာပေချပို့၍ နေ၏။

တောထဲသို့ ဝင်၍ ဝိပဿနာဓူရဆိုတဲ့ ပဋိပတ် လုပ်ကို အားထုတ်သော ရဟန်းသည် ပဋိသမ္ဘိဒါနှင့် တကွ အရဟတ္တဖိုလ်သို့ ရောက်လေ၏။

နောက်ထပ် နောက်ထပ် တောထဲသို့ ရောက် လာကြသော ရဟန်းတို့လည်း ရဟန်းကိစ္စပြီးကြ၏၊ ထို့နောက် ဇေတဝန်ကျောင်းတော်သို့ ဘုရားဖူးရန် လာကြသောအခါ မှာလိုက်သည်။

"မြတ်စွာဘုရားကိုလဲ ဖူးကြ၊ အသီတိသာဝက တို့ကိုလဲ ဖူးကြ၊ ငါ့သူငယ်ချင်းကြီးကိုလဲ ငါက ရှိခိုးလိုက်ပါတယ်-လို့ လျှောက်ကြ"

မှာလိုက်သည့်အတိုင်း ဆောင်ရွက်ကြသောအခါ "တပည့်တော်တို့ဆရာက အရှင်ဘုရားကို ရှိခိုးလိုက်ပါ တယ်"ဟု တစ်ပါးပြီး တစ်ပါး လျှောက်ကြသည်။

ထိုစကားရပ်တွင် "တပည့်တော်တို့ဆရာ တပည့် တော်တို့ဆရာ"ဆိုသော စကားလုံးကို သူ နားကြားပြင်း ကတ်၏။

"ဘာဆရာတဲ့လဲ၊ ဘာတတ်လို့လဲ၊ ဘာပို့ချနိုင် လို့လဲ၊ နိကာယ် ငါးရပ်ထဲက ဘယ်နိကာယ် ဘယ်သုတ်တော်ကို သူ ရသတဲ့လဲ၊ ပိဋကတ် သုံးပုံထဲကရော ဘယ်အပုံ နားလည်လို့လဲ၊ စာ ၄-ကြောင်းမျှသာ ရှိတဲ့ ဂါထာကလေး တစ် ပုဒ်ကိုတောင် နားမလည်တဲ့သူ၊ အလကား" ဟူ၍ စိတ်ထဲက ရေရွတ်နေမိပါသတဲ့။

ထို့ပြင်လည်း "ရဟန်းဖြစ်ပြီးကတည်းက တော ထဲ ဝင်၊ ပံသုကူသင်္ကန်း အနွမ်းအစုတ်ကြီးနဲ့ သပိတ်ဟောင်းကြီး လွယ်နေတဲ့သူ၊ ဘာသင်ချိန် ရှိလို့လဲ၊ ဒီအထဲက တပည့်ပရိသတ်တွေ မွေး သေးတယ်၊ ထွီ... တွေ့တဲ့အခါကျမှ ပိဋကတ် တွေ မေး-မေးပြီး နှိပ်စက်လိုက်ရအုံးမယ်"ဟု တေးထားပါသတဲ့။

# မင်းက သဒ္ဓါတတ်၊ သူကမှ ပညာတတ်

ထို့နောက် မကြာခင်ပင် တောနေရဟန်းသည် မြတ်စွာဘုရားရှိတော်မူရာ ဇေတဝန်ကျောင်းတိုက်သို့ ရောက်လာ၏၊ မြတ်စွာဘုရားနှင့် အသီတိသာဝကတို့ ကို ဖူးပြီးနောက် သူငယ်ချင်းကြီးရှိသော ကျောင်းသို့ ဖူးမြော်ရန် သွားလေသည်။

သူငယ်ချင်းကြီးက "ကဲ... အခွင့်ကောင်းတော့ ဆိုက်လာပြီ၊ ပိဋကတ်အမေးပုစ္ဆာတွေနဲ့ မေး-မေးပြီး တော့ နှိပ်စက်လိုက်အုံးမယ်"ဟု ကြံကာ အသင့်ဟန်ပြင် နေပါလေသတဲ့။

ထိုအခြေအနေကို မြတ်စွာဘုရားက သိတော်မူ၍

* ဓမ္မပဒအဋ္ဌကထာ၊၁၊၉၉။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ချက်ချင်း ရောက်လာ၏၊ မြတ်စွာဘုရားကပင် စတင်ပြီး မြို့နေ ပရိယတ်ကိုယ်တော်အား ပထမဈာန်နှင့်ပတ်သက်၍ မေး၏၊ မဖြေနိုင်၊ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်တို့၌လည်း မဖြေနိုင်၊ ဤနည်းအားဖြင့် သမာပတ်ရှစ်ပါးလုံးတို့၌ပင် မဖြေနိုင်။

ထို့နောက် တောနေ ပဋိပတ်ကိုယ်တော်အား လှည့်၍ မေးတော်မူ၏၊ မေးတိုင်း မေးတိုင်း ဖြေဆိုနိုင်လေသည်။

တစ်ဖန် မြို့နေ ပရိယတ် ကိုယ်တော်အား သောတာပတ္တိမဂ်နှင့် ပတ်သက်၍ မေးပြန်၏၊ မဖြေနိုင်၊ သကဒါဂါမိမဂ်၊ အနာဂါမိမဂ်၊ အရဟတ္တမဂ်တို့၌လည်း မဖြေနိုင်။

ထို့နောက် တောနေရဟန်းကို လှည့်၍ မေးသောအခါတွင်ကား မေးတိုင်း မေးတိုင်း ဖြေဆိုနိုင်လေသည်၊ ထိုအခါ မြတ်စွာဘုရားက "သာဓု သာဓု သာဓု"ဟူ၍ သုံးကြိမ်ခေါ်ကာ ကောင်းချီးပေးလေသည်။

ဤသို့ ပြုလုပ်သည်ကို မြို့နေ ကိုယ်တော်၏ တပည့်များစွာက ဘုရားကို မကျေနပ်ကြ၊ ကဲ့ရဲ့ကြ မဲ့ရွဲ့ကြသည်။

"ဘယ့်နှယ်... မြတ်စွာဘုရားကလဲ ဘယ်လို ကြီး လုပ်တာတုံး၊ ပိဋကတ်ဆိုလို့ ဘာတစ်လုံး တလေမှ နားမလည်တဲ့ (သင်္ကန်း နွမ်းနွမ်း ယောင်းယောင်းကြီးနဲ့) တောကျောင်းကိုယ်တော် ကြီးကို ချီးမွမ်းခန်း ဖွင့်နေတယ်။

တကယ်ဆိုတော့ တို့ဆရာတော်ကြီးကမှ ပိဋကတ်သုံးပုံဆောင်၊ စာတတ်ပေတတ်၊ ရဟန်း (၅၀၀)တို့ရဲ့ ပါမောက္ခ၊ ဒါကျတော့ နည်းနည်းလေး ကလေးမျှ ချီးမွမ်းဖော် မရဘူး"

ဟု ကဲ့ရဲ့ကြ အပြစ်တင်ကြပါသတတ်၊ ဤသည်ကား တပည့်ရဟန်းတို့၏ မကျေနပ်ချက်များ ဖြစ်ကြသည်၊ အကယ်၍များ မြို့နေကိုယ်တော်က ဘုရားကို အပြစ် တင်လျှင်လည်း "မင့်ဟာက သညာတတ်၊ သူကမှ ပညာတတ်"ဟု မိန့်မြွက်တော်မူမည်သာ။

## နွားကျောင်းသားနဲ့ နွားပိုင်ရှင်

ဤသို့ အခြေအနေ ဖြစ်လာသောအခါ မြတ်စွာဘုရားက–

"ဗဟုမ္ပိ စေ သံဟိတံ ဘာသမာနော
န တက္ကရော ဟောတိ နရော ပမတ္တော၊
ဂေါပေါဝ ဂါဝေါ ဂဏယံ ပရေသံ
န ဘာဂဝါ သာမညဿ ဟောတိ"

(printed as:)

"တုမ္ပာကံ အာစရိယော မမ သာသနေ
ဘတိယာ ဂါဝေါ ရက္ခဏကသဒိသော၊
မယ္ဟံ ပန ပုတ္တော ယထာရုစိယာ ပဉ္စ
ဂေါရသေ ပရိဘုဉ္ဇနက သာမိကသဒိသော"

"အေး... သင်တို့ဆရာက ငါဘုရားရဲ့သာသနာမှာ အခစားအငှားနွားကျောင်းသားနဲ့ တူတယ်၊ ဟောဒီ တောနေ ရဟန်း ငါ့သားတော်ကြီးကတော့ ကိုယ်ကြိုက်သလို နွားနို့အရသာငါးမျိုးတို့ကို စားသုံးနိုင်သော နွားပိုင်ရှင်ကြီးနဲ့ တူတယ်"

ဟူ၍ မိန့်တော်မူလိုက်တော့သတည်း။

[ဓမ္မပဒ–ဋ္ဌ၊ပ၊၉၉၊ဒွေ သဟာယက။]

**မှတ်ချက်။** ။ဘုရားရှင် ကိုယ်တော်မြတ်ကြီး၏ အာဘောဂအလိုဆန္ဒတော်မှာ ဤသို့ ဖြစ်ပါသတတ်၊ ရဟန်းကိစ္စ ပြီးစီးနေသော တောနေ ရဟန်းက ပုထုဇဉ်မျှသာ ဖြစ်သေးတဲ့ မြို့နေရဟန်းက မေးခွန်း ပုစ္ဆာတွေ မေး–မေးပြီး နှိပ်စက်နေလျှင် သူသည် အဝီစိဆင်းရပေလိမ့်မည်၊ ထိုသို့ မဆင်းရအောင် ကို ငဲ့ညှာသောအားဖြင့် ဤသို့ ကြားဝင်လိုက်ခြင်း ဖြစ်သည်ဟူ၏။

ထို့ပြင် မြို့နေရဟန်းက ပိဋကတ် သုံးသွယ် နိကာယ်ငါးရပ် တစ်ဖက်ကမ်းခပ် တတ်ကျွမ်းနေ သည်မှာ သူ့ကိုယ်သူ "ပညာတတ်"ဟု ထင်နေမိ အမှန်မှာ သညာဖြင့် မှတ်သားထားခြင်းဖြစ်၍ "သညာ တတ်"မျှသာ ရှိသေးသည်။

## တစ်ဘဝသာသနာ

တောနေရဟန်းကား ထိုးဖောက်သိနိုင်စွမ်းသော ဝိပဿနာပညာ မဂ်ပညာတို့ဖြင့် ခန္ဓာကိုယ်ပေါ်မှာ အပြည့်အဝ အစုံအလင် သိထားပြီး ဖြစ်၍၊ ထို့ကြောင့် "ပညာတတ်" ဖြစ်သည်၊ ဤသို့လည်း ခွဲခြားနားလည်စေလိုသည် ဟူ၏။

တစ်ဖန် "ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ်တို့ကို မတတ်ရ မသင်ရ မဆောင်ရ"ဟု မဆိုလို၊ တတ်မြောက်အောင် သင်ကြားပါ၊ မှတ်သားပါ၊ ဆောင်ရွက်ပါ၊ ပျောက်ပျက်မကုန်အောင် ထိန်းသိမ်းစောင့်ရှောက်ပါ၊"

"သို့ရာတွင် ထိန်းသိမ်း စောင့်ရှောက်နေသော နွားကျောင်းသားဘဝဖြင့်ချည်း ကျေနပ်မနေပါနဲ့၊ နွားနို့ သောက်ရသည့် ပိုင်ရှင်ကြီး ဖြစ်သည်အထိ တက်လှမ်းပါဦး"ဟု ဆိုလိုတော်မူပါသတတ်။ ။

## စာဆားနှင့် အိုးထဲကဆား

နောက်တစ်နည်းအားဖြင့် "ပိဋကတ်သုံးသွယ်၊ နိကာယ်ငါးရပ်"တို့သည် မှတ်တမ်းများသာ ဖြစ်ကြ၍ ဘောသင်ပုန်းတွင် ရေးထားသော ဆားနှင့် တူ၏၊ ဘောသင်ပုန်းတွင် ဆား ၃ပိဿာ၊ ဆား ၅ပိဿာ စသည်ဖြင့် ရေးထားသကဲ့သို့ ဖြစ်တော့သည်။

ထိုရေးထားသောဆားကို လက်နဲ့ တို့ပြီး လျက်ကြည့်၊ မငန်ပါ၊ အဘယ့်ကြောင့်ဆိုသော် တကယ့်ဆား မဟုတ်၊ အက္ခရာဆား၊ စာဆား ဖြစ်နေသောကြောင့် တည်း။

အိုးထဲ၌ ထည့်ထားသောဆားကိုကား လက်နဲ့ တို့ လျက်ကြည့်၊ ငန်ပါသည်၊ အဘယ့်ကြောင့်ဆိုသော် တကယ့်ဆားဖြစ်နေသောကြောင့်တည်း။

ထို့အတူပင် မိမိတို့ သင်အံလေ့ကျက်ဆောင်ရွက်၍ တတ်မြောက်ထားသော စာပေတို့သည်လည်း မှတ်တမ်းများသာ ဖြစ်ကြ၍ အက္ခရာဆားနှင့် တူကြကုန်၏၊ တကယ် မငန်ပါ၊ မှတ်တမ်းသညာမျှသာ ဖြစ်ပါ၏။

ထိုစာပေတို့ ညွှန်ကြားချက်အရ ခန္ဓာကိုယ်ပေါ်၌ ဝိပဿနာဉာဏ်ဖြင့် ကြည့်၍ မြင်ထားသော အမြင်တို့ကသာ အိုးထဲက ဆားနှင့် တူကြကုန်၏၊ တကယ် ငန်ကြကုန်၏၊ တကယ်သိသောပညာ ဖြစ်သည်။

ဆိုလိုသည်မှာ အက္ခရာဆားဖြင့်သာ ကျေနပ်မနေကြပါနှင့်၊ တကယ့်ဆား အိုးထဲကဆားဖြစ်အောင် ကြိုးစားကြပါလို့ ဆိုလိုသည်၊ ဤသဘောဖြင့် ရှေးပညာရှင်ကြီးများ အဆက်ဆက်တို့က အောက်ပါအတိုင်း သတိပေးတိုက်တွန်းထားကြပါသည်။

၁။ အက္ခရာဆား၊ ဆလိန်ဆားကို၊ လျက်ငြားမငန်၊ ပုံသဏ္ဌာန်လို၊ စာထဲက တရား၊ စာတရားကို၊ သိငြားတတ်ပြန်၊ သညာမှန်၏။

၂။ အိုးထဲကဆား၊ တကယ့်ဆားကို၊ လျက်ငြား အမှန်၊ အဟုတ်ငန်သလို၊ ခန္ဓာတရား၊ အရှိတရားကို၊ သိငြားတတ်ပြန်၊ ပညာမှန်၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဖောင်စီးနေကြတုန်းလား

တစ်နည်းအားဖြင့်တော့လည်း "ပရိယတ်စာပေတွေ"ဆိုတာ "ဖောင်"နှင့် တူ၏၊ သစ်ဖောင် ဝါးဖောင်တို့ကို ဆိုလိုသည်၊ သစ်ဖောင် ဝါးဖောင်တို့ ဆိုတာ တစ်ဖက်ကမ်းသို့ ရောက်အောင် ကူးဖို့ ပစ္စည်းဖြစ်၏၊ လက်ထဲ ဖောင်ရပြီဆိုလျှင် တစ်ဖက်ကမ်းသို့ ရောက်အောင် ကူးမြောက်ဖို့ပင် ဖြစ်သည်။

တစ်ဖက်ကမ်းသို့ ရောက်အောင် မကူးဘဲနဲ့ ရေထဲတွင် လှည့်ပတ်ပြီး မျှောနေမယ်၊ သို့မဟုတ် အထက်ဆန်ကြည့်လိုက်၊ အောက်စုန်ဆင်းလိုက် လုပ်နေမယ် ဆိုရင် ဘယ်တော်ပါ့မလဲ၊ ရေထဲတွင်ပဲ ဖောင်စီးနေမယ်ဆိုရင် တစ်ဖက်ကမ်းသို့ ဘယ်ရောက်နိုင်တော့မည်လဲ။ ကူးဖို့ပစ္စည်းရလျှင် ကူးကြတော့။

ဖောင်စီးနေကြတုန်းလား၊ ဖောင်မရခင် ဖောင်တည်ဆောက်၊ ဖောင်ရပြီ ဆိုရင်တော့ အချိန်ဖြုန်း မနေကြနဲ့၊ ကူးကြတော့ဟု ဆိုလိုသည်။

ဖြစ်သင့်သည်ကား– အသက်အရွယ် အငယ်၊ အလတ်ပိုင်းတို့၌ ပရိယတ်ကို ရွက်ဆောင်၊ အရွယ်ထောက်၍ အကြီးပိုင်းသို့ ရောက်လာလျှင်ကား ပဋိပတ်အထိ ကေန် မုချ တက်ပါမှ ဘုရား ကျေနပ်တော်မူမည် ထင်သည်။

## အမြတ်တော်မင်းကြီး အမေး

၁၀.၇.၆၂နေ့ နံနက်ပိုင်းက ဖြစ်၏၊ ဦးသံဒိုင်တိုက်သို့ အမြတ်တော်မင်းကြီး ဦးလွန်းဖေ ရောက်လာသည်၊ နာမည်ကြီးလှသော မိုးကုတ် ဆရာတော်ဘုရားကြီး ကြွလာသည်–ဟု ကြား၍ မေးခွန်းပုစ္ဆာမေးရန် ရောက်လာခြင်း ဖြစ်၏။

မနက်ပိုင်း တရား တစ်ပွဲ ဟောပြီး၍ ခေတ္တ အနားယူချိန်အတွင်း ဦးလွန်းဖေက ခွင့်ပန်သည်၊ "မရှင်းလင်းသည့် အချက်ကလေးများကို မေးမြန်းပါရစေ"တဲ့၊ သို့ဖြစ်၍ ဆရာတော်က "နာရီဝက်ပဲ အချိန်ပေးနိုင်မယ်နော..."ဟု ပြောကာ မေးခွင့်ပေးလေသည်၊

## ရှေ့စိတ်ကို နောက်စိတ်နဲ့ ရှုနိုင်မလား

မေး။ ။ရှေ့စိတ်ကို နောက်စိတ်နဲ့ သိရမယ် ဆိုတာနဲ့ ပတ်သက်ပြီးတော့ ဝိသုဒ္ဓိမဂ်မှာ အရှင်မဟာဗုဒ္ဓဃောသကလဲ ဒီလိုပဲ ဆိုထားပါတယ်။

လက်တွေ့ လုပ်ကြည့်တော့လဲ ဒီအတိုင်းပဲ ရပါတယ်၊ ဒါပေမယ့်...

ဝီထိကို လေ့လာထားတဲ့သူတွေအနေနဲ့ ဒါဟာ ကပ်လို့ စပ်လို့ မရအောင် (လက်တွေ့အနေနဲ့ လုပ်ငန်းခွင် မဝင်နိုင်အောင်) ဖြစ်နေပါတယ်။

စိတ်အစဉ်တို့မည်သည်မှာ အလွန်လျင်မြန်စွာနဲ့ ဖြစ်ပျက်နေကြတာ၊ သွားနေကြတာ၊ ဇောစိတ်တွေနဲ့ တစ်ဝီထိပြီး တစ်ဝီထိ၊ ဒီလောက် များနေတဲ့ ဥစ္စာ။

အဲဒီမှာ ရှေ့စိတ်ကို နောက်စိတ်နဲ့ ရှုလို့ မဖြစ်နိုင်လောက်ဘူး၊ ပစ္စုပ္ပန်တည့်တည့် မဖြစ်နိုင်လောက်ဘူး–လို့ ဒီလို နားလည်ရပါတယ် ဘုရား၊ အဲဒါ...

အဖြေ။ ။ ဘုန်းကြီး ဖြေပါမယ်၊ ဘုန်းကြီး ရှင်းပြပါမယ်၊ ဒါ– ရှေ့စိတ် ပါပဲတဲ့ မနာယတန ဆိုတာ။ [ပလတ်စတစ် ခွက်ကလေးတစ်လုံးကို ရှေ့က စားပွဲပေါ် တွင် တင်ပြသည်။]

ရှေ့စိတ် ၃၇–ပါး၊ ပုထုဇဉ် မှန်သမျှ သန္တာန်မှာ ဖြစ်နိုင်တဲ့ စိတ်တွေ (မှန်ပါ) အဲဒီ စိတ်ကလေးတွေ ပျက်တဲ့အခါကျလို့ရှိရင်တဲ့ နောက်စိတ်နဲ့ ရှု–ဆိုတာ "မဂ်"ကို ဆိုလိုပါတယ်၊ (မှန်ပါ) ဝိပဿနာမဂ်ကို ဆိုလိုပါတယ် (မှန်ပါဘုရား)

အဲတော့... သူက တစ်ဝီထိပါ၊ သူက တစ်ဝီထိပါ။ [ပလတ်စတစ်ခွက်ကလေး နောက်ထပ် တစ်လုံးကိုး၍ စားပွဲပေါ်တွင် ၂–လုံး တင်ပြသည်။]

ဒီကြားထဲမှာ ဘဝင်တွေ ခြားပါတယ်၊ အများကြီး ခြားပါတယ်၊ ခြားပင် ခြားငြားသော်လဲ ကိလေသာ ခြားတာ မဟုတ်သည့်အတွက်ကြောင့် မြင်နိုင်ပါတယ် (မှန်ပါ)

ကိလေသာ အခြားမရှိဘူး၊ တစ်ပါးသော ဝီထိ အခြား မရှိဘူး၊ ဘဝင်တွေသာ ခြားတယ်၊ (မှန်ပါ)

တစ်ပါးသော ဝီထိတွေ ခြားတယ် ထင်ရင်လဲ ကိလေသာဝီထိ မပါရင် ပြီးတာပဲ (မှန်ပါဘုရား)

အဲတော့... ရှေ့စိတ်က မနာယတန၊ နောက်စိတ်ကလဲ မနာယတနပါပဲ၊ (မှန်ပါ) မနာယတန မနာယတနချင်း အာရုံပြုတယ်လို့ မှတ်ပါ (မှန်ပါ)

ဒါဖြင့် ရှေ့မနာယတနက ဖြစ်ပျက်၊ နောက်ဝီထိ မနာယတနကလဲ ဖြစ်ပျက်ပါပဲ၊ (မှန်ပါ)

ရှေ့ဝီထိကို နောက်ဝီထိနဲ့ ရှုတယ်၊ အလယ်မှာ ဘဝင်တွေ ဘယ်လောက်ပဲ ခြားခြား၊ (မှန်ပါဘုရား)

## ကိလေသာ မခြားလျှင် ပြီးတာပဲ

ကိုယ့်သန္တာန်ဖြစ်တဲ့ ဘဝင်က အာရုံတစ်ခုကို ကိုယ်ယူတာ ကိုယ်မသိပါဘူး (မှန်ပါ) ကိုယ်ယူတာ ကိုယ်မသိတဲ့အတွက်တဲ့ ကိုယ်ယူထားတဲ့အာရုံကိုပဲ မဂ်ကနေပြီးတော့ စူးစိုက်တဲ့အတွက် ရှေ့စိတ်ကို နောက်စိတ်နဲ့ ရှုလို့ ရတယ် (မှန်ပါဘုရား)

"နောက်"ဆိုတာ အဝေးကြီးလို့ မှတ်လိုက်ပါ၊ ကိလေသာ မခြားရင် ဘယ်လောက် ဝေးဝေး ရှုနိုင်ပါတယ် (မှန်ပါ) ပေါ်ပလား (ပေါ်ပါပြီဘုရား) ကိလေသာ မခြားရင် ပြီးတာပဲ (မှန်ပါဘုရား)

ဘဝင်တွေ ဘယ်လောက်ပဲ ခြားခြား (မှန်ပါ) ၂မှာ ဘဝင်တွေက မျက်စိတစ်မှိတ်ကာလမှာ ကုဋေ တစ်သိန်း ထား၊ (မှန်ပါ)

ခြားပေမယ့် ခင်ဗျားတို့မှာ အပြစ် မရှိဘူး၊ (မှန်ပါ) ဘဝင်ဆိုတာ အိပ်နေတုန်းလဲ ဖြစ်နေတာပဲ၊ (မှန်ပါဘုရား)

တစ်ဝီထိနဲ့ တစ်ဝီထိအကြားမှာ သူမပါဘဲနဲ့လဲ မပြီးဘူး၊ အဲဒီတော့ အဲဒီအကြားကို သူတို့ကလဲ နောက်စိတ် ခေါ်နိုင်တာပဲ (မှန်ပါ)

ခေါ်နိုင်ပေမယ့် သူတို့က အတိတ်က အာရုံတွေကိုပဲ ယူတယ် (မှန်ပါ)

အဲဒါကြောင့် ဝီထိတစ်ခု မခြားဘူးလို့ ယူလိုက်ပါ (မှန်ပါ) ဘဝင်ကတော့ များစွာ ခြားတယ်လို့ ယူပါ၊ (မှန်ပါဘုရား)

ဒါပေမယ့် "ရှေ့စိတ်ကို နောက်စိတ်နဲ့ ရှု"ဆိုတာ ဒီကြားထဲမှာ ဘာပဲခြားခြား၊ ကိလေသာ မခြားတာကို ဆိုသည် (မှန်ပါ)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ကိလေသာ မှောင်ကွယ်လျှင်တော့

**ကိလေသာ** မခြားလို့ ရှိရင်ဖြင့် ရှေ့စိတ်ရဲ့ အပျက်ကို နောက်စိတ်နဲ့ မြင်နိုင်တယ် (မှန်ပါဘုရား) ကိလေသာ ခြားလို့ ရှိရင်တော့ ကိလေသာ မှောင်ကွယ်တဲ့ အတွက် ရှေ့စိတ်ရဲ့အပျက်ကို မမြင်နိုင်ဘူး (မှန်ပါ)

ဒါဖြင့် "ရှေ့စိတ်ကို နောက်စိတ်နဲ့ ရှု" ဆိုတဲ့ ဝိသုဒ္ဓိမဂ်က ရေးရေး၊

သရာဂံ ဝါ စိတ္တံ "သရာဂံ စိတ္တ" န္တိ ပဇာနာတိ လို့ သတိပဋ္ဌာန်က ဆိုဆို၊

ဒါက သရာဂစိတ်ထားပါတော့ (မှန်ပါ) ဒါက ပဇာနာတိ မဖြစ်နိုင်ဘူးလား (ဖြစ်နိုင်ပါတယ် ဘုရား) [စားပွဲပေါ် ရှိပြီး ပလတ်စတစ်ခွက်ကလေး ၂-လုံးကို ပင် လက်ညှိုးဖြင့် ညွှန်ပြနေသည်။]

ဒါဖြင့် "ရှေ့စိတ်ကို နောက်စိတ်နဲ့ ရှု"ဆိုတာနဲ့ သရာဂံဝါစိတ္တံ "သရာဂံ စိတ္တ"န္တိ ပဇာနာတိဆိုတာနဲ့ ကော မကိုက်ဘူးလား (ကိုက်ပါတယ် ဘုရား)

ဒီပါဠိကို အကိုးအကားထားပြီးတော့ ဝိသုဒ္ဓိမဂ်က "ရှေ့စိတ်ကို နောက်စိတ်နဲ့ ရှု"လို့ ဆိုတာပါ (မှန်ပါ ဘုရား)

# ဘဝင်စိတ်တွေကို ခြားတယ် မယူနဲ့

ဒီကြားထဲ စိတ်တွေ ဘယ်လောက် ရှိတုံး၊ မသိနိုင်ပါဘူး၊ ကြားထဲ စိတ်တွေ ကိုယ့်ဟာကိုယ် ဖြစ်တာကို ကိုယ် မသိနိုင်ပါဘူး (မှန်ပါ)

ကိုယ့်ဟာကိုယ် မသိတဲ့စိတ်တွေ (ဘဝင်စိတ်တွေ) ခြားသောကြောင့် "ခြားတယ်"လို့ မယူပါနဲ့တော့ (မှန်ပါ)

ခြားခဲ့သော် ကိလေသာ ခြားရင်လဲ ရှေ့စိတ်ကို နောက်စိတ်နဲ့ မမြင်ပါဘူး (မှန်ပါ) အဖြေပေးလိုက်တယ် (မှန်ပါ)

ရှေ့စိတ် ချုပ်သွားတာကို နောက်စိတ်က မြင်တယ် ဆိုရင်လဲ ကြားမှာ ကိလေသာ မခြားလို့သာ မြင်ခြင်း ဖြစ်တယ်လို့ မှတ်ပါ (မှန်ပါဘုရား)

ဒါဖြင့် ကြားထဲမှာ ဘဝင်ပေါင်း ကုဋေတစ်သိန်း ခြား (မှန်ပါ) ကိလေသာ မဟုတ်တဲ့အတွက် (မှန်ပါ)

ဘဝင်ကလဲ သိမ်မွေ့တဲ့ အာရုံကို ယူတယ်။ ကံ-ကမ္မနိမိတ်-ဂတိနိမိတ် သုံးပါး၊ အတိတ်က အာရုံတွေ ယူနေတဲ့အတွက်တဲ့၊ သူနဲ့ ကျုပ်တို့နဲ့ ဘာမှ မဆိုင် (မှန်ပါ) ဘာမှ အနှောင့်အယှက် မရှိ၊ (မှန်ပါ)

သူဟာ ကိုယ့်သန္တာန်မှာ သက်စောင့်သာ ဖြစ်တယ်၊ မသေအောင် စောင့်တာသာ ဖြစ်တယ် (မှန်ပါ) အာရုံကို ကန့်ကွက်တဲ့သဘောနဲ့ သူ့ကို မယူနဲ့ (မှန်ပါ) သူက မကန့်ကွက်ဘူး (မှန်ပါ)

ဒါဖြင့် "ဖြစ်ပျက်-မဂ်"ဆိုတာ သဘောကျသွားပြီလား (ကျပါပြီဘုရား) ဒီလိုဆို ပထမ အမေး ပြေပြီနော် (ပြေပါပြီ ဘုရား)

## တစ်ဘဝသာသနာ

## ဘုရားမဖြစ်ခင် အမြင်မျိုးလိုက်

ဘုရားဖြစ်ပြီးမှ ရှေ့စိတ် နောက်စိတ် ဆိုတဲ့ အမြင်မျိုး၊ ဘုရားဖြစ်ပြီးမှ၊ အကုန်သိပြီးမှ မြင်တဲ့အမြင်မျိုး (မှန်ပါ) သည်အမြင်မျိုးကို မလိုက်နဲ့ (မှန်ပါ)

ဘုရားဖြစ်ဖို့ရာ မူလဘူတအမြင်မျိုးကိုသာ လိုက်ပါ (မှန်ပါ) အမြင်က ၂-မျိုး ရှိတယ်လေ (မှန်ပါ)

(က)ဘုရား ဖြစ်ပြီးမှ မြင်တဲ့အမြင်ကို ပုထုဇဉ်က မရှုနိုင်ဘူး (မှန်ပါ)

(ခ)ဘုရား ဖြစ်ကြောင်း သူ လုပ်နေတဲ့ အမြင်ကိုတော့ ခြေရာခံလိုက်နိုင်တယ် (မှန်ပါဘုရား)

ကဲ... မေးတဲ့အမေးများ ပြေပြီလား၊ (ပြေပါပြီဘုရား) ကဲ... တော်ကြဦးစို့ (မှန်ပါ ဘုရား)

မှတ်ချက်။ ။ဤအမေးအဖြေများကို ဖမ်းယူထားသော တိပ်ခွေမှ ကူးယူတင်ပြပါသည်။

ကဲ... ဒါဖြင့် ဒုတိယမေးခွန်း မေး (မှန်ပါ)

မေး။ ။ကိလေသာ တကယ်လို့များ ခြားသွားရင် ဇောတွေ ပါသွားမှာဖြစ်တဲ့အတွက်ကြောင့်...

ဖြေ။ ။မမြင်နိုင်ဘူး၊ ကိလေသာ မှောင်သွားသောကြောင့် မမြင်နိုင်ဘူး၊ ကြားထဲ မှောင်ဝင်သွားလို့ (မှန်ပါဘုရား)

အကယ်၍ ကြားထဲ သူတို့ ဝင်လာရင်လဲ သူတို့ကို ရှေ့စိတ်လုပ်ပြီး ရှုလိုက်ပါ၊ (မှန်ပါ၊ သဘောကျသွားပြီ ဘုရား)

မေး။ ။ပီးတော့ အရှင်ဘုရား... သူတို့ကို အနန္တရ- သမနန္တရ အနေနဲ့ကော ယူလို့...

ဖြေ။ ။ဟာ... မယူနဲ့တော့၊ အနန္တရ-သမနန္တရဆိုတာ ဘုရားဖြစ်ပြီးမှ မြင်တဲ့အမြင် (မှန်ပါ) ခင်ဗျားတို့ ကျုပ်တို့ မြင်တဲ့ အမြင်မျိုး မဟုတ်ဘူး (မှန်ပါ)

ဘုရားဖြစ်တဲ့ လုပ်ငန်းစဉ်မှာ "ရှေ့စိတ်ကို နောက်စိတ်နဲ့ ရှု"လို့ ပြောတာ (မှန်ပါ)

## အလုပ်သာ မှန်မှန်လုပ်နေပါ

ထမင်းအိုးကို ရဲနေတဲ့မီးကျီးစုပေါ် တင်ထား၊ "နပ်ပါစေ- နပ်ပါစေ"လို့ ဆုတောင်းရသေးလား (မတောင်းရပါ ဘုရား) တောင်းနေဖို့ မလိုပါဘူး၊ မီးကျီးတွေ အေးမကုန်အောင် ယပ်သာခတ်ပေး (မှန်ပါ) မီးထိုးပေးနေရုံပဲ (မှန်ပါဘုရား)

အချိန်ကျရင် ထမင်းဟာ နပ်လာမှာပဲ (မှန်ပါ) ဆုတောင်းလို့ နပ်တာလား (မဟုတ်ပါ ဘုရား) ဆုတောင်းလို့ နပ်တာ မဟုတ်ပါဘူး-တဲ့၊ မီးအပူရှိန် လျော့မသွားအောင်၊ ရဲနေအောင် ယပ်ခတ်ပေးနေလို့ပါ (မှန်ပါဘုရား)

ဒီမှာလဲ ထို့အတူပဲတဲ့၊ အရှုခံတစ်ခုခုအပေါ်မှာ ဝိပဿနာရှုဉာဏ်နဲ့သာ ရှုပေးနေပါ၊ (မှန်ပါ) ကြိမ်ဖန်များစွာသာ ရှုပေးနေပါ (မှန်ပါ) ရှုဖန်များလာတော့ ဖြစ်-ပျက်တွေ မြင်လာလိမ့်မယ် (မှန်ပါဘုရား)

ဒီလို ဖြစ်-ပျက်တွေ မြင်လာတာဟာ ဆုတောင်းလို့ မြင်လာတာလား၊ အလုပ်-လုပ်လို့ မြင်လာတာလား (အလုပ်လုပ်လို့ မြင်လာတာပါ ဘုရား) ဟုတ်တယ်၊ အလုပ်သာ လုပ်နေပါ (မှန်ပါ)

ကြာတော့ ဖြစ်-ပျက်တွေကို မုန်းလာလိမ့်မယ် (မှန်ပါ) မုန်းလာလဲ မလျှော့နဲ့၊ ဆက်သာ ရှုနေ၊ (မှန်ပါ) ဒီမှာ အရေးကြီးလာပြီ၊ မလျှော့နဲ့ (မှန်ပါ)

နောက်တော့ လောကီဝိပဿနာဉာဏ်ငါးပါး ဟာ ရင့်လာတဲ့အခါကျတော့ မဂ္ဂင်ရှစ်ပါး ဖြစ်လာ (မှန်ပါ) ဖြစ်လာပြီးတော့ ဖြစ်ပျက်တွေ မရှိတဲ့ နိဗ္ဗာန် ဘက်ကို သူ့ဟာသူ ကူးသွားလိမ့်မယ် (မှန်ပါဘုရား)

ဖြစ်ပျက်တွေ မရှိတာက နိရောဓသစ္စာပေါ့ဗျာ (မှန်ပါ) ဖြစ်ပျက်တွေကတော့ ဘာသစ္စာလဲ (ဒုက္ခသစ္စာပါ ဘုရား)

ဉာဏ်တွေဟာ မရင့်သေးခင် ဖြစ်ပျက်ဒုက္ခသစ္စာတွေဘက်မှာ ရှိနေမယ် (မှန်ပါ) ရင့်လာတဲ့အခါကျတော့ ဖြစ်ပျက်တွေ မရှိတဲ့ နိရောဓသစ္စာဘက်၊ နိဗ္ဗာန်ဘက်ကို ပြေးဝင်သွားလိမ့်မယ်။ (မှန်ပါဘုရား)

[မိုး(၅)နှာ- ၃၂၄မှ]

## ဦးဖေဝင်း၏ သံသယများကို ဆရာတော်ဘုရား ဖြေရှင်းပေးရ (၁၃.၇.၆၂)နေ့

ဦးဖေဝင်းသည် ရှမ်းပြည်နယ် (တောင်ပိုင်း) မိုးနဲမြို့သား ဖြစ်၏၊ ခေတ်ပညာတတ် ဖြစ်သည်၊ ခရစ်ယာန်ဘာသာကို သက်ဝင်ယုံကြည်၏၊ ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းဖြင့် နိုင်ငံခြားတိုင်းပြည်များသို့လည်း အကြိမ်ကြိမ် ရောက်ဖူးသူ ဖြစ်သည်။

ဆရာတော် ဘုရားကြီး ရန်ကုန်သို့ ကြွလာစဉ် ဦးဖေဝင်းသည် ရန်ကုန်၌ ရှိနေ၏၊ (ရှမ်း–ဗမာကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ)တွင် မန်နေဂျင်း ဒါရိုက်တာ ဖြစ်သည်၊ ဘာသာရေးနှင့်ပတ်သက်၍ သူ၏သံသယများကို ဖြေရှင်းပေးပါရန် ဆရာတော်ဘုရားကြီးထံသို့ ရောက်လာ၏။

ဦးဖေဝင်း။ ။တပည့်တော်ဟာ ခရစ်ယာန် ဘာသာဝင် တစ်ယောက်ပါ ဘုရား။

ဆရာတော်။ ။အေး...

ဦးဖေဝင်း။ ။တပည့်တော်၏ သံသယများကို လျှောက်ပါရစေ ဘုရား။

ဆရာတော်။ ။အင်း... လျှောက်တာပေါ့။

ဦးဖေဝင်း။ ။ခရစ်ယာန် ဘာသာဝင်တွေက ပြောတယ် ဘုရာ့၊ ကျင့်ကြံအားထုတ်ခြင်းဖြင့် နိဗ္ဗာန်ကို မရောက်နိုင်ဘူး–တဲ့ ဘုရား၊ ယုံကြည်မှုဖြင့်သာ ရောက်နိုင်တယ်တဲ့ ဘုရား။ အဲဒါ ရှင်းပေးပါဘုရား...။

ဆရာတော်။ ။အင်း... ယုံကြည်တာက (၂)မျိုး ရှိတယ်၊ (က)သူတစ်ပါးအပေါ် ယုံကြည်တာ တစ်မျိုး၊ (ခ)ကိုယ့်အပေါ် ကိုယ်ယုံကြည်တာ တစ်မျိုး၊

ဦးဖေဝင်း။ ။မှန်ပါဘုရား၊

ဆရာတော်။ ။သူတစ်ပါးအပေါ် ယုံကြည်တော့ သူများ ပါးစပ်မှာ လမ်းဆုံးတယ်၊ ဥပမာ ထာဝရဘုရားဆိုရင် ထာဝရဘုရားမှာပဲ လမ်းဆုံးနေတယ်၊ ကောင်းကောင်းဆိုးဆိုး သူ လက်ခံတယ်၊ သည်တော့ ကိုယ့်ဉာဏ် မပါတော့ဘူးပေါ့။

ဦးဖေဝင်း။ ။ဟုတ်တယ် ဘုရာ့၊ အရှင်ဘုရား ပြောသလိုပဲ ကိုယ်ပိုင်ဉာဏ် မပါတော့ဘူး၊ သူတို့ဘုရားက ပြောတာဖြင့် "ငါ့ကို အကြွင်းမဲ့ ယုံကြည်ကြ"တဲ့။

ဆရာတော်။ ။အင်း... ပြောပါအုံး။

ဦးဖေဝင်း။ ။အဲလို အကြွင်းမဲ့ ယုံကြည်ရင် ငါမင်းတို့ကို ကယ်တင်မယ်–တဲ့။

ဆရာတော်။ ။ဒါဟာ ကိုယ်ပိုင်ဉာဏ်နဲ့ သိတာ ဆိုမလား၊ သူ့ဆီက တစ်ဆင့်ကြား အသိလို့ ဆိုမလား။

ဦးဖေဝင်း။ ။တစ်ဆင့်ကြား အသိပါ ဘုရား။

ဆရာတော်။ ။ဒါဖြင့် သူများပါးစပ်မှာ လမ်းဆုံးနေတယ်

ဦးဖေဝင်း။ ။မှန်ပါ၊ ဒါဖြင့် ဘယ်လိုမှ မှန်ပါမလဲ ဘုရား။

ဆရာတော်။ ။ခင်ဗျားဉာဏ်နဲ့ ခင်ဗျားရဲ့ခန္ဓာကိုယ်ထဲ ကြည့်ပါ၊ ဘာတွေ တွေ့လာမလဲ၊ ခန္ဓာက ပြလာပါလိမ့်မယ်၊ အဲဒါတွေကို ကိုယ့်ဉာဏ်နဲ့ ကြည့် သိပြီးမှ ဒါ... ဟုတ်တယ်– မဟုတ်ဘူး ဆုံးဖြတ်ချက် ချပါ၊ ဒါကျတော့ ကိုယ်ပိုင်ဉာဏ်နဲ့ သိတာ၊ ကိုယ့်အပေါ် ကိုယ် ယုံကြည်တယ် ဆိုရမှာပေါ့။

ဦးဖေဝင်း။ ။မှန်ပါဘုရား၊ ဒီလိုဆိုရင် ဆရာ မကူဘဲကော ဖြစ်မလား ဘုရား။

ဆရာတော်။ ။အေး... ဆရာကလဲ ၂–မျိုး ရှိတယ်၊ ဆရာမှား– ဆရာမှန်လို့။ ဆရာမှားက ပြောတာကိုလဲ စိစစ်၊ ဆရာမှန်က ပြောတာကိုလဲ စိစစ်ရမှာပဲ၊ ကိုယ့်ခန္ဓာကို ချိန်ခွင်ထားပြီး တိုက်ကြည့် စစ်ကြည့်ရမှာပဲ။

ဤနည်းအားဖြင့် ဦးဖေဝင်းကလည်း အကြောင်းအရာ များစွာ လျှောက်ထား၏၊ ဆရာတော်ကလည်း ဥပမာအမျိုးမျိုးဖြင့် ဖြေရှင်းပြတော်မူသည်။

နောက်ပိုင်းတွင် ဦးဖေဝင်းသည် ကျေနပ် နှစ်သက်မှု ရ၍ ဆရာတော်ကြီးအနားက မခွာဘဲ နေတော့သည်၊ ဆရာတော်ဘုရားကြီး ဟောပြသလို ကိုယ်တိုင်လက်တွေ့ တရားအားထုတ်တော့၏၊ ဗုဒ္ဓဘာသာသို့လည်း သက်ဝင်ယုံကြည်လာတော့သည်။ ။

# ရန်ကုန်မှ အမရပူရသို့ ပြန်လည်ကြွခြင်း

ဤသို့လျှင် ရန်ကုန်မြို့၌ တစ်ပတ်ကြာမျှ သီတင်းသုံးတော်မူပြီး ရသမျှ အချိန်ကလေးအတွင်းမှာ အလုအယက် တရားပွဲများ ကျင်းပ၊ သစ္စာတရားများ ဟောပြ၊ မနားရအောင် ဖြစ်တော့သည်၊ နံနက်မှ ညဥ့်နက် သန်းခေါင်အထိ ဟောပြောပေးတော်မူ၏။

ဝါကပ်ရန်လည်း အချိန် နီးလာပြီ၊ သို့ဖြစ်၍ ၁၃၂၄–ခု ဝါဆိုလဆန်း ၁၃–ရက် (၁၄.၇.၆၂)နေ့ နံနက် ပိုင်းတွင် တရားတစ်ပွဲ ဟောပေးလိုက်သေး၏၊ ရသမျှ အချိန်ကို ဖြစ်နိုင်သမျှ ဖဲ့ပေးခြင်း ဖြစ်သည်။

ထိုသို့ ဟောကြားပြီးနောက် ထိုနေ့ ညနေပိုင်းတွင် ရန်ကုန်မှ မန္တလေးသို့ အထူးသီးသန့် မီးရထားတွဲလုံးဖြင့် ပြန်လည် ကြွတော်မူသည်။

အဋ္ဌမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ် ခံယူပွဲကို အကြောင်းပြု၍ ရန်ကုန်မြို့မှ ဒကာ ဒကာမများ ထူးခြားစွာ အကျိုးရလိုက်ကြသည်၊ ဆရာတော်ဘုရားကြီးကလည်း အမိန့်ရှိ၏–

> "အဋ္ဌမဟာပဏ္ဍိတဘွဲ့က အဓိက မဟုတ်ပါဘူး၊ အခု ဘုန်းကြီး လုပ်ဆောင်နေတာလဲ အဋ္ဌမဟာပဏ္ဍိတဘွဲ့ရအောင် လုပ်နေတာ မဟုတ်၊ ကိုယ်ဟုတ်မှ– ဟုတ်တာ"

ဤသို့ ဆရာတော်ဘုရားကြီး မိန့်ပါသည်၊ ပီပီသသ ခံယူချက်ကို မိန့်ဟနေပါ၏ "ကိုယ်ဟုတ်မှ– ဟုတ်တာ" တဲ့၊ အင်း... မိန့်ဟပုံကဖြင့် ထိလှမိလှပါ၏၊ "ကိုယ်ဟုတ်မှ– ဟုတ်တာ"တဲ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## တရားမိုးကြီး ၇–ရက်တိုင်တိုင်ဇွေ

မိုးကုတ်ဆရာတော်ဘုရားကြီးသည် ၆.၇.၆၂နေ့တွင် ရန်ကုန်မြို့သို့ ရောက်တော်မူလာ၏၊ ၁၄.၇.၆၂နေ့တွင် အမရပူရသို့ ပြန်လည် ကြွတော်မူသည်၊ ဤကြားကာလတွင် ရန်ကုန်မြို့ကြီး၌ သစ္စာတရား ဒေသနာမိုးကြီး သွန်ဖြိုး၍ (၇)ရက်တိုင်တိုင် ဇွေပေးခဲ့သည်။

သစ္စာတရားများနှင့် ပတ်သက်၍လည်းကောင်း၊ နိဗ္ဗာန်နှင့် ပတ်သက်၍ လည်းကောင်း မရှုံ့မကြောက် ခြသေ့်ဟောက်သို့ ရဲရဲတောက်ကြီး မိန့်မြွက်တော်မူခဲ့သည်။

နေ့စဉ်နေ့တိုင်း နံနက်ပိုင်း၌ တစ်ကြိမ်၊ ညပိုင်း၌ တစ်ကြိမ်၊ တစ်နေ့လျှင် (၂)ကြိမ် ဟောပြပေးတော်မူခဲ့၏၊ ပွဲတိုင်း ပွဲတိုင်းပင် ဟုတ်တိုင်းမှန်ရာ မညှာမတာ တင်းတင်းကြီးတွေ မိန့်မြွက်သွားတော်မူခဲ့သည်၊ တစ်နေရာ၌ ဆိုလျှင် တရားဟောပြရာဌာန ဦးသံခိုင်၏ တိုက်ကြီးကို ညွှန်ပြပြီးလျှင်–

"သည်တိုက်ကြီးက ဆေးရုံကြီးကွ၊ အထည်အလိပ် အဝတ်အစားတွေက ပတ်တီးတွေ၊ ဆီဆန် ဆား ငါးပိ ငရုတ် ကြက်သွန်တွေက ဆေးတွေ၊ မင်းတို့တွေက လူမမာတွေ၊ တခြားတိုက်တွေ လူတွေကိုလဲ သည်အတိုင်းပဲ မှတ်ကြ"

ဤသို့မိန့်လိုက်ရာ ပရိသတ်ကြီးမှာ အောင့်သွားအောင် ခံစားလိုက်ရမည် ဖြစ်၏၊ ပြည့်ပြည့်ဝဝ နင့်နင့် သီးသီးကြီး မိန့်ဆိုလိုက်တာကိုး၊ မကြားဖူးသော တရားမျိုးဖြစ်၍လည်း အံ့အားသင့်နေကြရတော့၏။

## ထစ်ချုန်းရွာချသော မိုးကြီးပမာ

ထို့နောက် ဆက်လက်၍ မေးနေပြန်သည် "ကိုယ့်ကိုယ်ကို လူချမ်းသာတွေလို့ ထင်နေကြသလား" (မထင်ပါ ဘုရား) လူချမ်းသာတွေလား၊ လူမွဲတွေလား၊ (လူမွဲတွေပါ ဘုရား) အေး... မွဲမှန်းသိရင် တော်ပြီ"ဟူ၍ တိတိပြတ်ပြတ်ကြီး၊ တင်းတင်းမာမာကြီး မိန့်မြွက်နေတော့သည်။

မော်မော်ကြွားကြွား မောက်မောက်မာမာတွေ များသော ရန်ကုန်မြို့ကြီးဖြစ်၍လည်း ဤသို့ မိန့်ဆိုနေလေသလား မပြောတတ်။ ။

တောသုံးထောင်ကို အစိုးရသော ခြသေ့်မင်းကြီးသည် ဘာကိုမျှ မထီ၊ ဘာကိုမျှ ရွံ့ခြင်း လန့်ခြင်း မရှိဘဲ မျက်နှာထား တည်တည်ဖြင့် တောကြီးတစ်ခုလုံး သိမ့်သိမ့်တုန်ခါ မြည်ဟည်းသွားအောင် ဟိန်းဟောက်လိုက်သကဲ့သို့–

ထို့အတူ မိုးကုတ်ဆရာတော်ဘုရားကြီးသည်လည်း ရန်ကုန်မြို့ ရောက်ခိုက်တွင် နိဗ္ဗာန်နှင့် ပတ်သက်၍ မကြောက်မရွံ့ နောက်မတွန့်ဘဲ ထစ်ချုန်းရွာချသော မိုးကြီးပမာ ရဲရဲဝံ့ဝံ့ကြီး မာမာတင်းတင်းကြီး မိန့်မြွက်ဟောပြသွားလေသည်။

[တရားတို့မှာ မိုးကုတ် အမှတ်(၂) စာအုပ်တွင် ပါရှိ၏၊ စာကို ဖတ်ရသည်ထက် တရားတိပ်ခွေကို နာရသည်က ပို၍ အရသာ အပြည့်အဝ ရှိသည်။]

## အသွားခရီးနှင့် အပြန်ခရီး

စောစောကပင် ကြိုတင်၍ ဒကာရင်း ဒကာမရင်း များစွာတို့က စောင့်စား ငံ့လင့်နေနှင့်ကြသည်၊ ဆီးကြို ပူဇော်ကြ၏၊ ကန်တော့ကြ၏၊ ပြီးလျှင် ကားကြီး ကားငယ် အသွယ်သွယ်တို့ဖြင့် အမရပူရသို့ ပင့်ဆောင်သွားကြလေသည်။

ဆရာတော်ဘုရားကြီးကား ရက်အား အနားမယူတော့ပါ၊ ခရီးပန်းလာခဲ့သည်ကိုပင် အမှု မထား၊ နောက်တစ်နေ့ ၁၃၂၄–ခု ဝါဆိုလပြည့် (၁၆.၇.၆၂)နေ့ပင် စတင်၍ (ယခင်တုန်းကလိုပင်) နေ့စဉ် တရားပွဲများ ကျင်းပ ဟောပြတော်မူလေသည်။

သင်္ကြန်ရာဇ် ၁၃၂၄–ခု ဝါဆိုလပြည့်ကျော် (၁) ရက် (၁၇.၇.၆၂)နေ့တွင် အမရပူရမြို့၊ မင်္ဂလာတိုက်၌ ဝါကပ်တော်မူ၏။

အပြန်ခရီးတွင်လည်း အသွားခရီးတုန်းကလိုပင် ဘူတာစဉ်တစ်လျှောက် ဒကာ ဒကာမများ လာရောက် ဝိုင်းအုံ ဖူးမြော်ကန်တော့ကြ၏၊ လေးစားရိုသေကြ၏၊ ကြည်ညိုကြသည်။

"အဘယ့်ကြောင့်များ ဤမျှအထိ ဆရာတော်ဘုရားကြီးပေါ်၌ လေးစားကြည်ညို ရိုသေနေကြပါလိမ့်မည်နည်း၊ နာမည်ကြီး၍ ဝိုင်းအုံနေကြခြင်းလော၊ ဒါမှမဟုတ် ဆရာတော်ဘုရားကြီးဟောပြသော သစ္စာတရားတို့ကို နာယူမှတ်သားရ ကျင့်သုံးရလို့ ကျေးဇူးတွေ တင်၍လော"

ဤနည်းအားဖြင့် ပြန်လည် ကြွရောက်လာရာ နောက်တစ်နေ့ ၁၃၂၄–ခု ဝါဆိုလဆန်း ၁၄–ရက် (၁၅.၇.၆၂) နေ့လယ်တွင် မန္တလေးဘူတာကြီးသို့ ရထားကြီး ဝင်လေ၏။

## သံဝေဂနှင့် လာ၍ အားထုတ်သူ

အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ကပ်လှူသည်ကို ခံယူတော်မူပြီးနောက် အမရပူရသို့ ပြန်လည်၍ ဝါကပ်တော်မူ၏၊ ဝါတွင်းမှာ ထုံးစံအတိုင်းပင် နံနက် တစ်ပွဲ၊ ညနေ တစ်ပွဲ တစ်နေ့လျှင် တရား(၂)ပွဲ ဟောပေးတော်မူသည်။

ဝါဆိုပြီးစ သာသာလောက်ကပင် စတင်၍ ကုဋ္ဌနူနာရောဂါသည် အမျိုးသမီးတစ်ဦး တရားနာချိန် ရောက်လျှင် ပေါက်–ပေါက်လာတတ်၏၊ အဖော်လည်း မပါ၊ တစ်ဦးတည်းပင် ရောက်–ရောက်လာတတ်သည်၊ ဤပတ်ဝန်းကျင် နီးနားရပ်ကွက်တွင် ဤအမျိုးသမီးကို မမြင်ဖူးကြချေ။

**ဦးချစ်ဆွေ+ဒေါ်မမတို့၏** ဓမ္မာရုံကြီးပေါ်၌ အများနှင့် ခပ်ဝေးဝေး ထောင့်တစ်နေရာတွင် နေကာ တရားနာ တရားအားထုတ်သည်၊ ကုဋ္ဌနူနာ ကိုယ်ရေပြား ရောဂါသည် ဖြစ်၍ သူ့ထံမှ ညှီစို့စို့ အနံ့လည်း လွင့်လာတတ်၏၊ ယင်ကောင်ကလေးများပင် သူ့ကို ဝိုင်းအုံရစ်သန်းနေတတ်ကြသည်။

အခုအတိုင်းဆိုပါက ကြာလျှင် အများပရိသတ်က သူ့အပေါ် မနှစ်မြို့ ဖြစ်လာမှာ စိုးရ၏၊ ထို့ကြောင့် ဆရာတော်အား သွား၍ လျှောက်ကြသည်၊ ထိုအခါ ဆရာတော်က–

"အဲဒီဒကာမဟာ သူ့ခန္ဓာကိုယ်က ကံနာ ဝဋ်နာကြီးအတွက် သံဝေဂ ရလို့ လာ–လာပြီး တရားနာနေတာကွ၊ ပြီးတော့ တရားလဲ အားထုတ်ပါတယ်။

အဆင့်မြင့်နေပြီ၊ မရှင်းသေးတာ ရှိနေလို့ လာ–လာနေတာပါကွ၊ ရှင်းသွားပြီဆိုရင် သူ

လာတော့မှာ မဟုတ်ပါဘူးကွာ...”
ဟူ၍ မိန့်တော်မူ၏၊ ဆရာတော့်အာဘော်ဆိုလိုသည်မှာ “သူ့ကို မောင်းနှင်မထုတ်ကြပါနဲ့ကွာ”လို့ ဆိုလိုရာ ရောက်တော့သည်။

သို့ဖြစ်၍ အားလုံးကပင် ခွင့်လွှတ်ထားကြရသည် ဟူ၏၊ ထို့နောက် သုံးလေးရက် ဆက်လက် နာယူပြီး သောအခါ လုံးဝ မလာတော့ဘဲ ပျောက်ကွယ်သွားတော့ သည် ဆို၏။

## ကျန်းမာရေး ဂရုစိုက်တော်မူခြင်း

ဆရာတော်ကြီးသည် ကျန်းမာရေးကို အလေး ထားတော်မူ၏၊ ဘယ်မြို့ ဘယ်ရွာ ရောက်ရောက် လမ်းလျှောက်လေ့ စင်္ကြံကြွလေ့ရှိသည်၊ အမရပူရမြို့ တွင် လမ်းလျှောက်ရာ၌ လေကောင်းလေသန့် ရရန် တစ်ခါတစ်ရံ မြို့၏ ပြင်ဘက်သို့ ထွက်၍ လျှောက် တတ်၏။

ယင်းကိစ္စအတွက် အမရပူရမြို့၊ အိုးတော်ရပ်၊ ရက်ကန်းပိုင်ရှင် ဦးဘတုတ်+ဒေါ်ခင်ငြိမ်းတို့က ကား ကလေး တစ်စီး ဝယ်ပြီး ဆရာတော်အား အပိုင် လှူလိုက်ကြသည်၊ သို့သော် ဆရာတော်က လက်မခံဘဲ ပြန်၍ စွန့်လိုက်၏၊ လိုအပ်သောအခါတွင်မှ ခေါ်၍ သုံးတတ်သည်။

ယင်းကားကလေးဖြင့် တစ်ခါတစ်ရံ မင်္ဂလာ တိုက်မှ စစ်ကိုင်းတံတားကြီးနားအထိ သွားပြီး ကား ကလေးကို ရပ်ထားခဲ့၏၊ ပြီးမှ လူရှင်းသော ကားလမ်းမ ကြီးအပေါ် လျှောက်တတ်သည်၊ ညနေ နေဝင်ဖျိုးဖျ အချိန်မျိုးမှာ ဖြစ်တတ်၏၊ ဒကာ တစ်ဦးစ နှစ်ဦးစ နောက်က ပါတတ်သည်။

တစ်ခါတစ်ရံတွင် အမရပူရမြို့၏ တောင်ဘက် က အရိပ်ကောင်း၍ အပင်ပေါင်း(၁၀၀)ကျော် ရှိသည့် ရှေးမ မယ်ဇယ်ပင်တန်းကြီးများကို ဖြတ်၍ ဦးပိန် တံတားကြီးအပေါ် လျှောက်တတ်သည်၊ ဦးပိန်တံတား ကြီးကလည်း တိုင်ပေါင်း (၁၀၀၀)တစ်ထောင်ကျော် ရှိ၍ ၃/၄ မိုင် ရှည်လျားသည်။



အမရပူရမြို့၏အလှကျက်သရေ အပင်(၁၀၀)ကျော်ခန့်ရှိသော မယ်ဇယ်ပင်တန်းကြီး



အမရပူရမြို့၏အမှတ်အသား ဦးပိန်တံတားကြီး (သို့မဟုတ်) တောင်သမန်တံတားကြီး
အမရပူရမြို့နှင့် တောင်သမန်ရွာသို့ကူးသော ထိုတံတားကြီးသည် အရှည်တစ်မိုင်နီးပါးခန့်ရှိပြီး
ယနေ့တွေ့မြင်ရစဉ်



## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## မိမိသည်ပင် ဧည့်သည်အာဂန္တု

တစ်ခါတစ်ရံတွင်ကား အမရပူရမြောက်ဖျားက နာမည်ကျော် ပုထိုးတော်ဘုရားကြီးဘက်သို့လည်း ကြွ၍ လျှောက်တတ်၏၊ ဆရာတော်ကြီး ကြွလာသည့်အခါ တချို့က လမ်းမပေါ်တွင် အဝတ်များ ခင်းပေးခြင်း၊ တဘက်စ လက်ကိုင်ပဝါ စသည်များ ခင်းပေးခြင်း၊ ဆံပင် ဖြန့်ခင်းခြင်း၊ တချို့က ကလေးငယ်များ အန္တရာယ် ကင်းအောင် လမ်းမပေါ်မှာ ချပေးထားပြီး ကျော်လွှားသွားပါရန် လျှောက်ထားခြင်းများ ပြုလုပ်တတ်ကြသည်။

ထို့ကြောင့် ဆရာတော်ကြီးက ဘယ်နေရာကိုမှ အတည်တကျ အမြဲတမ်း ကြွလေ့ မရှိပါ၊ နေရာပြောင်း–ပြောင်းပြီး ကြွတတ်သည်၊ အလားတူပင် မည်သည့်မြို့ မည်သည့်ရွာ မည်သည့်နေရာ မည်သည့်ကျောင်းဟူ၍ စိတ်ထဲ၌ သတ်မှတ်ထားတော် မမူပါ၊ ကိုယ်ပိုင်ဟူ၍လည်း သိမ်းပိုက်ထားတော်မမူတော့ပါ၊ မိမိကိုယ်သည်ပင် ဧည့်သည်အာဂန္တုသဖွယ် သဘောထားပြီး သီတင်းသုံးသွားတော်မူလေ့ရှိသည်။

မှန်ပါသည်၊ မိမိသည်ပင် ဤလောကအတွင်း၌ ခေတ္တခဏမျှ ရောက်လာ၊ ပေါ်ပေါက်လာသော ဧည့်သည် အာဂန္တု မဟုတ်ပါလော။

## တွယ်တာ ကပ်ငြိမှု မထား

ဆရာတော်ကြီးသည် ဘုန်းကံ ကြီးမားလှ၏၊ ထိုခေတ် ထိုအခါက ခေတ်စားခဲ့သော ပိုးသင်္ကန်း ဖဲသင်္ကန်း ဘန်ကောက် သင်္ကန်းနှင့် ကမ္ဗလာ ခြုံထည် စသည်တို့မှာ ဆရာတော့်အနားတွင် အလျှံပယ် ပေါများ၏၊ လှူဒါန်းသူများကို ငဲ့ညှာပြီး လက်ခံ သုံးစွဲတော်မူတတ်ပါသည်။

သို့ရာတွင် ထို အဖိုးတန် ပစ္စည်းများအပေါ်၌ တွယ်တာကပ်ငြိမှုကား လုံးဝ မရှိ၊ အလှူခံသူ ရဟန်း တစ်ပါးပါး လာလျှင် လှူတတ် စွန့်တတ်၏။ တစ်စုံသာ အလိုရှိလျှင် တစ်စုံ၊ တီစီဝရိက်သုံးထည်လုံး အလိုရှိပါသည် ဆိုလျှင်လည်း သုံးထည်လုံး စိတ်ကျေနပ်မှု ရအောင် လှူတတ်သည်။

အလှူခံသူမလာလျှင်လည်း ဝါဆိုဦး ဝါကပ်ချိန်တွင် တစ်ကြိမ်၊ ဝါကျွတ်တွင် တစ်ကြိမ် ကျောင်းတိုက် သံဃာတော်များအား မဲချ၍ လှူပစ်တတ်သည်၊ ထို့ကြောင့်လော မပြောတတ်၊ ဆရာတော်အား ထပ်ကာ ထပ်၍သာ လှူသူတွေ ပေါများနေတော့သည်။

ဆရာတော်၏အလေ့မှာ ဝါပကာလတွင် လာ ရောက် လှူကြသော အဖိုးတန် သင်္ကန်း ထီး ဖိနပ် ယပ် စသည်တို့ကို နှစ်စဉ်နှစ်တိုင်း ဝါဆိုဦးဝါကပ်ချိန် တွင် မင်္ဂလာတိုက်သံဃာတော်များနှင့် အခြားကျောင်း တိုက်မှ လေးစားဖွယ်ထေရ်ကြီးဝါကြီး၊ အရှင်မြတ်ဝ အား တစ်ခုမကျန် အကုန် မဲချ၍ လှူဒါန်းပစ်တတ် သည်။

ထို့နောက် တစ်ဖန် ဝါတွင်းကာလ၌ လာရော လှူဒါန်းကြသော အဖိုးတန် သင်္ကန်း ထီး ဖိနပ် ယ စသည်တို့ကို ဝါကျွတ်ကထိန်ပွဲတွင် အထက်ပါအတိုင် တစ်ခု မကျန် မဲချ၍ လှူပစ်တတ်သည်၊ ဤသို့လှူ ပစ္စည်း ပစ္စယနှင့် ကျောင်းကန် အဆောက်အအုံ အပေါ်၌ တွယ်တာကပ်ငြိမှု လုံးဝ မထားတော့ပေ

## တစ်ဘဝသာသနာ

# သူတို့ ထွေးပြီးသားကို ကိုယ်က မျိုသလို

တစ်ခုသော ဝါကျွတ် ကထိန်ပွဲတွင် ဖြစ်၏၊ ထုံးစံအတိုင်း မဲချဝေဖို့ရန် တစ်ဝါတွင်းလုံး ရသမျှ သင်္ကန်း ထီး ဖိနပ် ယပ်တို့ကို စုပုံလိုက်ကြ၏၊ သံဃာဦးရေကိုလည်း စာရင်း ပြုစုလိုက်သည်၊ ပစ္စည်းတွေကများလွန်းနေ၏၊ သံဃာဦးရေထက်များနေသည်။

ထို့ကြောင့် စီမံ ခန့်ခွဲပေးရသူ ဆရာတော်၏ တပည့်ရင်း ဦးကုဏ္ဍလက ပိုး သင်္ကန်း ဘန်ကောက် သင်္ကန်း သင်္ကလပ်ခြုံထည်တချို့ကို ဖယ်ထားလိုက်၏၊ ဆရာတော် သိသွားသဖြင့် "ချန်မထားပါနဲ့၊ အကုန် ဝေပစ်ပါ"ဟု ဆိုသောကြောင့် ဝေလိုက်ရတော့သည်။

နောက်တော့မှ ဆရာတော့်အား "အဘယ့်ကြောင့် ချန်မထားရပါသလဲ"ဟု လျှောက်ထားကြည့်ရာ ဆရာတော်က မိန့်တော်မူသည်–

"ဒကာ ဒကာမတွေက တွယ်တာ ကပ်ငြိတဲ့ တဏှာကို ဖြတ်တောက်ပြီး လှူဒါန်းထားတဲ့ ဥစ္စာတွေပဲကွာ...၊ ဒါကို မင်းတို့ ငါတို့က တဏှာနဲ့ တွယ်တာနေမယ်– ကပ်ငြိနေမယ် ဆို ရင် တော်ပါ့မလား။

တစ်နည်းအားဖြင့် သူတို့ ထွေးအန်ပြီး သားတွေကို တို့က ကောက်–ကောက် မျိုသလို ဖြစ်တော့မှာပေါ့"တဲ့။

ဆရာတော်၏ စကားလုံးတို့မှာ ကြက်သီး မွေးညင်း တဖြင်းဖြင်း ထသွားလောက်အောင် ခံစားရတော့သည်၊ ဟုတ်ပါသည်၊ သူတို့ စွန့်လွှတ်ပြီးသားတွေကို ကိုယ်က ကပ်ငြိတွယ်တာနေလျှင် "ထွေးပြီးသား တံထွေး အန်ဖတ်တွေကို ကောက်မျိုသလို" ဖြစ်သွားပါလိမ့်မည်။

# ရန်ကုန်ကလူတွေ အရောက်နောက်ကျ

ဆရာတော်က ထိုနှစ်ဝါတွင်းမှာ ခန္ဓာဝန်ချမည့် အရိပ်အမြွက်ကလေးများ တစ်ခါ တစ်ခါ မိန့်တတ်၏၊ သို့သော် အများက နားမလည်ကြ၊ မိုးလေသာသော တစ်ခုသော ညနေခင်းတွင် ဖြစ်၏။

ဦးဘတုတ်၏ ကားကလေးဖြင့် မန္တလေး–စစ်ကိုင်း သွား ကားလမ်းမကြီးပေါ်သို့ လမ်းလျှောက်ရန် ရောက်လာကြသည်၊ လူရှင်းသော ရွှေကြက်ယက် ရွှေကြက်ကျဘုရားအနီး စစ်ကိုင်းတံတားကြီးနှင့် မနီးမဝေး အထိ ရောက်သွားကြသည်။

ဆရာတော်သည် လူငယ်များပမာ သွက်လက်စွာဖြင့် လူရှင်းသော ကားလမ်းမကြီးပေါ်တွင် ခပ်သွက်သွက် လျှောက်နေ၏၊ နောက်တော်မှ လိုက်ပါလေ့ရှိသော (စန်းကဖေး) ဦးစောမောင်က–

"မနှစ်တုန်းက အရှင်ဘုရား လေငန်းရောဂါစွဲ၊ မကျန်းမမာ ဖြစ်လိုက်ရ၊ အတော်ခံလိုက်ရတယ်၊ ဆေးဝါးတွေနဲ့ ကုလို့ အခုလို ပေါ့ပေါ့ပါးပါး ကြွနေတာ မြင်ရတော့ တပည့်တော် ဝမ်းသာတယ် ဘုရား"

ဟူ၍ လျှောက်မိ၏၊ ထိုအခါ ဆရာတော်က နောက်ပြန် လှည့်မကြည့်ဘဲ မိန့်သည်။

"မောင်စောမောင်... ဆေးဝါးဆိုတာ အခိုက်အတန့်ပဲကွ"

ဤမျှသာ မိန့်မြွက်ပြီး ဆက်လက်ကြွနေပြန်၏၊ ခဏကြာတော့မှ မိန့်ပြန်သည်။

"ခန္ဓာကိုယ်ကြီးကတော့ အမြဲ ဖောက်ပြန်နေတာပဲ ဆိုတာ မင်း လေးလေးနက်နက် မှတ်ထားနော်၊ ကြားလား"

ဤသို့ မိန့်တော်မူပြီးနောက် ဆက်လက် လျှောက်နေ

ပြန်သည်၊ ဦးစောမောင်က (မှန်ပါ ဘုရား) ဟူ၍သာ လိုက်နေမိသည်၊ အခြားဘာမျှ ပြန်လည်၍ မလျှောက်ထားဖြစ်၊ ထို့နောက် မိန့်ပြန်သည်။

"မောင်စောမောင်... သူတော်ကောင်းများ ပြောတဲ့ စကားကို လေးလေးနက်နက် မှတ်၊ အကြောင်းမဲ့ မပြောဘူး"

ဤသို့လျှင် တိုတိုပြတ်ပြတ် အရိပ်အမြွက်ကိုကား မိန့်ပါ၏၊ သို့သော် အမှတ်မထားခဲ့၊ ခဏကြာသောအခါ မိန့်ပြန်သည်။

"ရန်ကုန်က ဒကာ ဒကာမတွေ ငါ့ဆီ အရောက်နောက်ကျသကွာ..."

"မှန်ပါဘုရား... ဒီတော့ လာမယ့်နှစ် အရှင်ဘုရား... ရန်ကုန်ကို ကြွဦးမလား ဘုရား..."

"ဒါကတော့ ငါ့ခန္ဓာကိုယ်က ပြောပါလိမ့်မယ်ကွာ"

ဟူ၍မျှသာ မိန့်တော်မူ၏၊ ရှေ့ဆက်လက်၍ မိန့်တော်မမူပါ၊ ဝါဆိုဦးတုန်းက အဂ္ဂမဟာပဏ္ဍိတဘွဲ့ ကိစ္စနဲ့ ရန်ကုန်ကို ရောက်စဉ် ဆရာတော့်ထံ ချဉ်းကပ်လာကြသော ဒကာ ဒကာမများကို ရည်ရွယ်မိန့်မြွက်ဟန် တူသည်၊ ဤသည်တို့ကား အရိပ်အမြွက်မျှ မိန့်တော်မူနေခြင်းတို့ပေတည်း။

# ဘယ်နေ့သေမယ်၊ သိနိုင်သလား

ဝါဆို ဝါခေါင်လများတွင် အမရပူရ၌ လေပြင်းထန်ထန် တိုက်ခတ်တတ်၏၊ မင်္ဂလာတိုက်ဟောင်း၏ အရှေ့တောင်ဘက်က တောင်သမန်အင်းရေပြင်ကြီး ဆိုလျှင် လှိုင်းတွေ လေတွေ တဝုန်းဝုန်း ဆူပွက်လျက် ဒေါသတွေ ထွက်နေတတ်၏။

ထို့ကြောင့် မန္တလေး–စစ်ကိုင်းကားလမ်းမပေါ် မလျှောက်တော့ဘဲ လေကွယ်ရာ မြို့ မြောက်ဖျားက ပုထိုးတော်ကြီးဘုရားဘက်သို့ ပြောင်း၍ လျှောက်ကြ၏၊ ဆရာတော်က စ၍ အမိန့်ရှိသည်–

"မောင်စောမောင်ရေ့... ဒို့ရန်ကုန်မှာတုန်းက စကြံ့ လျှောက်တော့ တိရစ္ဆာန်ဥယျာဉ်ထဲကို သွားလျှောက်ကြတယ်ကွ" (မှန်ပါဘုရား)

"ဟာသံဘာတ ဦးမြလဲ ပါတယ်၊ တို့ နှစ်ယောက် အတူတူ လျှောက်ကြတာပေါ့" (မှန်ပါဘုရား)

ငါက တရားကို ကြိုးစားဖို့ ပြောတယ်၊ "အသေ မဦးခင် ဉာဏ်က ဦးအောင် အလုပ်လုပ်ပါ"လို့ ပြောတော့ သူက ဘာပြောတယ်မှတ်တုံး"

"တပည့်တော်က ပန်းနာသည် ဘုရာ့"တဲ့၊ ပန်းနာသည်ဆိုတာ ပိန်ပိန်ညှော်ညှော်နဲ့ သေခဲတယ်၊ အသက်ပြင်းတယ်"တဲ့၊ (မှန်ပါ ဘုရား)

"ဟော... ပြောလို့သာ ပြောနေတာ၊ တို့ ရန်ကုန်က ပြန်လာလို့ တစ်လလောက်ပဲ ရှိသေး၊ အခု ဦးမြ တစ်ယောက် သေပြီ–တဲ့" (မှန်ပါ ဘုရား)

"ဒါ့ကြောင့် မင်းတို့ကို တရားအားထုတ်ဖို့ ငါ ခဏ ခဏ သတိပေးနေရတာ၊ ဘယ်နေ့သေမယ် သိနိုင်သလားလို့" (မသိနိုင်ပါ ဘုရား)

"အေး... ဒါ့ကြောင့် တိုက်တွန်းနေရတာပေါ့" (မှန်ပါ ဘုရား)

# မြင်းလေးမျိုး ဥပမာ

* ၁။ ကျောပေါ်တွင် ကြိမ်ကလေး ဝင့်ပြရုံနှင့် ပြေးသော မြင်းတစ်မျိုး။

၂။ ကြိမ်ဝင့်ပြရုံဖြင့် မပြေးသေး၊ သို့သော် အမွေးပေါ် ကြိမ်ဖြင့် ထိကပ် ပွတ်သပ် သတိပေးမှ ပြေးသော မြင်းတစ်မျိုး။

၃။ ကြိမ်ဝင့်ရုံဖြင့် မပြေး၊ အမွေးသပ်ရုံနှင့်လည်း မရ၊ သံချွန်ဖြင့် အရေပါးဖောက်၍ သွေးစို့အောင် ထိုးမှ ပြေးသောမြင်း တစ်မျိုး။

၄။ ကြိမ်ဝင့်ရုံဖြင့် မပြေး၊ အမွေးသပ်ရုံနှင့်လည်း မရ၊ သံချွန်ဖြင့် သွေးစို့အောင် ထိုးသော်လည်း မလှုပ်၊ အရိုးကို ဒုတ်ဒုတ်ထိအောင် သံချွန်ဖြင့် ဆောင့်၍ ထိုးမှ ပြေးသော မြင်းတစ်မျိုး။

(၁)ဤလေးမျိုးဥပမာအတိုင်းပင် ပုဂ္ဂိုလ်လည်း လေးမျိုးရှိကြ၏၊ "ဘယ်မြို့ ဘယ်ရွာ ဘယ်ဒေသမှာ ဘယ်သူတော့ဖြင့် ဒုက္ခရောက်၍ သေရှာပေါ့တဲ့" ဤကဲ့သို့သော သတင်းကို သူတစ်ပါးထံမှ တစ်ဆင့် ကြားရရုံမျှဖြင့် ဘိတ်လန့်သံဝေဂ ရသွားပြီးလျှင် တရားအားထုတ်တော့၏၊ ဤပုဂ္ဂိုလ်မျိုးသည် ကြိမ်ရိပ်ပြရုံမျှဖြင့် ပြေးသော ထမမြင်းမျိုးနှင့် တူသည်။

(၂)"ဘယ်မြို့ ဘယ်ရွာ ဘယ်ဒေသမှာ ဘယ်သူတော့ဖြင့် ဒုက္ခရောက်၍ သေရှာပေါ့တဲ့" ဤကဲ့သို့သော သတင်းမျိုးကို တစ်ဆင့်ကြားရရုံမျှဖြင့် သံဝေဂ မဖြစ်သေး၊ သို့သော် ကိုယ်တိုင် မျက်မြင်တွေ့လာသောအခါ တွင်ကား သံဝေဂတွေ ဖြစ်ပွား၍ တရားအားထုတ်လေတော့၏၊ ဤပုဂ္ဂိုလ်မျိုးသည် ဒုတိယမြင်းမျိုးနှင့် တူသည်။

(၃)"ဘယ်မြို့ ဘယ်ရွာ ဘယ်ဒေသမှာ ဘယ်သူတော့ဖြင့် ဒုက္ခရောက်၍ သေရှာပေါ့တဲ့" ဤသတင်းမျိုးကို တစ်ဆင့်စကား သတင်းကြားဖြင့် သံဝေဂမရ၊ ကိုယ်တွေ့ မျက်မြင်ကြုံ၍လည်း သံဝေဂ မဖြစ်၊ သို့သော် သွေးသားတော်စပ်တဲ့ ကိုယ့်ဆွေမျိုးထဲမှ တစ်စုံတစ်ယောက် ဒုက္ခရောက်၍ သေဘေးတွေ့သောအခါမှ သံဝေဂ ဖြစ်၏၊ ချက်ချင်း ထ၍ တရားအားထုတ်တော့သည်၊ တတိယမြင်းမျိုးနှင့် တူသည်။

(၄)"ဘယ်မြို့ ဘယ်ရွာ ဘယ်ဒေသမှာ ဘယ်သူတော့ဖြင့် ဒုက္ခရောက်၍ သေရှာပေါ့တဲ့" ဤသတင်းမျိုးကို တစ်ဆင့်ကြားဖြင့်လည်း သံဝေဂ မဖြစ်၊ ကိုယ်တွေ့ မျက်မြင်ကြုံ၍လည်း သံဝေဂ မဖြစ်၊ ကိုယ့်သွေးကိုယ့်သား ကိုယ့်ဆွေမျိုးထဲမှ ဒုက္ခတွေ့၍လည်း သံဝေဂ မဖြစ်၊ သို့သော် မိမိကိုယ်တိုင် ဘေးဒုက္ခနှင့် ရင်ဆိုင်ရသောအခါတွင်ကား သံဝေဂတွေ ဖြစ်ပွား၏၊ ထိုအခါတွင်မှ ချက်ချင်း ထ၍ တရား အားထုတ်တော့သည်၊ အချိန်နှောင်း၍ အားပျော့နေပြီ၊ စတုတ္ထမြင်းမျိုးနှင့် တူသည်။

**မှတ်ချက်။** ။"အချိန်ရှိခိုက် လုံ့လစိုက်" ဟူသော စကားပုံအတိုင်း စတုတ္ထအမျိုးအစားထိအောင် မဆိုင်းသင့်၊ ပထမ၊ ဒုတိယ၊ တတိယ အမျိုးအစား ကတည်းက အားထုတ်သင့်တော့သည်။

* အင်္ဂုတ္တိုရ်ပါဠိတော်၊စတုက္က၊၄၂၉၊ပတောဒသုတ်

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သမီးငယ်လေး စန်းစန်းရင်

၁၃၂၄–ခု ဝါခေါင်လ (၁၉၆၂–ခု ဩဂုတ်လ) ထဲက ဖြစ်၏၊ တစ်နေ့သော ညနေခင်းတွင် ဆရာတော်ကြီးသည် ဦးပေါက်ကျော်+ဒေါ်စီတို့၏ စင်္ကြံကျောင်းပေါ် ရောက်နေ၏။ ခေါက်တုံ့ ခေါက်ပြန် စင်္ကြံကြွပြီးပြီဖြစ်၍ ခေတ္တ အပန်းဖြေနေစဉ် ရဟန်းတော် ၂–ပါးလည်း ပြဿနာမေးရန် ရောက်လာကြသည်။

ထို့နောက် ရှေ့ဆင့် နောက်ဆင့်လိုပင် အမရပူရမြို့ (ဆောင်းဒါးရက်ကန်းကျောင်းကြီး တောင်ဘက်) ရေတွင်းညီနောင် ရပ်ကွက်မှ ဦးချစ်အေး+ဒေါ်သန်းတင်နှင့် သမီးလေး စန်းစန်းရင်တို့လည်း ရောက်လာကြ၏။

ထိုသားအမိ သားအဖ ၃–ဦးတို့သည် (ရောက်ပန်းသီးခေါ်) ကျွဲကော်သီးကြီး တစ်လုံးကို ယူလာ၍ ဆရာတော့်ရှေ့မှာ ချပြီး လှူဒါန်းလိုက်၏၊ ပြီးလျှင် ဦးချလိုက်ကြသည်၊ ဦးသုံးကြိမ်ချပြီးကာရှိသေး၊ ဆရာတော်က "ကဲ– ပြီး၊ ပြန်ကြတော့"ဟူ၍ နှင်တော့သည်၊ ပြဿနာမေးရန် စောင့်နေသော ရဟန်းတော်(၂)ပါး အတွက် ငဲ့ပြီး နှင်ခြင်း ဖြစ်ဟန် တူသည်။

ထိုအခါ ဖခင်လုပ်သူ ဦးချစ်အေးက နှောင့်နှေး မနေဘဲ ချက်ချင်း လျှောက်တော့၏–

"အရှင်ဘုရား... ဒီကလေးအကြောင်းကို သိစေချင်လို့ပါ ဘုရား"

ဤသို့ စကား စ–လိုက်သည်၊ ဆရာတော်ကြီးက ကလေးကို တစ်ချက် ငဲ့ကြည့်လိုက်ပြီး "ဘယ်လို ဖြစ်လို့လဲ"ဟု မေးတော့၏။

"အခု ဒီကလေးဟာ ၂–နှစ်နဲ့ လေးလပဲ ရှိပါသေးတယ်၊ စကားတွေ ကြီးကြီးကျယ်ကျယ် ပြောလွန်းနေလို့ပါ ဘုရား၊ အဲဒါ အရှင်ဘုရား မေးချင်တာ မေး၊ စစ်ဆေးပေးတော်မူပါ ဘုရား"

ထိုအခါ ဆရာတော်ကြီးက "ငါ့ကိုယ်စား မင်းပဲ မေး စမ်းကွာ..."ဟူ၍ ခွင့်ပြုပါသတတ်၊ သို့ဖြစ်၍ ဖခင် ဦးချစ်အေးက မေးရပါတော့သည်။

## အမေးနှင့် အဖြေများ

ဖခင်– "ဒီခန္ဓာကိုယ်ကြီး တည်တံ့ဖို့အကြောင်းတရား ဘယ်နှစ်ပါးရှိသလဲ"

သမီး– "လေးပါးရှိပါတယ် ဘုရား"

[ဆရာတော်ကြီးအား ဖြေကြားသည့်အနေဖြင့် ရည်ရွယ်၍ အဖြေတွင် "ဘုရား"ဟု ထည့်ဟန် တူသည်။]

ဖခင်– "ဘယ်ဟာတွေလဲ"

သမီး– "ကံ စိတ် ဥတု အာဟာရတွေပါ"

ဖခင်– "အဲဒီလေးပါးဟာ မြဲသလား၊ မမြဲဘူးလား"

သမီး– "မမြဲပါဘူး ဘုရား"

[ကလေးငယ်၏ အသံကလေးသည် စာစာ–စာစာနှင့် ဖျတ်လတ်၏၊ သွက်လက်၏၊ [illegible] ဆိုင်းနေခြင်း မရှိဘဲ ဖြေနေသည်။]

ဖခင်– အဲဒီမမြဲတာတွေကို "ငါ၊ ငါ့ဟာ၊ ငါ့ဥစ္စာ"ဟူ၍ စွဲယူသိမ်းပိုက်ထားလို့ တော်မလား၊ မတော်ဘူး လား။

သမီး– "မတော်ပါဘူး ဘုရား"

ဖခင်– "ဒါဖြင့် သမီးလေး စန်းစန်းရင်က ဘယ်[illegible] ထင်သလဲ"

သမီး– "သမီးလေး စန်းစန်းရင် မဟုတ်ပါဘူး၊ ရု[illegible] ကလေးပါ..."

[မိုးကုတ်ဆရာတော်ကြီးနှင့် အနီးမှ ကိုယ်တော် ၂–ပါးတို့လည်း ပြုံးလာတော်မူကြ၏။]

ဖခင်– "အော်... အဲ... ဟုတ်ပီ၊ အဲဒီရုပ်နာမ်ကလေး မြဲသလား၊ မမြဲဘူးလား"

သမီး– "မမြဲပါဘူး ဘုရား..."

[ဖခင်ဖြစ်သူပင်လျှင် အနည်းငယ် ကြောင်သွားရ၏၊ ကလေးငယ်၏အသံကလေးသည် ချစ်စဖွယ် ဖြစ်သည်၊ ဖခင်က ဆက်လက် မေးပြန်၏။]

ဖခင်– "ဘာပြုလို့ မမြဲပါဘူး ပြောနိုင်တာတုံး"

သမီး– "မြင်တာလေးတွေ၊ ကြားတာလေးတွေ၊ နံတာလေးတွေ ပျက်–ပျက်ကုန်တယ်၊ ရှုတာလေးတွေလဲ ပျက်–ပျက်ကုန်တာပဲ၊ အဲတာသိလို့ မမြဲဘူး ပြောတာပါ"

ဖခင်– "အဲဒီမမြဲတဲ့တရားတွေဟာ ဘာသစ္စာလဲ"

သမီး– "ဒုက္ခသစ္စာပါ ဘုရား"

ဖခင်– "ဒါဖြင့် နောက်ထပ် ဒီခန္ဓာမျိုး လိုချင်သေးသလား"

သမီး– "မလိုချင်တော့ပါဘူး ဘုရား"

ဖခင်– "ဘာလို့ မလိုချင်တာလဲ"

သမီး– "ဒုက္ခကို မြင်မြင်နေလို့ပါ"

ဖခင်– "ဒုက္ခကို ဒုက္ခမှန်းသိတာ ဘာသစ္စာလဲ"

သမီး– "မဂ္ဂသစ္စာပါ ဘုရား"

ဤသို့လျှင် သမီးလေး စန်းစန်းရင်က မပီကလာ ပီကလာ ချစ်စဖွယ် အသံကလေးဖြင့် ဖြေနေသည်၊ ထိုအခါ ဆရာတော်က အနားမှာ ရှိသော ကိုယ်တော် (၂)ပါးဘက်သို့ လှည့်၍ ပြုံးယောင်ယောင် မျက်နှာတော်ဖြင့် "ဘယ့်နှယ်တုံး ကိုယ်တော်တို့..."ဟူ၍ မေးတော်မူလိုက်၏။

ထို၂–ပါးတွင် တစ်ပါးက ဖြေသည်၊ "မှန်ပါ၊ ဒုက္ခသစ္စာကို တပည့်တော်တို့ ဒီကလေးလောက်တောင် မသိသေးဘူး ဖြစ်နေပါတယ် ဘုရား"တဲ့။

ဆရာတော်က ဆက်လက် ပြုံးနေတော်မူသည်၊ ကလေးငယ်၏ ဖြေပုံကို ကျေနပ်နေတော်မူဟန် ရှိ၏။

## ဒီကလေးကို ကြည့်ထားလိုက်ကြစမ်း

ကလေး၏ သွက်လက် ချက်ချာမှု၊ တုံ့ဆိုင်းဖင့်နွဲ့နေခြင်း မရှိဘဲ ဒိုးဒိုးဒေါက်ဒေါက် ဖြေနေမှုကို ကျေနပ်နေတော်မူဟန် ရှိသည်၊ ထို့နောက် ဆရာတော်ကြီးက ကလေးတို့ သားအဖတစ်တွေဘက်ကို လှည့်၍ မေးတော်မူ၏–

ဆရာတော်– "မင်းတို့ ဘယ်ကလဲ၊ မင်းတို့ကို ငါ မသိဘူး ဖြစ်နေတယ်"

ကလေးဖခင်– "ပွဲတော်ရပ်က ဦးလှိုင်ရဲ့မြေးပါ ဘုရား"

ဆရာတော်– "အော် အော်... အဲလိုဆိုရင် ငါ သိပီ၊ ငါ စာချရင် လာလာပြီး စာနာတဲ့ ဒကာကြီးပဲ"

ကလေးဖခင်– "တပည့်တော်များ ပြန်ပါဦးမယ် ဘုရား"

ဆရာတော်– "အေး အေး၊ ကလေးကို ဂရုစိုက်ကြ"

ဤသို့ လျှောက်ထား၍ မိသားစု ပြန်သွားပြီး မရှေးမနှောင်းမှာပင် ဆရာတော့်ထံသို့ ပြန်ကြားရေးဌာနမှ အရာရှိ ဦးတင်အောင် ရောက်လာသည်၊ ဆရာတော်က ယခုတွင်က အတွေ့အကြုံကလေးကို ပြန်လည် ပြောပြပြီး–

"ဒီကလေးကို ကြည့်ထားလိုက်ကြစမ်းကွာ၊ ငါတော့ မမီတော့ဘူး"

ဟု မိန့်မှာတော်မူပါသတတ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဖြစ်–ပျက်ရှု စားမယ်တဲ့

ဤသမီးကလေး စန်းစန်းရင်၏ အဖြစ်အပျက်ကား အမှန်ပင် ဖြစ်၏၊ ဤကဲ့သို့ ၂နှစ်နှင့် ၄လ သမီးကလေးက ဤမျှ မြင့်မားရင့်ကျက်သော တရားစကားလုံးတွေကို အဘယ့်ကြောင့် ပြောဆိုနေနိုင်ပါသနည်း၊ မည်သည့်အရာဖြင့် မည်သို့ တိုင်းတာကြမည်နည်း၊ ဤအရွယ် ဤပမာဏမှာ သင်ပြထား၍မျှပင် မဖြစ်နိုင်သော အရာပါပေ။

သမီးကလေး၏ မိခင်ဖခင်တို့က ပြောပြပါ၏၊ တရားစကားလုံးတွေ စတင်ပြောလာပုံမှာ ဤသို့ ဖြစ်ပါသတတ်၊ တစ်နေ့တွင် သူတို့အိမ်မှာ ကုလားပဲခြမ်းနှင့် ဝက်သားကို ရောပြီး နှပ်ချက် ချက်ကြသည်၊ ဖခင်လုပ်သူ ဦးချစ်အေးက စိုးရိမ်ကြီးစွာဖြင့်–

> "ဟေ့… ဝက်သားနဲ့ ချက်တဲ့ ပဲဟင်းကို ကလေး မကျွေးပါနဲ့ကွာ…၊ ကလေး ဝမ်းပျက်နေပါအုံးမယ်"

ဟူ၍ မီးဖိုထဲတွင် ချက်ပြုတ်နေသော ကလေးမိခင် ဒေါ်သန်းတင်အား လှမ်းအော်၍ သတိပေးပါသတဲ့၊ ထိုအချိန်မှာ အိမ်နောက်ဖေးတွင် ကစားနေသော ကလေးငယ်က ပြေးထွက်လာတဲ့ ပြီး–

"ဝမ်းမပျက်အောင် စားမှာပေါ့"တဲ့၊ ပြောတော့သည်၊

"ဟဲ့– ဝမ်းမပျက်အောင် ဘယ်လိုလုပ် စားမလဲ" လို့မေးတော့–

"ဖြစ်ပျက်ရှုပြီး စားလိုက်မှာပေါ့"တဲ့။

မိဘနှစ်ဦးလုံးရော၊ အနီးအနားမှ ကြားတဲ့သ[illegible] တွေရော ပါးစပ်အဟောင်းသားဖြစ်ကာ ကိုယ်စီကိုယ်[illegible] အံ့အားသင့်ကုန်ကြရပါတော့သတတ်။ သို့နှင့် ဆက်[illegible] မေးကြပါသတဲ့။

"ဘယ်လို ဖြစ်ပျက်ရှုပြီး စားမှာလဲ–လို့" ဒီတော့ သူက ဖြေသတဲ့–

> "စားတာလေးကို သိပြီး ပျက်သွားတယ်၊ သိပြီး ပျက်သွားတယ်"လို့ ရှုပြီး စားမယ်"တဲ့။

ထိုအချိန်ကစပြီး တရားနှင့် ပတ်သက်တဲ့ စကားလုံးကလေးများ တစ်လုံးစ နှစ်လုံးစ ပြော–ပြောလာတော့သတတ်၊ မိဘတွေက သင်ပေးထားသည် မဟုတ်သူ့ဘာသာသူ အလိုလို ပြောလာတော့ခြင်းဖြစ်သည်၊

## ဘယ်လိုအခြေခံ ရှိသလဲ

ဤကလေးငယ်နှင့် ပတ်သက်ပြီး စိတ်ဝင်စားစရာတွေ ဖြစ်လို့ သူ့မိခင်ကို မေးကြည့်သည်၊ "ဘယ်လို အခြေခံ ရှိသလဲ၊ ဘာတွေ အကြောင်းရင်း ရှိလို့ အခုလို တရားစကားတွေကို ပြောနိုင်နေရသလဲ" ဤသို့ မေးသောအခါ–

> "တပည့်တော်တို့ ဇနီးမောင်နှံ ၂–ဦးစလုံး တရားနာလေ့ရှိကြပါတယ်၊ ဒီ မိုးကုတ် ဆရာတော် ဘုရားကြီးရဲ့ တရားပွဲကို လာနေကျ နာနေကျပါ၊ အလုပ်တွေ ဘယ်လောက်ပဲ ရှုပ်ရှုပ်၊ တရားနာချိန် ရောက်ရင် ၂–ဦးစလုံး သွားပြီး တရားနာလိုက်ကြတာပဲ၊ ဒါဆို စိတ်ချမ်းသာသွားတော့တာပဲ။
>
> အဲဒီလို နေလာရာက ဒီသမီးလေး [illegible] လာ၊ ဖွားခါစသာသာကပင် သူ့ အိပ်ခါ[illegible] ထုံးစံအတိုင်း သီချင်းဆိုသိပ်ရင် သိပ်မ[illegible] ချင်ဘူး သူက။
>
> အဲ… သမ္မုဒ္ဓေတို့လို၊ ဒိဝါတပတိ**အာ[illegible]** စွောတို့လို၊ ဣတိပိသောဘဂဝါ စတဲ့ ဂုဏ်**တော်**

တို့လိုတွေကို ဆိုပြီး သိပ်မှ သူက ကြိုက်တာ၊ အခြား အခြား တရားစာတို့ကို ဆိုသိပ်ရင်လဲ သူကြိုက်ပါသေးတယ်၊ အဲလို သမီးကလေး...။

စကားပြောတဲ့အရွယ် ရောက်လာတော့ ကြီးတဲ့သူတွေ သင်ပေးတဲ့အတိုင်း "မေမေ" "ဖေဖေ"နဲ့ မပီကလာ ပီကလာ ပြောလာတယ်၊ အဲဒီကနေ တစ်ဆင့် တက်လာပြီး တခြား စကားလုံးကလေးတွေကိုပါ သင်လို့ ရလာတယ်။

အဲ... လွန်ခဲ့တဲ့ရက်ပိုင်းတွေကျတော့ "ဖြစ်ပျက်တွေ၊ ရုပ်နာမ်တွေ"နဲ့ လုပ်လာတော့တာပဲ။

## ရုပ်နာမ် အစုကလေးပါ–တဲ့

အဲလိုနဲ့ ဆရာတော်ကြီးဆီကိုလဲ ရောက်ပြီးပြီ၊ သူ ဖြေတာတွေလဲ ဆရာတော်ကြီး ကြားပြီးပြီ၊ သူ စကား မပြောတတ်ခင်က စပြီးတော့ ဆရာတော် ဘုရားကြီးရဲ့ တရားပွဲတွေမှာ သူ့ကို ခေါ်–ခေါ်သွားပါတယ်၊ စကားပြောတတ်တဲ့ အရွယ်ကျလာပြန်တော့လဲ သူ ပါမြဲပဲ၊ အဲလိုနဲ့ တစ်ခါဟာတော့ သူ ဘာတွေ ပြောလာတုံးဆိုတော့– ကျောင်းကို တရားနာသွားခါနီးမှာ သူ့ဖေဖေက ပြောတယ်–

"ကဲ... သမီး၊ ကျောင်းကို တရားနာသွားကြမယ်၊ ရှူးရှူးပေါက်လိုက်အုံး၊ ပီးတော့ လာခဲ့၊ သမီးကို ဖေဖေ ချီမယ်"တဲ့။

ဒီတော့ ဘာပြောတယ် မှတ်တုံး သူ့သမီးက–

"သမီး– သမီးနဲ့ မခေါ်စမ်းပါနဲ့" တဲ့၊

ခပ်ဆတ်ဆတ်ပဲ ပြောတယ်၊ သူ့ဖေဖေက မျက်စိပျက်မျက်နှာပျက်နဲ့ပေါ့လေ၊ ပြန်မေးတယ်–

"ဒါ ဖေဖေ့သမီးပဲ မဟုတ်လား၊ သမီးမို့လို့ သမီးခေါ်တာ၊ ဘာဖြစ်လဲ"

အဲဒီတော့မှ သမီးချောက ပြောတယ်လေ...။

"သမီး မဟုတ်ပါဘူး၊ ရုပ်နာမ်လေးပါ၊ ရုပ်နာမ် အစုလေး–လို့ မှတ်လိုက်ပါ" တဲ့။

ဟော... သားအဖ ၂–ယောက် ဒုက္ခတော့ ရောက်ကုန်ပြီ၊ ဒီကောမှပဲ သူ့ဖေဖေကလဲ ရယ်နိုင် မောနိုင်လာတော့တယ်၊ သူ့သမီးက သူ့ဖေဖေထက် တရားအသိ ပိုပြီး ရင့်သွားပြီ မဟုတ်လား၊ ပြီးတော့ သမီးချောက ဆက်ပြောသေးတယ်။

"ဘဘ ဘုန်းဘုန်းကြီးက ပြောတယ် အနိစ္စဆိုတာ ဒီခန္ဓာကိုယ်ကြီးကို ပြောတာ၊ ဒုက္ခဆိုတာလဲ ဒီခန္ဓာကိုယ်ကြီး ပြောတာ၊ ဖြစ်ပြီး ပျက်သွားတာပဲ"တဲ့။

ဘေးက ကြားရတဲ့သူတွေက "ဒီကလေးနယ်... စကားကြီး စကားကျယ်တွေနဲ့ စကားများလိုက်တာ"လို့ ပြောချင်ကောင်း ပြောချင်ကြပေမည်၊ သို့သော် မပြောကြပါ–တဲ့၊ တရားစကားတွေ ဖြစ်နေ၍ အံ့အားပင် သင့်နေကြပါသတတ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သမီးလေးနဲ့ သီလရှင် ဆရာကြီး ဒေါ်ဥတ္တရာ

သမီးလေး စန်းစန်းရင်အကြောင်းကို "တစ်ယောက်ကစ တစ်ရာ"ဆိုသလို ပြောလာကြရာက ယခု လူသိများနေကြပြီ၊ ငယ်ငယ်နှင့် တရားစကားတွေ ပြောတတ်လို့ လူချစ်လူခင်တွေလည်း ပေါလာတော့သည်။

အမရပူရ မင်္ဂလာတိုက် သီလရှင် ဇရပ်များမှ သီလရှင်ဆရာကြီး ဆရာလေးတို့သည် အဖိတ်နေ့တိုင်း ရပ်ကွက်ထဲမှာ ဆွမ်းဆန်ရပ်သွားလေ့ရှိကြ၏၊ စန်းစန်းရင် တို့ အိမ်ကိုလည်း ရောက်ကြသည်။

အဖိတ်နေ့တစ်ခုတွင် ဆွမ်းဆန်ရပ်ရင်း သီလရှင် ဖပါး ၇ပါးခန့်တို့သည် စန်းစန်းရင်တို့အိမ်ကို ရောက်သွားကြ၏၊ သမီးလေးကို ချစ်စနိုးအနေနဲ့ စ–လို၍ သီလရှင်ဆရာကြီး (ဒေါ်ဥတ္တရာ)က မေးတော့သည်–

"အနိစ္စဆိုတာ ဘာလဲ အေ့"

သမီးကလေးက ကစားနေရာမှ ကစားစရာပစ္စည်းတို့ကို ကိုင်တွယ်ရင်းပင် ဖြေသည်။

"အနိစ္စဆိုတာ မမြဲပါဘူး"

"ညည်းကသာ မမြဲဘူး ပြောနေ၊ မြဲတာလဲ ရှိသေးတယ်အေ့..."

သီလရှင်ဆရာကြီးက ကလေးကို ခနဲ့နေသည်၊ ကလေးငယ်က–

"မမြဲပါဘူး၊ အားလုံး မမြဲပါဘူး"

ဟု ငြင်းဆိုနေသည်၊ သီလရှင် ဆရာကြီးက–

"အေး... ညည်းမမြဲတာ အသာထား၊ ငါ မြဲတာကို ပြောပြမယ်၊ ညည်း နားထောင်..."

တို့ဟာလေ... အဖိတ်နေ့တိုင်း အဖိတ်နေ့တိုင်း ဒီအိမ်ကို ရောက်နေကျ၊ လွန်ခဲ့တဲ့ အဖိတ်နေ့ကလဲ ရောက်ခဲ့တာပဲ၊ အခု အဖိတ်နေ့လဲ ရောက်နေပြီပဲ၊ ညည်း အသိနော်၊ နောက်အဖိတ်နေ့တွေမှာလဲ လာအုံးမှာပဲ၊ အဲတော့ ငါတို့ မြဲတာပေါ့၊ ကဲ... ဘယ့်နယ်လဲ..."

သီလရှင်ဆရာကြီးက အပိုင်ပေါက် ပြောချလိုက်သည်၊ ပြီးတော့ ကလေးကို အကဲခတ်နေ၏၊ သမီးငယ်က ပြောပါတော့သည်–

"အခု ဘွားဘွားဆရာကြီး ပါးစပ်က တစ်ခွန်းပြီး တစ်ခွန်း ပြောတဲ့စကားလုံးတွေဟာ ပျောက်–ပျောက်ကုန်ပါတယ်၊ တခြားအရာတွေလဲ ဒီလိုပဲ ပျောက်–ပျောက်ကုန်ပါတယ်၊ အဲဒါကြောင့်မို့ မမြဲပါဘူး"

ထိုအခါ သီလရှင်ဆရာကြီး ဒေါ်ဥတ္တရာက–

"အလိုလေးတော်... ညည်းကို ငါ စကား နိုင်အောင် မပြောနိုင်တော့ဘူး၊ ငါ အရှုံးပေးပါတယ် အေ..."

ဟု ဆိုကာ သုတ်သီးသုတ်ပျာနှင့် ပြန်ဖို့ ပြင်တော့သည် ဟူ၏၊ အခြား သီလရှင်ဆရာလေးတို့ကလည်း ရယ်မောနေကြရင်း–

"ဒီအကြောင်းအရာတွေ သိတော့ သိတယ်၊ ဒါပေမယ့် ဒီကလေးလောက် မပြောတတ်ဘူး"

ဟု ထောက်ခံပြောဆိုပြန်သွားကြပါသတဲ့–။

---

**မှတ်ချက်။** ။ဤအဖြစ်အပျက်ကလေးမှာ ကို ကြားသိထား၍ အမရပူရတွင် စာရေးသူက စုံစမ်းကြည့်မိသည်၊ ၁၃၄၈–ခု သင်္ကြန်ဦးက ဖြစ်၏၊ ဖခင် ဦးချစ်အေးနှင့် သမီးလေး စန်းစန်းရင်တို့ ကိုယ်တိုင်နှင့် တွေ့၍ မေးမြန်းခွင့်ရခဲ့ပါသည်၊

"သမီးလေး စန်းစန်းရင်ရဲ့ မွေးခုနှစ်က ၁၃၂၁–ခု တန်ခူးလပြည့်ကျော် ၆–ရက် အင်္ဂါနေ့" ဆိုတော့ ဆရာတော်ကြီးထံ ရောက်တုန်းက ၂နှစ်နှင့် ၄လ ဆိုတာ ဟုတ်တာပေါ့၊ ယခု အသက် ၂၇–နှစ် ပြည့်တော့မယ်"

ငယ်ငယ်တုန်းက တရား အသိဉာဏ်နှင့် ယခု အသိဉာဏ် ကွာခြား မကွာခြားတို့ကိုလည်း မေးမြန်းခဲ့ ရ၏၊ မန္တလေးမြို့ပေါ်က ရုံးကြီးတစ်ရုံး၌ အလုပ် လုပ်သည်၊ အိမ်ထောင် မပြုသေးဘဲ မိဘတို့နှင့် အတူ နေသည်ဟု ဆိုပါသည်။

## တစ်ဘဝသာသနာ

# ဘာမြွေမျိုးလဲ၊ သိရဲ့လား

ဆရာတော်မှာ ယခင်က သွေးတိုးနှင့် ဆီးချိုရောဂါ ရှိဖူးသည်၊ အမြဲကုသပေးသော ဆရာဝန်ကြီးများက (၇)ရက် တစ်ကြိမ် ကျန်းမာရေး စစ်ဆေးပေးနေကျ ဖြစ်၏၊ ယခု ရက်ပိုင်း၌မူ ဆရာတော်မှာ ယင်းရောဂါများ လုံးဝ ပျောက်ကင်းသလောက် အခြေအနေ ရှိကြောင်း ဆရာဝန်ကြီးများက ပြောနေကြ၏၊ ဆရာတော်၏ ရုပ်လက္ခဏာတို့လည်း လန်းဆန်းနေတော်မူကြသည်။

ဆရာတော့်မှာ တစ်ခါတစ်ရံ လေစိမ်းတိုက်၍ အအေးမိလျှင် အခိုးငုပ်တတ်သည်၊ ထိုအခါမျိုးတွင် "မိုးကုတ် အခိုးပွင့်ဆေး"ကို ဘုဉ်းပေးလိုက်ရုံသာဖြစ်၏၊ ထိုဆေးကိုလည်း ဆရာတော်က အမြဲ ဆောင်ထားသည်၊

တစ်ညတွင် ထုံးစံအတိုင်း ဒကာများ၏ ဝတ်ဖြည့်ခြင်း (နှိပ်နယ်ပေးခြင်း)ကို ခံယူနေခိုက်ဖြစ်သည်၊ ထေရာသနစံကျောင်းတော် အိပ်ခန်း၏ မြောက်ဘက်ကြမ်းပြင်ပေါ်တွင် သင်ဖြူးတစ်ချပ် ခင်း၊ အပေါ်က အိပ်ရာဖုံးအခင်းထပ်လွှမ်း၊ ယင်းအပေါ်၌ လဲလျောင်းကာ ဒကာများ၏ ဝိုင်းဝန်းနှိပ်နယ်ပေးခြင်းကို ခံယူနေခိုက်ဖြစ်သည်၊ ဆရာတော်က ရုတ်တရက် မိန့်တော်မူ၏–

"မောင်လှဘူး၊ ငါ့အိပ်ခန်းတံခါးမှာ မြွေ တစ်ကောင် ရှိတယ်ကွ၊ မင်းသွားဖမ်း၊ ဘေးကင်းရာကို သွားလွှတ်ချေစမ်း"

ဦးလှဘူးသည် ဖမ်းရန် သွား၏၊ မြွေကို ရှာမတွေ့၊ လှည့်ပတ်ရှာနေသည်၊ ထိုအခါ ဆရာတော်က–

"မင်း ဒီမြွေမှ မမြင်ဘူးလားကွာ၊ အဲဒီ တံခါးလက်ကိုင်ကွင်းမှာ ရှိတယ်ကွ"

ဟု အနိုပ်ခံရင်းမှ နောက်ပြန်လှည့်မကြည့်ဘဲ လှမ်းပြောသည်၊ ထိုအခါမှ ဦးလှဘူးသည် တံခါးလက်ကိုင်ကွင်း၌ မာန်ဖီနေသော မြွေကလေးသေးသေး (နီနီရဲရဲကလေး)ကို မြင်ရသည် ဆို၏။

ဦးလှဘူးသည် မြွေကလေးကို မီးညှပ်ဖြင့် ညှပ်၍ အိုးတစ်လုံးထဲ ထည့်ပိတ်ပြီး ဝေးရာသို့ သွားလွှတ်ခဲ့သည် ဟူ၏။

---

**မှတ်ချက်။** ။ဦးလှဘူး၏ ပြောပြချက်အရ မြွေကလေးမှာ ကစ်ကိုယ်လုံး နီရဲနေသော မြွေပဒါး ဖြစ်သည် ဆို၏၊ အလွန်ရှားပါးသည်၊ အဆိပ်ပြင်းထန်သော မြွေမျိုး ဖြစ်၏။

ဝတ်ဖြည့်ပေးနေသူ ဒကာ(၅)ဦးအနက် ဦးလှဘူးကိုမှ ရွေးပြီး မြွေကို အဖမ်းခိုင်းသည်မှာ အကြောင်းရှိ၏၊ ဦးလှဘူးသည် နဂို ဗိဇကပင် အဆိပ် ရှိသော သတ္တဝါတို့ကို နိုင်နင်းသူ ဖြစ်၏၊ ထို့ကြောင့် ရွေးပြီး ခိုင်းတော်မူခြင်း ဖြစ်ပေလိမ့်မည်။

ထို့ပြင် ဆရာတော်၏ အနီးတွင် ဦးလှဘူး နှစ်ယောက် ရှိ၏၊ ဦးလှဘူးကြီးနှင့် ဦးလှဘူးငယ်တို့ ဖြစ်ကြသည်၊ ဆရာတော်က အကြီးကို "ဦးလှဘူး"ဟူ၍ "ဦး"တပ်ခေါ်၏၊ အငယ်ကိုမူ "မောင်လှဘူး"ဟု "မောင်"တပ်ခေါ်လေ့ရှိပါသတတ်။

# မြွေနဂါး ၄–မျိုးရှိ

သဋ္ဌာယတနသံယုတ်ပါဠိတော်၊ အာသီဝိသဝဂ်၌ (စတ္တာရော အာသီဝိသာ)ဟူ၍ အဆိပ်ပြင်းထန်သော မြွေနဂါး ၄–မျိုးရှိကြောင်း မြတ်စွာဘုရားက ဟောမိန့်ထား၏၊ ယင်း၏ အဋ္ဌကထာက–

"စတ္တာရော အာသီဝိသာတိ ကဋ္ဌမုခေါ ပူတိမုခေါ အဂ္ဂိမုခေါ သတ္တမုခေါ"ဟူ၍ သရုပ်ထုတ်ကာ ဖြန့်ပြထား၏၊ အဓိပ္ပာယ်လည်း ဖွင့်ပြထားသည်၊ ထိုတွင်–

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

၁။ကဋ္ဌမုခမြွေနဂါး။ ။ထိုသတ္တဝါ အကိုက် ခံရလျှင် ခန္ဓာကိုယ်ကြီး တစ်ခုလုံး ထင်းချောင်းကဲ့သို့ တောင့်တင်းသွားသည် ဟူ၏။

၂။ပူတိမုခမြွေနဂါး။ ။ထိုသတ္တဝါ အကိုက် ခံရလျှင် ပိန္နဲသီးအမှည့်လွန်၍ ပုပ်သကဲ့သို့ ယိရော် ဆွေး မြည့်ပြီး ပြည်ပုပ်တွေ ဒလဟော ကျဆင်းသည် ဟူ၏။

၃။အဂ္ဂိမုခ မြွေနဂါး။ ။ထိုသတ္တဝါ အကိုက်ခံ ရပြီ ဆိုလျှင် ခန္ဓာကိုယ် တစ်ကိုယ်လုံး မီးလောင် ကျွမ်းသွား၍ ပြာဆုပ် ဖွဲဆုပ်ကဲ့သို့ ပြန့်ကျဲသွား ရသည် ဟူ၏။

လက်ယာတော်ရံ အရှင်သာရိပုတ္တရာ၏ ညီတော် အရှင် ဥပသေနမှာ ဤမြွေနဂါးမျိုး အကိုက်ခံရ၍ ပရိနိဗ္ဗာန်ပြုသွားရသည်။

၄။သတ္ထမုခမြွေနဂါး။ ။ထိုသတ္တဝါ အကိုက် ခံရလျှင် မိုးကြိုးသွား အထိခံရသကဲ့သို့ နုတ်နုတ်ရွရွ ကြေမွသွားရသည် ဟူ၏။

ယခု ဆရာတော်၏ တံခါးလက်ကိုင်ကွင်းမှာ ရောက်နေသော မြွေကလေးကရော ဘယ်အမျိုးအစားထဲ ကလဲ၊ ဘာ့ကြောင့် ဒီနေရာ ဘာကိစ္စနဲ့ ရောက်လာ သလဲ၊ ဒါ ဘာလဲ...။

# သည်မြွေက ဘယ်လို ဆက်စပ်တာလဲ

ဤမြွေနှင့် ပတ်သက်၍ ဦးအေးကျော်ကလည်း သူ့အတွေ့အကြုံကို ပြန်လည် ပြောပြပါသည်။

၁၉၆၂-ခုနှစ်ထဲ နွေပိုင်းကာလ တစ်ခုသောနေ့ တွင် ဖြစ်၏၊ မန္တလေးမှ လဝက ဝန်ထောက် ဦးကျော်ညွန့်သည် မိုးကုတ်မြို့သို့ ကိစ္စတစ်ခုဖြင့် ရောက်လာ၏၊ ဦးကျော်ညွန့်သည် ရောက်တုန်း ရောက် ခိုက်တွင် မိုးကုတ်ဆရာတော့်ထံ ကန်တော့ရန် သွား၏၊ သို့ဖြစ်၍ မိုးကုတ်မြို့မှ လဝက ဦးအေးကျော်လည်း လိုက်ပါသွားရသည်။

ဆရာတော်ကြီး သီတင်းသုံးတော်မူရာ တရား ဓမ္မာရုံကြီးပေါ်သို့ အတက်တွင် "မြွေရှိတယ်၊ မဝင်လာ ကြနဲ့အုံး" ဟူသော အသံကြီးတစ်ခုကို ကြားလိုက်ရ သည်။

သို့ဖြစ်၍ ရုတ်တရက် တန့်ရပ်လိုက်ပြီး သတိ ထားကြည့်လိုက်ရာ မျက်လုံးကျယ်သွားရ၏၊ တံခါးရွက် လက်ကိုင် ကိုင်းပေါ်မှ လျှောဆင်းသွားသော မြွေငယ် တစ်ကောင်ကို တွေ့လိုက်ရတော့သည်။

ဤသို့လျှင် သည်မြွေများက ဆရာတော်ကြီးနှင့် ဘယ်လို ဆက်စပ်ကြတာလဲ။

---

**မှတ်ချက်။** ။ ဤ အကြောင်းအရာများကို ဦးအေးကျော် (လဝက အငြိမ်းစား) ငွေတိုက်စိုးမြ ၁၆-ရပ်ကွက်၊ တောင်ဥက္ကလာပမြို့က ကိုယ်တိုင် တွေ့ခဲ့ရပုံကို ပြန်လည် ပြောပြ၍ သိရပါသည်။

## ဦးဘတုပ်အား မှာကြားခြင်း

တော်သလင်းလဆန်းပိုင်းက ဖြစ်၏၊ ဝေယျာဝစ္စ ပြုလုပ်နေကျ ဦးဘတုပ်ကို ခေါ်တော်မူသည်၊ မှာကြား လိုသောကိစ္စတစ်ခု ရှိ၍ ဖြစ်၏။

ဆရာတော် ပြုလုပ်ထားသော ကုသိုလ်ကောင်းမှု တစ်ခု ရှိသည်၊ အမရပူရမြို့ တောင်ဘက် အထွက်၊ စစ်ကိုင်းဘက်သို့ ချိုး၍ ကွေ့သော အကွေ့မှစ၍ မင်္ဂလာတိုက်ဘက်သို့ လည်ပြန် လှည့်၍ လာသော လမ်းသွယ်ကို ပြုပြင်ထားသည်။

မင်္ဂလာတိုက်ဘက်သို့ လာ၍ မင်္ဂလာတိုက် ဟောင်း တိုက်သစ် ၂-ခု ကြားမှ မြောက်သို့လာပြီး လျှင် မင်္ဂလာမဂ္ဂင်ရိပ်သာအရှေ့ဘက်မှ သီသွား၏၊ မြောက်နား ဈေးအရှေ့ဘက်ဆီအထိ ကျောက်အမာခံ၍ ကတ္တရာ ခင်းထားသည်။

ယခုအခါ တချို့နေရာ၌ ချွတ်ယွင်းပျက်စီးလာ ပြီ၊ မော်တော်ကားများသာမက မြင်းလှည်းများ နွား လှည်းများပါ သွားကြသောကြောင့် လမ်းတွေ ပေါက် ကုန်ပြီး ခဲတွေပါ လန်ကုန်ကြသည်၊ ဆရာတော်က မိန့်၏ -

"မောင်ဘတုပ် ဒီလမ်းကို ကောင်းကောင်းမွန်မွန် ဖြစ်အောင် ထပ်ပြင်ကွာ၊ ဂရုစိုက်ပြီး မြန်မြန် ပြီးအောင် လုပ်၊ ငါ မြင်သွားချင်တယ်"

ဟူ၍ မိန့်၏၊ ဦးဘတုပ်က "ဆရာတော်ဘုရား ဝါ ကျွတ်ရင် ရန်ကုန်ကို တရားဟောကြွမည်ထင်သည်၊ ဒါ့ကြောင့် လမ်းကို အမြန်ပြီးအောင် အလုပ် ခိုင်းနေ သည်"ဟု အောက်မေ့ပါသတတ်။

ထို့နောက် ဦးဘတုပ်နှင့် ဦးစောမောင်တို့ တိုင် ပင်ကြ၍ တာဝန်ယူပြီး ပြုပြင်ကြသည် ဟူ၏၊ ဆရာ တော်၏ အနေအထား ရုပ်လက္ခဏာတို့မှာမူ ယခင် နှစ်တွေကထက်ပင် ကျန်းမာရေး အခြေအနေ ကောင်း နေပုံကို မြင်နေရသည်။

ထိုရက်ပိုင်းက ဝန်ကြီးဟောင်း (မြန်အောင်) ဦးတင်၊ (ကျားပုံမကောက်ဆေးလိပ်ခုံပိုင်ရှင်) ဦးသန်း မောင်၊ ဦးပိန်ဟောက်နှင့် မိုးကုတ်မြို့မှ ဦးအောင်ကျော် တို့လည်း ရှိနေကြ၏၊ အဝေးမြို့များမှ အခြားယောဂီ တို့လည်း ရှိနေကြသည်။

## အရိပ်အမြွက်များ မိန့်ကြားခြင်း

၁၃၂၄-ခု တော်သလင်းလကုန်လောက်တွင် ဖြစ်၏၊ ကျောင်းဒကာ ဦးကျော်သိန်းကို အခေါ်ခိုင်း သဖြင့် မန္တလေးမှ အမရပူရသို့ ရောက်လာရသည်၊ ဤကျောင်းဒကာ ကျောင်းအမများသည် ဆရာတော် အပေါ်၌ အကြွင်းမဲ့ ယုံကြည်ကြ၏၊ ကြည်ညိုကြ၏၊ သားသမီးများက မိဘအပေါ် ယုံကြည်သလို ဖြစ်ကြ သည်၊ သို့ဖြစ်၍ ဆရာတော်က-

"မောင်ကျော်သိန်း... မင်းလဲ ဒီမှာ လာနေအုံး၊ အရောင်းအဝယ်ကိစ္စတွေ အသာထား၊ ဒီမှာ အရေးကြီးတယ်၊ (မှန်ပါ ဘုရား)

ကဲ- လာ၊ မောင်ကျော်သိန်း၊ ဒီရိပ်သာ ထဲ ဆောက်နေတဲ့ အဆောက်အအုံတွေ လျှောက် ကြည့်ရအောင်"

ဟူ၍ မိန့်တော်မူပြီး၊ သီတင်းသုံးမြဲ ထေရာသနကျောင်း ပေါ်မှ ဆင်းကြွသွားသည်၊ နောက်မှ လိုက်ပါရတော့၏၊ အဆောက်အအုံတွေ မပြီးသေးတဲ့ ပန်းရန်လက်စလက်န တွေကို ကြည့်ရှုရင်း-

"ဒီအဆောက်အအုံတွေ၊ လုပ်ငန်းကိစ္စတွေ

အမြန်ပြီးအောင် လုပ်ပစေကွာ၊ ငါ ကြည့်သွားချင်တယ်"

ဟု မိန့်တော်မူ၏၊ ထို့ကြောင့် ပန်းရန်ဆရာ ဦးလုကို ခေါ်၍ လုပ်သားတွေ ထပ်ဖြည့်ရန်၊ လုပ်ငန်းကိစ္စတွေ အမြန်ပြီးအောင်လုပ်ရန် ဦးကျော်သိန်းက စီမံရတော့၏။

ဆရာတော်က ရှေ့သို့ ဆက်လက်လျှောက်၍ လှည့်ပတ်ကြည့်ရှုပြီးလျှင် ဓမ္မာရုံကြီးပေါ်သို့ ရောက်သောအခါ–

"ဒီအဆောက်အအုံတွေ အားလုံးပြီးစီးနေတာ၊ နေသားတကျ ရှိနေတာကို ငါ ကြည့်သွားချင်တယ်"

ဟူ၍ ထပ်မံ မိန့်တော်မူပြန်သည်၊ ဆရာတော်၏ ရုပ်လက္ခဏာကို ကြည့်ပြန်တော့လည်း လန်းဆန်း၍ ကျန်းမာနေပုံကို တွေ့နေရပြန်သည်၊ ထို့ကြောင့် ဦးကျော်သိန်းရော၊ ပန်းရန်ဆရာ ဦးလုတို့ပါ–

"အော်... ဆရာတော်ဟာ ရန်ကုန်ကို ကြွမလို့ ထင်တယ်၊ ဒါ့ကြောင့် အမိန့် ရှိနေတာ ဖြစ်မှာ"

ဟူ၍မျှသာ အောက်မေ့ခဲ့ကြသည် ဟူ၏၊ အမှန်မှာ ဆရာတော်သည် မည်သည့်အခါမျှ ရိပ်သာအတွင်းရှိ အဆောက်အအုံတို့ကို လှည့်လည် ကြည့်ရှုလေ့ မရှိခဲ့၊ ကြောင့်ကြောင့်ကြကြလည်း မိန့်တော်မူလေ့ မရှိပါ၊ ယခုမှ ဤသို့ လှည့်လည်ကြည့်ရှု မိန့်တော်မူနေခြင်း ဖြစ်၏၊ ဘာ့ကြောင့်ရယ်လို့ မသိကြ။

## စိတ်အင်အားတွေ မြင့်မားလာကာရှိသေး

၁၃၂၄–ခု သီတင်းကျွတ်လဆန်းပိုင်းက ဖြစ်၏၊ ကျောင်းဒကာ ဦးကျော်သိန်းက တစ်ယောက်တည်း စဉ်းစားနေမိသည် "တရားအားထုတ်တဲ့ ယောဂီတွေ တစ်နေ့ တခြား များပြား၍ လာနေကြပြီ၊ ကိုယ့်ဒေသခံ ယောဂီတွေက ကိစ္စ မရှိ၊ အဝေးက လာကြရတဲ့ ယောဂီတွေအတွက် နေရာထိုင်ခင်း အဆောက်အအုံ မလုံလောက်သေး၊ ဆွမ်းစားဆောင်လဲ မရှိသေး"၊ ဤသို့ စဉ်းစားပြီးလျှင် ဆရာတော်အား လျှောက်တော့သည်–

"တပည့်တော်က စားသောက်ဆောင်တစ်ခုရယ်၊ ရှစ်မျက်နှာမှန်ဘုရားကျောင်းဆောင်တစ်ခုရယ် ဆောက်လုပ်လှူဒါန်းမယ် ဘုရား"

ဆရာတော်က "အေး... ကောင်းတယ်၊ အမြန်ဆောက်လုပ်လှူကွ" ဟူ၍မျှသာ မိန့်သည်၊ ကျောင်းဒကာလည်း အားတက်ရွှင်လန်းနေ၏။

သို့ဖြစ်၍ သစ်မာများ၊ လိုအပ်သည့် ကျွန်းသစ်များကိုပင် ဝယ်ယူပြီး မင်္ဂလာရိပ်သာအတွင်းရှိ ဓမ္မာရုံကြီးပေါ် အရှေ့တောင်ထောင့်မှာ ပုံထားလိုက်ပြီးပြီ၊ "သီတင်းကျွတ်လဆန်း ၁၃–ရက်နေ့မှာ စတင် ဆောက်လုပ်ကြမည်" ဟုလည်း ရက်သတ်မှတ်ထားလိုက်ကြ၏

သို့ဖြစ်၍ ရက်နီးလာသောအခါ အချို့သစ်များက လက်သမားတို့က တိုင်းထွာဖြတ်တောက်၍ပင် နေကြပြီ ဦးကျော်သိန်းနှင့် လက်သမားဆရာကြီး ဦးလှဒင်တို့က ဘုရားစင်အတွက် စီစဉ်နေကြသည်၊ ထိုအခိုက် မကြွ စဖူး ဆရာတော် ကြွရောက်လာ၏၊ ပြီးလျှင် ဤသို့ မိန့်တော့သည်–

"မောင်ကျော်သိန်း မင်း... ဒီအဆောက်အအုံ အတွက် ဆက်မလုပ်နဲ့ဦး၊ ဒီသစ်သားတွေ ငါ့ အတွက် အသုံးချစရာ ဖြစ်လာမယ်"

ဟု အမိန့် ရှိသဖြင့် ကျောင်းဒကာ ဦးကျော်သိန်းမှာ ရင်တွင်း၌ ဆို့နင့်သွားအောင် ခံစားလိုက်ရတော့သည် ဆို၏။

"ဆရာတော်က ဘယ်လိုများ မိန့်တော်မူပါလိမ့်မလဲ၊ နိမိတ်မရှိ နမာမရှိ" ဟူ၍သာ မထွက်သော အသံတို့ဖြင့် ပြောနေမိသည် ဟူ၏၊ သာသနာပြုလုပ်ငန်းတွေ အတွက် စိတ်အင်အားတွေ ပြည့်တက်လာကာ ရှိသေး၊ ပြန်လည်လျှော့ကျရမလို ဖြစ်လာတော့သဟ

## တစ်ဘဝသာသနာ

# ထူးဆန်းသော အလင်းရောင်ကြီး

၁၃၂၄–ခု သီတင်းကျွတ်လဆန်း (၁၃)ရက် (၁၁.၁၀.၆၂) ကြာသပတေးနေ့ ညသန်းခေါင်ချိန် ဖြစ်၏၊ မင်္ဂလာမဂ္ဂင်ရိပ်သာအတွင်းရှိ ဦးချစ်ဆွေ + ဒေါ်မမတို့၏ ဓမ္မာရုံကြီးတောင်ဘက်၌ မန်ကျည်းပင်ကြီး တစ်ပင် ကပ်လုက် ပေါက်ရောက် တည်ရှိနေသည်၊ ယင်းမန်ကျည်းပင်ကြီးပေါ်၌ ညစဉ် အိပ်တန်းဝင်ကြသော စာကလေးပေါင်းမှာ ထောင်သောင်းတမျှ ရှိပေလိမ့်မည်။

ထိုသန်းခေါင်အချိန်တွင် ထူးကဲစွာ ဆူညံသော အသံကြီး မြည့်ဟည်းလာပြီးလျှင် ကောင်းကင်တစ်ခုလုံး ပြိုလဲလာသလို ဖြစ်၏၊ စာကလေးတို့သည် လန့်ဖျပ်ကုန်ကြပြီးလျှင် တစ်ပြိုင်တည်း ထပျံကုန်ကြလေသည်၊ ထိုအချင်းအရာကို ကျောင်းဒကာ ဦးကျော်သိန်းက ထွက်ကြည့်မိ၏။

ထိုမန်ကျည်းပင်ကြီးပေါ်၌ (နေ့အချိန်ကဲ့သို့ လင်းသော) အလင်းရောင်ကြီးတစ်ခုကို ၂–မိနစ်ခန့်မျှ မြင်



**မင်္ဂလာမဂ္ဂင်ရိပ်သာအတွင်းရှိ ဦးချစ်ဆွေ + ဒေါ်မမတို့၏ ဓမ္မာရုံကြီးတောင်ဘက်၌ မန်ကျည်းပင်ကြီးတစ်ပင် ကပ်လျက် ပေါက်ရောက်တည်ရှိနေပုံ**

တွေ့နေရ၏၊ ကြက်သီးမွေးညင်းများ ဖြန်းဖြန်း ထလာတော့သည်၊ တုန်လှုပ် ချောက်ချားဖွယ်ကြီး ဖြစ်၏။ ပြီးတော့ ပျောက်သွားသည်၊ ဘာများပါလိမ့်၊ ဘာများ ဖြစ်ချင်လို့လဲ၊ ဘာအတိတ်နိမိတ်များလဲ...။

လွန်ခဲ့သော ၃–နှစ်ကျော်မှစ၍ ထိုမန်ကျည်းပင်ကြီးပေါ်၌ အိပ်တန်းတက်ခဲ့ကြသော စာကလေးအုပ်ကြီးကို ဆရာတော်က ဘေးမဲ့ပေးခဲ့၏၊ မည်သူမျှ မပစ်မခတ်ရ၊ စောင့်ရှောက်ရန် မိန့်မှာထားသည်။ သို့သော် ထိုအချိန်မှစ၍ နောက်ရက်များ နောက်ည များတွင် အိပ်တန်း တက်ရန် မလာကြတော့ပေ။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သပိတ်မသွတ်နဲ့ တရားတော်

ဒါပေမယ့် ကိုယ်စီကိုယ်စီ ခန္ဓာတွေကတော့ သီတင်းမကျွတ်ခင် ဝါဆိုဦးကထက် ယခု သီတင်းကျွတ်တဲ့ အချိန်မှာ သေဖို့ဘက် ပိုပြီး အချိန်နီးကပ်လာတာ အမှန်ပဲ။ (မှန်ပါ ဘုရား)

ဒီတော့ ဘာလုပ်ရမလဲ၊ မသေဖို့ရာ အလုပ်ကို ခရီးရောက်အောင် လုပ်ထားကြဖို့ပဲ၊ (မှန်ပါဘုရား)

ကျုပ်တို့တစ်တွေ အတိတ်က အဝိဇ္ဇာ သင်္ခါရတွေကို မဖယ်ရှားနိုင်ခဲ့လို့ ယခု ပစ္စုပ္ပန်ဘဝမှာ ဝိညာဏ် နာမ်ရုပ် စတဲ့ ခန္ဓာငါးပါးကြီး ရနေကြရတာ (မှန်ပါ) အဲဒီခန္ဓာကြီးက ဘာသစ္စာလဲ (ဒုက္ခသစ္စာပါဘုရား)

၁၃၂၄-ခု သီတင်းကျွတ်လပြည့်နေ့(၁၃.၁၀.၆၂) စနေ ဖြစ်၏၊ "ဒီကနေ့ သီတင်းကျွတ်လပြည့်နေ့"ဆိုတော့ ဒကာ ဒကာမတွေက ဘယ်လိုများ ထင်ကြမလဲ၊ ဝမ်းနည်းစရာလား ဝမ်းသာစရာလား-လို့၊ ဘယ်လိုမှ ထင်မနေကြနဲ့ "သေချိန် နီးကပ်လာတာ" လို့သာ အောက်မေ့ကြ (မှန်ပါ ဘုရား၊)

[ဆရာတော်၏ တရားကား ခပ်ကြမ်းကြမ်းပင် ဖြစ်သည်၊ ထိုသို့ ခပ်ကြမ်းကြမ်းဟောမှုလည်း လူတို့က အလေးအပင် ထားတတ်ကြ၏၊ သို့မဟုတ်လျှင် ခပ်ပေါ့ပေါ့ပင် ဖြစ်သည်၊ ဆရာတော့်တရားကား ကြမ်းတမ်းသော်လည်း ဟုတ်မှန်နေ၏၊ ဆက်လက်၍ ဟောတော်မူပြန်သည်။]

သီတင်းကျွတ်လာတော့ ဒကာ ဒကာမတွေက မိဘဘိုးဘွားတွေ ကန်တော့ရလို့၊ ဆရာသမားတွေကို ပူဇော်ရလို့၊ မီးတွေ ထွန်းရလို့၊ ဘုရားပွဲတွေ သွားရလို့ ဝမ်းသာရတယ်ဆိုတာကတော့ ကောင်းတဲ့ စေတနာတွေပါပဲ။

အေး . . . ဒီနေ့ ဟောတဲ့တရားက *အင်္ဂုတ္တိုရ်ပါဠိတော်ထဲမှာ ပါတယ်၊ ဘုရားကိုယ်တော်တိုင် ဟောထားတာ (မှန်ပါ) သစ္စာသိပြီး သေတဲ့ ပုဂ္ဂိုလ်များ ဘာမျှပူပန်စရာ မရှိ၊ သုဂတိမှတစ်ပါး ဘယ်မှ မသွားဘူး-တဲ့ (မှန်ပါ ဘုရား) သုဂတိပဲ သွားမယ် (မှန်ပါ) သပိတ်သွတ်ဖို့ကောင်း မလိုဘူး (မှန်ပါ ဘုရား)

## သစ္စာသိပြီးမှ သေတဲ့ ပုဂ္ဂိုလ်

နားထဲကရော သုဘတွေ ထွက်လာမလား အသုဘတွေ ထွက်လာမလား (အသုဘတွေ ထွက်လာမယ် ဘုရား)

ပါးစပ်၊ နှာခေါင်း၊ မျက်စိတို့ကရော ဘာတွေ ထွက်လာမလဲ (အသုဘတွေပဲ ထွက်လာပါမယ် ဘုရား) နဂိုက ဘာမိုလို့ ဘာတွေ ထွက်တာတုံး (အသုဘ - အသုဘတွေ ထွက်တာပါ ဘုရား)

ဟုတ်တယ်၊ အသုဘမို့ အသုဘတွေ ထွက်တာ (မှန်ပါ) ဘာသစ္စာတုံး (ဒုက္ခသစ္စာတွေပါ ဘုရား)

ကဲ... ဒကာ ဒကာမတို့၊ အလောင်းကောင် အသုဘကြီးတစ်ခု ဒီကျောင်းပေါ်မှာ မလွှဲသာလို့ ထားမယ် ဆိုပါတော့ ဒီအသုဘကြီးထဲက ဘာတွေ ထွက်လာမလဲ၊ သုဘထွက်လာမလား- အသုဘထွက်လာမလား (အသုဘထွက်လာပါမယ် ဘုရား)

[မှတ်ချက်။ ။ဤစကားလုံးတို့သည် ဆရာတော်က ပရိယာယ်ဖြင့် အရိပ်နိမိတ်မိန့်မြွက်ခြင်းပင် ဖြစ်ပေလိမ့်မည်။]

* အင်္ဂုတ္တိုရ်ပါဠိ၊စတုက္က၊၄၉၃၊အဘယသုတ်

ဒီအသုဘကြီးထဲက ကျင်ကြီး၊ ကျင်ငယ်တွေ ထွက်လာ၊ ပြည် သလိပ် ချွေး နှပ် တံထွေးတွေ မစင် မကြယ်တွေ ထွက်လာ၊ သုဘတွေလား အသုဘတွေလား (အသုဘတွေပါ ဘုရား) ဘာသစ္စာတွေတုံး (ဒုက္ခသစ္စာ တွေပါ ဘုရား)

ဒီခန္ဓာကြီးက ဘယ်ကာလမှာ ပေါ်တာတုံး၊ (ပစ္စုပ္ပန်ကာလမှာပါ ဘုရား) ဟုတ်တယ်၊ ပစ္စုပ္ပန်ကာလ မှာ ပေါ်ချင်တာ ပေါ်၊ ဒုက္ခသစ္စာချည်းပဲ မှတ် (မှန်ပါ ဘုရား)

ပီးတော့ မြင်စိတ်၊ ကြားစိတ်၊ နံစိတ် စားစိတ်၊ ယားနာကောင်းစိတ်၊ တွေးတောကြံစည်စိတ်ဆိုတာတွေ လဲ ပေါ်လာပြီး ပျောက်သွားကြတာပဲ၊ (မှန်ပါ ဘုရား) သူတို့ကော ဘာသစ္စာတွေလဲ၊ (ဒုက္ခသစ္စာတွေပါ ဘုရား)

ဒါဖြင့် သိမ်းရုံးပြီးသာ မှတ်လိုက်ကြပါတော့၊ ပစ္စုပ္ပန်ကာလမှာ ခန္ဓာထဲက ဘာပေါ်ပေါ် ဒုက္ခသစ္စာတွေ ချည်းပဲ၊ (မှန်ပါ)

အဲဒီသစ္စာတွေကို သိပြီးသေရင် အပါယ်မကျ ဘူး၊ သုဂတိဘဝမှာ ကိန်းသေဖြစ်တယ် (မှန်ပါဘုရား)

## ငါသေ-သပိတ်မသွတ်နဲ့

အဲသလို ရုပ်ပဲဖြစ်ဖြစ်၊ နာမ်ပဲဖြစ်ဖြစ် ကိုယ်ပိုင် ဉာဏ်နဲ့ကြည့်လို့ ဖြစ်-ပျက်တွေကို တွေ့နေရပြီဆိုလျှင် ဒါ ဒုက္ခသစ္စာကို တွေ့နေတာပဲ၊ သိနေတာပဲ (မှန်ပါ ဘုရား)

ဖြစ်ပျက်တွေက ဒုက္ခသစ္စာ၊

သိနေတာလေးက မဂ္ဂသစ္စာ၊

အဲဒီအခိုက် အဲဒီပုဂ္ဂိုလ် သန္တာန်မှာ လောဘ တဏှာ သမုဒယသစ္စာ မလာဘူး၊ (မှန်ပါ ဘုရား) မလာဘဲ သေနေတော့တယ် (မှန်ပါ)

ဒီတော့ အကြောင်းသမုဒယမှ မရှိဘဲနဲ့ အကျိုး ခန္ဓာကြီးကော လာနိုင်ဦးမလား၊ (မလာနိုင်တော့ပါ ဘုရား) မလာနိုင်တော့ဘူး၊ အဲဒါက အကျိုးဒုက္ခချုပ်တဲ့ နိရောဓသစ္စာပဲ (မှန်ပါဘုရား) ပြန်မေးအုံးမယ်-

ဖြစ်ပျက်က ဘာသစ္စာ - (ဒုက္ခသစ္စာ)

သိနေတာလေးက ဘာသစ္စာ - (မဂ္ဂသစ္စာ)

သေတာက ဘာသစ္စာ - (သမုဒယသစ္စာ)

နောင်ခန္ဓာ မလာတာက

ဘာသစ္စာ - (နိရောဓသစ္စာ)

ဒါဖြင့် ဒကာ ဒကာမတို့... ရှုတတ်ကြပြီလား (ရှုတတ်ပါပြီ ဘုရား) ဘယ်အချိန် ရှုရမလဲ မေးမနေနဲ့၊ ခန္ဓာက ပြတဲ့အချိန် ရှုလိုက် (မှန်ပါ ဘုရား)

အဲဒါလို သစ္စာသိနေတဲ့ပုဂ္ဂိုလ်သေရင် အပါယ် မကျဘူး၊ ဒါကြောင့် သပိတ်သွတ်ဖို့လဲမလိုဘူး၊ သပိတ် သွတ် လွတ်တယ် (မှန်ပါ ဘုရား)

ထပ်ပြောအုံးမယ် "သပိတ်သွတ်တယ်"ဆိုတာ ပြိတ္တာဖြစ်သွားလို့၊ အပါယ်ကျသွားလို့ သွတ်ရတာ၊ (မှန်ပါ)

သစ္စာသိနေတဲ့ပုဂ္ဂိုလ်မျိုးကျတော့ အပါယ်မကျ လို့ သပိတ်သွတ်ဖို့ မလိုဘူး၊ ဒါ့ကြောင့် "ငါ သေရင် သပိတ် မသွတ်ကြနဲ့"လို့ မှာရဲအောင် ကြိုးစားကြကွ ဒကာကြွယ်တို့ရ (မှန်ပါ ဘုရား)

"သစ္စာသိ"ဆိုတဲ့နေရာမှာ စာသိမျိုးကို ပြောတာ မဟုတ်ဘူးနော် (မှန်ပါ) ခန္ဓာထဲမှာ တကယ့်ဉာဏ်နဲ့ သိတဲ့ အသိမျိုး၊ ဖြစ်ပျက်တွေကို မြင်တဲ့အမြင်မျိုးကို ပြောတာ (မှန်ပါဘုရား)

အဲဒါလို ဒုက္ခသစ္စာကို အမှန်သိထားတဲ့ ပုဂ္ဂိုလ်မျိုး သေရင် အပါယ်မကျဘူး၊ အပါယ်မကျဖို့ စိတ်ချရ အောင် ကြိုးစားထားကြ၊ (မှန်ပါဘုရား)

သေကံပူက စိတ်ချရပါလျက်နဲ့ ကျန်ရစ်တဲ့သူ တွေက သပိတ်သွတ်ပြီ အရှက်ခွဲတော့လဲ သေတဲ့သူ

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

မနာဘူးလား ဒကာကြွယ်ရ (နာပါတယ် ဘုရား)

ဒါဖြင့် ဒကာကြွယ်... အရှက်ခွဲမခံနဲ့ (မှန်ပါဘုရား) ကဲ... ဒီကနေ့ ဘုန်းကြီး ဘာတရားဟောသလဲ မေးရင် ဖြေလိုက်ကြ "သပိတ်သွတ်လွတ်တရား"လို့ (မှန်ပါဘုရား)

ကဲ... ဒီနေ့ ဒီတွင် တော်ကြစို့။

**မှတ်ချက်။** ။"သပိတ်သွတ်လွတ်တရား" ဆိုတဲ့ စကား၊ "သေတဲ့သူက စိတ်ချရပါလျက်နဲ့ ကျန်ရစ်တဲ့ သူတွေက သပိတ်သွတ်ပြီး အရှက်ခွဲတော့လဲ သေတဲ့သူ မနာဘူးလား"ဆိုတဲ့ စကားလုံးတို့သည်လည်း အရိပ်အမြွက်စကား သတိပေးစကားလုံးတို့ပင် ဖြစ်တန်ရာ၏။

# မည်သူနဲ့ စကားပြောနေတာလဲ

၁၃၂၄–ခု သီတင်းကျွတ်လပြည့်ကျော် (၁)ရက် (၁၄.၁၀.၆၂) တနင်္ဂနွေနေ့ ည ၁၂–နာရီခန့် ဖြစ်၏၊ ထေရာသနကျောင်းဆောင် ဆရာတော်၏ ကျိန်းစက်ရာ အခန်းတွင်းမှ "ဝင်း"ခနဲ အလင်းရောင်ကြီးတစ်ခု ပေါ်လာ၏၊ ဆရာတော်၏ ကျိန်းစက်ရာ အခန်းပြင်ဘက် အဝဋ္ဌ အိပ်နေသော ဦးလှဘူးက မြင်လိုက်ရသည်။

ဦးလှဘူးက အခြေအနေကို အကဲခတ် ကြည့်နေရာ အခန်းတွင်းမှ ဆရာတော်နှင့် တစ်စုံ တစ်ဦး တစ်ယောက် စကားပြောနေသံကို သဲ့သဲ့ကြားနေရ၏၊ အချိန်ကလည်း ည ၁၂–နာရီခန့်။

"မည်သူနှင့်များ စကားပြောနေတာပါလိမ့်"ဟု တွေးမရအောင် ဖြစ်နေ၏၊ အခန်းတံခါးများလည်း အားလုံးပင် ပိတ်လျက်၊ အခြေအနေလည်း မပျက် ရှိနေ၏။

ဦးလှဘူး အတွေးရ ခက်နေမိသည်၊ "ဘာများလဲ" "ဘယ်လိုပုဂ္ဂိုလ်များလာသလဲ" မဆုံးဖြတ်တတ်အောင် ဖြစ်နေခဲ့၏။

သီတင်းကျွတ်လဆန်း (၁၃)ရက်နေ့ ညတုန်းကလည်း မန်ကျည်းပင်ကြီးပေါ်မှာ အလင်း ရောင်ကြီး တစ်ခု ကျလာသည်ဟု ကျောင်းဒကာ ဦးကျော်သိန်းက ပြော၍ သိခဲ့ရ၏။

"ယခုညကော ဘာလဲ"ဟု တွေးတောနေရင်းက ငယ်ငယ်တုန်းက သင်ခဲ့ရဖူးတဲ့ မင်္ဂလသုတ်ဆီကို စိတ်က ရောက်သွားပါသတတ်၊ "ဇေတဝနံ– ဇေတဝန် ကျောင်းတော်ကို၊ ဩဘာသေတွာ– ကိုယ်ရောင် ကိုယ်ဝါတို့ဖြင့် ထွန်းလင်းစေပြီး၍"ဆိုတဲ့စာကို သွား၍ သတိရပါသတတ်။

# အကြိုရေစက်ချ တရားတော်

၁၃၂၄–ခု သီတင်းကျွတ်လပြည့်ကျော် ၂–ရက် (၁၅.၁၀.၆၂) တနင်္လာနေ့ နေ့လယ်တွင် အကြိုတရားပွဲ ကျင်းပ၏၊ ဆရာတော်၏ အမိန့်အရ စီစဉ်ရခြင်း ဖြစ်သည်၊ ကိစ္စမှာ မိုးကုတ်မြို့မှ ဦးချစ်လှ + ဒေါ်သောင်းတို့က နက်ဖြန်လပြည့်ကျော် ၃–ရက်နေ့မှာ သားရှင်ပြုအလှူ၊ သန်ဘက်ခါ လပြည့်ကျော် ၄–ရက်နေ့မှာ သံဃာတော်များအား ကထိန်အလှူ၊ ဤအလှူကြီး ၂–ခုကို တစ်ရက်စီ ရှေ့နောက် စီစဉ်ထားကြသည်။

ယင်းသို့ ၃–ရက်၊ ၄–ရက်နေ့တွေကျမှ ကျင်း

မည့် အလှူတွေအတွက် ဆရာတော်ဘုရားက (၁)ရက် ကြိုတင်၍ ယနေ့ လပြည့်ကျော်(၂)ရက်နေ့မှာ တရားဟောပေးနေသည်၊ ကြိုတင်၍လည်း ရေစက်ချပေးတော်မူနေသည်။

"**ဒကာ** ဒကာမတို့... အလှူပေးတယ်ဆိုတာ **အလှူခံပုဂ္ဂိုလ်လက်တွင်းသို့** ပစ္စည်းတွေ ရောက် **အောင်** ပို့တာ၊ ဒီလို ပြောလို့ရှိရင် လွဲတယ်။

ဟာ... အရှင်ဘုရား၊ အလှူပေးတာပဲ၊ လှူဖွယ်ပစ္စည်းတွေကတော့ အလှူခံပုဂ္ဂိုလ်များ လက်ထဲ ရောက်သွားရမှာပဲ၊ ဒါ–တစ်သက်လုံးက ကပည့်တော်တို့ ဒီလို နားလည်လာခဲ့တာပဲ–ဆိုပြီး မင်းတို့က စောဒက တက်ချင်တက်ကြမယ်၊ တက်ပါ၊ ဘုန်းကြီးက သာကေနဲ့ ပြောပါမယ်..."

**မှတ်ချက်။** ။ မိုးကုတ်မြို့မှ အလှူရှင် ဦးချစ်လှ + ဒေါ်သောင်းတို့ဆိုတာ ရန်ကုန်မြို့၊ မိုးကုတ်ဝိပဿနာ အဖွဲ့ချုပ်ကြီး၏ ယခုလက်ရှိဥက္ကဋ္ဌကြီး ဦးအောင်ကျော်၏ ညီမအရင်း ဖြစ်ပါသည်၊ မိခင်ကြီးဒေါ်ခင်နှင့်တကွ ဦးအောင်ကျော်ပါ အလှူမတိုင်မီ ကြိုတင် ရောက်ရှိနေကြပါသည်။

## လှူတယ်ဆိုတာ ကုန်တာမဟုတ်၊ ရလိုက်တာ

* ဘုရားသခင် ကိုယ်တော်မြတ်ကြီး သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်းမှာ သီတင်းသုံးတော်မူတဲ့အခိုက် ဖြစ်ပါတယ်၊ တစ်နေ့တော့ ညဥ့်နက်သန်းခေါင်မှာ နတ်တွေ စုရုံးရောက်လာကြပြီး လျှောက်ကြတယ်–

"အရှင်ဘုရား... အလှူပေးတယ်ဆိုတာ သူများကို ပေးလိုက်ရတာလား အောက်မေ့တယ်၊ တကယ်တော့ တပည့်တော်တို့ ရလိုက်တာပါလား ဘုရား"တဲ့။

ဟော... သူတို့ရဲ့ကိုယ်တွေ့တွေကို လာလျှောက်နေကြတာ၊ ဒီတော့ "အလှူပေးတယ်"ဆိုတာ သူများ ရသွားတယ်လို့ ပြောရင် မှားတယ်၊ လွဲတယ်–။ "ကိုယ်ရလိုက်တာ"လို့ ဦးသန်းမောင်တို့ ဦးတင်တို့က မှတ်ရမယ်၊ မောင်ချစ်လှ မသောင်းတို့ ဒကာမကြီးတို့က သေသေချာချာ မှတ်ကြရမယ်၊ (မှန်လှပါဘုရား)

* ပီးတော့ ဘုရားသခင်ကိုယ်တော်မြတ်ကြီးက တခြားဥပမာတစ်မျိုးနဲ့ ဟောထားတာလဲ ရှိသေးတယ်၊ အိမ်တစ်အိမ် မီးလောင်တာကို ရပ်ကြည့်နေရင် ကုန်ရုံပဲပေါ့၊ အိုးတိုခွက်စ ဇွန်းကလေးကအစ ရသမျှ ဆွဲထုတ်ရင်တော့ ဆွဲမိသမျှ သုံးဖို့ စွဲဖို့ ရတယ်တဲ့၊ သယ်ယူနိုင်သလောက် သယ်ထုတ်ရင် ကိုယ့်ဖို့ ဖြစ်တယ်တဲ့ (မှန်ပါဘုရား)

ဒီမှာလဲ ထို့အတူပဲ၊ မောင်ချစ်လှတို့ မသောင်းတို့ ဒကာမကြီးတို့ မှတ်ကြရမယ်၊ ခန္ဓာကိုယ်ကြီးဟာ အိမ်ကြီးနဲ့ တူတယ်၊ ဇာတိမီး ဇရာမီး ဗျာဓိမီး မရဏမီးတွေက တရှိန်ရှိန် တသုတ်သုတ်နဲ့ လောင်မြိုက်နေတယ်၊ ဒါပေမယ့် လောင်မြိုက်နေမှန်း မသိကြဘူးနော... (မှန်လှပါ ဘုရား)

* သဂါထာဝဂ္ဂသံယုတ်၊ ပါ၊ ၁၉၊ သာဓုသုတ်၊ သတုလ္လပနတ်များ လျှောက်

* အင်္ဂုတ္တရပါဠိ၊ ဟိကာ၊ ၁၅၅

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# မီးထဲက ရသမျှ ဆွဲထုတ်ယူခြင်း

ဒီအထဲကနေပြီး ဒီကနေ့ တို့သားလေးတွေ ရှင်ပြုမယ်၊ သံဃာတော်(၂၀၀)ကျော်ကိုလဲ သင်္ကန်း ထီး ဖိနပ် စတဲ့ ပစ္စည်းတွေနဲ့ ပူဇော်မယ် ဆိုပြီး လုပ်တဲ့ ကိစ္စဟာ မီးထဲက ဆွဲထုတ်တာပဲ၊ (မှန်ပါ)

ကိုယ့်အတွက် ရလိုက်အောင် ဆွဲထုတ်တာပဲ၊ (မှန်လှပါ ဘုရား) ဦးအောင်ဖေတို့၊ ဦးတင်တို့၊ ဦးသန်းမောင်ကြီးတို့ စဉ်းစားကြည့်ကြစမ်း၊ (မှန်ပါ ဘုရား)

ဇရာမီးက အချိန်တိုင်း လောင်မြိုက်နေတယ်၊ ဗျာဓိမီးကလဲ လူကြီးတွေ ပိုပြီး သိတာပေါ့၊ လောင်မြိုက်နေတာ (မှန်ပါဘုရား) မရဏမီးကလဲ စက္ကန့်တိုင်း အချိန်မလပ် သေအောင် သတ်နေတာပဲ (မှန်ပါ)

ဒါတွင်မက ရေ မီး မင်း ခိုးသူ မချစ်မနှစ်သက်သောသူတွေ၊ ဒါတွေကလဲ နှိပ်စက်နေကြတာပဲ၊ ရာဇတော၀ါ စောရတော၀ါ၊ အဂ္ဂိတော၀ါ ဥဒကတော၀ါ ဆိုတဲ့ ဘေးတွေပေါ့၊ သူတို့တွေကလဲ နှိပ်စက်ကြတာပဲ။ (မှန်လှပါဘုရား)

# မင်း လှူတာ ဘယ်လောက် ရလိုက်သလဲလို့

ဒါ့ကြောင့် မောင်ချစ်လှတို့ မသောင်းတို့ ဒကာမကြီးတို့၊ "ဒီကနေ့ ဘာလုပ်ကြတာလဲ"လို့များ မေးကြယင် "မီးထဲက ဆွဲထုတ်နေတာ၊" ဒီလို ဖြေရမှာ၊ (မှန်ပါ ဘုရား)

မီးလောင်နေတဲ့ခန္ဓာအိမ်ကြီးထဲက ကိုယ့်အတွက် ရလိုက်အောင်လို့ဆွဲထုတ်နေတာ၊ (မှန်ပါဘုရား) ဒါ့ကြောင့်"လှူတယ်ဆိုတာရလိုက်တာ" (မှန်လှပါ ဘုရား)

တချို့က မေးတတ်ကြတယ် "မင်းအလှူ လှူတာ ဘယ်လောက် ကုန်သွားသလဲ"တဲ့၊ မေးတတ်ကြတယ်၊ ဒါက လောကီအနေနဲ့ မျက်မြင်အရ မေးနေကြတာကိုး (မှန်ပါ ဘုရား) အဲသည်လို မမေးပါနဲ့တဲ့၊ ဉာဏ်မျက်လုံးတပ်ပြီး မေးကြစမ်းပါ "မင်းအလှူ လှူတာ ဘယ်လောက် ရလိုက်သလဲ"လို့၊ (မှန်ပါဘုရား)

**မှတ်ချက်။** ။ဆရာတော်ဘုရားကြီးက အလှူခံ ပုဂ္ဂိုလ်များလက်မှာ လှူဒါန်းလိုက်တဲ့အတွက် လှူဖွယ်ပစ္စည်းတွေ ရသွားသည်ကို မဆိုလို၊ အလှူပေး ပုဂ္ဂိုလ်သန္တာန်မှာ ကောင်းတဲ့ စေတနာတွေ ဖြစ်ပေါ် ရရှိလိုက်တာ၊ နတ်ရွာသုဂတိစည်းစိမ်ဥစ္စာတွေ အကျိုးပေးမည့် စေတနာကောင်းတွေ ဖြစ်ပေါ် ရရှိလိုက်တာကို ဆိုလိုတော်မူသည်။

တစ်နည်း အလှူပေး ပုဂ္ဂိုလ်သန္တာန်မှာ (သဒ္ဓါ သီလ သုတ စာဂ ပညာ)ဆိုတဲ့ နိဗ္ဗာန်သွားခရီးစရိတ် ရတနာတွေ ရလိုက်တာကို ဆိုလိုတော်မူပါသည်။

ထို့နောက်တွင် ဇာတိ၏ ဆင်းရဲပုံ၊ ဒုက္ခသစ္စာကို မြင်လာအောင် အမိဝမ်းတွင်း၌ ကိန်းပုံအနေအထားကို ပါ ဟောပြတော်မူ၏၊ ဟောပြပြီးလျှင် အလှူရှင်တို့ကို လိုက်၍ ဆိုစေ၏ –

"ကဲ… ရေစက်ချမယ်၊ လိုက်ဆိုကြ၊ ဤဇာတိ ဒုက္ခသစ္စာကြီးမှ လွတ်မြောက်လိုပါ၍…"

စသည်ဖြင့် တိုင်ပေးတော်မူ၏၊ အလှူရှင်များက လိုက်၍ ဆိုကြရသည်၊ ထို့ပြင် ဇရာဒုက္ခဆင်းရဲပုံ၊ ဗျာဓိ ဒုက္ခဆင်းရဲပုံ၊ မရဏဒုက္ခဆင်းရဲပုံတို့ကို မြင်သာအောင် တစ်ခုချင်း ဟောပြတော်မူ၏၊ ပြီးလျှင်-

"ကဲ… လိုက်ဆိုကြ၊ ဤဇရာဒုက္ခသစ္စာတို့မှ၊ ဤဗျာဓိဒုက္ခသစ္စာတို့မှ၊ ဤမရဏဒုက္ခသစ္စာတို့မှ လွတ်မြောက်ရာ နိဗ္ဗာန်ကို ရလိုပါ၍…"

စသည် တိုင်ပေးပြီး ရေစက်ချ တရား ဟောပေးတော်မူသည်။

## ကျောက်တုံးကြီးနဲ့ ထောပတ်ဆီလို

ကုသိုလ်တရားဆိုတာ ဖြူစင်၏၊ ပေါ့ပါး၏၊ အပေါ်သို့ တက်၏၊ ကောင်းကျိုးပေးသည်၊ ရေအောက်တွင် မနေဘဲ အပေါ်သို့ တက်လာသော ထောပတ်များ ဆီများနှင့် တူသည်။

အကုသိုလ်တရား ဟူသည်ကား မည်းညစ်၏၊ လေးလံ၏၊ အောက်သို့ ဆင်းတတ်၏၊ ကောင်းကျိုး မပေး၊ ရေပေါ်တွင် မနေဘဲ အောက်သို့ မြုပ်တတ်သော ကျောက်ခဲများနှင့် တူ၏။

မြတ်စွာဘုရားသည် နာလန္ဒသို့ ကြွလာသော အခါ သရက်ဥယျာဉ်ကျောင်းတိုက်၌ သီတင်းသုံးတော်မူ၏၊ ထိုစဉ်က အသိဗန္ဓကပုတ္တသည် မြတ်စွာဘုရားအား ဤသို့ လျှောက်ထားမေးမြန်းသည်–

"အရှင်ဘုရား... အနောက်ဘက် ကမ်းက ဗြာဟ္မဏတွေဟာ မီးကို ကိုးကွယ်ကြပါတယ်၊ ပြီးတော့ ကိလေသာ စင်အောင် ည–နံနက် ရေချိုးကြပါတယ်။

သူကို့အလေ့က တစ်ယောက်ယောက် သေလျှင် အလောင်းကို ဝန်းရံပြီး "အို... အချင်း၊ ဗြဟ္မာ့ဘုံသို့ သွားလော့၊ ဗြဟ္မာ့ဘုံသို့ ရောက်ပါစေ"ဟု ဆုတောင်း ပေးကြပါတယ်။ "ဆုတောင်းပေးလျှင် ဗြဟ္မာ့ဘုံသို့ ရောက်သည်"ဟု ယုံကြည်ကြပါတယ်။

"အရှင်ဘုရားကော ဆုတောင်းပေးခြင်းဖြင့် သုဂတိသို့ အရောက်ပို့ပေးနိုင်ပါသလား ဘုရား"

## အထက်ကို တက်ခဲ့ပါ ဆိုသော်လည်း

ထိုအခါ မြတ်စွာဘုရားက ထိုသူ့ကိုပင် မေးခွန်း တစ်ခု ပြန်၍ မေးတော်မူ၏။

"ရေကန်ကြီးတစ်ခုထဲ ကျောက်တုံးကြီးတစ်ခု ပစ်ချလိုက်ပြီးတော့ "အို... ကျောက်တုံးကြီး၊ ရေပြင် ပေါ် ပေါ်ခဲ့ပါလော့၊ ကုန်းပေါ်သို့ တက်ခဲ့ပါလော့– လို့ ဝိုင်းဝန်းဟစ်အော်ကြမယ်၊ ဝိုင်းဝန်းတောင်းပန်ကြမယ်၊ ဝိုင်းဝန်းဆုတောင်းကြမယ်၊ တက်လာပါ့မလား (မလာနိုင်ပါ ဘုရား)

အဲသည်လိုပဲ လူတစ်ယောက်ဟာ ဒုစရိုက် (၁၀)ပါးကို ပြုလုပ်နေမယ်၊ အဲဒီသူ သေရင် "သုဂတိ ရောက်ပါစေ"လို့ ဝိုင်းဝန်း ဆုတောင်း၊ မရနိုင်ဘူး (မှန်ပါ ဘုရား)

## အောက်သို့ဆင်းပါ ဆိုသော်လည်း

နောက်တစ်ခုကြည့်ဦး၊ အသိဗန္ဓကပုတ္တ... ထောပတ်အိုး၊ သို့မဟုတ် ဆီအိုးကြီးကို ရေကန်ထဲယူသွား၊ ရေနက်ထဲ နှစ်ပြီးတော့ အောက်ကျမှ အဲဒီအိုးကြီးကို ရိုက်ခွဲလိုက်။

ထောပတ်တွေ ဆီတွေဟာ အပေါ်ကို တက်လာကြမှာပဲ၊ ဖွတ်တက်လာကြမှာပဲ၊ အဲဒီအခါမှာ "အို... ထောပတ်တို့ ဆီတို့... ရေအောက်ထဲကို ဆင်းကြလော့၊ ရေအောက်ထဲသို့ မြုပ်ကြပါစေ..."

အဲသည်လို ဝိုင်းဝန်း ဟစ်အော်ကြမယ်၊ ဝိုင်းဝန်း တိုက်တွန်းကြမယ်၊ ဝိုင်းဝန်း ဆုတောင်းကြမယ်၊ မြုပ်

ကြပါ့မလား (မမြုပ်ကြပါ ဘုရား)

အဲသည်လိုပဲ လူတစ်ယောက်ဟာ သုစရိုက် (၁၀)ပါးကိုသာ ပြုကျင့်နေတယ်၊ အဲဒီသုစရိုက်ပြုကျင့်နေသူကို–

"အို... အချင်း၊ အပါယ်ဘုံသို့ သွားပါ၊ အပါယ်ဘုံသို့ ရောက်ပါစေ..."ဟူ၍

ဝိုင်းဝန်းဟစ်အော်ကြမယ်၊ ဝိုင်းဝန်းတောင်းပန်ကြမယ်၊ ဝိုင်းဝန်း ဆုတောင်းကြမယ်၊ ရပါ့မလား (မရနိုင်ပါ ဘုရား)

ဘယ်ရမလဲ၊ သူ့သဘောအတိုင်း သူသွားမှာပဲ၊ အကုသိုလ်ဒုစရိုက်တွေဟာ ကျောက်တုံးကြီးနဲ့တူတယ်၊ အောက်ကို နစ်မယ်။

ကုသိုလ်သုစရိုက်တွေကျတော့ ထောပတ်တွေ ဆီတွေနဲ့ တူတယ်၊ အပေါ်ကို တက်မြဲပဲ"ဟူ၍ မိန့်တော်မူလိုက်သည်။

## ရထားထွက်တော့မယ် တရား (ညတရားပွဲ)

၁၃၂၄–ခု သီတင်းကျွတ်လပြည့်ကျော် ၂–ရက် (၁၅.၁၀.၆၂) တနင်္လာနေ့ ည ၇–နာရီမှ ၈–နာရီအထိ ညတရားပွဲ ဖြစ်သည်၊ နေ့လယ်စဉ်ကလည်း အကြိုရေစက်ချတရားတစ်ပွဲ ဟောပြီးပြီ။

"ကဲ... နာတဲ့လူတွေကလဲ ခန္ဓာကို ကြည့်ပြီး နာကြရမယ်၊ ဟောတဲ့ ပုဂ္ဂိုလ်ကလဲ ခန္ဓာ ကြည့်ပြီး ဟောမယ်၊ ဘာဝနာပွားပြီး ဟောတဲ့ အတွက် ဘာဝနာပွားပြီး နာကြရမယ်"

ဤသို့ အစချီပြီးလျှင် ဦးစွာ ပထမ ဓမ္မ (၅)မျိုးကို အခြေတည်လာသည်၊ ဦးသန်းမောင်တို့၊ ဦးတင်တို့၊ ဦးအောင်ဖေတို့ ဆိုတာ ဒီလူ့ဘဝ ရောက်လာတာ ဘယ်က လာသလဲ မေးရင် ဘယ့်နှယ် ဖြေကြမလဲ (မသိပါ ဘုရား) ဘယ်သူက ပို့လိုက်တာလဲ မေးရင်ကော... (မသိပါ ဘုရား)

အေး... တရားက ပို့လိုက်တာ၊ ဒီလူ့ပြည် ရောက်လာအောင် တရားက ပို့လိုက်တာလို့ ဖြေ (မှန်ပါ ဘုရား)

လူ့ဘဝရောက်လာပြန်တော့လဲ တစ်နေရာက တစ်နေရာ ရောက်လာတာဟာ တရားက ပို့တာပဲ၊ (မှန်ပါဘုရား) ဦးသန်းမောင်ကြီးတို့ဆိုရင် မွေးတာက ဒန်ဘီ၊ အဲဒီနောက် နေရာပြောင်းပြီး ကြီးပွားနေတာက ရန်ကုန်၊ ဒါ ဘယ်သူက ပို့လိုက်တာလဲ မေးရင် တရားက ပို့လိုက်တာပေါ့ (မှန်ပါဘုရား)

## ဘယ်တရားက ပို့တာ ကြိုက်လဲ

ဟုတ်ပီ–။ တရားက ပို့တယ် ဆိုတော့ ဘယ်တရားတွေက ပို့တာကြိုက်သလဲ၊ ရွေးချယ်ကြရမယ်။

၁။ အကုသိုလ်တရားက ပို့တာ ကြိုက်သလား၊

၂။ ဒါနကုသိုလ်တရားက ပို့တာ ကြိုက်သလား၊

၃။ သီလ ကုသိုလ် တရားက ပို့တာ ကြိုက်သလား၊

၄။ သမထကုသိုလ်တရားက ပို့တာ ကြိုက်သလား၊

၅။ ဝိပဿနာကုသိုလ်တရားက ပို့တာ ကြိုက်သလား၊

လို့ မေးခွန်း(၅)ခု ထွက်လာတယ် (မှန်ပါဘုရား)

အကုသိုလ်ကပို့ရင် အပါယ်လေးပါးကို ပို့တာ၊

မောင်ချစ်စိန်တို့က "ဟာ... အကုသိုလ်က ပို့တဲ့ဆီ တပည့်တော်တို့ မသွားချင်ဘူး ဘုရား" ဦးအောင်ဇံဝေ တို့လဲ မသွားချင်ဘူး၊ နောက်က သီလရှင်တွေကော သွားချင်သလား၊ (မသွားချင်ပါ ဘုရား)

ဒါနကုသိုလ်က လူ့ပြည်နဲ့ နတ်ပြည်၊ အဲဒီမှာ စည်းစိမ်ဥစ္စာတွေ ပြည့်လျှံမိုမောက်နေအောင် သူက လုပ်ပေးတယ်၊ အင်း... ဒါပေမယ့် အဲဒီမှာ အိုဘေး နာဘေး သေဘေးတွေ ရှိတယ်၊ ဒါဖြင့် အဲဒီကိုလဲ မသွားချင်ဘူး ဘုရား။ (မှန်ပါ)

သီလကုသိုလ်ကလဲ ပို့မှာပဲ၊ ကောင်းတဲ့ သုဂတိ လူ့ပြည် နတ်ပြည်တွေ ခေါင်ထိပ်အထိ ပို့မှာပဲ၊ ဒါပေမယ့် အဲဒီဘုံတွေမှာလဲ အိုဘေး နာဘေး သေဘေး တွေ မလွတ်ဘူး၊ (မလွတ်ဘူး ဘုရား) ဒုက္ခသစ္စာတွေ ရှိနေတယ်၊ ဦးသန်းမောင်တို့ သွားချင်ကြသေးလား (မသွားချင်ပါ ဘုရား) ဒုက္ခလွတ်ရာဖြစ်မှ ကျုပ်တို့က အားကိုးရမှာကိုး-။ (မှန်ပါ)

# ဗြဟ္မာ့ပြည်လဲ အိုနာသေ မလွတ်

တစ်ခါ သမထကုသိုလ်တွေ အားထုတ်ပြီးတော့ သမထကုသိုလ်ပို့ရာ သွားမလား-ဆိုတော့ ဦးတင်ရေ... စိစစ်အုံး၊ သူတို့ ပို့နိုင်တာ ဗြဟ္မာ့ဘုံ-၊ ဒါပဲ၊ ဒီ့ထက် မပို့နိုင်ဘူး (မှန်ပါဘုရား)

အဲဒီမှာလဲ အို-နာ-သေ မလွတ်ပါဘူး၊ အလ ကား သက်ဆိုးရှည်နေတာပဲ၊ (မှန်ပါဘုရား) အဲဒီကိုလဲ မသွားချင်ဘူး၊ သွားချင်ကြသေးလား ဦးအောင်ဇံဝေတို့ မောင်ချစ်စိန်တို့... (မသွားချင်ပါဘုရား)

ဒါဖြင့် အခု ပြောခဲ့တဲ့ (၄)ချက်ကို ဦးတင်လဲ မကြိုက်ဘူး၊ ဦးသန်းမောင်လဲ မကြိုက်ဘူး၊ နောက်က ဒကာ ဒကာမတွေကော (မကြိုက်ပါဘုရား)

ဒါဖြင့် ဝိပဿနာကုသိုလ်ပဲ ကျန်တော့တယ်၊ သူကတော့ဖြင့် နိဗ္ဗာန်ကို ပို့မှာ (မှန်ပါ) ဒုက္ခခပ်သိမ်း ငြိမ်းတဲ့ နိဗ္ဗာန်ကိုပဲ ပို့မယ်၊ ဒီလိုဆိုတော့ ဘယ်ဟာ အကြိုက်ဆုံးလဲ-။ (ဒုက္ခခပ်သိမ်း ငြိမ်းတဲ့ နိဗ္ဗာန်ပါ ဘုရား)

# အကောင်းဆုံး ကုသိုလ်ကတော့

ကိုင်း... ဒါဖြင့် အဲဒီနိဗ္ဗာန်ကို ရောက်ချင်ရင် အဲဒီနိဗ္ဗာန်ကို ပို့တဲ့ တရား၊ နိဗ္ဗာန်ကို ရောက်စေတဲ့ အကြောင်းတရားကို ဆည်းပူးအားထုတ်ကြရလိမ့်မယ် (မှန်ပါဘုရား)

အဲဒီတရားဟာ ဝိပဿနာပဲ၊ ဝိပဿနာကို ကြိုးစား၊ မဂ်ဆိုက်သွားလိမ့်မယ်၊ (မှန်ပါ ဘုရား) အဲဒါ အကောင်းဆုံး ကုသိုလ်ပဲ (မှန်ပါ) မဂ်က ပို့လို့ ရှိရင်ဖြင့် နိဗ္ဗာန်မှတစ်ပါး ဦးအောင်ဇံဝေ ဘယ်မှ မပို့ဘူး၊ နိဗ္ဗာန်ကိုပဲ ဆိုက်ဆိုက်မြိုက်မြိုက် ပို့မယ် (မှန်ပါဘုရား)

ဤသို့ အစရှိသည်ဖြင့် အကြောင်းခမ္မ(၅)မျိုးကို အကျယ်တဝင့် ဟောပြပြီးနောက်၊

ဉာဏ်(၅)ပါး ရှိကြောင်းကို ဆက်လက် ဟောပြ တော်မူပြန်သည်။

၁။ကမ္မဿကတာဉာဏ်၊
၂။နာမရူပပရိစ္ဆေဒဉာဏ်၊
၃။ပစ္စယပရိဂ္ဂဟဉာဏ်၊
၄။ဥဒယဗ္ဗယဉာဏ်၊
၅။မဂ်ဉာဏ်တို့ဖြစ်သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## မီရုံကလေး တည်းတည်းပဲနော်

ဉာဏ်တစ်ခုစီ၏ အဓိပ္ပာယ်နှင့် အစွမ်းသတ္တိတို့ကို ရှင်းပြပြီးလျှင် နောက်ဆုံး မဂ်ဉာဏ်ဟာ အကောင်းဆုံး ဖြစ်တယ်၊ အားအကိုးရဆုံး ဖြစ်တယ်၊ ဒုက္ခ ချုပ်ငြိမ်းအောင် လုပ်ပေးတဲ့ ဉာဏ်ပေါ့၊ (မှန်ပါဘုရား)

တစ်ခါချုပ်နဲ့ မကျေနပ်နဲ့၊ နှစ်ခါချုပ်နဲ့လဲ မကျေနပ်နဲ့၊ သုံးခါချုပ်နဲ့လဲ မကျေနပ်နဲ့၊ လေးခါချုပ်အောင် လုပ်လိုက်ကြ။

ဒီဘဝပဲ သေမယ်၊ နောက် သေစရာမရှိတော့ဘူး၊ မအိုမသေ အမြဲနေတဲ့ နိဗ္ဗာန်ကို ရသွားပြီ၊ ဒါ့ကြောင့် မဂ်ဉာဏ်ဟာ အားအကိုးရဆုံးဉာဏ်ပေါ့၊ ဒါကို ရအောင် ကြိုးစားကြရမယ် (မှန်ပါဘုရား)

ကဲ... ဦးသန်းမောင်၊ ဘုန်းကြီးလဲ အသက်ကြီးပြီ၊ ဦးသန်းမောင်လဲ အသက်ကြီးပြီ၊ ဦးတင်တို့၊ ဦးအောင်ဇံဝေတို့လဲ ကြီးကြပြီ...။

အဲဒီတော့ တို့ဆရာနဲ့ တို့ဒကာတွေ အခုလို တွေ့ကြတုန်းမို့ ဒီလိုတရားတွေ ဟောနိုင်တာ၊ ဒီလို အသိတွေ သိကြရတာ-။

မကွယ်သေးခင်မိုလို့ တွေ့ကြရတာ၊ မီရုံကလေး ရှိကြတယ်၊ ရထားက ထွက်ခါနီးနေပြီ၊ မီရုံကလေး တည်းတည်း၊ တက်မိရုံကလေးရှိတယ်နော်၊ ကြိုးစားလိုက်ကြ (မှန်ပါဘုရား)

"ရထားထွက်လုနီးပြီ" ဆိုတာ ရိပ်မိကြပြီလား။ ကဲ... ဒီနေ့ ဒီတွင်ပဲ တော်ကြစို့-။

သာဓု သာဓု သာဓု။

## ဘယ်သူ လာတာလဲ၊ ဘာလုပ်တာလဲ

၁၃၂၄-ခု သီတင်းကျွတ် လပြည့်ကျော် ၂-ရက် (၁၅.၁၀.၆၂) တနင်္လာနေ့ညဖြစ်၏၊ ထုံးစံအတိုင်း ဒကာများ၏ ဝိုင်းဝန်းချိုးနှိပ်ပေးခြင်း၊ ဝတ်ဖြည့်ခြင်းကို ခံယူတော်မူသည်၊ ခါတိုင်းလိုပင် တရားစကား ဝတ်ဖြည့်ခံရင်း မိန့်ကြားနေသည်၊ ပြီးသောအခါ ဆရာတော်က-

"သတိ ဝီရိယနဲ့ အိပ်ကြ၊

နိုးနိုးကြားကြား အိပ်ကြ"

ဟူ၍ မိန့်မှာတော်မူ၏၊ အသီးသီး ကိုယ်စီ ကိုယ်င အိပ်ရာဝင်ကုန်ကြသည်။

ညသန်းခေါင် ၁၂-နာရီခန့်တွင် ယမန်နေ့ကလိုပင် ဖြစ်၏၊ ဝင်းထိန်သော အလင်းရောင်ကြီး "လင်း" ခနဲ တစ်ချက်မျှ ဆရာတော့်အိပ်ခန်းတွင်းဆီမှ မြင်လိုက်ရ၏၊ ဒီတစ်ခါတွင် ဦးလှဘူးက ဆရာတော်၏ အိပ်ခန်းတံခါးကို ရုတ်တရက် ဆွဲဖွင့်၍ လုပ်ကြည့်လိုက်သည်။

ဆရာတော်မှာ အိပ်ခုတင်ပေါ်၌ ထိုင်လျက်ပင် သီတင်းသုံးနေသည်ကို တွေ့ရ၏၊ အခြားမည်သူတစ်စုံ တစ်ဦးကိုမျှ မတွေ့ရ၊ သို့ဖြစ်၍ ဦးလှဘူးက-

"ဆရာတော်... အခုတွင်က အလင်းရောင်ကြီး မြင်လိုက်ရတယ်၊ ဆရာတော့်အသံလဲ ကြား တယ်၊ ဘယ်သူနဲ့ အမိန့်ရှိနေတာလဲ ဘုရား"

ဟူ၍ လျှောက်ထားကြည့်၏၊ ဆရာတော်က-

"လှဘူးရာ... မင်း အသိသားနဲ့"

ဟူ၍မျှသာ မိန့်သည်၊ အခြား စကား ဆက်လက် မမိန့်ကြားပါ၊ ထပ်မံ၍လည်း မလျှောက်ဝံ့ပါ။

ထိုနေ့ နေ့လယ်ကပင် မင်္ဂလာမဂ္ဂင်ရိပ်သာထဲ၌ နက်ဖြန် သန်ဘက် အလှူအတွက် မိုးကုတ်မြို့မှ အလှူရှင်များနှင့် ဝေယျာဝစ္စသမားတို့ ရှိနေကြသည်၊ ရိပ်သာတွင်းရှိ ကျောင်းတိုင်းလိုလို၊ ဇရပ်တိုင်းလိုလို ပြည့်ညပ်နေကြ၏။

ထိုပရိသတ်ထဲမှ မအိပ်သေးသူများလည်း သိလိုက်ကြသည်၊ ဆရာတော်၏ ကျောင်းခေါင်မိုးပေါ်သို့ "ဝင်း"ခနဲ အလင်းရောင်ကြီး ကျသွားတာရော၊ မကြာခင်ပင် "ဝင်း"ခနဲ အလင်းရောင်ကြီး ပျံတက်သွားတာကိုရော မြင်လိုက်ကြရကြောင်း ပြောကြသည်။

"မည်သူလာတာလဲ၊ မည်သည့်ကိစ္စကို ဆောင်ရွက်တာလဲ" မသိရပါ။

## သီတင်းကျွတ်လပြည့်ကျော် ၃-ရက် နေ့လယ်တရားပွဲ

၁၃၂၄-ခု သီတင်းကျွတ် လပြည့်ကျော် ၃-ရက် (၁၆.၁၀.၆၂) အင်္ဂါနေ့ ရှင်ပြုအလှူနေ့ ဖြစ်၏၊ နေ့လယ်တွင် (ယမန်နေ့ကလို) ရှင်ပြုအလှူနှင့် ကထိန်အလှူအတွက် ထပ်မံ၍ ဟောပြောရေစက်ချပေးတော်မူသည်၊ [နက်ဖြန်မှ အလှူတွေ ပြီးမည် ဖြစ်သော်လည်း ကြိုတင်၍ ဟောပြောရေစက်ချပေးထားသည်။]

ယနေ့ လပြည့်ကျော် ၃-ရက် နေ့လယ်ပွဲတွင် ပန်ကာလေ ခံမိသဖြင့် အအေးမိ အခိုးငုပ်သွား၏၊ ဆရာတော်ကား ကျန်းမာရေးကို လုံးဝ အမှုမထား၊ ဒကာ ဒကာမများအပေါ် "နားလည်အောင် ဘယ်လို ဟောရမလဲ၊ သဘောပေါက်အောင် ဘယ်လို ပြောရမလဲ"ဟူ၍သာ ကြံစည်နေတော်မူဟန် ရှိသည်။

ပန်ကာလေ လာနေသည်ကို မတားမြစ်မိ၊ အနီးတွင် ဆောင်ရွက်ပေးနေသော ဝေယျာဝစ္စ ဒကာများကလည်း သတိမထားမိ၊ ဆရာတော်ဘုရားကြီး မအိုက်အောင်သာ အာရုံရောက်နေကြ၏၊ ထို့ကြောင့် အအေးမိ အခိုးငုပ်သွားတော့သည်။

ထို့ကြောင့် ညနေပိုင်းတွင် ကျောင်းအမ ဒေါ်တင်လှကို အခေါ်ခိုင်း၍ အခိုးပွင့်ဆေး အကပ်ခိုင်းသည်၊ ဆေးကပ်ပြီးနောက် ဒေါ်တင်လှက-

"ဆရာတော်ဘုရား... ပင်ပန်းလွန်း အားကြီးပါတယ်၊ ညပိုင်းမှာ တရား မဟောပါနဲ့တော့ ဘုရား"

ဟူ၍ လျှောက်ထားရာ ဆရာတော်က လက်မခံ၊ ပြင်းထန်သော စိတ်ဓာတ်ဖြင့်-

"ဟ- တင်လှ၊ ငါ ဘာမှ မဖြစ်ပါဘူး၊ အခိုးနည်းနည်း ငုပ်သွားရုံပါ၊ ကိစ္စ မရှိပါဘူး"

ဟူ၍ မိန့်တော်မူပြီးလျှင် ညတရားပွဲကိုလည်း ဟောတော်မူသည်သာ။ ["ညတရားပွဲ"ဆိုသည်မှာ ဝတ်ဖြည့်ခံရင်း နာရီဝက်ခန့်မျှ ဝတ်ဖြည့်သူဒကာများနှင့် ညအိပ်ယောဂီတို့အား ဟောပြောမှုမျိုးကို ဆိုလိုပါသည်။]

## နက်ဖြန် အရေးကြီးတယ်၊ လာခဲ့ကြ

သီတင်းကျွတ်လပြည့်ကျော် ၃–ရက် (၁၆.၁၀.၆၂) အင်္ဂါနေ့ညတွင်လည်း ထုံးစံအတိုင်း ဝတ်ဖြည့်ခံတော်မူ၏၊ ဝတ်ဖြည့်သူများမှာ ဦးလှဘူး၊ ဦးကြည်၊ ဦးချစ်စိန်၊ ဦးတင်၊ ကိုတင်ငွေတို့ ဖြစ်ကြ၏။

ဝိုင်းဝန်း ချိုးနှိပ်၊ တံတောင်ဖြင့် ထောက်ကာ အကြောလျှော့အောင် ဖြေပေးခြင်း စသော ဝတ်ဖြည့်ခြင်း အမှုကို ပြုပေးကြ၏၊ ဆရာတော်ကလည်း ထုံးစံအတိုင်း တရားစကား ဟောကြားပေးနေခဲ့သည်၊ ဝတ်ဖြည့်ခံပြီး နောက် ဆရာတော်က–

"အေး… နက်ဖြန် နံနက် ၅–နာရီအချိန် မင်းတို့ အားလုံး လာခဲ့ကြ၊ ကြားလား၊ တင်ငွေ… မင်းတို့လဲ အိမ်မှာ ဘာကိစ္စရှိရှိ၊ ဘယ်လောက်ပင် အရေးကြီးကြီး အားလုံး လာခဲ့ကြ၊ အလုပ်က ငွေဘယ်လောက်ပဲ ရမှာဖြစ်ဖြစ်၊ မသွားကြနဲ့၊ ဝတ်သေတဲ့မသာ မရှိဘူး၊ အကြောင်းရှိတယ်"

ဟူ၍ မိန့်တော်မူ၏၊ ဤအကြောင်းအရာတို့ကို ကိုတင်ငွေက အိမ်ရောက်သောအခါ သူ့ဖခင် ဦးစောမောင်အား ပြောပြရာ၊ ဦးစောမောင်က–

"ဟ– ဒီလိုဆိုရင် ကလေးတွေလဲ ကျောင်း မလွှတ်နဲ့၊ ငါပါလိုက်မယ်၊ တို့တစ်အိမ်သားလုံး သွားကြမယ်"

ဟူ၍ ပြောဆိုထားကြသည် ဟူ၏၊ "ဆရာတော်က ဘာ့ကြောင့် ပြောတယ် မသိ၊ ခါတိုင်း ဒီလို မိန့်လေ့ မရှိပါဘူး၊ အလှူပွဲတွေရှိလို့ ပြောတာတော့ ဟုတ်ဟန် မတူဘူး" ဤမျှလောက်သာ ပြောပြီး စဉ်းစားနေမိကြသည် ဆို၏။

## မင်း အသိသားနဲ့၊ ထပ်ထပ် မေးနေ

ယနေ့ သီတင်းကျွတ်လပြည့်ကျော် (၃)ရက်နေ့ (၁၆.၁၀.၆၂) အင်္ဂါနေ့ညတွင်လည်း သတိထားနေကြ၏၊ ယခင် လပြည့်ကျော် ၁–ရက်နှင့် ၂–ရက်ညများက ဆက်တိုက်လာသလို ယနေ့ညလည်း အလင်းရောင်ကြီး လာဦးမည်လော–ဟု စိတ်စောနေကြ၏၊ တစ်ဦးနှင့် တစ်ဦးလည်း သတိပေးထားကြသည်။ တဖြည်းဖြည်း ညဉ့်နက်လာ၏။

ဟော… လာပါပြီ၊ ည ၁၂–နာရီခန့်တွင် ယခင် ညများက အလင်းရောင်ကြီးမျိုးပင် ဖြစ်၏၊ အရပ်ထဲမှ အချို့ပုဂ္ဂိုလ်များလည်း အလင်းရောင်ကြီး ဆရာတော့်ကျောင်းပေါ်သို့ ကျသွားသည်ကို မြင်ကြရပ် သတဲ့။

ဦးလှဘူးက သတိထားနေ၍ အလင်းရောင်ကြီ ကိုလည်း တွေ့ရ၏၊ စကားပြောသံကိုလည်း သဲ ကြားရ၏၊ သို့ဖြစ်၍ တံခါးကို ဆွဲဖွင့်ပြီး ယခင်ေ ကလို လျှောက်ထား မေးမြန်းကြည့်ပြန်သည်၊ ဆရ တော်က–

"လှဘူးရာ… မင်းကလဲ သိရက်သားနဲ့ ထ ထပ် မေးနေပြန်တယ်"

ဟူ၍မျှသာ မိန့်တော်မူ၏။

## သီတင်းကျွတ်လပြည့်ကျော်(၄)ရက်နေ့ (နံနက်ပိုင်း အခြေအနေ)

ယနေ့ကား ၁၃၂၄-ခု သီတင်းကျွတ် လပြည့်ကျော် ၄-ရက် (၁၉၆၂-ခု အောက်တိုဘာလ ၁၇-ရက်) ဗုဒ္ဓဟူးနေ့ ဖြစ်၏၊ နံနက်စောစော ၅-နာရီအချိန်တွင် ကျောင်းအမ ဒေါ်တင်လှနှင့် သီလရှင်ဆရာကြီး ဒေါ်ကုမာရီတို့ ဆရာတော့်ထံ လာ၍ကွေကာအုပ်ကပ်ကြသည်၊ ဆရာတော်က အကပ်ခံပြီးနောက်–

"တင်လှ မင်းတို့အသက်က ငယ်သေးတယ်၊ လောကခံတရား တိုက်ခတ်ခံရဖို့အရေး အများကြီး ရှိသေးတယ်၊ အတိုက်ခံရဖို့လဲ ငါ မြင်တယ်၊ လောကခံလှိုင်းဒဏ်ခံနိုင်အောင် တရားကို ကြပ်ကြပ်ရှုပါ"

ဤသို့ စသည်ဖြင့် မိန့်တော်မူ၏၊ ထို့နောက်တွင်လည်း ဒေါ်တင်လှ စသူတို့က သံသရာခရီးသွားတွေနဲ့ တူပုံ၊ သံသရာ ရေပြင်ကျယ်ကြီးထဲမှာ ကူးနေကြရပုံ၊ ဆရာတော်ကတော့ ထိုရေပြင်ကျယ်ကြီး၏ ကမ်းစပ်ကသစ်ပင်အိုကြီးနဲ့တူပုံ စသည်ဖြင့် ဥပမာပြကာ နဒီသုတ်ကို ဟောပြတော်မူသည်၊ ထို့နောက်–

"ကဲကဲ သွားကြတော့၊ ပြီးတော့ မောင်ကျော်သိန်းကို ငါ့ဆီလွှတ်လိုက်"

ဟု မိန့်တော်မူသဖြင့် ဦးကျော်သိန်းကို သွား၍ ခေါ်ကြရသည်၊ ရောက်လာသောအခါ ဆရာတော်က–

"မောင်ကျော်သိန်း လာ၊ ဒီရှေ့နားတိုးအုံး"

ဟူ၍ မိန့်တော်မူ၏၊ ထို့နောက် ဆက်လက်၍–

"မင်း သေသေချာချာ နားထောင်၊ ငါ မရှိတဲ့နောက်ပိုင်းမှာ မင်းဟာ လောကခံတရားတွေအမျိုးမျိုး အတိုက်ခံရလိမ့်မယ်၊ မနိုင် နိုင်အောင်တရားကို ရှုပေး"

"ငါ ဟောခဲ့တဲ့ တရားတွေလဲ မင်းတို့ အသံဖမ်းစက်တွေနဲ့ ဖမ်းယူထားတာပဲ၊ ဖွင့်ပြီး နာပေါ့၊ သဘောမပေါက်ရင် ထပ်ကာ ထပ်ကာ နာ၊ ငါ ပြောတဲ့အတိုင်း လိုက်နာနေရစ်ကြ၊ (မှန်လှပါဘုရား)

ဆရာတော်ကြီး၏ ယနေ့ ဆုံးမပုံမှာ ဘယ်လိုကြီးမှန်း မသိဘူး၊ တစ်မျိုးကြီးပါပဲ၊ "ငါ ပြောတဲ့အတိုင်း လိုက်နာနေရစ်ကြ"ဆိုတော့ ဘယ်ကိုများ ကြွမလို့လဲ၊ ပြန်လှန်၍လည်း လျှောက်ထားဝံ့ခြင်း မရှိ၊ အစဉ်းစားရကျပ်ပါဘိ။

သို့ဖြစ်၍ ဆရာတော်ကြီးနှင့် အနေကြာခဲ့သော ဦးသာဆိုင်အား သွားရောက် ပြောမိသည်၊ ထိုအခါ ဦးသာဆိုင်က "ရန်ကုန် ဒကာ ဒကာမတွေကို ငဲ့ပြီး ရန်ကုန်ကို ကြွတော့မှာမို့ မိန့်တာ ရှိမှာပါ"ဟု ပြောသဖြင့် အတော်အတန် စိတ်သက်သာရာ ရသွားရတော့သည်။

## မင်္ဂလာတိုက်ဟောင်း မိုးကုတ်ကျောင်းကြီးသို့

ဆရာတော်ဘုရားသည် စောစောက ကပ်ထားသော ကွေကာအုပ်ကို ဘုဉ်းပေးပြီးနောက် မင်္ဂလာမဂ္ဂင်ရိပ်သာမှ တစ်ဖာလုံခန့် ဝေးကွာသော မင်္ဂလာတိုက်ဟောင်း အတွင်းသို့ ကြွသွားတော်မူသည်။ ယနေ့နံနက်စာတွင် သံဃာတော် အပါး(၂၀၀)ကျော် ဆွမ်းကပ်ပွဲ ရှိ၍ ကြွသွားခြင်း ဖြစ်၏။

နံနက် ၆-နာရီခန့်မျှ ရှိချေပြီ၊ မင်္ဂလာတိုက်ဟောင်း မိုးကုတ်ကျောင်းကြီးပေါ်တွင် နယ်ပေါင်းစုံကျောင်းပေါင်းစုံမှ ကြွလာကြသော ဆရာတော် သံဃာတော်များအား ဆွမ်းဘောဇဉ်များ ဆက်ကပ်နေကြပြီ။

ဆရာတော်လည်း လှည့်လည်ကြည့်ရှု ကြည်ညို နေ၏၊ ဆွမ်းပွဲတစ်ပွဲတွင် ဟင်းနည်းနေပြီ ဖြစ်သည်၊

ခပ်သွက်သွက် ယူလာသောဒကာ့လက်မှ ဟင်းချိုင့်ကို အကပ်ခံပြီးလျှင် ဆရာတော်က သူကိုယ်တိုင် ဟင်းလိုက်ပေး၏။

ထို့နောက် ဆရာတော်သည် မိမိနှင့် ရင်းနှီးသော ဆရာတော်များ၊ မိမိ လေးစားကြည်ညိုရသော ဆရာတော်များ ပွဲသို့သွား၍ နှုတ်ဆက် ညှော့်ခံတော်မူ၍၊ ပွဲတစ်ပွဲတွင်မူ အတူ ဝင်ထိုင်၍ အလ္လာပ သလ္လာပ စကားများ ပြောနေတော်မူခဲ့သည်။

[ထိုအခိုက်တွင် ဓာတ်ပုံဆရာက ရုတ်တရက် ရိုက်ယူနိုင်ခဲ့သဖြင့် ထိုဓာတ်ပုံကို ယခု တင်ပြပါသည်၊ (မန္တလေးမြို့၊ တိုင်းချစ်ဓာတ်ပုံတိုက်မှ ဦးအုန်းဖေ ရိုက်ယူလိုက်သောပုံ ဖြစ်သည်)။]

## မထေရ်ကြီး လေးပါး



ဆွမ်းဘုဉ်းပေးတော်မူကြပြီးနောက် ဆက်လက်၍ အချိုပွဲ ဘုဉ်းပေးနေတော်မူကြစဉ်-

၁။ အမရပူရမြို့၊ အောင်ခြင်းရှစ်ပါးကျောင်းတိုက် ဆရာတော်ကြီး ဦးနာဂဝံသ (လက်ဝဲဘက်ပိုင်းမှ မျက်မှန်နှင့် ဆရာတော်)

၂။ အမရပူရမြို့၊ တူမောင်းကျောင်းတိုက်မှ ဆရာတော်ကြီး ဦးတိက္ခ (လက်ဝဲဘက်ပိုင်းမှ နောက်ကျောပေး၍ ဘုဉ်းပေးနေသော ဆရာတော်)

၃။ အမရပူရမြို့၊ တူမောင်းကျောင်းတိုက်မှ ဆရာတော် ဦးဣန္ဒက (လက်ယာဘက်ပိုင်းမှ ကိုင်းပန်းကန်ကို ကိုင်လျက်နေသော ဆရာတော်)

၄။ အမရပူရမြို့၊ မင်္ဂလာတိုက်ဟောင်း ကျောင်းတိုက်မှ မိုးကုတ် ဆရာတော်ကြီး ဦးဝိမလ (လက်ယာဘက်ပိုင်းမှ နေ၍ ညှော့်ခံနေသော ဆရာတော်။)

## နောက်ဆုံး ပျပ်ဝပ်ကန်တော့ခြင်း

ဆရာတော်ဘုရားကြီးများ လက်ဖက်ရည် အချို ပွဲမှ ထခါနီးတွင် ဆရာတော် ဦးဝိမလက ယော်စဥ်မှစ၍ အစ်ကိုကြီးပမာ တစ်ဘဝလုံး ဆုံးမသွန်သင်လာခဲ့သော အောင်ခြင်းရှစ်ပါး ဆရာတော်ဘုရားကြီး ဦးနာဂဝံသ၏ ခြေဖမိုးကို နဖူးဖြင့် တိုက်ပြီး ပုပ်ပျပ်ဝပ်ဝပ် ကန်တော့ပါ သတတ်။ နှုတ်မှလည်း–

"အရှင်ဘုရားကို အခုလို ကန်တော့ခြင်းဟာ တပည့်တော်အတွက် နောက်ဆုံး ကန်တော့ခြင်း ဖြစ်ပါလိမ့်မယ် ဘုရား"

ဟူ၍လည်း လျှောက်ပါသေးသတတ်။ ဤသို့ လျှောက်ထားသည်ကိုလည်းကောင်း၊ ပျပ်ပျပ်ဝပ်ဝပ် ကန်တော့သည်ကိုလည်းကောင်း အနီးရှိ ရဟန်းပုဂ္ဂိုလ် လူပုဂ္ဂိုလ်တို့ပင် ကြားလိုက်ကြရ မြင်လိုက်ကြရသည် ဟူ၏။

အများအားဖြင့် ထုံးစံအတိုင်း ငယ်သူက ကြီးသူကို ကန်တော့သည်ဟု ထင်ကောင်းထင်ကြပေမည်၊ သို့ရာတွင် ဆရာတော် ဦးဝိမလအတွက်ကား ထိုသို့ မဟုတ်ချေ၊ လေးလေးနက်နက် အဓိပ္ပာယ်ရှိစွာ ကန်တော့ခြင်းပင် ဖြစ်ပေသည်။

## နှုတ်ဆက်၊ ညှော်ခံ၊ လိုက်ပို့

မင်္ဂလာတိုက်ဟောင်း မိုးကုတ်ကျောင်းကြီးပေါ်တွင် သံဃာတော်များအား လှူရန် လှူဖွယ်တို့ကို ပြင်ဆင်ထားကြ၏၊ သံဃာ (၁)ပါးလျှင် သင်္ကန်းဒွိစုံ၊ ထီး၊ ဖိနပ်၊ စောင်၊ ခြင်ထောင်၊ အိပ်ရာခင်း၊ မျက်နှာသုတ်ပုဝါ၊ ဖောင်တိန်၊ ခဲတံ၊ ဗလာစာအုပ်၊ ဆပ်ပြာခဲ၊ ဆပ်ပြာအုပ်၊ သွားတိုက်ဆေး၊ သွားပွတ်တံနှင့် အခြားအဖိုးတန်ပစ္စည်းများ ဖြစ်ကြ၏။

ဆွမ်းဘောဇဉ်များ ဘုဉ်းပေးပြီးကြသောအခါ အသီးသီး ပြန်လည် ကြွတော်မူကြသည်၊ ထိုအခါတွင်မှ လှူဖွယ်တို့ကို ကပ်လှူလိုက်ကြသည်၊ လေးစားအပ်သော ဆရာတော်ကြီးများဆိုလျှင် မိုးကုတ်ဆရာတော် ဦးဝိမလ ကိုယ်တိုင်ပင် ယူ၍ ကပ်လိုက်၏။

ထို့နောက် မိမိထက် သက်တော်ကြီး သိက္ခာတော်ကြီးတော်မူကြသော ဆရာတော်ဘုရားကြီးတို့ကို လက်အုပ် ချီ၍ ဦးညွှတ်လိုက်၏၊ ပြီးမှ ကျောင်းပေါ်ကနေ ကျောင်းအောက် မော်တော်ကားနားအထိ လိုက်လံ ပို့ဆောင် နှုတ်ဆက်သည်။

နောက်ထပ် ကျောင်းပေါ်မှ ဆင်းကြွလာသော သက်တော်ရှည် မထေရ်ကြီးတို့ကိုလည်း အသီးအသီး နှုတ်ဆက်၊ မော်တော်ကားနားအထိ လိုက်ပို့တော်မူသည်၊ ဤသို့လျှင် အလှူပွဲ မနက်ပိုင်းတွင် မိုးကုတ် ဆရာတော်ကြီး ကိုယ်တိုင် ကြွရောက်အားပေး၊ ညှော်ခံ၊ နှုတ်ဆက်တော်မူသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ခန္တာဝန်ကြီးကဖြင့် လေးလှပြီ (နေမြင့်ပိုင်း အခြေအနေ)

မင်္ဂလာကျောင်းတိုက်ဟောင်း မိုးကုတ်ကျောင်းကြီးပေါ်တွင် နံနက်ပိုင်း ဆွမ်းကပ်ပွဲကြီး ပြီးလေပြီ၊ အနည်းငယ်ပင် နေမြင့်လာလေပြီ၊ ဧည့်ခံမှုကိစ္စများ ပြီးစီး၍ ဆရာတော်က ဦးလှဘူးကို ခေါ်ပြီးလျှင် မင်္ဂလာ မဂ္ဂင်ရိပ်သာဘက်သို့ ပြန်လာခဲ့သည်။

ဆရာတော်က မင်္ဂလာမဂ္ဂင်ရိပ်သာဝင်ခါနီးတွင် "ငါ့ခန္တာဝန်ထုပ်ကြီးကဖြင့် လေးလှပြီ"ဟု ညည်းတွားတော်မူ၏၊ ဦးလှဘူးက ထိုစကားကို နားမလည်၊ သို့ဖြစ်၍–

"ဆရာတော် အမိန့် ရှိတာကို တပည့်တော်ဖြင့် နားမလည်ပါဘူး"ဟု လျှောက်လေရာ ဆရာတော်က–

"မင်း တယ်... အ–တဲ့ ကောင်ပဲ"

ဟု မိန့်တော်မူ၏၊ ပြီးလျှင် ထေရာသနကျောင်းပေါ်သို့ တက်သွားတော့သည်၊ ကျောင်းပေါ်ရောက်မှ–

"မောင်လှဘူး၊ သွား– တင်လှ ခေါ်ချေစမ်း၊
ကော်ဖီလဲ တစ်ခါတည်း ဖျော်ခဲ့–လို့"

မိန့်တော်မူသဖြင့် ဦးလှဘူးသည် ဒေါ်တင်လှထံ သွားရောက် ပြောရ၏။ ဒေါ်တင်လှနှင့် သီလရှင် ဒေါ်ကုမာရီတို့ မကြာမီ ရောက်လာ ကော်ဖီကပ်ကြ၏၊ ဆရာတော်ကြီးက ဘုဉ်းပေးရင်း မိန့်သည်–

"ကော်ဖီ သောက်လို့ အဆင်ပြေတယ်၊ ကော်ဖီ သောက်လို့ အဆင်ပြေတာ ၂–ခါ ရှိပြီ။

ဟိုတစ်ခါ မိုးကုတ်သွားတုန်းက ဝါးဖြူတောင် အလုပ်သမားစခန်းမှာ ကော်ဖီကပ်တုန်းက တစ်ခါ၊ အခု တစ်ခါ"

## ထူးဆန်း အံ့သြဖွယ် အဖြစ်

ဆွမ်းဆက်ကပ်ရန် စီစဉ်ထားသော နေရာမှာ ရှေ့တွင် တွေ့ရမည့် ရွှေညောင်ပင်စခန်း ဖြစ်၏၊ ထိုစခန်းသို့ နောက်ထပ် (၁)နာရီဖြင့် မရောက်နိုင်ပါ၊ ဘယ်နည်းနှင့်မှ ဆရာတော်ကြီးအား အချိန်မီ ဆက်ကပ်၍ မဖြစ်နိုင်တော့ပါ၊ ခက်ပြီ၊ ဘယ့်နှယ်လုပ်ကြမလဲ။

သို့ဖြစ်၍ "ဆရာတော်ဘုရားကြီးအား ရည်မှန်း၍သာ လှူဒါန်းဆက်ကပ်ကြတော့မည်"ဟု တိုင်ပင်ကြကာ ဝါးဖြူတောင် အလုပ်သမားစခန်းမှာပင် ပြင်ဆင်ကြတော့၏။

ထိုသို့ ပြင်ဆင်နေဆဲတွင် "ဘွား"ခနဲ ဆရာတော်ဘုရားကြီးတို့ကားက နောက်မှ ပေါက်လာတော့သည်၊ အံ့အားသင့်ကြရတော့၏၊ အလွန့်အလွန် ဝမ်းသာသွားကြရတော့သည်၊ သို့ဖြစ်၍ ချက်ချင်းပင် အချိန်မီ ဆက်ကပ်နိုင်တော့၏။ ထူးဆန်း အံ့သြဖွယ်။

ဟုတ်ပါသည်၊ ၁၃၂၁–ခုနှစ် တပေါင်းလကုန်ခါနီး ဆရာတော်ဘုရားသည် မန္တလေးမှ မိုးကုတ်မြို့သို့ ထုံးစံအတိုင်း အလှည့်ကျ၍ ကြွတော်မူသည်၊ မိုးကုတ်မြို့မှ ဦးနိုင်တို့အဖွဲ့က လာ၍ ပင့်ကြ၏၊ မန္တလေးမှ ဒကာ ဒကာမတို့ကလည်း လိုက်၍ ပို့ကြသည်။

လမ်းတွင် ဆရာတော်ကြီးအတွက် ဆက်ကပ်ဖို့ ဆွမ်းဘောဇဉ်နှင့် ကော်ဖီတို့မှာ ကျောင်းအမ ဒေါ်တင်လှ ဒေါ်စန်းတို့ကားပေါ်မှာ ဖြစ်၏၊ အရှိန်ကောင်းကောင်းနှင့် မောင်းနှင်နေခဲ့ရာ ဒေါ်တင်လှတို့ကားမှာ ရုတ်တရက် စက်ချွတ်ယွင်းသွား၏၊ ရပ်၍ ပြင်နေရတော့သည်။

အတန်ကြာအောင် ပြင်ဆင်ရ၏၊ ပြီးမှ အတင်းမောင်းနှင်၍ လိုက်သော်လည်း ရှေ့က သွားနှင့်သော ဆရာတော်ကြီးတို့၏ ကားကို မမီနိုင်အောင် ဖြစ်တော့သည်၊ ဝါးဖြူတောင် အလုပ်သမားစခန်းသို့ ရောက်သော အခါ နံနက် (၁၁)နာရီပင် ထိုးနေပြီ။

## မည်သူတွေက မည်သို့ဖန်သလဲ

အဖြစ်အပျက်မှာ အံ့သြဖွယ် ဖြစ်၏၊ ဆန်းကြယ်၏၊ မယုံကြည်နိုင်စရာ ဖြစ်သည်၊ ဆရာတော်ဘုရားကြီးတို့ ကြွလာပုံကို နားမလည်နိုင်အောင် ဖြစ်ရတော့၏၊ ရှေ့က ကြွနှင့်ပါလျက် ယခုမှ နောက်က ပေါ်လာသည်၊ သို့ဖြစ်၍ ဦးနိုင်အား ဝိုင်း၍ မေးကြသောအခါ ရှင်းပြ၏–

"ဒီကားဟာ မန္တလေး–မိုးကုတ်လမ်းမှာ သွားနေကျပဲဗျ၊ ဒါပေမယ့် ဘယ်လို ဖြစ်သွားတယ် မသိဘူး၊ လက်ပံလှလမ်းခွဲမှာ မျက်စိမှောက်ပြီး မိုးကုတ်လမ်းသို့ မလိုက်ဘဲ စဉ့်ကူးလမ်းကို လိုက်သွားမိတယ်ဗျ။

စဉ့်ကူးရောက်မှ လမ်းလွဲမှန်း သိတယ်၊ အဲဒီက တစ်ခါ ပြန်လှည့်၊ လက်ပံလှပြန်ရောက်၊ အဲဒီနောက်မှ မောင်းလာရလို့ အခုလို နောက်ကျသွားရတာပဲ၊ ကျွန်တော်တို့လဲ "ရွှေညောင်ပင်စခန်း"ကို မီတော့မှာ မဟုတ်ဘူး–လို့ စိတ်ပူနေမိတာ၊ အခုလာပြီး အဆင်ပြေနေတယ်။"

ဤသို့ ရှင်းပြပါသည်၊

အကယ်၍ မျက်စိမမှောက်လို့ စဉ့်ကူးမရောက်လျှင် ရွှေညောင်ပင်စခန်းသို့ အရောက်သွားနှင့်မည်၊ သွားနှင့်လျှင် ဆွမ်းဘောဇဉ်တို့ မမီနိုင်အောင် ဖြစ်ရပေတော့မည်၊ ယခု မီဖို့ ဖြစ်ပေးရသည်။ မည်သူတွေက မည်သို့ ဖန်လေသနည်း။

ထိုအချိန်တုန်းက ကော်ဖီဘုဉ်းပေးခဲ့ရသည်ကို ရည်ရွယ်၍ ဆရာတော်ကြီးက မိန့်တော်မူခြင်း ဖြစ်ပေသည်။

## ရုပ်လက္ခဏာတော် ညှိုးနွမ်းနေ

ယခု ကျောင်းအမ ဒေါ်တင်လှနှင့် ဒေါ်ကုမာရီတို့ ဆက်ကပ်သော ကော်ဖီကို ဘုဉ်းပေးပြီးချိန်တွင် ဆရာတော်ကြီး၏ ရုပ်လက္ခဏာမှာ ညှိုးနွမ်းနေသည်ကို တွေ့ရ၏၊ သို့ဖြစ်၍ ကျောင်းအမ ဒေါ်တင်လှက–

"နေမကောင်းဘူးလား ဘုရား"

ဟု မေးလျှောက်ကြည့်ရာ–

"ကောင်းပါတယ်၊ ဟိုမှာ သံဃာအပါး (၂၀၀) လောက် ဆွမ်းကျွေးတာဆိုတော့ ဟင်းနံ့တွေနဲ့ စားချင်စိတ် မရှိတော့ဘူး၊ ပင်ပန်းလာတယ်"

ဟု မိန့်တော်မူ၏၊ ထို့နောက် ဆရာတော်ကြီးက ကျောင်းအမ ဒေါ်တင်လှကို မေးသည်–

"တင်လှ နှင့် အိပ်မက်များ ဘာ ထူးထူး ထွေထွေ မက်သလဲ"

မမေးစဖူး မေးခွန်းမျိုးကို မေးတော်မူနေ၏၊ ဒေါ်တင်လှကလည်း ကောက်ကာ ငင်ကာ မက်သည့် အတိုင်း လျှောက်လိုက်သည်–

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ထူးဆန်းသော အိပ်မက်

"တပည့်တော်မ သီတင်းကျွတ် လပြည့်ကျော် (၁)ရက်နေ့က မက်တယ် ဘုရား၊ ဒီရိပ်သာထဲမှာ မြေပေါက် စေတီကြီးတစ်ဆူ ကြည်ညိုဖွယ်ရာ ဖူးတွေ့ရတယ် ဘုရား။

ဒီစေတီတော်ကြီးအခြေမှာ ဆရာတော်က ထိုင်ပြီး တရားအားထုတ်နေတာလဲ တွေ့ရတယ် ဘုရား။

နောက်တော့ ဒီစေတီကြီးရဲ့အထက်နားဖောင်းရစ်က တဖြည်းဖြည်း အက်–အက်လာပြီး မီးခိုးအဖြူတွေ ထွက်လာတယ် ဘုရား။

အဲဒီမီးခိုးတွေဟာ နောက်တော့ များ–များလာပြီး စေတီကြီးက ဆရာတော်အပေါ် ပြိုကျသွားပါတယ် ဘုရား။

ဒါပေမယ့် ဆရာတော်ကို ဘာမျှ မထိခိုက်ဘဲ စောစောက ပုံအတိုင်း ထိုင်လျက်သား တရား အားထုတ်နေတာကိုပဲ တွေ့ရတယ် ဘုရား"

ဟူ၍ လျှောက်လိုက်၏၊ ထိုအခါ ဆရာတော်က ပြုံးပြုံးကြီးနဲ့ မိန့်တော်မူ၏ –

"ဟ– တင်လှရ၊ နင့်အိပ်မက်က တယ် စင်းလှပါလား၊ ပုဗ္ဗနိမိတ်ဆိုတာ ဒီလိုပဲ ဖြစ်ပေါ်စမြဲ၊ ငါလို ခံနိုင်ရည်ရှိအောင် တရားကိုသာ နာနာအားထုတ်ကြ"

ဟူ၍ မိန့်တော်မူသည်၊ "ငါလို ခံနိုင်ရည် ရှိအောင်" ဆိုတာ ရရှိထားသော ဓမ္မများ မပျက်ပြားအောင်၊ ခံနိုင်ရည် ရှိအောင်–ဟု ဆိုလိုဟန် တူပါသည်။

## အခြေအနေတွေ ပြောင်းလွဲလာ (နံနက် ၁၁–နာရီ အခြေအနေ)

ပက်လက် ကုလားထိုင်ပေါ်တွင် နောက်ကျောခင်း နောက်ဘက်ကို မှီပြီး သီတင်းသုံးရင်း အနီးသို့ ရောက်လာသော ယောဂီတို့အား တရားစကား ပြောကြားနေ၏၊ ဆရာတော်ဘုရားကြီးက အချိန်တိုင်းလိုလိုပင် တရားနှင့်စပ်သော စကားများကိုသာ အပြောများလေ့ ရှိသည်။

ထို့နောက် အနီးတွင် ရှိသော ဦးသာဆိုင်အား "မောင်အေးမောင်ကို ခေါ်ပေးစမ်းပါ၊ ပီးတော့ မောင်ကျော်သိန်းကိုလဲ ခေါ်ခဲ့"ဟု မိန့်တော်မူသဖြင့် ဦးသာဆိုင် ထွက်သွားရ၏။

ဆရာတော်ကြီး၏ တရားပွဲတိုင်းတွင် အသံချဲ့စက် ပြင်ဆင်ပေးရ အသံဖမ်းပေးရသော ကိုအေးမောင် ရောက်လာသည်၊ ဆရာတော်ကြီးက–

"မောင်အေးမောင် ဒီနေ့ ၁၂–နာရီမှာ ကထိန်တရား ဟောစရာ ရှိတယ်၊ အသံချဲ့စက်တွေ ပြင်ဆင်စမ်းသပ်ထား၊ ဦးသာဆိုင်တို့လဲ ဝိုင်းဝန်းကူညီလိုက်ကြစမ်းပါ"

ဤသို့ အမိန့်ရှိတော်မူပြီးနောက် အနီးရှိ ပရိသတ်တို့ကို အပါးမှ ဖယ်ရှားစေတော်မူသည်၊ "ကဲ သွားကြ သွားကြ၊ ကိုယ့်တရားကိုယ် အားထုတ်ကြ"၊ ဆရာတော်၏ အနီးတွင် ကျောင်းဒကာ ဦးကျော်သိန်းတစ်ယောက်သာ ကျန်တော့၏၊ ထိုအခါ ဆရာတော်က–

"မောင်ကျော်သိန်း... မင်း ငါ မရှိတဲ့နောက် တရားကို ဆက်လက် အားထုတ်ပါ၊ အရောင်းအဝယ်ကို လုံးဝ မလုပ်ပါနဲ့တော့၊ စားလောက်ရုံတော့ ရှိကြတာပဲ"

ဟု မိန့်သဖြင့် ဦးကျော်သိန်းက အရဲစွန့်ပြီး လျှောက်တော့သည်၊

"အရှင်ဘုရား... ဘယ်တော့ ရန်ကုန် ကြွမလဲ ဘုရား"

"ငါ ဘယ်သွားမယ် ဘာလုပ်မယ်ဆိုတာ ငါ့ ခန္ဓာက ပြောပါလိမ့်မယ်ကွာ-၊ မင်း ငါ ပြော တာသာ နားထောင်၊ ငါ အခု တယ် နေ မကောင်းဘူး"

ကျောင်းဒကာ ဦးကျော်သိန်းက-

"ဒါဆို တပည့်တော် မန္တလေးသွား၊ ဆရာဝန် ပင့်မယ် ဘုရား"

"ကိစ္စ မရှိပါဘူးကွာ၊ အခိုး နည်းနည်း ငုပ်သွား တာပါ"

ဟု မိန့်နေ၏၊ သို့သော်လည်း ဦးကျော်သိန်းက ထပ် ကာ၍ လျှောက်ပြန်၏-

"ဆရာဝန် သွားပင့်မှ ကောင်းမယ် ထင်တယ် ဘုရား"

"အေး... မင်းက ဆရာဝန် သွားပင့်ချင်တယ် ဆိုရင်လဲ (၁)ချက်ခွဲပြီးမှ သွားပင့်"

ဟု အမိန့်ရှိပြီးလျှင် ပက်လက်ကုလားထိုင်ပေါ်တွင် နောက်ကို မှီ၍ မှေးနေတော့၏။

## ပူပင်သောက ဓာတ်လမ်းစကြရပြီ

ကျောင်းဒကာ ဦးကျော်သိန်းသည် ကျောင်းပေါ်မှ ခပ်သုတ်သုတ် ဆင်းပြေးလာ၏၊ "ဆရာတော်၏ ကျန်းမာရေးကို မလွှန်ခင်က ကုသပစ်မှ ဖြစ်မည်၊ လွှန်ပြီးမှ ကုသရတာက မလွယ်ဘူး"ဟု အပြေးအလွှား စိတ်ကူးလာခဲ့သည်။

မိမိတို့ ဇရပ်ရောက်သောအခါ (မြန်အောင်) ဦးတင်၊ (ကျားပျံ) ဦးသန်းမောင်၊ အမရပူရ ဦးကြွယ်တို့အား ဆရာတော်၏ ကျန်းမာရေး အခြေအနေကို အရေးတကြီး ပြောပြတိုင်ပင်ရ၏။

လူကြီးများအားလုံးကပင် "ဆရာဝန် စောစော ရောက်ထားရင် ကောင်းပါတယ်"ဟု အကြံပေးကြ၏၊ သို့ဖြစ်၍ ဆရာတော့်အား ထပ်မံ လျှောက်ထားရန် ကျောင်းပေါ်သို့ ပြန်တက်သောအခါ ဒေါ်တင်လှ ဆက်ကပ်သော စွပ်ပြုတ်ဘုဉ်းပေးနေသည်ကို တွေ့ ရ၏၊ နံနက် ၁၁-နာရီ ၅-မိနစ် ရှိချေပြီ။

သို့နှင့် လျှောက်ထားမနေတော့ဘဲ ကိုချစ်စိန်နှင့် မောင်တင်အောင်ကို အဖော်ခေါ်၍ ဒေါက်တာဆိုနီကို ပင့်ရန် ကားဖြင့် ခပ်သွက်သွက် မန္တလေးသို့ ထွက်သွား ကြတော့သည်၊ မန္တလေးနှင့် အမရပူရ (၇)မိုင် ဝေး၏၊ မန္တလေးသို့ ရောက်သောအခါ (၁၁)နာရီခွဲလေပြီ။

ဆရာဝန်ကြီးကို အကျိုးအကြောင်း ပြောပြ၍ ပင့်ခဲ့ရ၏၊ အပင့်လာစဉ်တုန်းက ဆရာတော်ဘုရားကြီး ဝေဒနာပြင်းထန်လွန်း၍ မဟုတ်ပါ၊ ကြိုတင်ကာကွယ် လို၍သာ ဖြစ်ပါသည်။

## ဖိစီးသောဝေဒနာ ပေါ်ပေါက်လာ (နံနက် ၁၁-နာရီ ၃၀-မိနစ်)

စွပ်ပြုတ်ဘုဉ်းပေးပြီးနောက် အနီးသို့ ရောက် လာကြသော ကျောင်းအမ ဒေါ်တင်လှနှင့် ယောဂီ တစ်စုတို့အား တရားနှင့်စပ်သော သြဝါဒစကား မြွက် ကြားနေတော်မူခိုက် ဖြစ်၏၊ အချိန်မှာ ၁၁-နာရီခွဲခန့် ရှိနေပြီ၊ မန္တလေး၌ ဆရာဝန်ကြီးကို ပင့်နေခိုက် ဖြစ် သည်။

ထိုအချိန်တွင် ဆရာတော်ဘုရားကြီးမှာ ဖိစီးနှိပ်စက်သော ဝေဒနာ ရုတ်တရက် ပေါ်လာလေတော့သည်၊ မသက်သာသော အမူအရာ လက္ခဏာများ ပြနေ၏။

ထို့ကြောင့် ကျောင်းအမက ခပ်သုတ်သုတ် ဆင်းပြေးပြီး ဓမ္မာရုံကြီးပေါ်တွင် ရှိသော ဦးသစ်နှင့် အမျိုးသားယောဂီလူကြီးများကို အမြန်ခေါ်ရတော့၏၊ လူကြီးများ လိုက်လာ ဝိုင်းအုံပြုစုကြသည်။

အမရပူရ ဦးကြွယ်ကလည်း ဆရာတော် သုံးစွဲနေကျ ရှမ်းကလေးကျွန်းမှ လက်နှိပ်သည်ဆရာကြီး ဦးထူးကို ချက်ချင်း အခေါ်ခိုင်းလိုက်၏။

ဆရာတော်က (ကျားပုံ) ဦးသန်းမောင်ကို လှမ်းကြည့်ပြီး–

"ဦးသန်းမောင်... ဝမ်းချုပေးစမ်းဗျာ၊ ခန္ဓာဝန်ကြီးကလဲ တယ်... လေးတာပဲ"

ဟု မိန့်တော်မူ၏၊ ဤသို့ ညည်းညူပြီးလျှင် အိပ်ခန်းတွင်းသို့ ဝင်သွားတော်မူ၏။ [ဆရာတော့်ကျိန်းစက်ရာ အိပ်ခန်းကို ထေရာသနကျောင်းဆောင်တော် အရှေ့တောင်ထောင့်တွင် အခန်းဖွဲ့ပြုလုပ်ထားသည်။]

ဆရာတော်၏ တောင်းဆိုချက်အရ ဦးသန်းမောင်ကလည်း ကိုတင်ငွေအား ဝမ်းချုကိရိယာ အမြန်အယူခိုင်းပြီး ဝမ်းချုပေးရလေသည်။

ဆရာတော်၏ ကုဋီခန်းသည် အိပ်ခန်းနှင့် ကပ်လျက် တွဲစပ်ပြီး၊ အိပ်ခန်း၏ တောင်ဘက် အနိမ့်ပိုင်းတွင် ပြုလုပ်ထား၏၊ ဝမ်းချုပြီးနောက် ကိုယ်တိုင် ထ၍ ကုဋီအနိမ့်ခန်းသို့ ဆင်းသည်၊ ဘေးမှ ဝိုင်းဝန်းကူညီ ဖေးမကြသည်ကို လက်မခံ၊ တစ်ပါးတည်း ကုဋီခန်းသို့ ဝင်သည်။

ဆရာတော်၏ အနေအထားမှာ အသွားအလာ မပျက်၊ စကားပြော မပျက်၊ အသံလည်း မပျက်ပါ၊ ခိုင်မာလျက်ပင် တွေ့ကြရ၏။

## နေ့လယ် ၁၂–နာရီခန့်အချိန်

မန္တလေးမှ ဒေါက်တာ ဆိုနီကို ပင့်ပြီး ပြန်လာကြရာ (၁၂)နာရီကျော်ကျော်လောက်တွင် အမရပူရမြို့အဝင် (မြောက်ဖျား)သို့ ရောက်လာကြ၏။

ဆရာဝန်အပင့်သွားသူများ မန္တလေးမှ ပြန်မလာနိုင်ကြ၍ စိတ်အရေးကြီးပြီး နောက်ထပ် ကားတစ်စီးဖြင့် (မြန်အောင်) ဦးတင်က လိုက်လာ၏၊ ကားချင်းဆုံမိကြသည်–

"ဆရာတော်၏ ဝေဒနာမှာ စိုးရိမ်ရတယ်၊ အရေးကြီးတယ်၊ မြန်မြန်လာပါ"

ဟု ပြောပြီးလျှင် ဆရာဝန်ကို သူ့ကားပေါ်သို့ ပြောင်းတင်၏၊ ပြီးလျှင် အမြန် ပြန်လှည့်မောင်းထွက်ခဲ့ကြတော့သည်။

ထိုသို့ အရေးကြီးရသည့်အထဲတွင် မီးရထားသံလမ်းကို ဖြတ်ကျော်ရသော ဂိတ်ဝ အရောက်တွင် မီးရထားလာချိန်နှင့် တိုက်ဆိုင်နေ၏၊ သို့ဖြစ်၍ တံခါးကိုပိတ်ထားကြသည်။

ဤအချိန်တွင် မိနစ်ပိုင်းတောင် နောက်ကျမခံနိုင်အချိန်ဖြုန်းမခံနိုင်ပါ၊ သို့ဖြစ်၍ ဂိတ်စောင့်ကို ပြောပြေဆိုဆို တောင်းတောင်းပန်ပန်နှင့် ဂိတ်တံခါးကို ဖွင့်အတင်း ဖွင့်ခိုင်းရ၏၊ မိမိတို့ပါ ကူညီ အတင်း ဖွင့်လျှင် မီးရထားလာနေသည်ကို မြင်နေပါလျက် မီးရထားရှေ့က အတင်းအမြန်ဖြတ်မောင်းလာခဲ့ကြတော့သည်။

## ဆရာဝန်ကြီး ရောက်လာပြီတဲ့

ယောဂီတို့သည် "ဆရာဝန်ကြီး ရောက်လာပြီတဲ့" ဆိုသည်ကို ကြားလိုက်ရ၍ တအား တက်ကြရ၏၊ လှုပ်လှုပ်ရွရွ ဖြစ်လာကြသည်၊ ဒေါက်တာ ဆိုနီသည်လည်း ရောက်လျှင် ရောက်ချင်း ရောဂါဝေဒနာကို **စမ်းသပ်၏၊ စစ်ဆေး၏၊** အခြေအနေကို သုံးသပ်၏၊ ပြီးလျှင် လိုအပ်သော ဆေးတို့ကို ထိုးနှံပေးသည်။

ထို့နောက် ဒေါက်တာဆိုနီကပင် "မန္တလေးမြို့၊ ပြည်သူ့ဆေးရုံကြီးမှ ဆေးရုံအုပ် ဆရာဝန်ကြီး စောမြအောင်"ကို ထပ်မံ အပင့်ခိုင်း၏။

ထိုအခါ အနီးတွင်ရှိသော မန္တလေးတက္ကသိုလ်မှ ပါမောက္ခ ဦးနက်နှင့် ဇနီး ဒေါ်သာယုတို့က "ဒီကိစ္စ သူတို့ တာဝန်ယူပါရစေ" ဆိုပြီး (၁၂)နာရီခွဲအချိန်တွင် သွားရောက်ပင့်ပေးကြ၏၊ ဆရာဝန်ကြီး စောမြအောင် ရောက်လာသည်။

ဆရာဝန်ကြီးစောမြအောင်သည် ပစ္စည်းကိရိယာ အစုံအလင်၊ ဆေးပစ္စည်း အစုံအလင်ဖြင့် ယူလာပြီး ဒေါက်တာ ဆိုနီနှင့် ညှိနှိုင်းတိုင်ပင်၍ ကုသနေကြပါသည်။

ရှမ်းကလေးကျွန်းမှ လက်နှိပ်ဆရာကြီး ဦးထူးကား ဤအချိန်သည် ချိုးနှိပ်ရန် အချိန်မဟုတ်တော့၍ ဝေယျာဝစ္စမျှသာ ပြုစုနေရတော့သည်။

## ဝိုင်းဝန်းစုရုံးနေကြပြီ (နေ့ ၁–နာရီခန့် အခြေအနေ)

အချိန်ကား နေ့ (၁)နာရီခန့် ရှိနေပြီ၊ စိုးရိမ်တကြီးဖြင့် အနီးသို့ သံဃာတော်များ ရောက်လာကြ၏၊ ဦးပဏ္ဍိတ၊ ဦးဇောတိကကြီး၊ ဦးကုဏ္ဍလနှင့် မင်္ဂလာတိုက်ဟောင်းမှ အခြား သံဃာတော်များပါ ဝိုင်းအုံရောက်လာကြတော့သည်။

ထို့ပြင် အချိန်မလပ် ပြုစုစောင့်ရှောက်နေကြ**သော** ဝန်ကြီးဟောင်း ဦးအောင်ဇံဝေ၊ မြန်အောင် ဦးတင်၊ ကျားပျံ ဦးသန်းမောင်၊ အမရပူရ ဦးကြွယ်၊ ဦးသာဆိုင်၊ ဦးအောင်မြင့်၊ ဒေါ်သိန်း၊ စန်းကဖေး ဦးစောမောင်၊ ဦးဘတုပ်၊ ဦးအဝမ်၊ ဦးချစ်စိန်၊ ကိုအေးမောင်၊ ကိုတင်ငွေတို့နှင့်–

မန္တလေးမှ ဦးချစ်ဆွေ+ဒေါ်မမ၊ ဦးကျော်သိန်း + ဒေါ်တင်လှ၊ ဒေါ်စန်း၊ ဒေါ်တင်တင်၊ ပါမောက္ခ ဦးနက် + ဒေါ်သာယု၊ ဦးသစ်တို့အပြင် ရင်းနှီးသော အခြား ဒကာ ဒကာမတို့လည်း ဝိုင်းအုံလာကြ၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# အစွမ်းကုန် ကုသပါသော်လည်း

**ဆရာတော်ဘုရားကြီး အတွက်မို့ ဒုက္ခဝေဒနာတို့က သက်သာကြလိမ့်မည်ဟု မထင်လိုက်ပါနှင့်၊ လူတိုင်းကို နှိပ်စက်တတ်သူပီပီ မည်သူ့ကိုမျှမထိ၊ ကြီးငယ်ရွယ်လတ်၊ ယုတ်မြတ်မရွေး အလွတ်မပေးခဲ့၊ အရှင်သာရိပုတ္တရာကိုလည်းမညှာ၊ အရှင်မောဂ္ဂလာန်ကိုလည်းမငဲ့၊ နောက်ဆုံးတွင် ဘုရားကိုပင် ချန်၍မထား၊ သူ့အလုပ်က နှိပ်စက်ဖို့ပင်မဟုတ်ပါလား။**

ဘေးမှ ဝိုင်းဝန်း ကြည့်ရှုနေကြရသော ရဟန်းသံဃာတော်များနှင့် ဒကာ ဒကာမတို့မှာ စိတ်မကောင်းခြင်း များစွာ ဖြစ်ကြရ၏၊ ပြင်းထန် ခံခက်နှိပ်စက်နေသော ဝေဒနာကို မျှဝေခံစား၍လည်း မရ။

"ဆရာတော်ဘုရားကြီး ခံစားနေရသော ဒုက္ခဝေဒနာကို ပြောင်းရွှေ့ယူလို့ ရလျှင် ကိုယ်စား ဒုက္ခခံပေးပါရဲ့"

သို့သော် ဆရာတော်ကြီးကမူ "အသလ္လီနေန စိတ္တေန၊ ဝေဒနံ အဓိဝါသယိ" ဆိုသလို "ကြံ့ကြံ့ခိုင်သောစိတ်ဖြင့် ဝေဒနာတွေကို သည်းခံနိုင်တော်မူဟန်ရှိ၏"

ထို့ကြောင့်ပင်–

"ခန္ဓာရတဲ့သူတိုင်း ခံစားရတဲ့ဝေဒနာကို ကြည့်ထားလိုက်ကြ– ကြည့်ထားလိုက်ကြ"

ဟူ၍သာ မိန့်တော်မူနေ၏၊ ထို့နောက်တွင် အနီး၌ ရှိသော ဦးသစ်အား–

"တရားဟောဖို့အတွက် ပြင်ဆင်ပြီးပြီလား"ဟု မေးတော်မူ၏၊

* "မှန်ပါ၊ မောင်အေးမောင်တို့ ပြင်ဆင်ကြလို့ ပြီးပါပြီဘုရား၊ ဒါပေမယ့် ဆရာတော်ကိုယ်တိုင် တရားဟောဖို့ မသင့်ပါ ..."

ဟူ၍ တစ်ဆက်တည်း တားမြစ် လျှောက်ထားလိုက်သည်၊ ဆရာတော်က ကိုယ်တော်တိုင် ဟောဖို့ ရည်ရွယ်တာ ဟုတ်ဟန် မတူပါ၊ အလုပ်ကို လေးစားတဲ့အနေနဲ့ ယနေ့ လုပ်ရမည့် လုပ်ငန်းတွေ ပြီး–မပြီး မေးခြင်း ဖြစ်ပါလိမ့်မည်။

ဤမျှ ဝေဒနာတွေ ခံစားနေရဆဲ ဖြစ်၍ ကိုယ်တော်တိုင်လည်း ဟောနိုင်မည် မဟုတ်ပါ၊ မည်သူပင်ဟောဟော အသင့်ဖြစ်နေစေဖို့ သတိပေးခြင်း ဖြစ်ပါလိမ့်မည်။ ထို့နောက် ဆရာတော်ကြီးက အနီးတွင် ရှိသော စာချဘုန်းကြီး ဦးပဏ္ဍိတအား–

"မင်း ငါ့ကိုယ်စား ဓမ္မာရုံကြီးပေါ် သွားပြီး တရားဟောချေ၊ ရှော်တော်တော် မလုပ်နဲ့ ..."

ဟု စေခိုင်းတော်မူ၏၊ တစ်ဖန် ဦးကုဏ္ဍလ (စာချဘုန်းကြီး) ဘက်သို့ လှည့်ကြည့်၍ "မင်းကတော့ ရေစက် ချပေးလိုက်"ဟု တာဝန်တွေ ခွဲဝေပေးနေတော်မူသည်။

# ၂–ယောက်ပေါင်းမိရင် မမိတော့

ဆရာတော်ဘုရားကြီး၏ အခြေအနေမှာ မသေချာ မရေရာတော့ချေ၊ ဆရာဝန်ကြီးများ ကိုယ်တိုင် ပစ္စည်း ကိရိယာ အစုံအလင်ဖြင့် ညှိနှိုင်း တိုင်ပင်၍ ကုသနေသည့်ကြားက ဝေဒနာများက တက်–တက်လာကြသည်၊ ပို၍ ပြင်းထန်စွာ နှိပ်စက်နေကြတော့၏၊ ထို့ကြောင့် နောက်ထပ် ဆရာတော့်အခန်းထဲသို့ ပရိသတ်များ မဝင်လာစေချင်ကြတော့။

ထိုအချိန်မှာမှ မိုးကုတ်က ဒကာရင်း ဖြစ်သ

* **မှတ်ချက်။** ။"မောင်အေးမောင်"ဆိုတာ နောင်တစ်ချိန်တွင် (ဦးဓမ္မိဿရ) ဖြစ်လာ၏။

ဦးအောင်ချိန္ဒင့်ဦးထွန်းလှိုင်တို့ ရောက်လာ၍၊ အခေါက်ဝတွင် ကြီးကြပ်နေကြသော (ဝန်ကြီးဟောင်း) ဦးအောင်ဇံဝေနှင့် မြန်အောင်ဦးတင်တို့က အကျိုးအကြောင်း အခြေအနေကို ပြောပြ၍ "မဝင်ချင်ပါနဲ့" ဟုဆိုနေကြသည်။

ထိုအသံကို ဆရာတော်ကြား၍ "မောင်အောင်ချိ၊ မောင်ထွန်းလှိုင်တို့လားဟေ့၊ဝင်ခဲ့ကြ"ဟုခေါ်တော်မူ၏၊ သို့ဖြစ်၍ ဝင်ခွင့်ရသွားကြတော့သည် "ဘယ်သူပါသေးလဲ"ဟု မေးတော်မူ၏၊ "မလှည္ဆန့်ပါ-ပါသေးတယ်ဘုရား"ဟုနာမည်ကိုဖော်၍ လျှောက်လိုက်သည်။

"အခု သူဘယ်မှာလဲ၊ ဝင်ခဲ့လေ"ဟု ဆရာတော်က ဆက်လက်မိန့်နေပြန်၏။

"ဦးထွန်းလှိုင်၏ဇနီး ဒေါ်သိန်းနဲ့ တွေ့ကြလို့ ဒေါ်သိန်းခေါ်ရာ လိုက်သွားပါတယ် ဘုရား" ဟု လျှောက်ထားလိုက်ရာ ဆရာတော်က–

"အေး နှစ်ယောက်သား စကားကလဲ ခပ်ကြွယ်ကြွယ်၊ ပေါင်းမိရင်တော့ မမှီတော့ပါဘူးကွာ" ဟု မိန့်တော်မူပါသတတ် အသံကားမာမာပင်။

ထိုအတောအတွင်း တကာတစ်ယောက်က "ဆွမ်းဘုဥ်းပေးတော့မလားဘုရား" ဟုလာမေးရာ "ဆွမ်းတော့ဘုဉ်းပေးချင်စိတ်မရှိဘူး– ခဲဘွယ်လေးဘာလေးလောက်ဘဲ ပြင်ချင်ပြင်တာပေါ့"

"အေးမောင်ကြီး ကတော့ အသံချဲ့စက် ကြိုးတွေပြင်ဆင်နေတာဘဲ ... အေးလေ ... အကြောင်းညီညွတ်ရင်လဲ ဟောဖြစ်မှာပေါ့ – ဒါပေမဲ့ **မနေ့ကတဲ ကကြိုပြီး ကထိန်ရေစက်ချတရားလဲ ဟောပေးပြီးပြီးဘဲ**"။ (ဦးချစ်လှ+ဒေါ်သောင်း ကထိန်အလှူဖြစ်ပါသည်။)

ဦးအောင်ချိက – "တပည့်တော်လဲ ဒီမလာခင်ဘဲ ကထိန်လှူခဲ့ပါတယ်ဘုရား" ဟု လျှောက်ထားရာ

"အေးကွာ – လှူပုံလှူနည်းကို ငါသင်ပေးထားပြီးပြီဘဲ **တရားကိုဘဲ ဖိပြီးကြိုးစားအားထုတ်ပါကွာ**" လို့ အမိန့်ရှိခဲ့ပါသည်။

---

# အိုနာသေဘေးမှ မလွတ်နိုင်

အချိန်သည် တချက်ချက်နှင့် စက္ကန့်တိုင်း တရွေ့ရွေ့ ပြောင်းလွဲနေ၏၊ ဒကာ ဒကာမတို့ကလည်း စက္ကန့်တိုင်း မိနစ်တိုင်းကို စိုးရိမ်နေ ပူပန်နေကြသည်၊ သောက ရောက်နေကြရပြီ၊ ရင်တွင်း နှလုံးအိမ် ပူရှိန်နေကြပြီ၊ နှလုံးခုန်နှုန်း ကိုယ်စီ မြန်နေကြပြီ၊ သို့သော် ဆရာတော်ကြီးကမူ တည်ငြိမ်လာသလို ဖြစ်၏၊ ဆရာဝန်ကြီးများဘက်သို့ လှည့်၍–

> "ကဲ ... နောက်ထပ် ဆေးထိုးပေးစရာ ရှိသေးလျှင် မြန်မြန် ထိုးပေးကြ၊ အချိန် မရှိဘူး၊ ဆရာဝန်ကြီးတို့ ဆေးတွေလဲ ဘာမျှ တတ်နိုင်မှာ မဟုတ်ပါဘူး၊ အိုနာသေဘေးပဲ"

ဟူ၍ မိန့်တော်မူ၏၊ ထို့နောက် ဓမ္မာရုံကြီး ဒကာ ဦးချစ်ဆွေနှင့် ဒေါ်မမတို့က လူအုပ်ထဲ တိုးဝင်လာပြီး ဆရာတော်ကြီးအနားသို့ ရောက်လာကန်တော့ကြ၏–

> "မောင်ချစ်ဆွေ ဒီတစ်ခါတော့ မရတော့ဘူးကွ၊ ဟဲ့ ... မမ၊ ကြည့်ထား၊ ခန္ဓာရတဲ့သူတိုင်း ဒီလိုပဲ ဝေဒနာတွေနဲ့ တွေ့ရမယ်"

ဟူ၍ မိန့်တော်မူ၏၊ ယခင် အကြိမ်တွေတုန်းက ဦးချစ်ဆွေ+ဒေါ်မမတို့က ဆရာဝန်တွေနဲ့ ကုသပေးခဲ့၍ ရခဲ့၏၊ ယခု အကြိမ်မှာတော့ မရနိုင်ဟု ဆိုလိုရင်းဖြစ်ပါလိမ့်မည်။

ထို့နောက် အနီးတွင် ဝိုင်းအုံ လက်အုပ်ချီကန်တော့နေကြသော ရဟန်း သံဃာတော်များနှင့် ဒကာ ဒကာမတို့အား ဆုံးမဩဝါဒပေးတော်မူသည်။

မိုးကုတ်ဆရာတော်ဘုရားကြီး၏



မိုးကုတ်ဆရာတော်ဘုရားကြီး
ခန္ဓာဝန် ချသွားတော်မူ သော အိပ်ခုတင်

## နောက်ဆုံး မိန့်ဟ ဩဝါဒတော် (နေ့ ၁–နာရီ၊ ၁၅–မိနစ်)

"ခန္ဓာရှိတဲ့သူတိုင်း ခံစားရမည့် ဝေဒနာတွေကို ကျော်လွန်အောင်

(ဝေဒနာဖြစ်ပျက်တို့ရဲ့ အဆုံးကို တွေ့အောင်) ရှုကြ၊ မမေ့မလျော့နေရစ်ကြ..."

ဤသို့ နောက်ဆုံး မိန့်ဟ ဩဝါဒပေးတော်မူ၏၊ ထို့နောက် လက်ယာဘက် နံတောင်းဖြင့် စောင်းလျက် သီတင်းသုံးတော်မူပြီးလျှင် တရားနှလုံးသွင်းတော်မူ၏၊ ပရိသတ်က ငြိမ်သက်စွာ လက်အုပ် ကိုယ်စီ ချီနေကြသည်။

ဆရာတော်ဘုရား၏ ထွက်သက် ဝင်သက်တို့သည် တဖြည်းဖြည်းနှင့် နုးညံ့သိမ်မွေ့သွားကြ၏၊ ခန္ဓာကိုယ်လှုပ်ရှားမှုလည်း ညင်သာသွားသည်၊ ဤသို့လျှင် တဖြည်းဖြည်း တရွေ့ရွေ့နှင့် နုးညံ့နုးညံ့ သိမ်မွေ့သွားကြရာမှ နောက်ဆုံးတွင် လုံးဝလှုပ်ရှားမှု မရှိတော့ဘဲ ငြိမ်သက်ငြိမ်းအေးသွားတော်မူသည်၊ အချိန်ကား နေ့မွန်းလွဲ (၁) နာရီ၊ မိနစ် (၂၀) ရှိလေပြီ။

ဤသို့လျှင် တပည့်တပန်း ရဟန်းရှင်လူတို့၏ လက်အုပ် ဖူးငုံ ကြာပဒုံတို့ဖြင့် ကြည်ညိုလေးမြတ် တိတ်ဆိတ်စွာ ဦးညွတ်ကန်တော့နေကြသည်ကို ခံယူတော်မူရင်း လုံးဝ ငြိမ်သက်သွားတော်မူသည်။

"ဘာရနိက္ခေပနံ သုခံ..."

"ခန္ဓာဝန်ထုပ်ကြီးကို အပြီးအပိုင် စွန့်ချနိုင်ခြင်းသည်

အချမ်းသာဆုံး ချမ်းသာကြီးကို ရခြင်းပင် ဖြစ်တော့၏..."

ဤဒေသနာတော်အတိုင်း မိုးကုတ်ဆရာတော်ဘုရားကြီးသည် ခန္ဓာဝန် ချုပ်ငြိမ်း၍ တစ်ဘဝဇာတ် သိမ်းကာ ခန္ဓာဝန်ချတော်မူသွားပါသည်။

ကောဇာသက္ကရာဇ် ၁၃၂၄–ခု သီတင်းကျွတ်လပြည့်ကျော် ၄–ရက် (ခရစ် ၁၉၆၂–ခု အောက်တိုဘာ လ ၁၇–ရက်) ဗုဒ္ဓဟူးနေ့၊ မွန်းလွဲ (၁) နာရီ၊ မိနစ် (၂၀)အချိန်ဖြစ်သတည်း။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဆရာတော် အရှင်ဇနကာဘိဝံသ ကွယ်လွန်တော်မူခြင်း



ဆရာတော် အရှင်ဇနကာဘိဝံသ

ဤသို့လျှင် မိုးကုတ် ဆရာတော် ဘုရားကြီးက မွန်းလွဲ (၁)နာရီ မိနစ် (၂၀)အချိန်တွင် ဘဝ ချုပ်ငြိမ်း ရုပ်သိမ်းသွားသောအခါ တစ်မုဟုတ်ချင်း သတင်းတွေ ပျံ့နှံ့သွားတော့သည်၊ အရပ် ၄ မျက်နှာ၊ အရပ် ၈ မျက်နှာ၊ အရပ် ၁၀ မျက်နှာ ပတ်လုံး အုန်းအုန်း ကျွက်ကျွက် ဂယက်ရိုက်သလို ဘဝင်ခိုက်အောင် သတင်းတွေ ပျံ့နှံ့လိမ့်မည်တည်း။

ထိုအခါ တစ်မြို့တည်းနေ၊ တစ်နိုင်ငံလုံး ကျော်ကြား၊ လူသိများသော သက်တူ-ရွယ်တူ ဆရာတော် အရှင်ဇနကာဘိဝံသ မထေရ်ကြီးက သူ၏ တပည့် သံဃာတော်များကို ဤသို့ မိန့်ဆိုတော်မူပါသတတ်

"တပည့်အပေါင်းတို့... ယခု မင်္ဂလာ ကျောင်းတိုက်ကြီးမှ မင်္ဂလာ ဆရာတော်ကြီး ဦးဝိမလ ပျံတော်မူပြီတဲ့၊ သည်ဆရာတော်ကြီးဟာ ဘုန်းကြီးတို့နဲ့ သက်တူ-ရွယ်တူပဲ။

အဘိဓမ္မာ ညဝါ အကျော် ဆရာတော်ကြီး၊ တစ်နိုင်ငံလုံး နာမည် ဟည်းတဲ့ ပုဂ္ဂိုလ်ကြီး၊ သီလ-သမာဓိ-ပညာ၊ သိက္ခာ သုံးစုံ၊ ကုံလုံ ကြွယ်ဝတဲ့ အဓိကရ ဆရာတော်ကြီး။

ယခု နောက်ပိုင်းမှာ ဝိပဿနာ တရားတွေ ဟောကြားတော့လဲ ပျာပန်းခပ်သလို ကြည်ညို ဝိုင်းအုံ ပရိသတ်တွေ အများဆုံး စုံတဲ့ ဆရာတော်ကြီးပဲ၊ သူ့တရားကို အများက ကြည်ညို၊ သူ ညွှန်ကြားသလို လိုက်နာကြတယ်၊ လေးစားအပ်တဲ့ ဆရာတော်ကြီးပဲ။

အဲဒါကြောင့် သတင်း မေး သွားကြရအောင်၊ ယဉ်ကျေးတဲ့ အသိုင်းအဝိုင်း၊ အလိုက်သိတဲ့ သီတင်းသုံးဖော်တို့ ဆိုတာ ထုံးစံ ရှိတယ်၊ မေးရတယ်၊ စွမ်းနိုင်သမျှ ကူညီကြရတယ်၊ ကဲ... ကျောင်းစောင့်အဖြစ် တစ်ကျောင်းလျှင် တစ်ပါးကျလောက် ချန်ထားပြီး အကုန် သွားကြမယ်"

ဟူ၍ အမိန့်ရှိပါသတဲ့၊ ထို့နောက် ထိုနေ့ ညနေပိုင်း၌ ဆရာတော်ကြီး အရှင်ဇနကာဘိဝံသ ဦးဆောင်၍ သံဃာတော် (၅၀၀) ငါးရာခန့်မျှ သင်္ကန်းတွေ ကိုယ်စီ ရုံပြီး၊ ယပ်တွေ ကိုယ်စီ ထမ်းလို့၊ စဉ်တန်းလျက် တစ်စဉ်တစ်တန်းကြီး ကြွလာတော်မူကြပါသတတ်၊

ရောက်သောအခါတွင်လည်း ဆရာတော် အရှင်ဇနကာဘိဝံသက ဒကာ ဒကာမ အများ သောကမ မပွားဖို့ တရားဟောပါသတတ်၊ (မိုးကုတ် ဆရာတော်ကြီး ဦးဝိမလ ဆုံးမထားတဲ့ အတိုင်း) ကိုယ့်တရား ကိုယ်ထိန်း၊ အပူတွေ သိမ်းနိုင်အောင် သံဝေဂမွေ့တို့ မိန့်ဟ ဟောမြွက်တော်မူပါသတတ်။

## တစ်ဘဝသာသနာ

# ပြုံးပြုံးရွှင်ရွှင် လိုက်လျောလက်ခံ

သီတင်းကျွတ် လဆန်းပိုင်းကပင် ဖြစ်သည်၊ ကျောင်းအမကြီး ဒေါ်ဖုံ၏သား ဦးမြင့်နှင့် ဇနီး ဒေါ်သန်းသန်းတို့သည် မေမြို့၌ ကျောင်းထားသောကလေးများကို ကျောင်းပိတ်သဖြင့်သွား၍ခေါ်ခဲ့ကြ၏၊ အမရပူရ ဆရာတော့်ထံသို့လည်း ဝင်၍ ကန်တော့ကြသည်။

ဆရာတော်က ပြုံးပြုံးရွှင်ရွှင်ဖြင့် လိုက်လျောပါ၏၊ "သြော်... ကြုံတုန်း ပြောရဦးမယ်၊ ပဋ္ဌိစ္စသမုပ္ပါဒ်စက်ဝိုင်း စာရွက်ကလေးတွေ ရိုက်ပြီးပြီကွ၊ မင်းတို့လဲ ယူသွားကြ၊ မိုးကုတ်ကျတော့ ဓမ္မမိတ်ဆွေတွေကို ဝေပေး"

"ပြီးတော့ မောင်မြင့် မင်းကတော့ ပဋ္ဌိစ္စသမုပ္ပါဒ် လယ်ပုံ ပြတ်ပုံ နားလည်ပြီးပြီ၊ သန်းသန်းက ကလေးတစ်ဘက်နဲ့ ဆိုတော့ မကြေညက်သေးဘူး၊ မင်းက ရှင်းပြလိုက်၊ အခုလဲ နည်းနည်း ငါ ရှင်းပြပေးဦးမယ်၊ ကဲ ဒီနားကို လာကြ"ဟုဆိုကာ ရှင်းပြပေးပါသတတ်။

ထို့နောက် "ဆရာတော် နေကောင်းပါရဲ့လား ဘုရား၊ နည်းနည်း ပိန်သွားသလို ထင်ရတယ်"ဟု မေးလျှောက်ကြရာ "နေကောင်းပါတယ်ကွ၊ ဟို... တလောက နေတော်တော် ပူလိုက်တယ်၊ အဲဒီအရှိန်နဲ့ နည်းနည်းနွမ်းသွားရုံပါ၊ ကိစ္စမရှိပါဘူး။"

"အဲဒီရက်တွေတုန်းက မင့်အမေ မဖုံ ဒီမှာလာ တရားအားထုတ်နေတာ၊ ပူလွန်းလို့ မိတ်တွေ အဖုတွေထွက်၊ ဒါနဲ့ ငါက ပြန်လွှတ်လိုက်ရတယ်"

"တပည့်တော်တစ်ခု လျှောက်ချင်တယ် ဘုရား၊ ယခု သီတင်းကျွတ်လပြည့်ကျော် ၅–ရက်နေ့ မိုးမိတ်မြို့ နန်းဦးကျောင်းမှာ ကထိန်အလှူကြီး တပည့်တော်လှူဖြစ်ပါလိမ့်မယ် ဘုရား၊ မိုးမိတ်ရော မိုးကုတ်ရော သံဃာစုံ ကြွပါလိမ့်မယ် ဘုရား။"

"ဟယ်... မင့်အစီအစဉ်က တယ်ကောင်းပါလား" "မှန်ပါ အဲဒီရက်ပိုင်းအတွင်းမှာ ဒီအမရပူရမှာလဲ ကိုချစ်လှ+မသောင်း (ရန်ကုန် မိုးကုတ်အဖွဲ့ချုပ်၊ ယခု လက်ရှိ ဥက္ကဋ္ဌကြီး ဦးအောင်ကျော်၏ နမနှင့်ယောက်ဖ)တို့က ရှင်ပြုနဲ့ ကထိန်လှူကြမှာ။

ဒီတော့ ဒီမိသားစုတွေပဲ ကထိန်၂–ခုကို လူစုခွဲပြီး သွားကြရမှာ ဆိုတော့ နည်းနည်း ကဲ့သွားနိုင်စရာ ရှိတယ် ဘုရာ့။

အဲဒါကြောင့် ဒီအမရပူရက ကထိန်ကို ရက်ရွှေ့ပေးနိုင်မလား ဘုရား"ဟူ၍ ဦးမြင့်က လျှောက်ထားပါသတတ်။

# ဖြစ်ချင်တိုင်းလဲ မဖြစ်ရပါ

ဆရာတော်က ဘာမျှ မပြောဘဲ ငေးနေပြီးမှ "အေးကွာ... မင်းလဲ မင့်အကြောင်းသင့်အောင် စီမံပေါ့၊ ရက်ပြောင်းတဲ့ကိစ္စလဲ အကြောင်းသင့်ရင် ပြောရတာပေါ့"ဟူ၍မျှသာ မတင်မကျ မိန့်ပါတော့သတတ်။

ထို့နောက် ဆရာတော်က "အခု ငါ လမ်းတွေ ပြင်နေတယ်ကွ၊ မြို့လယ်လမ်းမကြီးကနေပြီး ကျောင်းတိုက်ဘက်ကို ခွဲထွက်လာတဲ့ လမ်းသွယ်တွေကို ပြင်နေတယ်၊ ကတ္တရာလဲ ခင်းနေတယ်" ဤသို့ စကားလမ်းကြောင်း ပြောင်းလွှဲသွားပါသတတ်။

"ကဲကဲ မင်းတို့ မပေါ့ကြနဲ့၊ ငါက လမ်းမှန်ပေါ် တင်ပေးပြီးပြီ၊ ဆက်လက် လျှောက်ဖို့က မင်းတို့တာဝန်"ဟု သတိ ပေးပြီးလျှင် ပြန်ခွင့် ပြုတော့၏၊

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ကျောင်းအမကြီး ဒေါ်ဖုံကား လူးနေတော့၏၊ "မနက်ဖြန် မင့်ကထိန်ကို ငါ မလိုက်တော့ဘူး၊ ဆရာတော် ဦးနရိန်ကို ယခုညရောက် မိုးကုတ်ကို ပြန်ပင့်၊ မနက်ဖြန် တောင်မြို့ (အမရပူရမြို့) ကို သွားကြမယ်" ဟု ပြောနေ၏၊ သူ့ဆန္ဒအတိုင်း စီစဉ် ပေးကြရလေသည်။

"သြော်... ဆရာတော်က ကထိန်ရက် ပြောင်း မပေးတာ ဒါ့ကြောင့်ကိုး" ဟု ယခုမှ သိရပါတော့၏၊ ဖြစ်ချင်တိုင်း မဖြစ်ရချေတကား။

ကျောင်းအမကြီးဒေါ်ဖုံမှာ အပူမီးတဟုန်းဟုန်း တောက်လျက် အမရပူရသို့ ရောက်လာတော့သည်၊ သောက ပရိဒေဝ ဥပါယာသတို့ ဒဏ်ချက်ဖြင့် ညက် ညက် ကြေနေပြီ၊ ကားပေါ်မှပင် မဆင်းနိုင်တော့၊ လူ တွဲဖြင့် ဖေးမလျက် တရွရွလာပြီးလျှင် ဆရာတော် ၏ ရုပ်အလောင်းကို ရှိခိုးဦးတိုက်ရင်း ပုံလျက်သား ကျ၍ သွားတော့သတတ်။

ယခု တစ်ပတ်(၄)နာရီခန့်မျှကြာအောင် လက်ခံစကား ပြော ဆုံးမသြဝါဒတွေ ပေးနေတော်မူသည်။

မိုးကုတ် ပြန်ရောက်လျှင် ကထိန်အတွက် ဆောင်ရွက်ဖွယ်တို့ကို ဆောင်ရွက်နေခဲ့၏၊ တရွေ့ရွေ့ ဖြင့် ကထိန်ရက်တွေ နီးလာပြီ၊ သို့ဖြစ်၍ ဆရာတော် ဦးနရိန္ဒလည်း ပင့် သံဃာတော်များနှင့် နေထိုင်ရေး အတွက် မိုးမိတ် နန်းဦးကျောင်းသို့ ကြွ၍ ကိစ္စအဝဝ စီမံနေသည်။

သီတင်းကျွတ် လပြည့်ကျော် ၄-ရက်နေ့ ညနေ လဲ ရောက်လာရော "အမရပူရမှာ ဆရာတော်ကြီး ဦးဝိမလ ပျံလွန်တော်မူပြီ" ဟု ကြေးနန်းစာ ဝင်လာပါ တော့သည်။

ထိုသတင်းသည် ငှက်ဆိုး ထိုးလိုက်တဲ့အသံလို ထင်လိုက်ကြရပြီးလျှင် အားလုံး အသဲတွေ အူတွေ ပြောင်းပြန် လန်ကုန်သလို ခံစားလိုက်ကြရတော့၏၊ အပူမီး ဟုန်းဟုန်းတောက်ကြပြီ။

## အမျိုးမျိုး ဝေဖန်ကြခြင်း

ဆရာတော်ဘုရားကြီး ယခုလို ရုတ်တရက် ပြောင်းလွဲသွားရသည်ကို မည်သူမျှ မယုံကြည်နိုင်အောင် ဖြစ်ကြရပါသည်၊ "ဘယ့်နှယ်... မနက်တုန်းကတောင် အလှူပွဲမှာ ဆရာတော်ဘုရားကြီးတွေကို ဧည့်ခံနေသေး၊ ဆရာတော် ဘုရားကြီးတွေကို ကျောင်းပေါ်ကနေ ကျောင်းအောက် မော်တော်ယာဉ်များအထိ လိုက်ပို့ နေပါသေးတယ်၊ ဘယ်လို ဖြစ်ရတာလဲ" ဟု အမျိုးမျိုး တွေးကြ၊ အမျိုးမျိုး စဉ်းစား နေမိကြတော့သည်၊ တချို့ကတော့လည်း-

> "ယခုလို ရုတ်တရက် ပျံတော်မူတာဟာ ဆီးချို ကြောင့်လား၊ သွေးတိုးကြောင့်လား၊ လေငန်း ရောဂါကြောင့်လား၊ သွေးကြောထဲ သွေးခဲ ပိတ် ဆို့သောကြောင့်လား၊ ဘာလား- ညာလားနဲ့ "လား" ပေါင်းများစွာ မေးခွန်းတွေ ထုတ်ပြီးလျှင် အနီးကပ် ပြုစုနေသူများကိုပင် ပေါ့လျော့သော ကြောင့်ဟု အပြစ်တင်ကြပြန်၏၊

ယခုလို တွေးကြ မေးကြ စဉ်းစားကြသည်မှာ လည်း ယခင်နှစ်တွေတုန်းက ဆရာတော်ဘုရားကြီး၌ ဤဆိုခဲ့ပြီးသော ရောဂါများ ဖြစ်ခဲ့ဖူး၏၊ ထို့ကြောင့် ဤသို့ စဉ်းစားကြခြင်း ဖြစ်သည်၊ သို့သော်-

ယခု အချိန်အခါ၌ ဆရာတော် ဘုရားကြီး၏ သွေးတိုးရောဂါနှင့် ဆီးချိုရောဂါများမှာ ပျောက်ကင်း သလောက် ရှိနေပါပြီ၊ ဆရာဝန်ကြီးများနှင့် အမြဲတမ်းလို စမ်းသပ်စစ်ဆေးနေချက်အရ သိနေရပါသည်၊ ထို့ပြင် ဆရာတော်ဘုရားကြီး၏ ဥပမိရုပ်မှာလည်း အမြဲတမ်း လန်းဆန်းကျန်းမာလျက်ပင် တွေ့နေကြရပါသည်။

### တစ်ဘဝသာသနာ

## ဈာပနကော်မတီ ဖွဲ့စည်းခြင်း

ဤသို့ ဝေဖန်ရင်း သုံးသပ်ရင်းဖြင့် တပည့် ဒကာ ဒကာမတွေ တဖြည်းဖြည်း များ၍ များ၍ လာကြသည်၊ ညနေပိုင်းသို့ ရောက်သောအခါ အရေးကြီးသော ပုဂ္ဂိုလ်များ စုံလင်သလောက် ဖြစ်လာကြ၍ "ဈာပနကော်မတီ" ဖွဲ့စည်းကြတော့၏။

အမရပူရ၊ မန္တလေး၊ မိုးကုတ်နှင့် ရန်ကုန်တို့မှ ဆရာတော်ဘုရားကြီး၏ တပည့်များ၊ ဆရာတော်ဘုရားကြီးနှင့် ရင်းနှီးသော ဒကာ ဒကာမများ စုံလင်အောင် ပါဝင်စေ၍ ဈာပနကော်မတီ ဖွဲ့စည်းကြသည်၊ ဖွဲ့စည်းပြီးပြီဆိုလျှင်ပင် ပြောဆိုပိုင်ခွင့် ရှိလာကြတဲ့အတွက် ကိုယ်ဖြစ်စေချင်တာကို လွတ်လွတ်လပ်လပ် ပြောလာကြတော့၏–

"ဒီဆရာတော်ဘုရားကြီးရဲ့ ရုပ်အလောင်းကို မီးသင်္ဂြိုဟ်ခြင်း မပြုပါနဲ့၊ ဆေးထိုးဆေးစိမ်ထားပါ"တဲ့။

အချို့ကလည်း–

"ဒီဆရာတော်ဘုရားကြီးရဲ့ ရုပ်အလောင်းကို ဆေးထိုးဆေးစိမ်ရန်ပင် မလို၊ ဒီအတိုင်းထားလည်း ပုပ်ပွနံစော်ခြင်းရှိမည် မဟုတ်ပါ"တဲ့။

ဤသို့ ပြောဆိုဝေဖန်သုံးသပ်ကြရင်း ညပိုင်းသို့ ရောက်လာသည်၊ ည ၈–နာရီခန့်ကျမှ "ဆေးထိုးထားတာကတော့ ပိုသည် မရှိနိုင်ပါဘူး"ဟု အများက သဘောတူကြလေသည်။

ယင်း သဘောတူညီချက်အရ မန္တလေး တက္ကသိုလ်မှ ပါမောက္ခ ဦးနက်နှင့် ဖနီး ဒေါ်သာယုတို့က တာဝန်ယူ၍ ဆေးသွင်းရန် စီမံကြတော့သည်၊ ထို့နောက် ည(၉)နာရီအချိန်တွင် စတင်၍ ရုပ်ကလာပ်တွင်းသို့ ဆေး စ၍ သွင်းကြလေသည်။

## အကြောင်းရင်း ပေါ်၍လာခြင်း

ပထမသော် ရုတ်တရက် ဆေးသွင်း၍ မရပါ၊ ရုပ်ကလာပ်၏ ပေါင်ရင်းမှ သွေးကြောကို ထုံးစံအတိုင်း ခွဲစိတ်လိုက်ရာ (လူကောင်းပကတိကဲ့သို့) သွေးစိမ်းရှင်ရှင် အထက်သို့ လေးလက်မခန့် ထောင်၍ ပန်းထွက်လေသည်။

ထို့ကြောင့် တအံ့တဩ ဖြစ်ကြကာ အချို့က "နေကြပါဦး၊ နေကြပါဦး၊ ဆရာတော် ပျံတော် မမူသေးဘူး ထင်တယ်၊ စမ်းသပ်ကြပါဦး"ဟု တားမြစ်ကြ၏၊ သို့ဖြစ်၍ ဆရာဝန်များက သေသေချာချာ ထပ်မံ စမ်းသပ် စစ်ဆေးကြရပြန်လေသည်၊ သို့သော် ထင်သလို မဟုတ်ကြပါ၊ ဆရာတော်ဘုရားကြီးမှာ လုံးဝ ချုပ်ငြိမ်းနေပြီဖြစ်ကြောင်း သိရလေသည်။

ထိုအခါကျမှ ဆေးများကို ဆက်လက် သွင်းရာ ဆေးများ မဝင်ဘဲဖြစ်နေ၏၊ သို့ဖြစ်၍ သွေးကြောများကို ခွဲစိတ်ရှာဖွေရာ သွေးကြောအတွင်း၌ ညိုပုပ်၍ခဲနေသော သွေးခဲများကို တွေ့ကြရလေသည်၊ ထိုသွေးခဲများကို ဖယ်ရှားပေးပြီးမှ ဆက်လက် ဆေးသွင်း၍ ရပါသည်၊ ဤနေရာတွင် ဆေးသွင်းသော ဆရာတို့က ဤသို့ မှတ်ချက်ချကြပါသတတ်–

"ဆရာတော်ဘုရားကြီး ပျံတော်မူတာဟာ သွေးကြောထဲမှာ သွေးခဲပိတ်သောကြောင့်သာ ဖြစ်တယ်၊ လွန်ခဲ့တဲ့နှစ်တုန်းက ဖြစ်ခဲ့တဲ့ လေငန်းရောဂါမှာလဲ သွေးကြောထဲမှာ သွေးခဲပိတ်မှုကြောင့်ပဲ ဖြစ်တယ်။ သို့သော် အဲဒီတုန်းက

လုံးဝပိတ်ဆို့ခြင်း မဟုတ်သေး၍ အနည်းငယ် ပါးရွဲ့သွားခြင်းသာ ဖြစ်ခဲ့ရတယ်။

ယခုအကြိမ်မှာတော့ သွေးကြောမကြီးထဲမှာ သွေးခဲ၍ အပြီးအပိုင် ပိတ်ဆို့သွားသောကြောင့် ပျံတော်မူရခြင်း ဖြစ်တာပဲ”တဲ့။

အကယ်၍ သွေးတိုး၊ ဆီးချိုရောဂါတို့ကြောင့် ဖြစ်ခဲ့ပါလျှင် အာရုံကြောများက အရင်ပျက်စီးရလို့ တရားဟောနိုင်ဖို့ပင် မလွယ်ပါဘူး–တဲ့၊ သတိလည်း ချွတ်ယွင်းနိုင်တယ်–တဲ့။

ယခုကား ထိုသို့ မဟုတ်ခဲ့ချေ၊ တရားတော်တွေကိုလဲ နေ့စဉ် ဟောတော်မူနိုင်၏၊ သတိလည်း အမြဲတမ်း ကောင်းနေတော်မူ၏။

ပြီးတော့ “သွေးတိုးနှင့် ဆီးချိုရောဂါတို့မှာ အတက်မရှိ၊ အမှန်တန်းမျှသာ ရှိသည်” ဟု ဆရာဝန်ကြီးများလည်း စမ်းသပ်သိရှိထားပြီး ဖြစ်၏၊ ထို့ကြောင့် ထိုရောဂါများမဖြစ်နိုင်။

အဲဒါကြောင့် ယနေ့ နံနက် ၁၁–နာရီ၊ ၃၀မိနစ်ခန့်ကျမှ စတင်ပြီး သွေးကြောထဲမှာ သွေးခဲ၍ ပိတ်ဆို့သော ဝေဒနာ ကပ်ရောက်လာသည်–ဟုသာ ခန့်မှန်းနိုင်ဖွယ် ရှိကြောင်း မှတ်ချက် ချကြပါသတတ်၊ ဤသို့လျှင် အကြောင်းရင်းကို ရှာဖွေပြကြလေသည်။

သို့သော်လည်း ဘယ်လိုပင် ပြောပြော “အချိန်ရောက်လာ၍ ကံဖြတ်သောကြောင့် ပျံတော်မူရခြင်း ဖြစ်သည်”ဟု ဆိုခြင်းက အမှန်ဆုံး ဖြစ်ပါလိမ့်မည်။

ဆေးသွင်းခြင်းကိစ္စများ ထိုနေ့ ည(၁)နာရီခန့်ကျမှ ပြီးစီးသွားတော့သည်။

# ကျင်းပပူဇော်ရန် ရက်သတ်မှတ်ခြင်း

ဈာပနကော်မတီတွင် ဆရာတော် သံဃာတော်များနှင့် လူပုဂ္ဂိုလ်များပါ ပါဝင်စေပြီးလျှင် ဆရာတော် သံဃာတော်များကို ဦးထိပ်ထားလျက် ဖွဲ့စည်းကြခြင်း ဖြစ်၏။

ထိုသို့ ဖွဲ့စည်းကြပြီးနောက် ဆက်လက်၍ စည်းဝေးနေကြသည်၊ ကျင်းပပူဇော်ကြမည့်ရက်၊ နောက်ဆုံး အန္တိမဈာပန မီးသင်္ဂြိုဟ်ကြမည့်အချိန်၊ ကျင်းပမည့် နေရာတို့ကို ရွေးချယ်ကြ၏။

ဆရာတော်ဘုရားကြီးက သီတင်းကျွတ် လပြည့်ကျော် ၄–ရက်နေ့တွင် ပျံတော်မူသည်ဖြစ်၍ သီတင်းကျွတ်လထဲက ၁၀–ရက်မျှကျန်တော့သည်၊ တန်ဆောင်မုန်း တစ်လ၊ နတ်တော် တစ်လ၊ ပြာသိုလထဲက ၅–ရက်ခန့်မျှ ယူလိုက်လျှင် အားလုံး ၂–လခွဲမျှ ပြင်ဆင်ချိန် ရနိုင်၏။

ထိုသို့ပြင်ဆင်ပြီးလျှင် ပြာသိုလဆန်း ၉–ရက်နေ့မှ စတင်ကျင်းပပါက ပြာသိုလပြည့်နေ့အထိဆိုလျှင် (၇)ရက် ရနိုင်သည်၊ (၇)ရက်တိုင်တိုင် ကျင်းပကြရန် ဖြစ်၏၊ (၇)ရက်ပြည့်မြောက်သော ပြာသိုလပြည့်နေ့မှာ နောက်ဆုံး အန္တိမဈာပန မီးသင်္ဂြိုဟ်ကြမည်၊ ဤသို့ ညှိနှိုင်းတိုင်ပင်ကြပြီးလျှင် အားလုံး သဘောတူညီစွာ အောက်ပါအတိုင်း ဆုံးဖြတ်သတ်မှတ်ကြသည်–

(က)သက္ကရာဇ် ၁၃၂၄–ခု ပြာသိုလဆန်း ၉–ရက်နေ့မှ ပြာသိုလပြည့်နေ့အထိ (၃.၁.၆၃ မှ ၉.၁.၆၃နေ့အထိ) ၇–ရက်တိုင်တိုင် ကျင်းပပူဇော်ကြရန်။

(ခ)နောက်ဆုံး ပြာသိုလပြည့်နေ့ မွန်းလွဲ ၂–နာရီ ၃၀–မိနစ်အချိန်တွင် အန္တိမအဂ္ဂိဈာပန မီးသင်္ဂြိုဟ်ကြရန်။

## တစ်ဘဝသာသနာ

(ဂ)ကျောင်းပမည့်နေရာကား အမရပူရမြို့၊ အိုးတော်ရပ် (အမရပူရမှ စစ်ကိုင်းကို သွားသော မော်တော်ကားလမ်း၊ မီးရထားသံလမ်း၏ မြောက်ဘက်) အမရပူရမြို့၏ အနောက်တောင်ဘက်က ဧက (၅၀)ကျော် ရှိသော ပွဲတော်အင်း ကွင်းပြင်ကျယ်ကြီးကို အသုံးပြုရန်။

(ဃ)ဤ(၂)လခွဲအတွင်းမှာ ဖော်ပြပါ ကွင်းပြင်ကြီးပေါ်၌ လောင်တိုက် တလား ပြာသာဒ် မဏ္ဍပ်၊ လိုအပ်ရာအရပ်ရပ်တို့ကို နှံ့စပ်ပြီးစီးအောင် ပြင်ဆင်ကြရန် ဖြစ်သည်။

ဤသို့ စည်းဝေးဆုံးဖြတ်ကြပြီးနောက် ထိုအချိန်မှပင် စတင်၍ ကိုယ်စီကိုယ်င ပြင်ဆင်လုံးပန်းကြပါရန် လှုံ့ဆော်တိုက်တွန်းလိုက်ကြလေသည်။

**မှတ်ချက်။** ။ဆေးသွင်းခြင်း ကိစ္စများကို နောက်ရက်များတွင်လည်း ဆက်လက်ပြုလုပ်ကြသည်၊ အကြောင်းမှုကား (၂)လခွဲတိုင်တိုင် ထားပြီးမှ ကျောင်းပပွဲတော်ကြမှာ ဖြစ်၍ စိတ်ချရအောင် ဟူသော ရည်ရွယ်ချက်များပင် ဖြစ်၏။

၇-ရက်တိုင်တိုင် နေ့စဉ်ရက်ဆက် ဆက်လက်ဆေးသွင်းကြသည်၊ ၇-ရက်လုံးလုံးပင် ဆေးထိုးသွင်းတိုင်း သွေးစိမ်းရှင်ရှင်များ ပန်းထွက်နေ၏၊ အများပင် ဖူးတွေ့နိုင်ကြသည်။

ဆေးသွင်းပြီးသောအခါ ရုပ်ကလာပ်တော်မှာ အနည်းငယ် တောင့်တင်းသွားပါ၏၊ သို့သော် ဘယ်ဘက် လက်မောင်းအရင်းတွင်ကား (လူကောင်းပကတိကဲ့သို့) ပျော့အိအိကလေး နေကာ တွဲလျားကျသော အသားများကိုပင် လှုပ်၍ ရနေသည်။

ပထမရက်ပိုင်းတွင် ဆေးသွင်းလိုက်သော ဒဏ်ကြောင့် ရုပ်ကလာပ်တော်မှာ အညိုကွက်များ ပေါ်လာကြ၏၊ နောက်ရက်များတွင်မူကား အသားတော်များ ဝါဝင်းလာကြပြီးလျှင် ကျိန်းစက်နေသကဲ့သို့ ထင်ကြရပြန်တော့သည်။

## ခန္ဓာဝန်ချ-ဝေါဟာရ

"မိုးကုတ်ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသည်"ဟု ကြားကြ၍ အမရပူရမြို့တွင်းမှ ဒကာဒကာမများ၊ မန္တလေး၊ စစ်ကိုင်း၊ မုံရွာ၊ မြစ်ငယ်ကျောက်ဆည်၊ မိတ္ထီလာ၊ မိုးကုတ်၊ ရန်ကုန် စသော အနယ်နယ်အရပ်ရပ်က ဒကာ ဒကာမများ၊ ဆရာတော်ဘုရားကြီးရဲ့ တရားတွေကို နာယူထားရတဲ့ ဒကာဒကာမများ၊ တပည့်ပရိသတ်များ စုပြုံရောက်လာကြတော့၏၊ တစ်နေ့ထက် တစ်နေ့ များ၍ များ၍သာ လာတော့သည်၊ ရိပ်သာဝင်းကြီးအပြည့်မျှ ဖြစ်လာကြတော့၏၊ ဖူး၍မဝအောင် ဖြစ်ကြရတော့သည်။

ဆရာတော်ဘုရားကြီး၏ ဂုဏ်ပုဒ်တွေကိုလည်း နှုတ်ဖြင့်မဆုံ ထုတ်ဖော်၍ ချီးကျူးကြ၏၊ ပါးစပ်အပြည့်မျှ ပြောဆိုချီးကျူး၍ မကုန်နိုင်အောင် ဖြစ်ကြသည်၊ ရုပ်ကလာပ်တော်ကို ဖူးမြော်ရသည်မှာလည်း ပကတိသက်တော်ထင်ရှားရှိစဉ်ကလို ကြည်ညို၍ မဝနိုင်အောင် ဖြစ်ကြရတော့၏။

ဆရာတော်ဘုရားကြီး ပျံတော်မမူခင် သီတင်းကျွတ် လဆန်း (၁၃)ရက်နေ့ညက ရိပ်သာဝင်းအတွင်းရှိ မန်ကျည်းပင်ကြီးပေါ်သို့ ဝင်းဝင်းကြီး ကျလာပုံ၊ ထို့နောက် သီတင်းကျွတ်လပြည့်ကျော်(၁)ရက် (၂)ရက် (၃)ရက်နေ့ညများကလည်း ညစဉ် ညတိုင်း အရောင်အလင်းကြီးတို့ဖြင့် လာကာ ဆရာတော် ဘုရားရဲ့ အိပ်ခန်းတွင်းသို့ ဝင်၍ တစ်စုံတစ်ဦး၏ လျှောက်ထားသံကို ကြားနေရပုံ၊ ထို့ပြင် ဆရာတော်ဘုရားကြီး၏

ဟောပြောချက် ဒေသနာအစုံတို့ကို ငုံခြုံ ပြန်လည်ဆင်ခြင် အောက်မေ့ကြ၍-

"ဆရာတော် ဘုရားကြီးဟာ သာမန် ပုဂ္ဂိုလ်မဟုတ်နိုင်၊ ယခု ပြောနေကျ ဝေါဟာရဖြင့် "ပျံတော်မူသည်"ဟုပင် မသုံးထိုက်တော့ပါ၊ ထို့ထက်မြင့်သော ဝေါဟာရတစ်မျိုးမျိုးဖြင့်သာ သုံးနှုန်းထိုက်ပါတယ်"

ဤသို့ ပြောကြဆိုကြရင်း ဝေဖန်ကြရင်း သုံးသပ်ကြရင်း ဤအကြောင်းအရာတို့ကို ဆရာတော်သံဃာတော်တို့အား လျှောက်ထားကြတော့၏၊ ထိုအခါ ယင်းကိစ္စကို ဦးစားပေး စဉ်းစားကြပြီးလျှင် ပရိယတ်ကျွမ်းကျင်သော ဆရာတော် သံဃာတော် အရှင်မြတ်တို့နှင့် ညှိနှိုင်းတိုင်ပင်ကြ၏၊ အရှင်မြတ်တို့က မယုတ်မလွန်ဖြစ်အောင် ဤသို့ သုံးသပ်တော်မူကြသည်-

"ဤမိုးကုတ် ဆရာတော်ဘုရားကြီးကို "ပျံတော်မူသည်"ဟု ဆိုလျှင်လည်း ဝေါဟာရမှာ နိမ့်ကျလွန်းနေသည်၊ "ပရိနိဗ္ဗာန်ပြုသည်"ဟု သုံးနှုန်းလျှင်လည်း အများ၏ စိတ်နှလုံးတွင် ညက်ညောချင်မှ ညက်ညောကြမည်။

ထို့ကြောင့် အလယ်အလတ် သဘောလည်း ဆောင်၊ အဓိပ္ပာယ် အပြည့်အဝလည်း ရတဲ့ (ဘာရနိက္ခေပန) "ခန္ဓာဝန်ချသည်"ဟု သုံးနှုန်းလျှင် အကောင်းဆုံး ဖြစ်မည်"

ဤသို့ တိုင်ပင်ကြကာ ထိုအခါမှစ၍ ကျေကျေနပ်နပ် အများ သဘောတူ ဝေါဟာရသစ် တစ်ရပ်ကို သတ်မှတ် တီထွင်လိုက်ကြတော့သည်။

"မိုးကုတ် ဆရာတော်ဘုရားကြီးအတွက် "ပျံတော်မူသည်"ဆိုတဲ့ ဝေါဟာရအစား "ခန္ဓာဝန်ချတော်မူသည်"ဟု သုံးနှုန်းကြရန် ဖြစ်သည်။

## တည်ငြိမ်သော ဝေါဟာရ

ဤဝေါဟာရမှာ ဘုရားရှင်ကိုယ်တော်မြတ်ကြီး ဟောအပ်သော စကားလုံး ဖြစ်၍ တည်ငြိမ်သော ဝေါဟာရလည်း ဖြစ်၏၊ ဆရာတော်ဘုရားကြီးအား ခန့်ညားသော စကားလုံးဖြင့် သုံးနှုန်းပူဇော်ရာလည်း ရောက်သည်။ သံယုတ်ပါဠိတော် ဒုတိယအုပ်၊ ခန္ဓဝဂ္ဂ သံယုတ်၊ စာမျက်နှာ(၂၂)၌ အောက်ပါအတိုင်း ဟောတော်မူထားသည်။

ဘာရာ ဟဝေ ပဉ္စက္ခန္ဓာ၊
ဘာရဟာရောစ ပုဂ္ဂလော။
ဘာရာဒါနံ ဒုခံ လောကေ၊
ဘာရနိက္ခေပနံ သုခံ။ ။

ပဉ္စက္ခန္ဓာ-ခန္ဓာငါးပါးတို့သည်၊ ဟဝေ-စင်စစ်၊ ဘာရာ-ဝန်ထုပ်ဝန်ပိုးကြီးတို့ပေတည်း၊ (ဝန်ထုပ်ဝန်ပိုးကြီးတို့နှင့် တူကြပေကုန်၏၊) ပုဂ္ဂလော-မိန်းမ ယောကျ်ား အများထိုထို ပုဂ္ဂိုလ်ဟူသမျှသည်၊ ဘာရဟာရော စ-ဝန်ထမ်းသမားပေတည်း၊ (ဝန်ထုပ်ဝန်ပိုးကို သယ်ပိုးကြသူများနှင့် တူပေ၏၊)

ဘာရာဒါနံ (ဘာရ+အာဒါနံ)-ခန္ဓာဝန်ထုပ်ကို မရ-အရ၊ ခဏ ခဏ၊ ယူ-ယူနေခြင်းသည်၊ လောကေ-သုံးဆယ့်တစ်ဘုံ သိုက်မြုံလောက သြကာသကြီးအတွင်း၌၊ ဒုခံ-ဆင်းရဲခြင်း၏အကြောင်းပေတည်း။

ဘာရနိက္ခေပနံ-ခန္ဓာဝန်ထုပ်ကို ပစ်ချနိုင်ခြင်းသည်၊ (ခန္ဓာဝန်ထုပ်ကို ဘဝအဆက်ဆက် မထမ်းတော့ဘဲ အရဟတ္တမဂ်ဖြင့် ပစ်ချနိုင်ခြင်းသည်၊ (ဝါ) ပစ်ချနိုင်ပါမှ) သုခံ-ချမ်းသာခြင်း၏ အကြောင်းပေတည်း၊ (ဝါ) ချမ်းသာအစစ် အနှစ်သာရ အပြည့်အဝ ဖြစ်ပေ၏။

**မှတ်ချက်။** ။ထိုဒေသနာတော်တွင် (ဘာရနိက္ခေပန) "ခန္ဓာဝန်ကို ပစ်ချ"ဆိုတဲ့ စကားလုံးသည် ရိုးရိုးပစ်ချခြင်းမျိုး မဟုတ်၊ မြတ်စွာဘုရား၏ ဆိုလိုတော်မူရင်းအဓိပ္ပာယ်မှာ နောက်ထပ်ဘဝအဆက်ဆက် ခန္ဓာတွေကို မယူတော့ဘဲ ပစ်ချခြင်းမျိုးကို ဆိုလိုတော်မူသည်။

## တစ်ဘဝသာသနာ

## နိဗ္ဗာန်စံကျောင်းချ အခမ်းအနား

ယခုအထိ မိုးကုတ် ဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်မှာ မင်္ဂလာရိပ်သာအတွင်းရှိ ခန္ဓာဝန်ချတော်မူခဲ့ရင်း ဖြစ်တဲ့ ဦးကျော်သိန်း+ ဒေါ်တင်လှတို့၏ ထေရာဝါသ စံကျောင်းတော်ပေါ်မှာပင် ရှိသေးသည်၊ ထိုနေရာမှာ အများလာ၍ ဖူးမြော်ကြရာတွင် ကျဉ်းကျပ်နေ၏၊ အလှည့်ကျနှင့် ဖူးမြော်နေကြရသည်၊ ထို့ကြောင့် ကျယ်ဝန်းသော ခန်းမကြီးတစ်ခုသို့ ပြောင်းရွှေ့ဖို့ရန် စီမံနေကြ၏။

ထိုကျယ်ဝန်းသော ခန်းမကြီးမှာလည်း မင်္ဂလာရိပ်သာအတွင်းရှိ ဦးချစ်ဆွေ+ဒေါ်မမတို့၏ တရားဓမ္မာရုံကြီး တစ်ခုသာလျှင် ရှိသည်၊ သို့ဖြစ်၍ ထိုဓမ္မာရုံကြီးကို "နိဗ္ဗာန်စံကျောင်း"အဖြစ် သတ်မှတ်ကြကာ (၇)ရက်ပြည့်မြောက်သော သီတင်းကျွတ် လပြည့်ကျော် ၁၀-ရက်နေ့၌ ပြောင်းရွှေ့ဖို့ရန် သတ်မှတ်ကြ၏။

ထိုသို့ နိဗ္ဗာန်စံကျောင်း ပြောင်းရွှေ့ပွဲ အခမ်းအနားသို့ သံဃာတော်(၅၀၅)ပါး ပင့်ဖိတ်ထားကြသည်၊ ထိုနေ့တွင် သံဃာတော်များ စုံညီစွာ ကြွရောက်လာကြ၏၊ စုံညီသောအခါ ဆရာတော်ဘုရားကြီး၏ တပည့်တပန်း ရဟန်းသံဃာတော်များကိုယ်တိုင် ဦးဆောင်ကြပြီးလျှင် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ပခုံးဖြင့် ထမ်း- လက်ဆင့်ကမ်းလျက် စဉ်တန်းရုပ်တည်ကာ ပြောင်းရွှေ့ကြပါသည်။

ထို့နောက် ထိုအခမ်းအနားတွင် ပါဝင်ကြသော သံဃာတော် (၅၀၅)ပါးတို့အား သံသပိတ် အလုံးပေါင်း (၅၀၅)ကို အဖုံး သပိတ်ခြေနှင့်တကွ လှူဒါန်းကြ၏၊ ဒံပေါက်ဆွမ်းအပြည့် ထည့်၍ လှူကြသည်၊ ပန်းကန်အစုံ(၅၀၅)စီ ပါကြ၏၊ ထို့ပြင် ပေါ်ပလင် သက်န်းဒွိစုံ (၅၀၅)၊ ထီးအလက်ပေါင်း (၅၀၅)၊ ဖိနပ်အရံပေါင်း (၅၀၅)၊ မျက်နှာသုတ်ပဝါ အထည်ပေါင်း (၅၀၅)ပါ လှူဒါန်းကြသည်။

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ထိုအချိန်မှစ၍ နိဗ္ဗာန်စံကျောင်းကြီးပေါ်၌ ကျယ်ကျယ်ပြန့်ပြန့် အားရပါးရ ဝဝကြီး ဖူးနိုင်ကြလေသည်။

## ရုပ်ကလာပ်အတိုင်း ထားလိုသူများ

ယခုမှပို၍ နိဗ္ဗာန်စံကျောင်းခန်းမကြီးအလယ်မှာ ကျယ်ကျယ်ပြန့်ပြန့် ထည်ထည်ခန့်ခန့် ဖြစ်လာသည်ဟု ဆိုသူတို့က ဆိုလာကြ၏၊ ဆရာတော်ဘုရား၏ တရားတွေကို နာယူထားသူများက အားမရနိုင်အောင် ဖူး၍ မဝအောင် ရှိကြရသည်။

ခြေဖဝါးတော်မှ ဦးခေါင်းတော်တိုင်အောင်၊ ဦးခေါင်းတော်မှ ခြေဖဝါးတော် တိုင်အောင် ဖန်ဖန်တဲ့ခေါက် မျက်လုံးအစုံတို့ဖြင့် လျှောက်၍နေမိကြ၏၊ ထိုမှနောက်၌ "ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ခြင်းမပြုဘဲ ယခုလိုအတိုင်းထားလျှင်ကောင်းမှာပဲ"ဟု တောင့်တသူတို့က တောင့်တလာကြ၏၊ ထိုမှ တစ်ဆင့် စကားတွေ ပြန့်ပွားကာ-

> "ဟုတ်သားကပဲ ... ရှေးက ထင်ရှားတဲ့ ဆရာတော် ဘုရားကြီးတွေ တချို့ရဲ့ ရုပ်ကလာပ်တွေကို မီးမရှို့ဘဲ ဒီအတိုင်းထားပြီး ကြည်ညိုနေကြတာတွေလဲ ရှိတာပဲ၊ ဥပမာ မာန်လည်ဆရာတော်ဘုရားကြီးတို့ဆိုပါတော့၊ ဆေးစိမ်ပြီး ဒီအတိုင်း ထား ကြည်ညိုနေကြတာပဲ၊ စွန်းလွန်းဆရာတော်ဘုရားကြီးကိုလဲ ဒီအတိုင်းထားတာပဲ။"

ဤသို့ ပြောဆိုကြရာမှ အမရပူရ ဦးထွန်းတင်တို့ လူသိုက်က ဤကိစ္စကို စိတ်ဝင်စားလာကြသည်၊ ခံယူချက်ချင်း သဘောတူလာ၏၊ သူတို့လည်း ဆရာတော် ဘုရားကြီးကို ကြည်ညိုနေကြသူတွေ ဖြစ်သည်၊ ဆရာတော်ဘုရားကြီးရဲ့ တရားတွေကို အမြဲနာယူနေသူတွေ ဖြစ်ကြ၏၊ ထို့ကြောင့် အထက်ပါစကားတွေကို နားဝင်လာကြသည်၊ သို့ဖြစ်၍–

"ဟုတ်တယ်၊ အထက်ပိုင်း လူကြီးတွေကို ရအောင် ပြောမယ်၊ မီးမရှို့ပါနဲ့ လို့ ရအောင် ပြောမယ်၊ နောက်ဆုံး ပြောလို့ မရရင် အလောင်းကို လုယူမယ်၊ မီးရှို့ခါနီးမှာ လူအင်အားနဲ့ အလောင်းကို ဝိုင်းအုံလုယူပြေးရမယ်" ဟူ၍ စီမံကိန်းချကြလေသည်။

မည်သို့ပင် ဦးထွန်းတင်တို့လူသိုက်က စီမံကိန်းချကြသော်လည်း ဆရာတော် ဦးနရိန္ဒ ဦးဆောင်သော ဆရာတော် သံဃာတော်များအဖွဲ့ကမူ "ထုံးစံအတိုင်း မီးရှို့ရမှာပဲ" ဟူ၍သာ အခိုင်အမာ ဆုံးဖြတ်ထားကြသည်။

## ပတ္တမြားခေါင်းနဲ့ ရုပ်အလောင်းတော်

မိုးကုတ် မြို့သူမြို့သား ဒကာ ဒကာမများက ဆရာတော် ဘုရားကြီး၏ ရုပ် အလောင်းတော်ကို ပတ္တမြားခဲကြီးလို အောက်မေ့ကြသည်၊ အဖိုး အနဂ္ဃ တန်ဖိုး ဖြတ်၍ မရအောင် ထိုက်တန်သည်–ဟု ခံယူထားကြ၏။

သို့ဖြစ်၍ ဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော် ကိန်းဝပ်စံပယ်ရန် ပတ္တမြားတွေ စီခြယ်ထားသော ခေါင်းတော်ကြီးတစ်ခု ပြုလုပ်လာကြသည်၊ သိန်းပေါင်း မြောက်မြားစွာ ထိုက်တန်သဖြင့် တန်ဖိုး ဖြတ်၍ မရ "အနဂ္ဃ"ဟု ဆိုကြ၏။

ထိုအခါ ပတ္တမြားခေါင်းကြီးနှင့်လိုက်ဖက်အောင် ထိုပတ္တမြားခေါင်းကြီး တင်ဖို့အတွက် အများ ဒကာ ဒကာမတို့၏ ကောင်းမှုဖြင့် ပေါင်းစုကာ ဘော်ပြာသာဒ်ကြီး တစ်ဆောင်ကိုလည်း ပြုလုပ်ကြပြန်တော့သည်။

ထိုသို့ ပြုလုပ်ကြပြီးသောအခါ ယင်း ဘော်ပြာသာဒ်ကြီးပေါ်မှာ ပတ္တမြားခေါင်းကြီး တင်ကြသည်၊ ပြီးမှ ထို ပတ္တမြား ခေါင်းကြီးအတွင်းမှာ ဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းတော်ကို သွင်းပြီး ဝင်းဝင်းလက်လက် ပြိုးပြိုးပြက်မျှ၊ ကနက္ကဒန် ရွှေထီးများ ရံလုက် ထိုက်ထိုက်တန်တန် ပူဇော်ကြပါသည်။

## ပုလဲလုံးကလေးများဖြင့် တန်ဆာဆင်ခြင်း

မိုးကုတ် ဆရာတော်ဘုရား ဦးဝိမလ ခန္ဓာဝန်ချသောအခါ မိုးကုတ်မြို့မှ ဒကာ ဒကာမတို့က ဆရာတော်၏ ရုပ်ကလာပ်စံရာ ခေါင်းတော်ကို ပတ္တမြားတို့ဖြင့် ခြယ်သကြ၏၊ နီလာ ဂေါ်မုတ် ဥဿဖယား မြသား ကျောက်သံများဖြင့်လည်း မွမ်းမံကြ၏၊ ကြည်ညိုကြသည့်အလျောက် အစွမ်းကုန် ခြယ်သ ပူဇော်ကြလေသည်။

ဤပွဲတွင် မဟာဂန္ဓာရုံကျောင်းတိုက်မှ အရှင်



ပတ္တမြားခေါင်းနဲ့ ရုပ်အလောင်းတော်



အနီးကပ်ဖူးတွေ့ရသော ပတ္တမြားခေါင်းနဲ့ ရုပ်အလောင်းတော်

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဇနကာဘိဝံသ ဆရာတော်ဘုရားကမူ သူ့မှာ နီလာ ဂေါ်မုတ် ဥဿဖယား မြသား ပတ္တမြားတွေ မရှိပါ၊ ရွှေငွေပိုက်ဆံကြေးငွေလဲ သူ့မှာမရှိပါ၊ သို့ဖြစ်၍ အရှင် ဇနကာဘိဝံသ ဆရာတော်က သူ တတ်နိုင်တဲ့ ပုလဲလုံး ကလေးများပမာ လှပတဲ့ စကားလုံး ကလေး တို့ဖြင့် တန်ဆာခြယ်လေသည်၊ သူ့စကားလုံးကလေး တို့မှာ–

## မင်္ဂလာပေါင်းစုံလှတဲ့ မင်္ဂလာဆရာတော်

၁။ ဌာနေနာသိ မဟာစေရ၊
အာဝါသေနာပိ မင်္ဂလော။
ဓမ္မေန မင်္ဂလော အာသိ၊
သာဝကေနာပိ မင်္ဂလော။ ။

မဟာစေရ–ဓမ္မနေ့စဉ် ပွဲကြီးယင်၍ သွန်သင် ဟောဖော် နေ့စဉ်ပျော်သည့် အို… ဆရာတော် အရှင် မြတ် ဘုရား၊ ဘဝ–တရားယူလို များလူ ဗိုလ်တို့ ကြည်ညိုအားထား အရှင်ဆရာတော်ဘုရားသည်၊ ဌာနေ နာပိ–ဆရာကြီးအုန်း စတည်တုန်းက ထွင့်ဘုန်းလဲပါ စဉ်မကွာဘဲ သညာသမိုက် မင်္ဂလာတိုက်ဟူသော ဌာန အားဖြင့်လည်း၊ မင်္ဂလော အာသိ–အကျော်ညဝါ ဤ တိုက်တာဝယ် ဆရာတော်ကား မင်္ဂလာ တစ်ပါးဟု ကျော်ကြားတော်မူခဲ့ပါသည် ဘုရား။

မဟာစေရ–တရားစည်ကြီး နေ့စဉ် ဟည်းအောင် ခတ်တီးရိုက်ဆော် အို… ဆရာတော်အရှင်မြတ်ဘုရား၊ ဘဝ–တရားနှင့်ကိုယ် ကိုယ်နှင့်တရား မကွဲပြားအောင် မနားဟောဖော် အရှင် ဆရာတော်ဘုရားသည်၊ အာဝါ သေနာပိ–သောင်းတန် သိန်းတန် ပူအေးခံအောင် စီမံ ပုံကောင်း လှည့်လည် ပြောင်းဖို့ စံကျောင်းများစွာ စံ နေရာအားဖြင့်လည်း၊ မင်္ဂလော အာသိ–နတ်ဘုံလေလား လူ့ဘုံလားဟု ထင်မှားဖွယ်ရာ မင်္ဂလာ ရှိပါပေသည် ဘုရား။

မဟာစေရ–ဝိပဿနာ ဒေသနာဖြင့် ခါခါ မွေ့ လျော် အို… ဆရာတော် အရှင်မြတ်ဘုရား၊ ဘဝ - အိုဘေးနာဘေး သေမည့်ဘေးမှ လွတ်ရေး ညွှန်ကြား အရှင်ဆရာတော်ဘုရားသည်၊ ဓမ္မေနာပိ နေ့တိုင်းစုံစုံ ဟောမကုန်အောင် ဖုံဖုံပြတ်သား မြတ်တရားဖြင့်လည်း၊ မင်္ဂလော အာသိ–လေးငါးထောင်နီး ပရိသတ်ကြီးကို မငြီးစေရ တစ်နာရီမျှဖြင့် ပြည့်ဝစုံလင် မင်္ဂလာအရှင် ဖြစ်ပါပေသည် ဘုရား။

မဟာစေရ–တရား ရေအေး အမြိုက်ဆေးကို တိုက်ကျွေးနှံ့ကျော် အို… ဆရာတော်အရှင်မြတ်ဘုရား၊ ဘဝ–ဒီက တမ်းတ ဟိုမြန်းကြွ၍ ဒီကြွပြန်သော် ဟို က မျှော်လျက် ဖူးမြော်မဝ တတ–တနှင့် တ–သ အစဉ် အရှင်ဆရာတော်ဘုရားသည်၊ သာဝကေနာပိ– နန်းအမရ မန်းနဂရနှင့် ပတ္တမြားမြေခံ မြို့ရန်ကုန်မှ ဆန်စုံများတောင်း တပည့်အပေါင်းဖြင့်လည်း၊ မင်္ဂလော အာသိ–သူဌေး သူကြွယ် ကုန်သည် မင်းစိုး အမျိုးမျိုး ကြောင့် တန်ခိုး ရှိန်ဝါ မင်္ဂလာကြီး ဖြစ်ပါပေသည် ဘုရား။

ဤသို့လျှင်အရှင်ဇနကာဘိဝံသဆရာတော်ဘုရား က မိုးကုတ် ဆရာတော်ဘုရား ဦးဝိမလအပေါ် တွင်–

(က) ဦးစွာပထမ မင်္ဂလာတိုက်ဟူသော နေရာ ဌာနအားဖြင့်လည်း မင်္ဂလာ ရှိတော်မူပါ ပေ၏။

(ခ) သီတင်းသုံးတော်မူရာ စံကျောင်းတော် အဖြာဖြာအားဖြင့်လည်း မင်္ဂလာ ရှိတော် မူပါပေ၏။

(ဂ) တရားစည်ကြီး နေ့စဉ် ဟည်းအောင် ရိုက်တီးခတ်ဆော် ဟောမိန့်ဖော်လျက် ဓမ္မတော်အနေအားဖြင့်လည်း မင်္ဂလာ ရှိတော်မူပါပေ၏။

(ဃ) ဟိုကိုကြွသော် သည်က မျှော်၊ သည်ကို ကြွသော် ဟိုက မျှော်နှင့်၊ ကော်ရော် လိုလား၊ လေးငါးခြောက်ထောင်မျှသော ပရိသတ်ကြီးအားဖြင့်လည်း မင်္ဂလာ တော်မူပါပေ၏–တဲ့။

ဤသို့ ဂုဏ်ပြုချီးကျူးတော်မူထားသည်။

# နတ်မဟုတ်၊ လူမဟုတ်၊ နာမ်နှင့်ရုပ်

၂။ ဧဝံ မင်္ဂလသမ္ဘူတာ၊
ဖဟန္တော နရမင်္ဂလံ။
ဒေဝါနံ ဒေသနတ္ထာယ၊
ဂတော ဒေဝနိမန္တနံ။ ။

ဧဝံမင်္ဂလသမ္ဘူတာ ဤသို့ ကုန်စင်၊ လူ့ဘုံတွင်မူ၊ ပြိုင်ယှဉ်ကင်းမြဲ၊ မင်္ဂလာပေါင်း စုံပြီဖြစ်၍၊ နရမင်္ဂလံ–လူတို့အမြင်မှာ၊ မင်္ဂလာဟု၊ ထင်စရာအမှား၊ မင်္ဂလာအမျိုးကို၊ ဖဟန္တော အနှစ်မရှိ၊ အကာအတိဟု၊ တပည့်စင်စစ်၊ နားလည်ရစ်ဖို့၊ ထေရ်ချစ်ဘုန်းလူ၊ စွန့်တော်မူလျက်။

ဒေဝါနံ–နတ်ဘုံနတ်နန်း၊ နတ်ရေစမ်းနှင့်၊ နတ်ပန်းတွေခြယ်၊ နတ်မောင်မယ်တို့အား၊ ဒေသနတ္ထာယ–နတ်လဲ မဟုတ်၊ ငါ မဟုတ်ပဲ၊ နာမ်ရုပ်တွေချည်၊ ဖြစ်ပျက်သည်ဟု၊ နားလည်စေကြောင်း၊ တရားကောင်းကို၊ နှစ်ထောင်းအားရ၊ ဟောပြခြင်းအကျိုးငှာ၊ ဒေဝနိမန္တနံ–သူတော်စိတ်ထား၊ နတ်အများ၏၊ လိုလား တောင့်တ၊ ပင့်ဖိတ်ရာဌာနသို့၊ ဂတော–ခြောက်ဆယ်သက်တော်၊ သုံးနှစ်ကျော်ဝယ်၊ အခါတော်ရောက်၊ အပင့်ထောက်သဖြင့်၊ ဝမ်းမြောက်ကြည်ဖြူ ကြွတော်မူလေပြီတကား။

ပြဆိုခဲ့ပြီးတဲ့အတိုင်း လူ့ပြည်လောကမှာ မင်္ဂလာတွေ– မင်္ဂလာတွေ မျိုးစုံခဲ့ပြီဖြစ်၍ "ဒါတွေက အကုန်လုံး အနှစ်မပါ အကာသက်သက်သာ"ဟု သိအောင် ဟောမြွက်၊ စွန့်ပစ်တော်မူခဲ့လျက်–

တစ်ဖန် နတ်ဘုံ နတ်နန်းက နတ်ပန်းတွေ တဝေဝေခြယ် နတ်မောင်မယ် အစုံအစုံတို့အား "နတ်လဲ မဟုတ်၊ ငါ မဟုတ်ဘဲ၊ နာမ်ရုပ်ချည်းသာ၊ ဖြစ်ပျက်၍ နေကြသည်တကား"ဟူ၍ တရားတော်ဟောမြွက်ဖို့ရာ နတ်သူတော်ကောင်းတို့၏ ပင့်ဖိတ်ချက်အရ (၆၃)နှစ်အရွယ်တော်မှာ နတ်ပြည်သို့ကြွတော်မူခဲ့ပြီ ဘုရား..."

ဟူ၍ သက်တူရွယ်တူ ၆၃–နှစ် ဆရာတော်က အံ့အားသင့်စွာ မှတ်တမ်းတင်နေခြင်း ဖြစ်ပါသည်။

**မှတ်ချက်။** ။ဤကဲ့သို့ ဂုဏ်ပြုချီးကျူးသော ဂါထာတို့ဖြင့် ရွတ်ဖတ်ပူဇော်နေချိန်မှာ မိုးကုတ် ဆရာတော် ဘုရား၏ ရုပ်အလောင်းတော်ကို မီးသဂြိုဟ်မှု မပြုရသေးပါ၊ ဘာမျှလည်း မသိရသေးပါ။

သို့ဖြစ်၍ ထုံးစံအတိုင်း ဆရာတော် အရှင်ဇနကာဘိဝံသက "မိုးကုတ် ဆရာတော် နတ်ပြည်သို့ တရား ဟောကြွတော်မူသည်"ဟု တင်စား ရေးသားလိုက်ခြင်း ဖြစ်လေ၏။

# နောက်ဆုံးဂါရဝ–ကန်တော့ကြခြင်း

၃။ ဧတံ ဘန္တေ န တောသာဝ၊
သသောကာ ထေရဂမနံ။
အန္တောသောကံ နိဗ္ဗာပေယ၊
ဝန္ဒာမ ထေရဒေဟကံ။ ။

ဘန္တေ–လူတို့မင်္ဂလာ နှစ်မပါဟု ပစ်ခွာရက်ငြား အို... ဆရာတော်အရှင်မြတ်ဘုရား၊ ဧတံထေရဂမနံ–ဘပည့်အများ လျစ်လျူထား၍ ကြွသွားရက်တဲ့ ဤဖြစ်ပုံကို၊ သသောကာ–ဝမ်းနည်းမဆုံး ကြိမ်မီးအုံးသို့ အပူလုံးကြွ လိုက်လဲ့ကြကုန်သည်ဖြစ်၍၊ နတောသာဝ–မည်သူကမျှ မတားကြသဖြင့် များလှခုတိုင် မကျေနပ်နိုင်ကြကုန်ပဲသာလျှင်။

အန္တောသောကံ–နှလုံးမှာစွဲ စိတ်ဝမ်းနည်း၍ လွန်ကဲ လိုက်ဆူ အတွင်းပူကို၊ နိဗ္ဗာပေယ–တရားရေအေး အရှင့်ဆေးဖြင့် အေးအောင် ထိန်းသိမ်း ငြိမ်း

နေ့စဉ်ဟောပြ အရှင်ဘုရား၏ တရားသဘော ဓမ္မတွေကို နာကြား၍လည်း အားမရ– မဝကြသေးပါ ဘုရား...။

ထိုသို့ များလှ သောက လှိုက်ဆူ ဤသို့သော အတွင်းပူတို့ကို သီတဂူငြိမ်းချမ်းအောင် တရားရေအေး ဖြင့် ပက်ဖျန်းပြီးလျှင် အရှင်ဘုရား၏ ပုံတော်မြတ်ကို ဂုဏ်တော်တွေ ဟပ်လျက် မြတ်မြတ်နိုးနိုး ရှိခိုးကန် တော့ပါကုန်၏ ဘုရား...။

ဟူ၍ ဒကာ ဒကာမများက နောက်ဆုံး ဂါရဝ ကန်တော့နေကြသည့်ဟန် ရေးသားထားတော်မူသည်။

အောင် ငြိမ်း၍၊ ထေရဒေဟကံ–နာမ်တော်မစပ် ရုပ်တော် ဓာတ်ဖြင့် ကိန်းဝပ်စံပျော် အလောင်းတော်ကို၊ ဝန္ဒာမ– အရှင့်ပုံမြတ် ဂုဏ်တော်ဓာတ်ဝယ် မြတ်မြတ်နိုးနိုး၊ လက်စုံ မိုး၍ ရှိခိုးကန်တော့ပါကုန်၏ အရှင်ဘုရား...။

အို... မင်္ဂလာဆရာတော်ဘုရား... "လူ့ပြည် လောကဥ္ဇ ရှိသမျှ မင်္ဂလာတွေဟာ အနှစ်အသားမပါ" ဟူ၍ မိန့်မြွက်ကာ ကြွသွားတော်မူသောကြောင့် ဝမ်း နည်းမဆုံး ကြိမ်မီးအုံးသို့ လူလုံးမလှ အပူလုံးကြွအောင် သောကလှိုက်ဖို အငိုကြီး ငိုကြရပါကုန်သည် ဘုရား...။

## ဖြစ်ချင်သမျှ၊ မဖြစ်ရ၊ ဟယ်... အနတ္တ

၄။ ဟာ သံယောဂါ ဝိယောဂန္တာ၊
ဟာ မတန္တာ သဇီဝကာ။
ဟာ နိစ္စာ သဗ္ဗသင်္ခါရာ၊
ဟာ ဒုက္ခာ ဟာ အနတ္တကာ။ ။

သံယောဂါ–ထိုထိုဘုံဘဝ ကြုံသမျှဥ္ဇ ဆုံကြ တွေ့ကြ ပေါင်းသင်းရခြင်းတို့သည်၊ ဟာဝိယောဂန္တာ– သေကွဲရှင်ကွဲ အနဲနဲဖြင့် ခွဲကာ ခွဲကာ၊ ဟာ... ကွဲကွာ ခြင်းသာ အဆုံးရှိပါကုန်သည်တကား။

သဇီဝကာ–ရုပ်သက် နာမ်သက် နောက်ဆုံး ပျက်ဖြင့် မပျက်သေးခင် သက်ရှိပင်ဟု ခေါ်တွင်ရငြား သတ္တဝါအများတို့သည်၊ ဟာ မတန္တာ–မရဏစက်ကွင်း သူ့လက်တွင်းသို့ သက်ဆင်းခြင်းသာ၊ ဟာ... အဆုံးရှိ ပါကုန်သည်တကား။

သဗ္ဗသင်္ခါရာ–ကံစိတ်စသား ပြုပြင်ထားသဖြင့် ယောက်ျား မိန်းမ ထင်မှတ်ရလည်း မုချ ဆတ်ဆတ် ပရမတ်အနှစ် ဓာတ်အစစ်တို့သည်၊ ဟာ အနိစ္စာ– အကြောင်းရှိလျှင် အကျိုးထင်၍ ကြောင်းအင်လဲပြုတ် ကျိုးလဲချုပ်ဟု အဟုတ်ထင်မြင်၊ ဟင်... အနိစ္စတစ်ခွင် တို့ပါတကား...။

သဗ္ဗသင်္ခါရာ–အဝိဇ္ဇာနှင့် တဏှာတရား မှုနှစ်ပါး ကြောင့် လူသားနတ်ပဲ ဗြဟ္မာပဲလို့ မှတ်စွဲ ထင်ရ သင်္ခါရဟု ပဋိစ္စသမုပ္ပါဒ် ရုပ်နာမ်ဓာတ်တို့သည်၊ ဟာ ဒုက္ခာ–ဖြစ်ပျက် ဖြစ်ပျက် အားလုံးဆက်၍ သက်သက် သုခ မရှိကြဟု မုချထင်မြင်၊ ဟင်... ဒုက္ခတစ်ခွင်တို့ပါ တကား။

သဗ္ဗသင်္ခါရာ–ပဋ္ဌာန်းပစ္စည်း ကြောင်းသီးသီးက ဖန်တီး၍ထား သင်္ခါရများဖို့ တရားအမှန် ရုပ်နှင့်နာမ်တို့ သည်၊ ဟာ အနတ္တကာ–ရုပ်နာမ်ဖယ်ထား၊ တကယ် အားဖြင့် အသားမဖက် အကာယုက်၍ အသက်မပါ သင်္ခါမယှဉ် ဉာဏ်တွင် ထင်ရသည့်၊ ဟင်... အနတ္တ တစ်ခွင်တို့ပါတကား။

ဧဒိသေန–ဤကဲ့သို့ပင် ဆရာရှင်၏ နေ့စဉ် တိုက်ကျွေး အမြိုက်ဆေးဖြင့်၊ အန္ဓေ့သောက်–နှလုံးမှ စွဲ စိတ်ဝမ်းနည်း၍ လွန်ကဲလှိုက်ဆူ အတွင်းပူကို နိဗ္ဗာပေမ–ဆရာတော်၏ အလိုသိသည့် တပည့်ပီပီ တည်ကြည်ကြည်ဖြင့် အလီလီ ဖြေသိမ်း၍ ငြိမ်းလိုက်ပါ ကုန်ပြီ ဘုရား...။

(က) ချစ်ခင်ပေါင်းသင်း၊ တွေ့ဆုံခြင်းကား၊ ကွေကွင်း နောက်ဆုံးပါတကား။

(ခ) ဝိညာဏ်ထင်လင်း၊ သက်ရှင်ခြင်းကား၊ သေခြင်း နောက်ဆုံးပါတကား။

(ဂ) ရုပ်နာမ်အားလုံး၊ ပျက်ပြုန်းအနှံ့၊ တည်တံ့ မငြိမ်၊ ဣန္ဒြေ မရ၊ ဖောက်ပြန်ကြ၊ ဟယ်... အနိစ္စ အနိစ္စ။

(ဃ) ဖြစ်ပျက် ဖြစ်ပျက်၊ သူနှိပ်စက်၊ သက်သက် ဒုက္ခ၊ ဟယ်... ဒုက္ခ။

(င) ဖြစ်ချင်သမျှ၊ မဖြစ်ရ၊ ဟယ်... အနတ္တ အနတ္တ။

(စ) ရှိုက်ရှိုက်ဖိုဖို၊ လိုတာမရ၊ ငိုပါရ၊ သောကပူဆွေး ဖွယ်တကား...။

ဤသို့ အစရှိသော အားဖြင့် အရှင်ဘုရား ဟောပြတဲ့ လောကဓမ္မတရားတို့ကို နှလုံးသွင်းကာ အရှင်ဘုရား၏ တရားမိုးတို့ဖြင့် တပည့်တော်တို့၏ အတွင်းပူ သောကမီးတို့ကို ငြိမ်းအောင် သွန်ဖြိုး ရွာချလိုက်ပါပြီဘုရား...။

တပည့် ဒကာ ဒကာမတို့၏ လျှောက်ထားလေ ဟန် အနေမျိုး ဆရာတော်က ရေးသားထားသည်။

## တရားသဘင်များ ဆင်ယင်ကျင်းပ

ဤသို့အားဖြင့် ဖူးမြော်မဝ ပူဇော်၍ လာခဲ့ကြရာ အဂ္ဂိရှာပနပွဲကြီး တဖြည်းဖြည်းနှင့် နီးကပ်လာတော့ သည်၊ ဒကာ ဒကာမတို့၏ စိတ်တွေမှာလည်း ပို၍ ပို၍ လှုပ်ရှားလာကြတော့၏၊ နောက်ဆုံး အန္တိမ အဂ္ဂိ ရှာပနကွင်းပြင်သို့ မပြောင်းရွှေ့မီ တရားသဘင်များ လည်း ကျင်းပကြသေးသည်။

၁၃၂၄–ခု ပြာသိုလဆန်း ၇–ရက်နေ့ ည ၆– နာရီအချိန်တွင် စတင်၍ အမရပူရမြို့၊ မဟာဂန္ဓာရုံ ကျောင်းတိုက်၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင် ဇနကာဘိဝံသက နောက်ပါ သံဃာတော် အပါး (၁၀၀) တစ်ရာနှင့် အတူ ကြွလာတော်မူပြီး သံဝေဂဓမ္မ ဘို့ကို ဟောပြတော်မူသည်။

ဆရာတော် အရှင်ဇနကာဘိဝံသဆိုလျှင် မိုးကုတ် ဆရာတော်ကြီး ဦးဝိမလနှင့် သက်တူရွယ်တူခုနှစ်တူ ဖြစ်တော်မူသည့်အပြင် တစ်မြို့တည်း အတူနေလည်း ဖြစ်တော်မူကြ၏။

ဤ အမရပူရမြို့တွင် နေ (၂) စင်း ပြိုင်၍ ထွက်သလိုလည်း ဖြစ်တော်မူကြသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသက ပရိယတ္တိနယ်ပယ်တွင် နေလို လလို ထင်ရှား၍၊ မိုးကုတ်ဆရာတော်ဘုရားကြီးကမူ ပဋိပတ္တိ နယ်ပယ်တွင် နေ အသွင် လ အသွင် ဖြစ်တော်မူကြ၏။

နောက်တစ်နေ့ ၁၃၂၄–ခု ပြာသိုလဆန်း ၈– ရက်နေ့ ည၆–နာရီအချိန်တွင်မူ၊ စစ်ကိုင်းတောင်ရိုး၊ ဓမ္မကထိက အကျော်အမော် အနီးစခန်း ဆရာတော် ဦးပဏ္ဍိတဓမ္မကလည်း ပရိသတ်များ မျက်ရည်သိမ်းနိုင် လောက်အောင် ဝတ္ထုပုံပြင်တို့ကို ဆောင်၍ တရားဓမ္မ တို့ကို ဟောပြတော်မူပြန်သည်။

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# အင်္ဂလိပ်ရှာပနကွင်းပြင်သို့

၁၃၂၄–ခု ပြာသိုလဆန်း ၉–ရက်နေ့ကား နိဗ္ဗာန်စံကျောင်းတော်မှ အင်္ဂလိပ်ရှာပန ကျင်းပပူဇော်ရာ မြို့ပြင်ဘက်က ပွဲတော်အင်းကွင်းပြင်ကျယ်သို့ ပြောင်းရွှေ့ရမည့်နေ့ ဖြစ်သည်၊ နေ့လယ် ၁၂–နာရီအချိန်မှ စတင်၍ ပြောင်းရွှေ့သော အခမ်းအနား စတင်ကြလေသည်။

အမရပူရ၊ မန္တလေး၊ စစ်ကိုင်း၊ မြစ်ငယ်၊ ကျောက်ဆည် တိုက်နယ် အသီးသီးနှင့် ရပ်ဝေးမြို့များမှ အဖွဲ့ အသီးသီးတို့ စုပြုံရောက်လာကြ၏၊ စာရင်းပေးထားသော အဖွဲ့အစည်းများပင်လျှင် (၈၁)ဖွဲ့ ရှိကြသည်။

စာရင်း လွတ် အဖွဲ့ အစည်းနှင့် ကျောင်း သူ ကျောင်းသား လူပရိသတ်တို့ကား အရေအတွက် ပြု၍ပင် မရ၊ သိန်းပေါင်းများစွာ လိုက်ပါလာကြ၍၊ ပြည့်ကျပ်ညပ်နေကြတော့သည်။

ဆရာတော် ဘုရား၏ ရုပ်ကလာပ်တော်ကို မိုးကုတ်မြို့မှ လှူဒါန်းသော အဖိုးအနဂ္ဃ ထိုက်တန်သည့် ပတ္တမြားခေါင်းတော်တွင် ထည့်၍၊ တပည့်ကြီးဖြစ်သော ဆရာတော် ဦးနရိန္ဒ ပူဇော်သော နတ်မြင်းပျံယာဉ်ကြီးဖြင့် ပင့်ဆောင်ကြလေသည်။

ဦးစွာ ပထမ မင်္ဂလာရိပ်သာမှ မြောက်ကိုသွား၊ လမ်းမရောက်လျှင် အရှေ့ကိုတက်၊ အမရပူရ တရုတ်



ဆရာတော်ဘုရား၏ရုပ်ကလာပ်တော်ကို အင်္ဂလိပ်ရှာပနကျင်းပပူဇော်ရာ ကွင်းပြင်သို့ ပင့်လာစဉ်




တပည့်ကြီးဦးနရိန္ဒ၏ နတ်မြင်းပျံယာဉ်ကြီးပေါ်တင်၍

ဘန်း လမ်းမကြီးသို့ ရောက်၊ ထိုမှ မြောက်ကို ဦး ဘည်ပြီး လမ်းမကြီးအတိုင်း ခရီးနှင်၊ တရုတ်တန်း မြောက်ဖျားကို ရောက်။

ထိုမှတစ်ဖန် အနောက်ဘက်ကို လှည့်၊ တောင် မြောက် သွားသော မြို့လယ်လမ်းမတော်ကြီးသို့ ရောက်၊ ထိုမြို့လယ် လမ်းမတော်ကြီးအတိုင်း တောင်ဘက်ကို ပြန်လာ၊ မြို့တောင်ဖျားအထိ တရွေ့ရွေ့ ခရီးနှင်။

ဤလမ်းစဉ်အတိုင်း အမရပူရမြို့အတွင်းပိုင်းမှ လက်ဝဲရစ်၍ ပတ်ပြီး လာခဲ့ကြရာ ယခုအခါ အမရပူရ မြို့ တောင်ဖျားကို ရောက်လာကြပြီ၊ ယင်းမှတစ်ဆင့် ကျင်းပမည့် ပွဲတော်အင်း ကွင်းပြင်ကျယ်ကြီးသို့ လာခဲ့ ကြသည်။

ပရိသတ်ကြီးမှာ မမြင်ဖူး မကြုံဖူး မတွေ့ဖူး လောက်အောင် များပြားလှတော့၏၊ ဖွေးဖွေးလှုပ်မျှ ဖြစ်နေကြတော့သည်၊ ယခု လာခဲ့သော (၂)မိုင်ခွဲခန့် ခရီးတစ်လျှောက်လုံး လမ်းဘေးဝဲယာတွင် ပရိသတ်တွေ အပြည့်အညပ် လက်အုပ်ချီ၍ ပူဇော်ကြိုဆိုနေကြ၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဘာသာဝင်ပေါင်းစုံ ပါဝင်ပူဇော်

ဤသို့ ပင့်ဆောင်သော အခမ်းအနားတွင် ဗုဒ္ဓဘာသာဝင်တို့သာမက ယူနန် တရုတ်အမျိုးသားများအဖွဲ့မှ တရုတ်နဂါးအက၊ ဟိန္ဒူလူမျိုးများအဖွဲ့က တုတ်သိုင်းအက၊ ရှမ်းအမျိုးသားများအဖွဲ့က ရှမ်းသိုင်းအကတို့လည်း ပါဝင်ကြသေးသည်။

ထို့ပြင် အာရုံတော်ဝတ်အသင်းများကလည်း ရှေးမူရှေးဟန်မပျက် နန်းဆန်ဆန် ရှေ့ဝင်း နောက်ဝင်းများ ခင်းလျက်လည်းကောင်း၊ ခမ္မစကြာအမျိုးသမီးများအဖွဲ့က ခမ္မစကြာတရား ရွတ်ဖတ်လျက်လည်းကောင်း လိုက်ပါပူဇော်ကြသည်။

ပင့်ဆောင်သော ပရိသတ်ကြီးမှာ များပြားလှသဖြင့် အဦးအဖျားက ပွဲတော်အင်းကွင်းပြင်သို့ ရောက်နေပြီ ဖြစ်သော်လည်း မင်္ဂလာမဂ္ဂင်ရိပ်သာအတွင်း၌ တစ်ဝက်ခန့် ကျန်သေး၏၊ ထွက်နေဆဲ ထွက်နေတုန်းပင် ရှိသေးသည်။

မန္တလေးနှင့် အမရပူရ၊ စစ်ကိုင်းနှင့် အမရပူရ လမ်းမများမှာ လူတွေနှင့် ပြည့်ကျပ် ညပ်နေသဖြင့် မော်တော်ကားများ လုံးဝ သွား၍မရ၊ ယာဉ်လိုင်းများ အဆက်ပြတ်ကုန်ကြသည်။

ထိုလမ်းမကြီးများမှာ ယာဉ်များ လုံးဝ သွား၍မရ၊ လူပရိသတ်အတန်းကြီးသာ ပြည့်ညပ်ဆက်စပ်နေတော့၏၊ ထိုနေ့က အမရပူရ၊ စစ်ကိုင်း၊ မန္တလေး၊ မြစ်ငယ်၊ အင်းဝ စသော အနီးဝန်းကျင်မြို့များမှ လူတွေ အိမ်စောင့်မချန်ဘဲ အကုန် ထွက်လာကြသလား ထင်မှားရတော့သည်။

## ဤပင့်ဆောင်ပွဲအခမ်းအနားတွင် ပါဝင်ဖို့ ကြိုတင်စာရင်းပေးထားသောအဖွဲ့များ

၁။ ရဲမော်တော်ဆိုင်ကယ်များ
၂။ အရပ်မော်တော်ဆိုင်ကယ်များ
၃။ လှို့ဆော်ရေး အသံချဲ့စက်တင်ကား
၄။ ခမ္မစကြာအမျိုးသမီးများအဖွဲ့
၅။ ဆရာတော်ဘုရားကြီး၏ ပုံတော်တင်ကား
၆။ ဆရာတော်ဘုရားကြီးကို ပင့်ဆောင်သော နတ်များ ဗြဟ္မာများအဖွဲ့
၇။ စည်တော်ကြီးအဖွဲ့
၈။ အာရုံတော်အဖွဲ့
၉။ အမျိုးသား ဝင်းခင်းအဖွဲ့
၁၀။ ဗုံတောင်အဖွဲ့

[မှတ်ချက်။ ။အမှတ်စဉ် (၇–၈–၉–၁၀)တို့မှာ ဗုဒ္ဓဝင်တော် အစီအစဉ်အတိုင်း ဖြစ်၏။]

၁၁။ ဆင်ဖြူတော်နှင့် အဆောင်အယောင်
၁၂။ လက်သုံးတော် အမျိုးသမီးများ
၁၃။ ရှင်ဘုရင်နှင့် မိဖုရား (အဆောင်အယောင် အမျိုးသမီးများ)

[မှတ်ချက်။ ။အမှတ်စဉ် (၁၁–၁၂–၁၃)တို့မှာ ရာဇဝင်တော် အစီအစဉ်အတိုင်း ဖြစ်၏။]

၁၄။ မန္တလေး ကြည်တင်ဆေးလိပ်ခုံ အမျိုးသမီးများ၊
၁၅။ ဗျောအဖွဲ့
၁၆။ တီးဝိုင်းနှင့် အကအဖွဲ့
၁၇။ ဗျောနှင့် မင်းသား
၁၈။ တီးဝိုင်းနှင့် အက
၁၉။ အမျိုးသားများအဖွဲ့
၂၀။ အမျိုးသမီးများအဖွဲ့

# တစ်ဘဝသာသနာ

၂၁။ မန္တလေး ဆင်ဆေးလိပ်ခုံ အမျိုးသမီးများ
၂၂။ ဆင်ဆေးလိပ်ခုံ အမျိုးသားများ
၂၃။ တရုတ် အမျိုးသားများ ကင်းထောက်နှင့် သူနာပြုအဖွဲ့
၂၄။ သာချိုဗျောအဖွဲ့ (စစ်ကိုင်း)
၂၅။ အိန္ဒိယကုလားသိုင်းအဖွဲ့
၂၆။ ရှမ်းအိုးစည်သားအဖွဲ့
၂၇။ ယူနန် တရုတ်အမျိုးသားများ၏နဂါးအကအဖွဲ့
၂၈။ အာရုံတော် စောင့်ရှောက်ရေး အမျိုးသမီးအဖွဲ့
၂၉။ ၎င်းအမျိုးသားများအဖွဲ့
၃၀။ အုပ်ချုပ်ရေး အောင်မြန်မာနှင့် မီးသတ် လူငယ် အဖွဲ့
၃၁။ ဗုဒ္ဓဝင်တော် စောင့်ရှောက်ရေး လူကြီးများ
၃၂။ မဟာဝိဇ္ဇောဒယ သံဝေဂ လင်္ကာ အသံသွင်း တိပ်ခွေဖွင့်ကားနှင့် အဖွဲ့
၃၃။ လှူဖွယ် သက်န်းကိုင် အမျိုးသမီးများ ဝဲယာ တစ်ဘက်လျှင် (၁၀၀၀)စီ။ (တစ်ထောင်စီ)
၃၄။ ဦးပေါက်ကျော်+ဒေါ်စီ ဦးဆောင်သော ယောဂီ မယ်များ၊
၃၅။ ရုပ်ကလာပ်တော်တင် နတ်မြင်းယာဉ်ရထား
၃၆။ သံဃာတော်အရှင်မြတ်များ
၃၇။ ဦးကျော်ငြိမ်းဝတ်အသင်း
၃၈။ ရွှေကြက်ယက်ဝတ်အသင်း
၃၉။ ဆင်ရွာဓမ္မစကြာအမျိုးသမီးအဖွဲ့
၄၀။ အိုးတော်ရပ်ဓမ္မစကြာဝတ်အသင်း
၄၁။ အိုးတော်ရပ် ပဋ္ဌာန်းဝတ်အသင်း
၄၂။ ဥယျာဉ်တော် ဓမ္မစကြာဝတ်အသင်း
၄၃။ ငယ်တိုးဆွမ်းတော်ကြီးအဖွဲ့
၄၄။ မိုးကုတ်မြို့ ဒါယကာ ဒါယိကာမများ
၄၅။ ရန်ကုန်မြို့ ဒါယကာ ဒါယိကာမများ
၄၆။ မန္တလေးမြို့ ဒါယကာ ဒါယိကာမများ
၄၇။ ရွှေကြက်ယက်တိုက်နယ်အတီးအဖွဲ့များ
၄၈။ ၎င်းတိုက်နယ်အမျိုးသားများ
၄၉။ ၎င်းတိုက်နယ်အတီးအဖွဲ့
၅၀၊ အမျိုးသမီးများနှင့်လှူဖွယ်များ
၅၁။ ၎င်းအတီးအဖွဲ့
၅၂။ ဟသ်ာတိုက်နယ်အတီးအဖွဲ့
၅၃။ ၎င်းတိုက်နယ်အမျိုးသားများ
၅၄။ ၎င်းတိုက်နယ်အတီးအဖွဲ့
၅၅။ ပန်းချီတိုက်နယ်အဖွဲ့
၅၆။ ဆင်ရွာတိုက်နယ်အဖွဲ့
၅၇။ ကြံတန်းတိုက်နယ် တီးဝိုင်းအဖွဲ့
၅၈။ ၎င်းတိုက်နယ် အမျိုးသားများ
၅၉။ ဆင်စွယ်ပွတ်တိုက်နယ် တီးဝိုင်းအဖွဲ့
၆၀။ ၎င်းတိုက်နယ် အမျိုးသား အမျိုးသမီးများ
၆၁။ အိုးတော်ရပ်၊ စိန်နန်းမြင့် ယက်ကန်းရုံ အမျိုးသား အမျိုးသမီးများ
၆၂။ အိုးတော်တိုက်နယ် ဆင်နှင့် တီးဝိုင်းအဖွဲ့
၆၃။ ၎င်းတိုက်နယ် အမျိုးသားများ
၆၄။ အိုးတော်တိုက်နယ် လူရိုင်းအကနှင့် အတီးအဖွဲ့
၆၅။ ၎င်းတိုက်နယ် လှူဖွယ်ဝတ္ထုဆပ်ပြာ ကပ်(၁၀၀၀) တစ်ထောင်
၆၆။ ယင်းတော်တိုက်နယ် အမျိုးသား အမျိုးသမီးများ
၆၇။ လေးစုတိုက်နယ် အမျိုးသားများ
၆၈။ ၎င်းတိုက်နယ် အတီးနှင့် အကအဖွဲ့
၆၉။ ၎င်းတိုက်နယ် အမျိုးသမီးများနှင့် လှူဖွယ်များ
၇၀။ ၎င်းတိုက်နယ် တီးဝိုင်းအဖွဲ့
၇၁။ ငယ်တိုးတိုက်နယ် တီးဝိုင်းအဖွဲ့
၇၂။ ၎င်းတိုက်နယ် အမျိုးသားများ
၇၃။ ၎င်းတိုက်နယ် တီးဝိုင်းအဖွဲ့
၇၄။ ၎င်းတိုက်နယ် အမျိုးသမီးများ
၇၅။ ၎င်းတိုက်နယ် တီးဝိုင်း
၇၆။ တောင်ကြီးတိုက်နယ် အမျိုးသား အမျိုးသမီးများ
၇၇။ ၎င်းတိုက်နယ် တီးဝိုင်း၊ အိုးစည်ဝိုင်း
၇၈။ ဥယျာဉ်တော်တိုက်နယ် အမျိုးသား အမျိုးသမီး များ
၇၉။ သူငယ်တော်တိုက်နယ် အမျိုးသား အမျိုးသမီး များနှင့် ဗျောအဖွဲ့၊
၈၀။ ရွှေကြူပေါက် အမျိုးသား အမျိုးသမီးများ
၈၁။ ဗဟိုရှာပနကော်မီတီအဖွဲ့ဝင်များ။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ထို့ပြင် ကျောင်း အသီးသီးမှ ကျောင်းသား ကျောင်းသူများ၊ ရက်ကန်းရုံများမှ အလုပ်သမားအဖွဲ့ များ၊ ဆေးလိပ်ရုံ အသီးသီးမှ အမျိုးသမီးအဖွဲ့များ စသည်တို့မှာ အလွန့်အလွန် များပြားလှပါ၏၊ ကြို တင် စာရင်းမပေးဘဲ လိုက်ပါလာကြသဖြင့် စာရင်း ပြု၍ပင် မရအောင် ဖြစ်ကြရပါသည်။

ယင်းသို့ လိုက်ပါ ပို့ဆောင်ကြသူ ပရိသတ် အားလုံးတို့အား လမ်းတစ်လျှောက်လုံး ဟိုနေရာ သည် နေရာမှ ဆီးကြို၍ ဆီးကြို၍ အလှူဒါနပြုကြသူများ လည်း မနည်းလှပေ၊ ချိုချဉ်၊ သီးမွှေးငှက်ပျောသီး၊ လိမ္မော်သီး၊ ဖျော်ရည်၊ ရေခဲရည် စသည်တို့ကို ဝေငှ တိုက်ကျွေး လှူဒါန်းကြ၏။

ပွဲတော်အင်း ကွင်းပြင်ထဲသို့ ရောက်သောအခါ တွင်ကား မန္တလေးမြို့၊ ဒါးတန်း ရေခဲစက် ပိုင်ရှင် ကျောင်းအမကြီး ဒေါ်သန်းက လာလာသမျှ ပရိသတ်တို့ အား ထမနဲများဖြင့် အဝ မိုက်ပြည့် ကျွေးမွေး ဧည့်ခံ ကြပါသည်။

ထို့ပြင် တောင်သူကြီးဟောင်း ဦးတင်မောင် + ဒေါ်ခင်ညွန့်တို့ကလည်း လာသမျှ ပရိသတ်တွေကို ဆီးဖြူသီးပေါင်းဖြင့် ကမ်းလှမ်း ဧည့်ခံ ကျွေးမွေးကြ လေသည်။

## ဈာပနကွင်းမှ ရှုခင်းအသွယ်သွယ်

ပူဇော်ပွဲကျင်းပရာ ပွဲတော်အင်း ကွင်းပြင်ကြီးမှာ မြေကေပေါင်း(၅၀)ကျော် ကျယ်ဝန်းလေသည်၊ ယင်း ပွဲခင်းကြီးအလယ်မှာ ကြီးကျယ်ခမ်းနားလှသည့် (၂၄) ခန်း ပတ်လည်ရှိ “ဗဟိုစံကျောင်းတော်ကြီး” တည်ရှိ၏။

ယင်းဗဟို စံကျောင်းတော်ကြီး၏ ဝဲဘက်တွင် မဏ္ဍပ်ကြီး ၃–လုံး၊ ယာဘက်တွင် မဏ္ဍပ်ကြီး ၃–လုံး တည်ရှိကြသည်၊ မဏ္ဍပ်တစ်ခုလျှင် (၁၄)ခန်းပတ်လည် ကျယ်ဝန်းကြ၏၊ ဗဟို စံကျောင်းတော်ကြီးကို လခြမ်း ပုံသဏ္ဌာန် ဝိုင်း၍ တည်ထားကြသည်။

တစ်ဖန် ထိုကွင်းကြီးအတွင်း၌ လောင်တိုက် ကြီး တစ်ခုကိုလည်း တည်ဆောက်ထားသေး၏၊ လောင် တိုက်ကြီး၏ ရှေ့တည့်တည့်တွင် ငှက်ချေးခံမဏ္ဍပ် (မီးသင်္ဂြိုဟ်ရန် အုတ်ပလ္လင်) တည်ရှိသည်၊ ထို့ပြင် နတ်မြင်းပျံသုံးကောင် တပ်ဆင်ထားသော နတ်ရထား ကြီးကိုလည်း အနားတွင် ရပ်ထား၏။



ရျာပနကွင်းမှ ရှုခင်းအသွယ်သွယ်



ရျာပနကွင်းပြင်ထဲမှ လူထုပရိသတ်

# ကမ္ဘာလုံးကြီးနှင့် ဒုံးပျံကြီး

ထိုမှတစ်ပါး လောင်တိုက်ကြီး၏ ဝဲဘက်နားမှာ အမြင့်ပေ (၁၀၀) တစ်ရာခန့်ရှိ စင်ကြီးပေါ်တွင် ရောမ ကမ္ဘာလုံးကြီးတစ်ခုကိုလည်း ထူးဆန်း အံ့သြဖွယ်ရာ တွေ့ရမည် ဖြစ်၏၊ ယင်းကမ္ဘာလုံးကြီးကို အမြီးသုံးခွရှိသော ဒုံးပျံကြီးက အစဉ်မပြတ် လှည့်ပတ်နေသည်ကိုလည်း မြင်နေကြရသည်။

ကွင်းပြင်ကြီးအတွင်းက မဏ္ဍပ်တိုင်းမှပင် နေရောင်ခြည်အတွင်း ရွှေရောင်တွေ တဝင်းဝင်း တလျှပ်လျှပ်၊ ငွေရောင်တွေ တဖျတ်ဖျတ်၊ မြရောင်တွေ အလုပ်လုပ်နှင့် အပြိုင်အဆိုင် တောက်ပနေကြ၏။

ညပိုင်းတွင်လည်း မီးမောင်းကြီးများ၊ ရောင်စုံဆလိုက်မီးများ၊ မီးချောင်း မီးလုံးများ၊ မီးရှူးမီးပန်းများဖြင့် ဝေဆာနေအောင် တန်ဆာဆင်ထားကြသည်၊ သစ်ပင်များပေါ်တွင် ရောင်စုံမီးလုံးအသေးကလေးများကို တင်ထားကြရာ "အကယ်ပင် သီးပွင့်နေကြလေသလား"ဟု ထင်မှားကြရတော့၏။

အထက် နတ်ပြည် ဗြဟ္မာ့ပြည်တို့မှ နတ်သမီး နတ်သား၊ သိကြား ဗြဟ္မာတို့လည်း ဤကွင်းပြင်သို့ သက်ဆင်းရောက်လာကောင်း ရောက်လာနိုင်စရာ ရှိကြသည်၊ အဘယ့်ကြောင့်ဆိုသော် ဤဆရာတော်ကြီးကို သူတို့လည်း ကြည်ညိုကြ၍ သူတို့ ကြည်ညိုသော ဆရာတော်ဘုရားကြီးကို ထိုက်ထိုက်တန်တန် ပူဇော်ကြပါ၏လော-ဟု လေ့လာအကဲခတ်ရန် ရောက်လာကောင်း ရောက်လာနိုင်စရာ ရှိပါသည်၊ အကယ်၍ ရောက်လာကြလျှင်လည်း ကျေနပ်ကြလိမ့်မည်-ဟု ယူဆရပါသည်။



ပေ(၁၀၀)ခန့် အမြင့်ပေါ်တွင် တွေ့မြင်ရသော ကမ္ဘာလုံးကြီး



ပေ(၁၀၀)ခန့် မြင့်သော ကမ္ဘာလုံး စင်ကြီး



ကမ္ဘာလုံးကြီးကို လှည့်ပတ်နေသော ဒုံးပျံကြီး

## တစ်ဘဝသာသနာ

# ညည့်ခံမှုနှင့် အလှည့်ကျ ပူဇော်

ထိုပြင် ကြွလာသမျှ ပရိသတ်တွေကို နေ့ပွဲ ညပွဲ အတီးအမှုတ်၊ အက အခုန်တို့ဖြင့် စုံလင်စွာ မဏ္ဍပ်တိုင်းမှ ညည့်ခံဖျော်ဖြေနေကြသည်၊ ရပ်နားသည် မရှိ၊ ပရိသတ်ကြီးကလည်း များပြားလှပါဘိခြင်း။

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို အလှည့်ကျပူဇော်ကြရ၏၊ အလှည့်ကျပူဇော်ခွင့်ရသော မဏ္ဍပ်မှ လာကြ၍ တပည့်သံဃာတော်များ ဦးဆောင်ကာ ဒကာ ဒကာမတို့ အသိုင်းအဝိုင်းဖြင့် ပင့်ဆောင်ကြလေသည်။

ထိုအခါ ဦးကျော်သိန်း+ဒေါ်တင်လှတို့၏ ကရဝိက် ဖောင်ကြီးပေါ်သို့ တင်၍ ပင့်ဆောင်သွားကြ၏၊ တစ်မဏ္ဍပ်မှ တစ်မဏ္ဍပ်သို့ အခမ်းအနား အတီးအမှုတ်တို့ဖြင့် မြိုင်မြိုင်ဆိုင်ဆိုင် ပင့်ဆောင်ကြလေသည်။

အလှည့်ကျ ပူဇော်ခွင့်ရ၍ ပင့်ဆောင်တိုင်း ဦးကျော်သိန်း + ဒေါ်တင်လှတို့၏ ကရဝိက်ဖောင်ကြီးဖြင့် ပင့်ဆောင်ကြလေ၏၊ မဏ္ဍပ်တိုင်း၌ အတီးအမှုတ် အငြိမ့် ရုပ်ရှင် စသည်တို့ဖြင့် ညည့်ခံနေကြသော်လည်း ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် ရောက်လာလျှင် အားလုံး ရပ်နားကြရ၏။

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် ရှိခိုက်တွင် ထိုမဏ္ဍပ်၌ အငြိမ့် ရုပ်ရှင် ဇာတ်ပွဲ အတီးအမှုတ်များ မပြုလုပ်ရ၊ ဆရာတော်ဘုရားကြီး၏ တရားတိပ်ခွေအသံတော်ကိုသာ ဖွင့်၍ ညည့်ခံကြရသည်။

ဆရာတော် ဘုရားကြီး၏ ရုပ် ကလာပ်တော် အခြားမဏ္ဍပ်သို့ ပြောင်းရွှေ့ ကြွရောက် စံတော်မူ၍ ရုပ်ကလာပ်တော် မရှိခိုက်တို့၌သာ အငြိမ့် ရုပ်ရှင် ဇာတ်ပွဲ အတီးအမှုတ်တို့ဖြင့် ညည့်ခံခွင့်ရကြလေသည်။

# ဤပူဇော်ပွဲတွင် ပါဝင်လှူဒါန်းကြသော ပစ္စည်းများ

၁။ ပူဇော်ပွဲကွင်းအတွင်းက ပန်းပြာသာဒ်ကြီးကို **မန္တလေးမြို့မှ** ကျောင်းဒကာ ဦးကျော်သိန်း၊ ဇနီး ဒေါ်တင်လှတို့က လှူဒါန်းကြပါသည်။

၂။ ဆရာတော် ဘုရားကြီး၏ ရုပ် ကလာပ်တော် ထည့်သွင်းဖို့ရန် အဖိုး **အနဂ္ဃ** ထိုက်တန်သော ပတ္တမြားခေါင်းကြီးကို မိုးကုတ်မြို့မှ ဒကာ ဒကာမများက လှူဒါန်းကြပါသည်။

၃။ ပတ္တမြားခေါင်းကြီးတင်ရန် ဘော်ပြာသာဒ် စံကျောင်းတော်နှင့် သံဃာတော်များအား လှူဒါန်းရန် ပေါ်ပလင်သက်နံ့ဒွိစုံ (၁၀၀၀) တစ်ထောင်ကို ချာပနရန်ပုံငွေမှ လှူဒါန်းကြပါသည်။

၄။ အင်္ဂါရှာပနကွင်းပြင်သို့ ရုပ်ကလာပ်တော်ကို ပင့်ဆောင်ရန် နတ်မြင်းပျံ ပြာသာဒ်ယာဉ်ကို ဆရာတော်ဘုရား၏ တပည့်ကြီးဖြစ်သူ ဦးနရိန္ဒက လှူဒါန်းပါသည်။

၅။ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ရန် ငှက်ချေးခံ အုတ်ပလ္လင်ကို မင်္ဂလာတိုက်ဟောင်း သံဃာတော်များက လှူဒါန်းကြပါသည်။

၆။ ပူဇော်ပွဲကွင်းပြင်အတွင်း ရုပ်ကလာပ်တော်ကို လှည့်လည် ပင့်ဆောင်ရာတွင် အသုံးပြုရန် အတွက်–

(က) ကရဝိက်ဖောင်တော်ကိုလည်းကောင်း၊

(ခ) ကွင်းအတွင်းမှ ကမ္ဘာလုံးကြီးနှင့် ဒုံးပျံကြီးကိုလည်းကောင်း၊

(ဂ) လောင်တိုက် အဆောက်အအုံကြီးကို လည်းကောင်း

ကျောင်းဒကာ ဦးကျော်သိန်း+ကျောင်းအမ ဒေါ်တင်လှ တို့က လှူဒါန်းကြပါသည်။

၇။ မိုးကုတ် ဝိပဿနာ စာအုပ် ပထမတွဲ အုပ်ရေ (၁၀၀၀) တစ်ထောင်ကို မိုးကုတ်မြို့၊ မြို့မရပ်၊ ကျောင်းအမကြီး ဒေါ်အုံ၊ ဒေါ်ဖုံနှင့် သားသမီး ဂစ်စုတို့က လှူဒါန်းကြပါသည်။

၈။ ဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိစာအုပ် အုပ်ရေ (၁၀၀၀)ကို မန္တလေးမြို့မှ ကျောင်းဒကာ ဦးကျော်သိန်း၊ ဇနီး ဒေါ်တင်လှတို့က လှူဒါန်းကြပါသည်။

၉။ မိုးကုတ် ဝိပဿနာစာအုပ် တတိယတွဲ အုပ်ရေ (၁၀၀၀)ကို မိုးကုတ်မြို့၊ မြို့မရပ်၊ ဦးမြင့် + ဒေါ်သန်းသန်းနှင့် သားသမီးတစ်စုတို့က လှူဒါန်းကြပါသည်။

၁၀။ မိုးကုတ် ဝိပဿနာစာအုပ် တတိယတွဲကိုပင် အုပ်ရေ (၁၀၀၀)ကို မိုးကုတ်မြို့၊ မြို့မရပ် ဦးအုန်းခိုင် + ဒေါ်ပိုက်ပိုက်နှင့် သားသမီးတစ် တို့က လှူဒါန်းကြပါသည်။

၁၁။ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် မီးသဂြိုဟ်ရန် နံ့သာထင်း (၁၀၀၀) တစ်ထော ကိုလည်းကောင်း၊ သံဃာတော်များအား လှူဒါ ရန် ဆန်းလိုက် ဆပ်ပြာကပ် (၁၀၀၀)ကိုလည် ကောင်း အမရပူရမြို့၊ အိုးတော် တိုက်နယ် ဒကာ ဒကာမတို့က လှူဒါန်းကြပါသည်။

၁၂။ မျက်နှာသုတ် ပဝါ (၅၁၀)ကို အမရပူရမြို မင်္ဂလာမဂ္ဂင်ဝိပဿနာရိပ်သာ သီလရှင်များ လှူဒါန်းကြပါသည်။

## စတုဒိသာ ကျွေးမွေးဧည့်ခံ

ဈာပနပွဲကြီး ကျင်းပနေစဉ် (၇)ရက်အတွင်း ကာလပတ်လုံး လာလာသမျှ ဧည့်ပရိသတ်တို့အား မဏ္ဍပ်အသီးသီးက စတုဒိသာအနေဖြင့် ဧည့်ခံကျွေးမွေး ကြ၏၊ ရေနွေးကြမ်း၊ လက်ဖက်သုပ်၊ ချင်းသုပ်၊ ဘူး သီးကြော်၊ ဘယာကြော် စသည်တို့ကို ကျွေးမွေးကြ သည်။

အချို့မဏ္ဍပ်ကမူ ကော်ဖီ၊ လက်ဖက်ရည်အချို၊ မုန့်ပဲ သရေစာတို့ဖြင့်လည်းကောင်း၊ ထမင်း ဟင်း၊ အဖျော်ယမကာတို့ဖြင့်လည်းကောင်း ဧည့်ခံကျွေးမွေး ကြ၏။ ညအိပ်ညဥ့်နေတည်းခိုနေထိုင်ရေးအတွက်ပါ တာဝန်ယူကြသည်။

၁။၁၃၂၄–ခု ပြာသိုလဆန်း (၈)ရက်နေ့တွင် မန္တလေးမြို့မှ ကျောင်းဒကာ (ပွဲစားကြီး) ဦးပေါက် ကျော် + ကျောင်းအမကြီး ဒေါ်စီတို့က သံဃာတော်များ အားလုံးတို့အား ဒံပေါက်ဆွမ်း၊ မုန့်ပဲ သရေစာ၊ လက်ဖက်ရည်တို့ကို ဆက်ကပ်လှူဒါန်းကြ၏။

၂။ပြာသိုလဆန်း(၉)ရက်နေ့တွင် ရန်ကုန်မြို့ ကျောင်းဒါယကာကြီး ဦးအောင်ချို+ကျောင်းအမကြ ဒေါ်လှညွန့်တို့က သံဃာတော်အားလုံးအား ဒံပေါက် ဆွမ်းနှင့် ခဲဖွယ်တို့ကို လှူဒါန်းကြသည်။

၃။ပြာသိုလဆန်း(၁၀)ရက်နေ့တွင် မိတ္ထီလာမြို့ မှ ဒါယကာ ဒါယိကာမများ စုပေါင်းနှင့် မန္တလေးမြို့ (သစ်ဘရားသား) ဦးသစ်တို့က သံဃာတော်အား တို့အား ထောပတ်ဆွမ်းတို့ကို လှူဒါန်းကြ၏၊ ဧ ပရိသတ်တို့အားလည်း ဧည့်ခံကျွေးမွေးကြသည်။

၄။ပြာသိုလဆန်း (၁၁)ရက်နေ့တွင် မန္တလေးမြ ဒါးတန်း၊ ရေခဲစက်ပိုင်ရှင် ကျောင်းအမကြီး ဒေါ်သ နှင့် သားသမီးတစ်စုတို့က သံဃာတော်အားလုံးတို့အ ဆွမ်းဘောဇဉ် ဆပ်ကပ်ကြ၏၊ ဧည့်ပရိသတ်တို့အ လည်း ဧည့်ခံကျွေးမွေးကြသည်။

၅။ပြာသိုလဆန်း(၁၂)ရက်နေ့တွင် ရန်ကုန်မြ ကျောင်းဒကာကြီး (ကျားပျံ) ဦးသန်းမောင် + ကျော

## တစ်ဘဝသာသနာ

အမကြီး ဒေါ်ကောက်တို့က သံဃာတော်အားလုံးအား အုန်းဆွမ်းနှင့် ခဲဖွယ်တို့ကို ဆက်ကပ်ကြ၏၊ ဧည့် ပရိသတ်တို့အားလည်း ကျွေးမွေးကြသည်။

၆။ပြာသိုလဆန်း(၁၃)ရက်နေ့တွင် ရန်ကုန်မြို့မှ တပည့် ဒါယကာ ဒါယိကာမတို့နှင့် မန္တလေးမြို့မှ စက်ပိုင်ရှင် ဦးသာငွေ + ဒေါ်သန်း၊ သားသမီးတို့က သံဃာတော်တို့အား ဆွမ်းဘောဇဉ်များ ဆက်ကပ်ကြ ၏၊ ဧည့်သည်တို့အားလည်း ဧည့်ခံကြသည်။

၇။ပြာသိုလဆန်း(၁၄)ရက်နေ့တွင် မိုးကုတ်မြို့မှ ဦးဘလှိုင်+ဇနီး ဒေါ်ဦးတို့က သံဃာတော်အားလုံးအား ဆွမ်းခဲဖွယ်တို့ကို ဆက်ကပ်ကြ၏။

၈။ပြာသိုလဆန်း(၁၅)ရက်နေ့တွင် မိုးကုတ်မြို့မှ ဒါယကာ ဒါယိကာမ အပေါင်းတို့က သံဃာ အပါး (၁၀၀၀) တစ်ထောင်တို့အား ဆွမ်းခဲဖွယ်ဘောဇဉ်တို့ကို ဆက်ကပ် လှူဒါန်းကြသည်။

## မဏ္ဍပ်အသီးသီးမှ ဧည့်ခံ

ဗဟိုမဏ္ဍပ်ကြီး၏ ဝဲဘက်တွင်ရှိသော ဦးကျော် သိန်း + ဒေါ်တင်လှတို့၏ အမှတ်(၁)မဏ္ဍပ်မှ ရပ်နီး ရပ်ဝေး ပရိသတ်တို့အား နေ့စဉ် (၇)ရက်တိုင်တိုင် ထမင်းမုန့်ပဲသရေစာတို့ဖြင့် စတုဒိသာ ကျွေးမွေးကြ ပါသည်။

ဝဲဘက်တွင်ရှိသော အမှတ်(၂)မဏ္ဍပ်တွင် သစ် ဘရားသား ဦးသစ်တို့ကလည်း လာလာသမျှ ပရိသတ် တို့အား (၇)ရက်ပတ်လုံး စတုဒိသာ ကျွေးမွေးလှူဒါန်း ကြပါသည်။

ဝဲဘက်တွင်ရှိသော အမှတ်(၃)မဏ္ဍပ်ကလည်း (၇)ရက်ပတ်လုံး ဆီးဖြူသီးပေါင်း၊ ငါးပိကြော်၊ ရေနွေး၊ လက်ဖက်သုပ်တို့ဖြင့် ဧည့်ခံကြပ ၏၊ အငြိမ့်တို့ဖြင့် လည်း ဖျော်ဖြေကြပါသည်။

ဗဟိုမဏ္ဍပ်ကြီး၏ ယာဘက်တွင်ရှိသော အမှတ် (၁) မဏ္ဍပ်ကား မိုးကုတ် မြို့သူ၊ မြို့သားတို့၏ ကောင်းမှု ဖြစ်၏၊ ထိုမဏ္ဍပ်ကလည်း (၇)ရက်ပတ်လုံး စတုဒိသာ ကျွေးမွေးကြသည်။

ယာဘက်တွင်ရှိသော အမှတ်(၂)မဏ္ဍပ်ကလည်း (၇)ရက်ပတ်လုံး စတုဒိသာ ကျွေးမွေးကြ၏၊ လာလာ သမျှ မျက်နှာမငယ်ရ။

ယာဘက်တွင်ရှိသော အမှတ်(၃)မဏ္ဍပ်တို့မှ လည်း (၇)ရက်တိုင်တိုင် စားသောက်ဖွယ်မျိုးစုံတို့ဖြင့် လာလာသမျှ စတုဒိသာ ကျွေးမွေးကြသည်။ သူတို့၏ သဒ္ဓါတရားများကား အံ့သြဖွယ်ရှိကြလေစွ...။

## တတိယအကြိမ် ပျားစွဲခြင်း

သက္ကရာဇ် ၁၃၂၄–ခု ပြာသိုလဆန်း (၁၄)ရက် (၈.၁.၆၃)နေ့တွင် ကျောင်းဒကာ ဦးကျော်သိန်း + ဒေါ်တင်လှတို့၏ မဏ္ဍပ်က ပူဇော်ခွင့် ရကြ၏၊ သို့ ဖြစ်၍ အလှည့်ကျသော ညနေ ၃–နာရီအချိန်တွင် ရုပ်ကလာပ်တော်ကို သွား၍ပင့်ကြသည်။

ဗဟိုစံကျောင်း မဏ္ဍပ် ကြီးတွင် ရှိသော ရုပ်ကလာပ်တော်ကို မဏ္ဍပ်ကြီးမှ တစ်ဆင့် လောင်တိုက်ကြီး၊ ဒုံး ပျံစင်ကြီးနှင့် မီးသဂြိုဟ်မည့် အုတ်ပလ္လင်တော်များကို လက်ယာရစ်ပတ်ပြီး ပင့်ဆောင် လာကြ၏။



တတိယအကြိမ် ပျားစွဲနေပုံ

ထိုအချိန်တွင် များပြားလှစွာသော ပျားကောင်တို့သည် များပြားလှစွာသော လူအုပ်ကြီး၏ ခေါင်းပေါ်မှ လိုက်ပါလာကြသည်၊ တဝီဝီအသံတွေ မြည်ကြကုန်လျက် ပင့်ဆောင်လာသော လမ်းအတိုင်း ပျံသန်းလိုက်ပါလာကြ၏၊ မည်သည့်နေရာက ရောက်လာကြသည် မသိ။

ထို့နောက် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် ကိန်းဝပ်မည့် ဦးကျော်သိန်း+ဒေါ်တင်လှတို့၏ မဏ္ဍပ်သို့ ရှေ့က သွားနှင့်ကြ၏၊ ရုပ်ကလာပ်တော် မရောက်လာမီ မိနစ်အနည်းငယ်အတွင်း၌ မဏ္ဍပ်၏ ဘယ်ဘက်ယွန်း အဆောင်အတွင်း (မဏ္ဍပ်မုတ်ဆိတ်) တွင် ဝင်ရောက်စွဲအုံကြတော့သည်။

မဏ္ဍပ်အတွင်း၌ လူပေါင်း မြောက်မြားစွာတို့လည်း ရှိနေကြ၏၊ ပရိသတ်၏ ရှေ့မှောက်မှာပင် ဝင်၍ စွဲကြသည်၊ ထို့နောက် (၂)မိနစ်အကြာတွင် ရုပ်ကလာပ်တော်လည်း ရောက်လာတော်မူ၏၊ ပျားကောင်များလည်း သိုက်အုံဖွဲ့၍ စွဲပြီး ဖြစ်ကြတော့သည်။

ဤသို့အားဖြင့် ဆရာတော်ဘုရားကြီး၏ ဘဝတစ်သက်တာတွင် ပျားစွဲလာခဲ့သည်မှာ (၃)ကြိမ် ရှိလေပြီ၊ ၁၂–နှစ်အရွယ် သာမဏေငယ်ဘဝက တစ်ကြိမ်၊ အသက်၂၀–ရွယ် ရဟန်းဖြစ်တဲ့နေ့က တစ်ကြိမ်၊ ယခု ရုပ်ကလာပ်တော်ကို မီးရှို့ခါနီး တစ်ရက် အလိုကွင် ဘဝခရီး နောက်ဆုံး နိဂုံးအုပ်ခါနီးကာလ၌ တစ်ကြိမ်၊ ပေါင်း(၃)ကြိမ် ရှိလေပြီ။

“ပျားကောင်များ” ဆိုတဲ့ အမျိုးက အချိုအမြိန့် အရသာတို့ကို စုရုံး ဝိုင်းအုံနေတတ်ကြ၏၊ ထို့အတူ ပျားကောင်များနှင့် တူတဲ့ အများ ပရိသတ်တို့ကလည်း ဆရာတော်ဘုရားကြီး၏ ချိုမြိန့်သော သစ္စာတရား အရသာများကို ခံစား ဝိုင်းအုံ သောက်သုံးခဲ့ကြပြီ၊ နောင်အနာဂတ်တွင်လည်း ဆက်လက်၍ ဝိုင်းအုံ သောက်သုံးကြမည့် နိမိတ်များပေလော...။

# အန္တိမ ရဟန်း သာစကိဋ္ဌနသဘင် အခမ်းအနားတွင် ဖတ်ကြား ပူဇော်အပ်သော တေဇာတော်ဖွဲ့ ရတုပိုဒ်စုံ

[မိတ္ထီလာမြို့၊ ဦးမြင့်ဆွေ (မူလမ္မာစရိယ) ဒုလ္လဘဒေသနာရေးသားသူ ပူဇော်သည်။]

## ရှာမှရှားတဲ့ ယောကျ်ားဇာနည်

၁။ **မြေမြတ်ပထဗျာ**၊ ဇမ္ဗူရွာတည့်၊ တေဇာ ပဝင်း၊ ဘုန်းရောင်လင်းသား၊ သတင်းတော်ဂုဏ်၊ ကျေးဇူးဟုန်တို့၊ ရိုက်ခြံဘဝင်၊ လွှမ်းကာတက်ရှင့်၊ မြတ်မျက်ရတနာ၊ ထေရ်ဆရာတည့်၊ ပညာကဲလွန်၊ ဇာနည်မွန်မို့၊ ဘဒ္ဒန္တ ဝိမလ၊ နာမလွှင့်ကျော်၊ "မိုးကုတ် ဆရာတော်"ဟု၊ သားတော်ထိပ်တင်၊ တို့ဘုန်းရှင်ကား၊ မြန်ခွင့်ကောဇာ၊ ထောင့်နှစ်ရာမှ ခွန်းလာတုံလစ်၊ ခြောက်ဆယ့်တစ်တည့်၊ ထွန်းသစ်ဟံသ၊ နတ်တော်လ ၏၊ ပြည့်ဝကျော်တက်၊ ဆယ့်တစ်ရက်မို့၊ လှူ့စက်ရှိန်ငွေ့၊ ဆင်မင်းနေ့ဝယ်၊ စုတေ့ကြွလာ၊ ထက်ဗြဟ္မာမှ၊ မြတ်စွာ သကျ၊ သုံးလူ့ဘ၏၊ နဂ္ဂမိန့်မှာ၊ သာသနာကား၊ ဝန် တာချို့ဝက်၊ ငါ့အတွက်ဟု၊ ထမ်းရွက်မည့်အား၊ ကြုံး သံဝါးလျက်၊ လူသားရိပ်ဝါ၊ ဖွားမြောက်လာရှင့်၊ ချိန်ခါ ရွယ်သင့်၊ သံဝေဆင့်၍၊ ဉာဏ်မြင့်လောင်းလျာ၊ သုတော် စွာကား၊ ဃရာနှောင်တွင်း၊ ငြီးငွေ့ပြင်း၍၊ ဇွတ်တင်း ရန်းခွာ၊ သာသနာကို၊ ငယ်စွာနှလျက်၊ ထမ်းဆောင်ရွက် ရှင့်၊ နံနက်ပညာ၊ အခြေပါအောင်၊ သုံးဖြာပိဋကတ်၊ အဋ္ဌ–ကထာ၊ ဋီကာအနု၊ မစုဂဏ္ဌိ၊ နေတ္တိမိုငြမ်း၊ ဆန်းအလင်္ကာ၊ အဘိဓာဗျာကရဏ်း၊ ကျမ်းအားလုံးကို၊ ထုံးသို့ကြိတ်ခြေ၊ ရေသို့မွေလျက်၊ ကွဲကွဲဝက်မှု၊ အောက် ထက်ဝုန်ဝါ၊ သင်ယူကာဖြင့်၊ ဆရာနည်းကျ၊ လက်ထပ် ရဖို့၊ ကာလမြင့်ကြာ၊ ဆည်းပူးရှာခဲ့၊ ဉာဏ်ဝါလောက်လုံ၊ ကယ်ပြည့်စုံသော်၊ ခိုလှုံရောက်ကြ၊ များသိဿအား၊ သာသနာ့အုတ်မြစ်၊ ဖြစ်ကြီး ဖြစ်အောင်၊ အားသစ် စိတ်စော၊ ချပို့သောမို့။

> ဒုလ္လဘော ပုရိသာဇညော၊
> န သော သဗ္ဗတ္ထ ဇာယတိ။
> ယတ္ထ သော ဇာယတိ ဓီရော၊
> တံ ကုလံ သုခ မေဓတိ။ ။

လာရှိဒေသနာ၊ ဂါထာမိန့်ခွန်း၊ သြဘာညွှန်းသည်... ဥဒါန်းကမ္ဘာ တည်စိမ့်သော်။ ။

## စွယ်စုံဂုဏ်မြောက် မုံသောက်မာတင်

၂။ **ထေရ်မြတ်ဆရာ**၊ တို့ဘုန်းလှာတည့်၊ ခွန့် ကြာ သမယ၊ ကြိုးလုံ့လသား၊ အမရပူရ၊ ဘုနက်သန်မို့၊ နာခံခိုင်ပြီး၊ တောင်မြို့ကြီးဝယ်၊ အံ့ချီးစသာ၊ မင်္ဂလာရာမ၊ ဝိဟာရ၌၊ ယာပထညီစွာ၊ ကျိန်းဝပ်ကာဖြင့်၊ ငယ်ခါကျန၊ ဆိုဆုံးမသား၊ သင်ပြ သိပ်သည်း၊ နိဿယည်းနှင့်၊ စည်းမျဉ်းကောင်းစွာ၊ ငယ်ဆရာမို့၊ သညာဖွဲ့ထုံး၊ ဆရာကြီးအုန်း၏၊ လက်ရုံးတစ်ဆူ၊ ဖြစ်တော်မူသား၊ ဝိဒူပါမောက်၊ ကဝိမြောက်ခဲ့၊ မုံသောက်အာဇာ၊ ထေရ် ဆရာကား၊ သုံးဖြာပိဋကတ်၊ ငါးရပ်နိကာယ်၊ ပြောကျယ် ဓမ္မက္ခန်၊ ကျမ်းဂန်ဂန်ဝယ်၊ ဖန်ဖန်မွေနှောက်၊ တုန်ချား ချောက်အောင်၊ ခေါက်ခေါက်ပတ်ချာ၊ ဉာဏ်ပတျာဖြင့်၊ ခါခါစေ့ငု၊ တုံ့ပြန်ရှုလျက်၊ ဂရုကထ၊ စိုးကြောင့်ကြသား။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

အတ္တာနမေဝ ပထမံ၊
ပဋိရူပေ နိဝေသယေ။
အထည မနုသာသေယျ၊
န ကိလိဿေယျ ပဏ္ဍိတော။ ။

မိန့်ဟောညီစွာ၊ သင်ပြီးခါတည့်၊ များစွာသိဿ၊ ဝေနေယျတို့၊ ဒုက္ခပတ်ချာ၊ ပဋိစ္စာဝယ်၊ ဖန်ခါဇာတိ၊ ဇရာဖိလျက်၊ ဗျာဓိမရဏ၊ တွင်းဆုံးကျအောင်၊ လေးဝအပါယ်၊ ဝက်ဝက်ကယ်မှု၊ ကြီးကျယ်ဆင်းရဲ၊ ခံရနဲကို၊ တလဲလဲလဲ၊ ဉာဏ်စွမ်းဟုန်ဖြင့်၊ မြင်တုံလောလော၊ ရင်သပ်မောရှင့်၊ အဟောဒုက္ခ၊ ကြောက်ဖွယ်စွတည့်၊ ကာလဖင့်နွေး၊ လျစ်လျူရေးဖြင့်၊ အေးဆေးခုခါ၊ မသင့်ရာဘူး၊ လျင်စွာကယ်မ၊ ဟောချွတ်ရအံ့၊ ကြောင့်ကြသောထွေ၊ ဒို့ဘုန်းဝေကား–

ကိံ မေ ဧကေန တိဏ္ဏေန၊
ပုရိသေန ထာမဒဿိနာ။
အရဟတ္တံ ပါပုဏိတွာ၊
သံသာရေသံ ပဇံပဇံ။ ။

ကဲလွန်မေတ္တာ၊ ထုံမွှမ်းကာလျှင်၊ ဒေသနာရွှေခွန်း၊ ဟောဖော်ညွှန်းသည်၊ မြိုင်နန်းအမတာ စည်စိမ့်သောဝ်။

## ဓမ္မစည်ကြီး ရိုက်ဆော်တီးလျက်

၃။ **နေနတ်ပဝရာ**၊ မြတ်ဆရာတည့်၊ ဒီပါလေးလီ၊ ကွန့်မြန်းချီသို့၊ ဇာနည်မြတ်ကျော်၊ ဒို့ဘုန်းမော်ကား၊ ရှင်တော်မာရဇိ၊ တုမရှိ၏၊ တရိဩဝါ၊ သာသနာဝယ်၊ နှစ်ဖြာခွရ၊ ကျင့်သုံးဝဖြင့်၊ သိက္ခာများမြောင်၊ စွမ်းကုန်အောင်လျှင်၊ ဘုန်းခေါင်ဇိနော်၊ ကျေးဇူးတော်ကို၊ မြော်ခေါ် လေးမြတ်၊ ပေးကာဆပ်ရှင့်၊ ထူးမြတ်ပဏိဓိ၊ စိတ်တော် ရှိမို့။

ယေကေစိ ဩသဓာ လောကေ၊
ဝိဇ္ဇန္တိ ဝိဝိဓာ ဗဟူ။
ဓမ္မောသဓသမံ နတ္ထိ၊
ဧတံ ပိဝထ သာဓဝေါ။ ။

သောသောရောက်လာ၊ များသိဿာနှင့်၊ ဒါယကာ ဒါယိကာမ၊ သာဝက စားစား၊ ဝေနေများကို၊ သနားရေးရှု၊ မေတ္တာမှုဖြင့်၊ ကြီးထုပညာ၊ ဖြန့်ကြက်ကာလျှင်၊ မခြားနေ့ည၊ ကြိုးလုံ့လသား၊ ဓမ္မစည်ကြီး၊ ပွဲတင် ဟည်းအောင်၊ ရိုက်တီးခတ်လွှဲ၊ ခြိမ့်ခြိမ့်သဲရှင့်၊ နက်နဲသစ္စာ၊ ခွဲစိတ်ဖြာလျက်၊ ပဋိစ္စာဓမ္မ၊ သံဝေဂလည်း၊ ကျနတိုက်ဆိုက်၊ ဖြစ်စဉ်ကိုက်လျှင်၊ စရိုက်ခြင်းရာ၊ ဥပမာစုစု၊ ဝတ္ထုထွေထွေ၊ သက်သေသာဓက၊ သဘာဝအရှိ၊ မိမိခန္ဓာ၊ ဉာဏ်ရောက်လာအောင်၊ ကောင်းစွာဝေခွဲ၊ ဟောညွှန်ဆဲတည့်၊ အက်ကွဲမြင့်မိုရ်၊ တောင်ကြီးပြိုသို့၊ မိုခိုယွင်းမဲ့၊ ကိုးရာမဲ့ရှင့်၊ တွက်ဖွဲ့ကောဇာ ထောင်သုံးရာမှ၊ စွန်းလာခဲ့ရေ၊ နှစ်ဆယ့်လေးတည်း၊ ပူရေးလက်ငင်း၊ ကျွတ်သီတင်းရှင့်၊ အလင်းကွယ်ပုက် ဆုတ်လေးရက်မို့၊ မွန်းစက်ချိန်ကျ၊ နေ့ဗုဒ္ဓလျှင်–

ဈာယထ ဘော မာ ပမာဒတ္ထ၊
မာ ပစ္ဆာ ဝိပ္ပဋိသာရိနော။
အဟုဝတ္ထ ယံ ဝေါ အမှံ၊
အန္တိမံ အနုသာသနီ။ ။

ရွှေခွန်းချီလျက် သာကီဘုန်းဟော့၊ ချိန်ခါစေ့သပြေမဖွေ့ခန္ဓာ၊ လွတ်ကြောင်းရှာသား၊ အမတာဟူ၊ [illegible] ကြငှန်း၊ အရောက်မြန်းသည်၊ လူ့နန်းဩဘာစည် [illegible] သောဝ်...။

## တစ်ဘဝသာသနာ

# နောက်ဆုံး မီးသင်္ဂြိုဟ်မည့်နေ့

၆

သက္ကရာဇ် ၁၃၂၄–ခု ပြာသိုလဆန်း ၁၅–ရက် (ပြာသိုလပြည့်နေ့) [၉.၁.၆၃] ယနေ့ကား ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို နောက်ဆုံးအနေဖြင့် မီးသင်္ဂြိုဟ်ရမည့် (အန္တိမ အဂ္ဂိစျာပန)နေ့ကြီး ဖြစ်တော့၏။

ထို့ကြောင့် နောက်ဆုံး အပူဇော်ခံသည့်အနေအားဖြင့် ယနေ့ မဏ္ဍပ်တိုင်းမှာ လှည့်လည် အပူဇော်ခံနေတော်မူသည်၊ ပရိသတ်ကြီးကား ကွင်းလုံး ပြည့်ကြိတ်ကြိတ်တိုး ဖြစ်နေကြ၏၊ နောက်ဆုံးနေ့ မဟုတ်ပါလော။

ယနေ့ လူတိုင်းပင် စိတ်တွေ လှုပ်ရှားနေကြ၏၊ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို မွန်းလွဲ (၁)နာရီအချိန်တွင် ဦးကျော်သိန်း+ဒေါ်တင်လှတို့၏ ခုံးပျံကြီးနှင့် ကမ္ဘာလုံးစင်ကြီးပေါ်သို့ ပင့်ကြသည်၊ ပင့်ရာတွင် နတ်မြင်းပျံရထားကြီးဖြင့် ပင့်ဆောင်တင်ကြ၏၊ အဝေးကနေ၍ အမြင့်တွင် ဖူးမြော်ပူဇော်ခံနိုင်ရန် ဖြစ်သည်။

မွန်းလွဲ(၂)နာရီအချိန်တွင် ကမ္ဘာလုံးစင်ကြီးပေါ်မှ ဆင်းသက်ကြွ၍ ဦးကျော်သိန်း+ဒေါ်တင်လှတို့၏ မဏ္ဍပ်သို့၊ ယင်းမှတစ်ဆင့် လောင်တိုက်ကြီးပေါ်တွင် ပင့်ဆောင်တင်၍ အပူဇော်ခံပြန်သည်၊ ပရိသတ်ကြီးကား နောက်ဆုံးအချိန်ဖြစ်၍ အားမလိုအားမရ ဖူးမဝအောင် တိုးကြိတ်နေကြတော့၏၊ ဆန်ပန်းပေါက်ပေါက်တို့ဖြင့် ကြဲ၍လည်း ပေါက်ပေါက်မိုး ရွာပေးလှုက်ရှိကြသည်။

မွန်းလွဲ ၂–နာရီ၊ ၃၀–မိနစ်အချိန်တွင် လောင်တိုက်ကြီးပေါ်သို့ တစ်ဆင့် မီးသင်္ဂြိုဟ်ရာ အုတ်ပလ္လင်ကြီးဆီသို့ ပင့်ကြ၏၊ ယောဂီများ ကိုယ်တိုင် ပခုံးအဆင့်ဆင့်ဖြင့် ထမ်း၍ ပင့်ဆောင်လာကြပြန်သည်။

နောက်ဆုံးအနေဖြင့် ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ် (မီးရှို့)ပစ်ရတော့မည် ဖြစ်၍ ပရိသတ်ကြီး၏ ရင်တွင် နင့်နေကြ၏၊ နာကျင်ဆို့နင့်သော ဝေဒနာတို့ကို ကိုယ်စီခံစားနေကြရသည်၊ မျက်စိမျက်နှာ မရွှင်နိုင်ကြတော့၊ မျက်နှာအိုကလေးများဖြင့် မျက်လုံးအိမ်အတွင်း မျက်ရည်တွေ ဝိုင်းနေကြတော့၏။

အုတ်ပလ္လင်ပေါ်သို့ ရောက်သောအခါ ရုပ်ကလာပ်တော်မှာ ခန္ဓာဝန်ချပြီးသည်နှင့်မတူ၊ သက်တော်ထင်ရှားရှိစဉ်ကကဲ့သို့ အေးအေးဆေးဆေး ကျိန်းစက်နေသလိုမျိုး ဖြစ်နေသည်၊ အသားအရေများကလည်း ဝါဝင်းစိုပြည် ပျောင်းပျော့နေကြ၏၊ မီးမရှို့ရက်အောင် ဖြစ်နေကြရတော့သည်။

# အန္တိမ အဂ္ဂိစျာပန နောက်ဆုံး မီးသင်္ဂြိုဟ်ကြခြင်း

မီး မသင်္ဂြိုဟ်ရက်ကြသဖြင့် မသင်္ဂြိုဟ်ဘဲ ဝိုင်းအုံ ဖူးမြော်နေကြ၏၊ အားမလို အားမရ ဖူးမဝအောင် ဖြစ်ကြရတော့သည်၊ ဤနည်းအားဖြင့် သတ်မှတ်ထားသော အချိန်ပင် အနည်းငယ် ကြံ့ကြာသွားတော့၏၊ ဤအတိုင်း ဝိုင်းအုံကြည့်ရှု ဖူးမြော်နေ၍လည်း မဖြစ်သေး။

အဘယ့်ကြောင့်ဆိုသော် "ဤရုပ်ကလာပ်တော်ကို မီးမသင်္ဂြိုဟ်ဘဲ ဆေးစိမ်၍ ပြတိုက်တွင်ထားပြီး ကိုးကွယ်ကြမည်၊ ထို့ကြောင့် မီးရှို့ခါနီးတွင် လုယူကြရမည်၊ အုံနဲ့ကျင်းနဲ့ အသင်းအဖွဲ့ ဖွဲ့ပြီး လုယူကြရမည်" ဟု ကြံစည်နေကြသော တပည့်အချို့တို့ ရှိနေကြသောကြောင့် ဖြစ်သည်။

သို့ဖြစ်၍ ဤဘေးရန်ကို ကာကွယ်နိုင်ရန် မီးသင်္ဂြိုဟ်ရာ အုတ်ပလ္လင်တော်ကို (က)သံဃာတော်များ

တစ်ထပ် (ခ)မီးသတ်ရဲဘော်များတစ်ထပ်၊ (ဂ)ပြည်သူ့ရဲများ တစ်ထပ်၊ ပေါင်း(၃)ထပ်ရံပတ်၍ အစောင့်အကြပ်များ ချထားကြရသည်။

ထို့နောက်တွင် ရုပ်ကလာပ်တော်ကို နံ့သာဖြူ နံ့သာနီ ကရမက်တို့ဖြင့် ဖုံးလွှမ်းလိုက်ကြ၏၊ စေတီကြီးလို မို့မောက်လာအောင် နံ့သာထင်း နံ့သာတုံးတို့ဖြင့် ဖုံးလွှမ်းလိုက်ကြသည်၊ ထောပတ်များလည်း ပက်ဖျန်းထား၏၊ ထို့နောက် မီးရှို့ကြသည်၊ မီးမစွဲ မလောင်ဘဲဖြစ်နေသည်၊ ဘာ့ကြောင့်များပါလိမ့်...။

အမျိုးမျိုး ကြိုးစား၍ ရှို့ကြည့်၏၊ မလောင်၊ သို့ဖြစ်၍ ရဟန်းတော်တစ်ပါးက ဓာတ်ဆီပုံးကြီး ယူလာပြီး ပက်ဖျန်းသည်၊ ထို့နောက် မီးရှို့လိုက်ရာ "ဝုန်း"ကနဲ အသံကြီးမြည်ပြီး မှိုင်းလုံးကြီးသာ ထွက်လာ၏၊ မီးကား မတောက်၊ ထိုကိုယ်တော်လည်း ပက်လက်လန် လဲကျသွားလေသည်။

ဤသို့လျှင် မီးစွဲအောင် ဖွဲနဲ့ အမျိုးမျိုး ကြိုးစားနေကြစဉ် မထင်မှတ်ဘဲ "ဝုန်း"ကနဲ ထ၍ တောက်တော့၏၊ အနံ့အပြား မြိုင်မြိုင်ဆိုင်ဆိုင်ပင် တောက်လောင်လာတော့သည်၊ သို့ဖြစ်၍ မီးသင်္ဂြိုဟ်ကြသော သံဃာတော်များပင် အုတ်ပလ္လင်ကြီးပေါ်မှ အမြန် ဆင်းပြေးကြရတော့၏။

# ထူးဆန်းခြင်းနှင့် အံ့သြဖွယ်

တစ်ဖန် ထူးဆန်းနေပြန်သည်ကား နံ့သာထင်းများကို မီးစွဲလောင်နေကြသော်လည်း ရုပ်ကလာပ်တော်ကို မီးမလောင်ဘဲ ဖြစ်နေပြန်၏၊ ဖန်ပေါင်းချောင်အတွင်း ထင်းထင်းကြီးမြင်ရသလို မီးတောက်ကြီးများအတွင်း ရုပ်ကလာပ်တော်ကို စင်းစင်းကြီး ဖူးတွေ့နေကြရသည်၊ နာရီဝက်ကျော်အောင်ပင် ဖူးတွေ့နေကြရ၏။

နောက်တော့မှ တဖြည်းဖြည်း မီးစွဲလောင်လာသည်၊ မီးစွဲလောင်လာသော်လည်း ရုပ်ကလာပ်တော်မှာ တွန့်ခြင်း ရှန်းခြင်း မရှိ၊ ပကတိ နေမြဲအတိုင်း မီးစွဲအလောင်ခံတော်မူသည်။

မီးစွဲလောင်သော်လည်း ညှော်နံ့များ မထွက်၊ မကောင်းသော အနံ့အသက်များလည်း မပေါ်၊ မွှေးကြိုင်သော အနံ့တို့ဖြင့်သာ ဈာပနကွင်းကြီးတစ်ခုလုံး ပြန့်နေတော့သည်။ အံ့သြဖွယ်ပင် ဖြစ်တော့၏။

ထိုအချိန်၌ လေငြိမ်နေပါ၏၊ အုတ်ပလ္လင်မှ တက်သော မီးခိုးလုံးတို့သည် ရုံးစုသွားကြပြီးလျှင် အထက်ကောင်းကင် အဇ္ဈောရပင်သို့ တစ်စဉ်တစ်တန်းကြီး ထိုးတက်သွားကြလေကုန်သတည်း။

အထောင်မက အသောင်းမက အသိန်းမက ဝိုင်းအုံ ကြည့်ရှု ဖူးမြော်နေကြသော ပရိသတ်ကြီး၏ ရင်တွင်းမှာကား အမြန်နှုန်းဖြင့် နှလုံးခုန်နေကြသည်၊ လည်ချောင်းများတွင်လည်း ကိုယ်စီ ကိုယ်င တစ်ဆို့နာကျင်နေကြ၏၊ မီးသင်္ဂြိုဟ်ထားသော အုတ်ပလ္လင်တစ်ခုတည်းဆီသို့ ဝိုင်းအုံကြည့်ရှုငေးမောနေကြရင်း အောက်ပါသဘောမျိုး သံဝေဂတင် ဆင်ခြင်နေကြလိမ့်မည်ဟု ထင်ရပါသည်။

"အသက်စည်းစိမ်၊ ခန္ဓာအိမ်ကား၊
တိမ်တခဲနက်၊ ကြည့်ရင်းပျက်သို့၊
မျက်စိအောက်တွင်၊ ပျောက်လွင့်စင်၏၊
သခါရစက်၊ သူ့ပိုင်နက်၌၊
သွက်သွက်လည်ကာ၊ ပါရရှာသည်...
ခန္ဓာ အနိစ္စပါတကား။
ဖြစ်တာ ပျက်ဖို့ပါတကား..."

## တစ်ဘဝသာသနာ

# အလောင်းတော်လုပွဲ ဘယ်နှယ်လဲ

ဤသို့လျှင် (အဂ္ဂိရာပန) မီးရှို့ခြင်း ကိစ္စကြီး ချောမောစွာ အောင်မြင်သွားခဲ့ကြရ၏၊ သို့သော်လည်း ကသိကအောက်ဖြစ်၍ ကျန်ရစ်ကြသောသူတို့ကား ဦးဘွန်းတင်တို့ လူသိုက်များပင် ဖြစ်ကြ၏။

အမရပူရ၊ အိုးတော်ရပ်မှ ဆရာတော် ဘုရားကြီး၏ တပည့်ရင်း ဦးထွန်းတင်တို့ လူသိုက်သည် "ရုပ်ကလာပ်တော်ကို လုယူကြမည်"ဟု ကြံစည်ထားကြသော လူသိုက်များ ဖြစ်ကြ၏၊ ထိုလူသိုက်တွင် ဦးဘွန်းတင်က ခေါင်းဆောင် ဖြစ်သည်။

ဆရာတော်ဘုရားကြီး သက်တော် ထင်ရှား ရှိစဉ်က ဆရာတော်ဘုရားကြီး၏တရားတော်ကို နေ့စဉ်နာယူနေကြသူများလည်း ဖြစ်ကြ၏၊ ညတိုင်းလိုလို ဆရာတော် ဘုရားကြီးအား ဝတ်ဖြည့်ပေးနေသူ (အညောင်း ပြေအောင် ချီးဖဲ့နှိပ်နယ်ပေးသူ) များလည်း ဖြစ်ကြ၍ ဆရာတော်ဘုရားကြီးနှင့် ရင်းနှီးသူများလည်း ဖြစ်ကြသည်။

ဦးထွန်းတို့လူသိုက်သည် ပုဂ္ဂိုလ်ရော တရားကိုပါ ကြည်ညိုနေကြသူများ ဖြစ်၍ "ရုပ်ကလာပ်အတိုင်းထားပြီး ကြည်ညိုကြမယ်"ဟု ဆိုကြသူများ ဖြစ်သည်။

ထိုစဉ်က ဦးထွန်းတင်သည် အသက်(၄၀)ကျော်ဝန်းကျင်တွင် ဖြစ်၍ စိတ်ဓာတ်တက်ကြွနေသူဖြစ်သည်၊ ထို့ကြောင့် သဘောတူရာတွေကို လိုက်လံစည်းရုံးခဲ့ရာ ဦးရေပေါင်းများစွာ ရရှိခဲ့လေသည်။

ဦးထွန်းတင်တို့လူသိုက်က "လုမယ်၊ ရအောင်လုမယ်၊ (၇) ရက်တိုင်တိုင် ကွင်းပြင်ထဲမှာ ပူဇော်ပွဲကျင်းပပြီးတဲ့နောက် မီးရှို့ခါနီးမှာ လုမယ်" ဤသို့ ကျုံးဝါးထားကြ၏၊ စိတ်ဓာတ်တွေလည်း တက်ကြွနေကြလေသည်။

# မလျှော့သောဇွဲနဲ့ အောင်ပွဲယူမယ်

ကွင်းပြင်မှာ ကျင်းပမည့် အဂ္ဂိရာပနပွဲကြီး နီးလာလေ ဦးထွန်းတင်တို့ လူသိုက်ရဲ့ စိတ်ဓာတ်များ လှုပ်ရှားလာလေ ဖြစ်ကြသည်၊ "လုရမယ်၊ မရ-ရအောင် လုရမယ်၊ အနစ်နာခံပြီး လုရမယ်၊ မီးရှို့ခါနီးမှာ အလောင်းကို လုယူပြီး ပြေးကြရမယ်" ဤသို့သာလျှင် စွဲစွဲမြဲမြဲ အံခဲ၍ အခိုင်အမာ ဆုံးဖြတ်ထားကြ၏။

အဂ္ဂိရာပနပွဲကြီး နီးလာ၍ ကြိုတင်ပြင်ဆင်မှုများ ပြုလုပ်နေကြစဉ် တစ်နေ့တွင် လူစုမိကြ၍ ဆရာတော် ဦးနရိန္ဒက–

"ဟော့... ဆရာတော်ကြီးရဲ့ ရုပ်ကလာပ်ကို မီးမရှို့ရအောင် လုမယ်" လို့ ကြားနေတယ်၊ အဲဒါ ဘယ်သူတွေ လဲကွ" ဟု ရုတ်တရက် မေးတော့သည်။

ထိုအခါ ဦးထွန်းတင်က "တပည့်တော်တို့ပဲ"ဟု ရဲရဲပင် ဖြေတော့၏၊ "ဘယ်သူခေါင်းဆောင်လဲကွ"ဟု ထပ်မံမေးပြန်သည်၊ "တပည့်တော် ခေါင်းဆောင်ပဲ"ဟု တင်းတင်းပင် ဖြေပြန်သည်။

"အေး မင်းတို့... စဉ်းစဉ်းစားစားလဲ လုပ်ကြ"

"တင်ပါ တပည့်တော်တို့က စဉ်းစားပြီးသားပဲ၊ အကြိမ်ကြိမ် စဉ်းစားပြီးမှ ဆုံးဖြတ်ထားတာ"

"မင့်မှာ နောက်လိုက် ဘယ်လောက် များများ ရှိလို့လဲ"

"ဒီအမရပူရမှာ ရပ်ကွက် (၈)ကွက် ရှိတယ်၊ တပည့်တော်လိုက်ပြီး စည်းရုံးပြီးသား၊ အကုန်လုံး တပည့်တော် လူတွေချည်းပဲ"

"အေး... တို့ကတော့ ပုလိပ်တွေ ရဲတွေနဲ့ အ

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

စောင့် အကြပ်ထားမှာ၊ လွန်ကဲလာတဲ့သူတွေကို
တော့ ရိုက်မှာပဲ”

“တင်ပါ ရိုက်ချင် ရိုက်ဘုရာ့၊ တပည့်တော်
တို့ကတော့ ပြန်မရိုက်ဘူး၊ “မရိုက်ရဘူး” လို့
ပြောထားတယ် ဘုရား၊ ဒါ– တပည့်တော်တို့
ခံယူချက်ပဲ”

“ရှေ့ကလူ ရိုက်လို့ စိုက်လဲသွားရင် နောက်က
လူတွေက အုံနဲ့ကျင်းနဲ့ ဝိုင်းလုရမယ်၊ တစ်ခါ
နောက်က လူတွေကို ရိုက်လို့ စိုက်လဲ ကုန်ပြန်
ရင်လဲ အဲဒီနောက်က နောက်ကလူ တွေက
မလျှော့ဘဲ ဖွဲနဲ့ ဝိုင်းလုကြရမယ်၊ အဲဒီ လို
တိုင်ပင်ထားတယ် ဘုရား”

ဤသို့ပင်လျှင် ဦးထွန်းတင်က ခပ်ဖွတ်ဖွတ် ခပ်ရဲရဲနှင့်
ဖွတ်ကဲ၍သာ လျှောက်နေတော့သည်၊ ဤအတိုင်းသာ
ဆိုလျှင် မလွယ်ကူတော့ချေ၊ ရန်းရင်းဆန်ခပ်နှင့်
ပြဿနာဖြစ်မှာတော့ သေချာ၏။

## စိတ်အလှုပ်ရှားရဆုံးနေ့ကြီး

အမရပူရ၊ အိုးတော်ရပ်၊ ပွဲတော်အင်း ကွင်းပြင်
ကြီးထဲမှာ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်
ကို ပူဇော်ပွဲ လုပ်ခဲ့ကြသည်မှာ ယနေ့ဆိုလျှင် (၇)ရက်
ပြည့်မြောက်သောနေ့ကြီး ဖြစ်၏၊ ၁၃၂၄–ခု ပြာသိုလ
ပြည့်နေ့ကြီး ဖြစ်သည်၊ သို့ဖြစ်၍ ရုပ်ကလာပ်တော်ကို
မီးသဂြိုဟ်ရမည့်နေ့ကြီး ဖြစ်၏။

တစ်နည်းအားဖြင့် ပြောရလျှင် ဦးထွန်းတင်တို့
လူသိုက်က (ဦးထွန်းတင် ခေါင်းဆောင်၍) ဆရာတော်
ဘုရားကြီး၏ ရုပ်အလောင်းတော်ကို လုကြရမည့်နေ့
ကြီး ဖြစ်သည်။

ထို့ကြောင့် မနက်ပိုင်းက စ၍ ရုံးစု ရုံးစုနှင့်
တိုင်ပင်နေကြပြီ၊ ဟိုနားတစ်စု သည်နားတစ်စု ခေါင်း
ချင်း ရိုက်နေကြပြီ၊ ဦးထွန်းတင်ကလည်း အနှံ့အပြား
ရပ်ကွက်တွင်းသို့ သွားပြီး သူ့လူများကို လိုက်လံ နှိုး
ဆော်နေပြီ၊ အားတင်းပေးနေပြီ၊ “ယနေ့ ပွဲကြီး ပွဲ
ကောင်းဟေ့” ...။

အချိန်ကား စက္ကန့်တိုင်း မိနစ်တိုင်း နာရီတိုင်း
ပင် တရွေ့ရွေ့နှင့် ပွဲကြီးပွဲကောင်းနဲ့ဖို့ နီးကပ်လာနေပြီ၊
နေ့လယ်ပိုင်းသို့ပင် ရောက်လာပြီ၊ အလောင်းလုကြမည့်
သူများလည်း စိတ်ဓာတ်တွေ တအား ပို၍ လှုပ်ရှားလာ
ကြ၏၊ ဦးထွန်းတင်က သူ့လူတွေကို နှိုးဆော်နေသည်။

“ရုပ်ကလာပ်တော်ကို ၂–နာရီ ၃၀–မိနစ်အချိန်
မှာ မီးသဂြိုဟ်မှာ၊ ဒီတော့ တို့လူတွေက မွန်း
လွဲ ၂–နာရီဆိုလျှင် အကုန်စုံနေကြပစေ၊ အုတ်
ပလ္လင် နားမှာ အသင့်ရောက်နေကြပစေ ...”

နှိုးဆော်ချက်အရ အသင့် အနေအထား နေရာ
ယူထားကြပြီ၊ မီးသဂြိုဟ်မည့် အုတ်ပလ္လင်ပတ်ပတ်
လည်တွင် ရဲသားများကိုလည်း မြင်နေကြရ၏၊ မီး
သတ် လူစွမ်းတို့ကိုလည်း တွေ့နေကြရသည်၊ သံဃာ
တော်များ ဝိုင်းပတ်ထားသည်ကိုလည်း တွေ့နေရ
သူတို့ကလည်း “ဘယ်သူတွေ လုကြမှာလဲ”လို့ အ
ခတ်နေကြပုံရသည်။

ကိုယ်စီကိုယ်င ရင်တွင်း တဒိတ်ဒိတ် ခုန်
ကြ၏၊ အချိန်က နီးသည်ထက် နီးကပ်လာရေ
ယခုဆိုလျှင် ၂–နာရီ ၁၅–မိနစ်တောင် ရှိနေ
နောက် ၁၅–မိနစ်ဆိုလျှင် မီးသဂြိုဟ်ရမှာ၊ မကြာမီ
ရုပ်ကလာပ်တော်လည်း လောင်တိုက်ကြီးပေါ်မှ ဆ
သက်ကြွလာတော်မူတော့မည်။



## မထင်မှတ်ဘဲ ပြောင်းလွဲသွားတော့ခြင်း

“အစိန္တိတမ္ဗိ ဘဝတိ၊ စိန္တိတမ္ဗိ ဝိနဿတိ” ဆိုသလိုပင် လောကမှာ မကြံစည်ဘဲ မရွယ်ဘဲလည်း ဖြစ်ပေါ်လာတတ်၏၊ ကျကျနန အကွက်ချ၍ ကြံစည်ထားသော်လည်း မထင်မှတ်ဘဲ ပြောင်းလွဲသွားတတ်သော အရာများလည်း ရှိတတ်သည်၊ ယခု ထိုသို့ [illegible]ကြုံရချေပြီ။

အလောင်းတော်လုပွဲ နီးကပ်နေသော အချိန်ဘွင်မှ လူတစ်ယောက် မျက်လုံးပြူး မျက်ဆန်ပြူးနှင့် ဦးထွန်းတင်ထံသို့ အပြေးအလွှား ရောက်လာပြီး ဟောဲ ဟောဟဲနှင့် အမောတကော ပြောတော့သည်–

“အခု ဦးထွန်းတင်ရဲ့ ဇနီး မီးမဖွားနိုင်လို့ ကယ်ပါ ယူပါ တစာစာ အော်ဟစ်နေတယ်၊ သေမလား ရှင်မလား မပြောနိုင်ဘူး၊ အသက်မီချင်ရင် အခု အမြန် လိုက်ခဲ့ပါ ...”

ဦးထွန်းတင်၏ ဦးခေါင်းထဲတွင် “ဒိုင်း”ခနဲ ဖြစ်သွားသည်၊ မီးပွင့်သွားသလို ထင်လိုက်ရ၏၊ ဘာမျှ စဉ်းစားမနေနိုင်တော့ဘဲ အိမ်သို့ အပြေးအလွှား လိုက်သွားခဲ့ရတော့သည်၊ ဟုတ်ပါ၏၊ အိမ်သို့ ရောက်သော အခါ ဇနီးသည်ခမျာ တစာစာ မြည်တမ်းလျက် လူး

လွှန့်နေသည်ကို တွေ့ရတော့သည်၊ ခြေမကိုင်မိ လက်မကိုင်မိ ဖြစ်ကြရတော့၏။

ထို့နောက် မကြာမီ ရှေ့ဆင့် နောက်ဆင့်ပင် အရပ်လက်သည်ရော ဆေးရုံက သားဖွားဆရာမတို့ရော ရောက်လာကြတော့၏၊ ဝိုင်းဝန်းကူညီဖေးမ ပြုစုမှုတို့ကြောင့် သမီးကလေး "ဝင်းဝင်းမြင့်" လူ့ပြည်လောကတွင် ပေါ်ပေါက်လာရတော့သည်၊ အပြုအစု ကောင်းကြ၍ မိခင်ရော ကလေးပါ အသက်မသေဘဲ ချမ်းသာမှုရလာကြရတော့သည်၊ တော်ပါသေး၏၊ ထိုအချိန်မှာ ညနေ(၃)နာရီပင် ရှိချေပြီ။

ဦးထွန်းတင်သည် မိခင်ရော ကလေးပါ စိတ်ချရပြီကို သိ၍ မီးသဂြိုဟ်ရာကွင်းပြင်သို့ အပြေးကလေးလာခဲ့၏၊ ထိုအချိန်တွင် အရှိန်ကောင်းကောင်းဖြင့် ရုပ်အလောင်းတော်ကို မီးစွဲလောင်ငြိနေလေပြီ။

ဦးထွန်းတင်၏ အသိုင်းအဝိုင်းတို့ကား မွန်းလွဲ ၂–နာရီခွဲအချိန်ကပင် ဦးထွန်းတင်အပေါ် မကျေမနပ် ဖြစ်နေကြသည်၊ အကြောင်းရင်းမှာ အရေးထဲတွင် ဦးထွန်းတင်ကို မတွေ့ရသောကြောင့် ဖြစ်၏။

ရုပ်ကလာပ်တော်ကို အုတ်ပလ္လင်ဆီသို့ ပင့်ဆောင်လာကြစဉ် လုပ်ဖို့ရန် ဟန်ပြင်နေကြ၏၊ သို့သော် ခေါင်းဆောင် ဦးထွန်းတင်ကို မတွေ့ဘဲဖြစ်နေကြသည်၊ ဦးထွန်းတင်က ရှေ့ဆုံးကတက်၊ သူ့လူတွေက နောက်က လိုက်ကြရမည် ဖြစ်၏၊ ယခု သူတို့ခေါင်းဆောင် မတွေ့၊ လူအုပ်ထဲမှာ မျက်လုံးနဲ့ ရှာကြရင်း ရှာကြရင်းပင် ရုပ်ကလာပ်တော်က အုတ်ပလ္လင်ကြီးပေါ်သို့ ရောက်သွားလေသည်၊ မလုဖြစ်ကြတော့၊ ပျက်ကွက်ကုန်ကြရတော့သည်။

ထို့ကြောင့် ယခု ဦးထွန်းတင်၏ အရိပ်ကို မြင်လိုက်ရင်ပဲ သူ့လူတွေက ဝိုင်းအုံလာကြပြီး–

"ဘာလဲကွ၊ ခေါင်းဆောင်ဆိုပြီး ခေါင်းရှောင်လားကွ၊ ဟင်း..."

ပြောရင်း ဆိုရင်း ထိုးမည် ကြိတ်မည် လုပ်နေကြသဖြင့် ဦးထွန်းတင်က လက်ကာရင်း သူ့အရေးကိစ္စကို မနည်းရှင်းပြနေရတော့သတတ်။

## ဓာတ်တော်များ ကြွင်းရစ်ခြင်း

အုတ်ပလ္လင်ကြီးပေါ်တွင်ကား ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို နံ့သာထင်းမီးတို့က တဝင်းဝင်းနှင့် လွှမ်းခြုံလျက်၊ တဖျင်းဖျင်းနှင့် ဝါးမျိုလျက် ရှိနေကြသည်၊ နံ့သာထင်းများက များလွန်းနေလေသလား မသိ၊ မီးအရှိန်အားလည်း များလွန်းနေ၏။

ကြည်ညိုသူ ဒကာ ဒကာမများလည်း အနားကမခွာဘဲ ဝိုင်းအုံကြည့်ရှုဖူးမြော်နေကြသည်၊ တဖြည်းဖြည်းနှင့် ညနေစောင်းလာ၏၊ မီးအားလည်း ကောင်းတုန်းရှိသေးသည်၊ ထို့နောက် မှောင်စပျိုးလာ၏၊ ထိုအခါကျမှ ပရိသတ်များလည်း ပါး၍ ပါး၍ သွားတော့သည်။

နောက်ပိုင်းတွင်မူ မီးရှိန်အားလည်း တဖြည်းဖြည်း လျော့–လျော့လာတော့၏၊ ည၉–နာရီခန့်တွင် အပူရှိန်အား အများကြီး လျော့ဆင်းသွားခဲ့သည်၊ အားလုံးလည်း ကျွမ်းလောက်ပြီ ဖြစ်၏။

သို့ဖြစ်၍ အုန်းရည်များဖြင့် ပက်ဖျန်းကာ မီးတို့ကို ငြိမ်းသတ်လိုက်ကြသည်၊ ပြီးလျှင် အုတ်ပလ္လင်ပေါ်၌ ရှိသမျှတို့ကို သိမ်းကျုံးစုရုံးလိုက်ကြ၏၊ ပြီးမှ အသင့်ပြုလုပ်ထားသော ငွေအိုးကြီး ၂–လုံးထဲသို့ ထည့်ကြသည်၊ ပြီးလျှင် ဆာလာအိတ်ကြီးများ၌ ထည့်၍ စည်းကာ မင်္ဂလာမဂ္ဂင်ရိပ်သာသို့ ပို့ဆောင်လိုက်ကြသည်။



**လက်ယာဘက် ဖန်ဘူးအတွင်းမှ ဓာတ်တော်များတွင် အချို့က ဓာတ်တော်အလုံးကလေးများ ဖြစ်လာပြီး၊ အချို့က ဓာတ်တော်အလုံး မဖြစ်သေးဘဲ အရိုးအတိုင်း ကျန်ရှိနေသေးပုံကို ဖူးတွေ့နိုင်ပါသည်။ လက်ဝဲဘက် ဖန်ဘူးအတွင်းတွင်ကား ဆံတော်များ လုံးစုနေသည်ကို ဖူးတွေ့နိုင်ပါသည်။ (ဤဓာတ်တော်ပုံများကို ပြည်မြို့၊ မိုးကုတ်ဝိပဿနာအဖွဲ့ အတွင်းရေးမှူး ဦးအီတိတ်ထံမှ ရရှိပါသည်။)**

**ဓာတ်တော်များ**

(၇)ရက်ပတ်လုံး ပင်ပန်းနွမ်းနယ်နေသမျှတို့ကို အပန်းဖြေ နားနေကြတော့၏။

နောက်တစ်နေ့ မိုးလင်းသောအခါ "အုတ်ပလ္လင်ပေါ်မှာ ဓာတ်တော်များ တွေ့ရှိကြသတဲ့" ဟူသော မင်္ဂလာ သတင်းများ ပျံ့လွင့်လာတော့သည်။

လူသူ အများ အံ့အားသင့်ကုန်ကြ၏၊ လှုပ်လှုပ်ရွရွ ဖြစ်ကုန် ကြသည်။

အမှန်မှာ ထိုနေ့ည သန်းခေါင်အချိန်မှာတုန်းကပင် အုတ်ပလ္လင်ပေါ်မှ စူးရှဖြူဖွေးတောက်ပြောင်သော အလင်းရောင်များ ကွန့်မြူးနေကြပြီ၊ အရှေ့အနောက်၊ တောင်မြောက်၊ အထက်အောက် လူးလာပျံသန်းနေကြပြီ၊ ယင်းတို့ကို အနီးဝန်းကျင်ရပ်ကွက်တို့မှ မြင်နေကြရပါသတတ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဓာတ်တော်ရဖို့ လုပွဲကြီး ပျက်ရ

ထို့ကြောင့် နောက်တစ်နေ့ နံနက်စောတွင် အုတ်ပလ္လင်ပေါ်သို့ တက်၍ ရှာဖွေကြရာ ဓာတ်တော် အမျိုးအပြား ရကြလေသတတ်၊ ထို့နောက် အလု အယက် ဝိုင်းအုံလာကြပြီးလျှင် အုတ်ပလ္လင်ကြီးကိုပါ ချလှန်ရှာဖွေကြသဖြင့် အချို့အဝက် ပျက်စီးကုန်ကြ ရတော့သည်။

အုတ် အင်္ဂတေကြားတို့၌ အရွယ် အစားစား ဓာတ်တော်များ၊ အချို့မှာ အရိုးတစ်ပိုင်း ဓာတ်တော် ဖြစ်ပြီး တစ်ပိုင်းများကိုပါ တွေ့ကြရ၏၊ အချို့က အတွဲလိုက် အပြွတ်လိုက်ပင် ရကြလေသတတ်။

အရိုးတော်တွင် နို့ရောင်အဖြူနှင့်သီတွဲနေသော ဓာတ်တော်များ၊ အချို့မှာ တေဇောဓာတ်လွန်ကဲလွန်း၍ လော မပြောတတ်၊ အဝါရောင်သန်းနေသော ဓာတ်တော် များ၊ ဤသို့အားဖြင့် အရောင် အစားစား၊ အရွယ် အစားစား ဓာတ်တော်များကို တွေ့ကြ ရရှိကြလေသည်၊

ဦးထွန်းတင်လည်း သတင်းအရ အုတ်ပလ္လင်သို့ ပြေး၍ ရှာဖွေရာ အရိုးတစ်ပိုင်း ဓာတ်တော်အလုံးကလေး များ ဖြစ်ပြီး တစ်ပိုင်းကို ရရှိလေသတတ်၊ ထိုအခါကျမှ "အော်... ငါတို့ မလုဖြစ်တာဘဲ ကောင်းတယ်၊ လု ဖြစ်လျှင် ဓာတ်တော် မပေါ်နိုင်၊ ဓာတ်တော် ပေါ်ဖို့ အတွက် ယခုလို ကြံဖန်ပြီး ပျက်ကွက်ပေးရခြင်း ဖြစ် တာပဲ"ဟု စိတ်ထဲ ကျေနပ်ကာ ပီတိတွေ ဖြာနေရတော့ သတတ်။



မီးသပြိုဟ်ရာ အုတ်ပလ္လင်ပေါ်တွင် ဓာတ်တော်များရှာဖွေနေကြပုံ

## တစ်ဘဝသာသနာ

# ဓာတ်တော်အိတ်များဖွင့်ပွဲ

၇–ရက်ပတ်လုံး ပူဇော်ပွဲကြီး၊ ကျင်းပလာခဲ့ရသဖြင့် ကိုယ်စီ ကိုယ်င ပင်ပန်း နွမ်းနယ်နေကြ၏၊ ခဏ အမောဖြေပြီး ပြာသိုလပြည့်ကျော် (၃)ရက်နေ့ကျမှ ဆာလာအိတ်ကြီးများကို ဖွင့်ရန် အများသဘောတူဖြင့် သိမ်းဆည်းထားခဲ့ကြသည်။

သို့သော် နောက်တစ်နေ့ နံနက် "အုတ်ပလ္လင်ကြီးပေါ်မှ ဓာတ်တော်များ တွေ့ကြရသည်" ဆိုကတည်းက ထိုအိတ်ကြီးများကို အမြန်ဖွင့်လိုနေကြပြီ၊ ထိုအိတ်ကြီးများအတွင်းမှလည်း ဓာတ်တော်တွေ များစွာ တွေ့ရမည်ကို ယုံကြည်ထားကြပြီး ဖြစ်၏။

သို့ဖြစ်၍ ၁၃၂၄–ခု ပြာသိုလပြည့်ကျော် ၃–ရက်နေ့တွင် မင်္ဂလာမဂ္ဂင်ရိပ်သာ၌ အစည်းအဝေးခေါ်ထားကြ၏၊ ဈာပနကော်မတီများ စုံညီသောအခါ အများရှေ့တွင် ဆာလာအိတ်ကြီးများကို ဖွင့်လိုက်ရာ အောက်ပါတို့ကို တွေ့ရှိကြရပြန်သည်။

၁။ မီးမစွဲဘဲ သုငယ်အိမ် မပျက် တည်ရှိနေသော (အစိုဓာတ် မပြယ်သေးသော) မျက်လုံးတော်တစ်စုံ။

၂။ ချိတ်ဆက် ဖြစ်နေသော လက်ဆစ်ရိုးတော်များ။

၃။ အရိုးပိုင်းကလေးများတွင် တစ်ပိုင်းက (ငါးဥကလေးများကဲ့သို့) ဓာတ်တော် အလုံးကလေးများ စုနေ၍၊ ကျန်အပိုင်းက အရိုးဓာတ် သက်သက်များ။

၄။ အရိုးတော်မှဖြစ်သော အရွယ်အစားစား၊ အရောင်အမျိုးမျိုး ရှိသော ဓာတ်တော်များ။

၅။ အသွေးတော်များမှ ဖြစ်သော အနီရောင် ဓာတ်တော်များ။

၆။ သွားတော်များ–အံတော်များ။

ဤသို့ ဓာတ်တော် အမျိုးအစားပေါင်းစုံတို့ကို တွေ့ကြရပြန်သောအခါ များစွာ အံ့အားသင့်ကြရများစွာ အကြည်ညိုပိုကြရပြန်လေသည်၊ ဒကာ ဒကာမများအနေဖြင့် လွန်စွာအားရ ဖြစ်ကြရပြန်၏၊ ဤဓာတ်တော်များကို ကိုးကွယ်ဖို့အတွက် သူကလိုချင် ငါကလိုချင်၊ သူ့လဲ ပေးပါဦး၊ ငါ့လဲ ပေးပါဦး ဖြစ်နေကြတော့၏။

ထိုအခါ အကုန်လုံးလည်း ဝေငှ၍ မပေးနိုင်၊ သို့ဖြစ်၍ အချို့အဝက်ကို အတိုင်းအတာဖြင့်သာ စနစ်တကျ ဝေငှပေးကြရသည်။

ကြွင်းကျန်သော ဓာတ်တော်များကို မင်္ဂလာမဂ္ဂင်ဝိပဿနာရိပ်သာ မွေ့ရာကြီးပေါ်၌ အများ ကြည်ညိုဖူးမြော်နိုင်ကြဖို့ (၁)နှစ်တိတိ ထားရှိရန် ဆုံးဖြတ်ကြသည်။

# "ချိတ်ဆက်"ဆိုတာ တကယ်လား

ဤနေရာတွင် အရိုးတော့ဆက်၊ ချိတ်ဆက်၊ ကွင်းဆက်များနှင့်ပတ်သက်ပြီး အချို့ဆရာတော်များက ဤသို့ မိန့်တော်မူကြ၏–

"တော့ဆက်" "ချိတ်ဆက်" "ကွင်းဆက်"ဆိုတာ တင်စားပြောတာပါ၊ တကယ် ဖြစ်သွားတာ မဟုတ်ပါဘူး၊ တရားသဘောအရ ပုထုဇဉ်က

ပျက်လွယ်တတ်လို့ အရာဝတ္ထု (၂)ခု "တော့ဆက်" သဘောမျိုးလို ဖြစ်သည်။

ရဟန္တာကျတော့ ပျက်ဖို့မလွယ်တော့ဘူး၊ "ချိတ်ဆက်"လို ဖြစ်သွားပြီ၊ ဘုရားကျတော့ ထို့ထက် မလွယ်လို့ "ကွင်းဆက်"သဘောလို ဖြစ်သွားပြီဟု ပြောခြင်းပါ"တဲ့။

သို့သော် ယခု လက်တွေ့မှာကား တကယ်ပင် "ချိတ်ဆက်" ဖြစ်နေသည်ကို တွေ့နေကြရပြန်၏၊ ဤကိစ္စများနှင့် ပတ်သက်၍ မိုးကုတ်ဆရာတော်ဘုရားကြီး ဟောကြားသော တရားပုဒ် (အသံသွင်းကြိုးခွေ)တို့မှ သက်ဆိုင်ရာတို့ကို ရွေးနုတ်ကောက်ချက်ထုတ်၍ ပြပါဦးမည်။

## တော့ဆက်၊ ချိတ်ဆက်၊ ကွင်းဆက်များ

[မိုး(၂၂) ဒုတိယကြိမ် ရိုက်၊ နှာ-၂၇၈၊ သုညတဒေသနာ၊ ၁၃၂၃-ခု သီတင်းကျွတ်လဆန်း ၁၃-ရက် (၂၂.၁၀.၆၁)။]

"တရား"ဆိုတာ အမှန်ကို လုပ်တယ်လို့ ဒကာကြွယ်တို့ ဒကာ သစ်တို့က မှတ်ကြပါ (မှန်ပါဘုရား) အမှန်ကို လုပ်လို့လဲ သူ့ကို "သစ္စာ"လို့ ခေါ်ရတာပေါ့၊ (မှန်ပါ)

ဥပမာ လောဘစိတ်လာလျှင် သူက လောဘရုပ်ကို ဖြစ်စေတယ်၊ ဒေါသစိတ်လာလျှင် ဒေါသရုပ်ကို ဖြစ်စေတယ်၊ မောဟစိတ်လာလျှင် မောဟရုပ်ကို ဖြစ်စေတယ် (မှန်ပါဘုရား)

အဲဒီစိတ်တွေ လာနေတဲ့အခိုက်မှာ သာဓု အနုမောဒနာ ဝမ်းမြောက်ဝမ်းသာရုပ်တွေ ဘယ်လိုမှ ဖြစ်မလာနိုင်ဘူး၊ (မှန်ပါဘုရား) မကောင်းတဲ့စိတ်တွေက မကောင်းတဲ့ရုပ်တွေကိုပဲ ဖြစ်ပေါ်စေမှာပဲ (မှန်ပါဘုရား)

မဂ်တရားများ ရဖို့အားထုတ်တော့ အထက်မဂ်တွေများ ရပြီး ရဟန္တာဖြစ်သွားလို့ ရှိလျှင် အရိုးတွေဘာတွေဟာ ချိတ်ဆက်တွေ ဖြစ်ကုန်တယ် (မှန်ပါဘုရား)

ဒါ-ဘယ့်နှယ် ဖြစ်ကုန်ရတာလဲ ဆိုရင် သူ့တရားနဲ့ သူ လုပ်တာကိုး (မှန်ပါဘုရား)

တစ်ခါ မပုပ်မသိုးအောင် လုပ်ပြန်တော့လဲ နာမ်ဓမ္မတွေက လုပ်တဲ့အတွက် မပုပ်မသိုးတဲ့ ရဟန္တာရုပ်မျိုးတွေ ဖြစ်လာတယ် (မှန်ပါဘုရား)

ဘုရားသခင် ကိုယ်တော်မြတ်ကြီးမှ ကျတော့ သူ့တရားတွေက လုပ်လိုက်တာ ဘုန်းကြီးတို့ ဒကာဒကာမတို့မှာလို အရိုးတွေက တော့ဆက် မဟုတ်ကြဘူး၊ ချိတ်ဆက်တောင်မကဘဲနဲ့၊ ကွင်းဆက်တွေ ဖြစ်ကုန်တယ် (မှန်ပါဘုရား) ဒါ-ဘယ်သူက လုပ်တာတုန်း ဆိုရင် တရားတွေက လုပ်တာ (မှန်ပါဘုရား)

**မှတ်ချက်။** ။ဤသည်တို့ကား မိုးကုတ်ဆရာတော် ဘုရားကြီး၏ ဟောပြောချက်တို့မှ ကောက်နုတ်ချက်တို့ ဖြစ်သည်။

# ရဟန္တာဖြစ်လျှင် အရိုးချိတ်ဆက်

[မိုး(၂၉) ဒုတိယကြိမ် ရိုက်၊ နှာ-၃၁၅၊
မာဂဏ္ဍီ(၁) ၁၃၂၀-ခု တပို့တွဲလဆုတ် ၂-ရက်
(၂၄.၂.၅၉) ဟော။]

မျက်စိနဲ့ အဆင်းနဲ့ဆုံရင် မြင်စိတ်ပေါ်တယ် (မှန်ပါ) ဖဿဖြစ်၊ ဝေဒနာဖြစ်ပြီးတော့ တဏှာ ဥပါဒါန် ကံတွေ လာတယ်၊ (မှန်ပါ) လာရင် နောက်ဇာတိ ရဦးမယ်၊ မိဘရိုးရာကဖြင့် ဒီလိုချည်းပဲ (မှန်ပါ) ဇာတိလမ်းကိုချည်း သွားတယ်၊ ဇာတိလမ်းက သံသရာ မဆုံးနိုင်ဘူး၊ (မှန်ပါဘုရား)

ဇာတိ မရှိရာ လမ်းကမှ သံသရာ ဆုံးတယ် (မှန်ပါ ဘုရား) အဲဒါက နိဗ္ဗာန်ပဲ (မှန်ပါ) ဒီတော့ မိဘရိုးရာ သံသရာမဆုံးတဲ့လမ်းကို ဖယ်ရှားပစ်၊ (မှန်ပါ) အရိယာတို့ရဲ့ သံသရာဆုံးတဲ့လမ်းကို လိုက်ကြ (မှန်ပါဘုရား) ဒီတော့ အရိယာမျက်လုံးပြောင်းတပ်ကြရမယ် (မှန်ပါဘုရား)

အလားတူ အရိယာနား၊ နှာခေါင်း၊ လျှာ၊ ကိုယ်၊ နောက်တော့ တစ်ကိုယ်လုံး ပြောင်းသည့်အထိ လုပ်ကြရမှာ (မှန်ပါ) တစ်ကိုယ်လုံး အင်္ဂါအစိတ်အပိုင်းတွေ ပြောင်းရမှာ (မှန်ပါဘုရား)

ဘာဖြစ်လို့တုံးဆိုတော့ အရိယာရဟန္တာ ဖြစ်တော့ မပုပ်တဲ့ခန္ဓာကိုယ်နဲ့ အရိုးတောင် ချိတ်ဆက်ဖြစ်လာတာ ကြည့်ပါလား၊ အကုန်ပြောင်းလွဲသွားတာပဲ (မှန်ပါ)

ပုထုဇဉ်ဘဝတုန်းကတော့ ပုပ်တဲ့ ခန္ဓာကိုယ်နဲ့ အရိုးတွေဆက်ပဲ ဖြစ်တယ်၊ (မှန်ပါ) ကဲ... မပြောင်းရပေဘူးလား (ပြောင်းရပါတယ် ဘုရား)

ဒါ-ပြောင်းမှ ရမယ်နော် (မှန်ပါ) တွေဆက်နဲ့ ပုပ်တာ ကြိုက်သလား၊ ချိတ်ဆက်နဲ့ မပုပ်တာ ကြိုက်သလား (ချိတ်ဆက်နဲ့မပုပ်တာ ကြိုက်ပါတယ် ဘုရား)

ကဲ... ဒါဖြင့် ဒကာ ဒကာမတို့... အဲဒါဟာ အရိယာဖြစ်မှ ပြောင်းတဲ့ရုပ်၊ အရိယာဖြစ်မှ ပြောင်းတဲ့အရိုးပဲ၊ (မှန်ပါ) နဂိုကတော့ သူများလိုပါပဲ၊ နောက်မှ ပြောင်းသွားတာ (မှန်ပါဘုရား)

ရိုပ်မိပလား (ရိပ်မိပါပြီဘုရား) ဒါဖြင့် မဂ်ဉာဏ် ဖိုလ်ဉာဏ်က ပြောင်းတာ (မှန်ပါ) ရှင်းပလား (ရှင်းပါပြီဘုရား)

## နာဂါပလောကိတ (ဆင်ပြောင်ကြီးကြည့်-ကြည့်ခြင်း)

နာဂါပလောကိတန္တိ ယထာ ဟိ မဟာဇနဿ အဋ္ဌီနိ ကောဋိယာ ကောဋိံ အာဟစ္စ ဌိတာနိ။

ပစ္စေကဗုဒ္ဓါနံ အင်္ကုသကလဂ္ဂါနိ ဝိယ၊ န ဧဝံ ဗုဒ္ဓါနံ။

ဗုဒ္ဓါနံ ပန သင်္ခလိကာနိ ဝိယ ဧကာဗဒ္ဓါနိ ဟုတွာ ဌိတာနိ။

တသ္မာ ပစ္ဆတော အပလောကနကာလေ န သက္ကာ ဟောတိ ဂီဝံ ပရိဝတ္တေတုံ။

(ဒီဃနိကာယ၊ သုတ်မဟာဝဂ္ဂ၊ ၁၅၄)

# မိုးကုတ်ဆရာတော်ဘုရားကြီး၏

# နာဂါပလောကိတအဖွင့်

[သုတ်မဟာဝါ ပါဠိတော်၊ မဟာပရိနိဗ္ဗာနသုတ်၊ အဋ္ဌကထာဖွင့်၊ နှာ–၁၅၄။] မာရ်နတ်ကြီးက မြတ်စွာဘုရားအား ပရိနိဗ္ဗာန်ပြုတော်မူပါရန် တောင်းပန်သောကြောင့် အာယုသင်္ခါရ လွှတ်လိုက်တော်မူသည်၊ ထို့နောက် ဝေသာလီမြို့က ထွက်ခွာခါနီးတွင် ဘုရားရှင်ကိုယ်တော်မြတ်ကြီးက ဝေသာလီမြို့တော်ကို နောက်ဆုံးကြည့်ခြင်းအနေဖြင့် ပြန်လှည့်၍ ကြည့်တော်မူခြင်းကို–

"နာဂါပလောကိတ=ဆင်ပြောင်ကြီး၏ ပြန်၍ကြည့်ခြင်းနှင့်တူသော ကြည့်တော်မူခြင်း"

ဟူ၍ သင်္ဂါယနာတင် မထေရ်တို့က ဆိုတော်မူကြ၏၊ ဆင်ပြောင်ကြီးတို့သည် နောက်ကို ပြန်၍ ကြည့်လိုပါက ဦးခေါင်းချည်းသက်သက် လှည့်၍ ကြည့်လို့မရ၊ တစ်ကိုယ်လုံးပြန်၍လှည့်ရ၏။

ထိုအတူ ဘုရားရှင်တို့သည်လည်း နောက်ကို ပြန်၍ ကြည့်လိုပါက ဦးခေါင်းတော်ချည်းသက်သက် လှည့်၍ မရ၊ တစ်ကိုယ်လုံးပင် ပြန်၍ လှည့်ရသည်၊ အဘယ့်ကြောင့်ဆိုသော် အရိုးတို့က "ကွင်းဆက်"ကဲ့သို့ တစ်ဆက်တည်း ဆက်စပ် တည်နေကြသောကြောင့် ဟူ၏။

(၁)ထိုအဋ္ဌကထာဖွင့်၌ ဆိုထားသည်မှာ များစွာသော သာမန်လူတို့၏ အရိုးတို့က (ကောဋိယာ ကောဋိံ အာဟစ္စ ဌိတာနိ) အစွန်းတစ်ခုဖြင့် အစွန်းတစ်ခုကို ထိစပ်၍ တည်နေကြကုန်၏၊ ["တေ့ဆက်" ဖြစ်နေကြသည်ဟု ဆိုလိုသည်။]

(၂)ပစ္စေကဗုဒ္ဓါအရှင်မြတ်တို့၏ အရိုးတို့ကတော့ (အင်္ကုသက လဂ္ဂါနိ ဟုတွာ ဌိတာနိ) ချွန်းချိတ်တို့ကဲ့သို့ အချင်းချင်း၌ ကပ်ငြိကုန်သည် ဖြစ်၍ (ဝါ) ချိတ်၍ တည်နေကြကုန်၏၊ ["ချိတ်ဆက်" ဖြစ်နေကြသည်ဟု ဆိုလိုသည်။]

(၃)ဗုဒ္ဓါနံ–ဘုရားရှင်တို့၏၊ အဋ္ဌီနိ–အရိုးတို့သည်ကား၊ သင်္ခလိကာနိဝိယ–သံကွင်းဆက်တို့ကဲ့သို့၊ ဧကာဗဒ္ဓါနိ တစ်ဆက်တည်းစပ်ကုန်သည်၊ ဟုတွာ–ဖြစ်၍၊ ဌိတာနိ–တည်ကုန်၏။

တသ္မာ–ထို့ကြောင့်၊ ပစ္ဆတော–နောက်သို့၊ အပလောကနကာလေ–ကြည့်တော်မူရာအခါ၌၊ ဂီဝံ–လည်ပင်းတော်ကို၊ ပရိဝတ္တေတုံ–ပြန်လှည့်ခြင်းငှာ၊ န သက္ကာ–မတတ်နိုင်။ ထို့ကြောင့် တစ်ကိုယ်တော်လုံး ပြန်လှည့်ရသည်–ဟု ဆိုလို၏။

ဤအဋ္ဌကထာဖွင့်ကို ရည်ရွယ်၍လည်း မိုးကုတ်ဆရာတော်ကြီးက မိန့်မြွက်တော်မူခြင်း ဖြစ်ပါလိမ့်မည်။

# ပုပ်ကော ပုပ်သေးသလား

ထို့ပြင် "ရဟန္တာအရှင်မြတ်တို့ ပရိနိဗ္ဗာန် ပြုသောအခါ ခန္ဓာကိုယ်က ဥတု အာဟာရတို့ဖြင့် တည်ဆောက်ထားသည် ဖြစ်သောကြောင့် ပုပ်တာပါပဲ"ဟု မိန့်တော်မူသော ဆရာတော်များလည်း ရှိကြ၏၊ သို့သော် သုတ္တနိပါတ်အဋ္ဌကထာကမူ–

နိက္ကိလေသာနံ မတသရီရံပိ ဒုဂ္ဂန္ဓံ
န ဟောတိ = ကိလေသာ မရှိသော
ရဟန္တာပုဂ္ဂိုလ်တို့ သေသောအခါ
ရုပ်အလောင်းမှ အပုပ်နံ့ မထွက်။

(သုတ္တနိပါတအဋ္ဌကထာ၊ အာမဂန္ဓသုတ်)

ဟူ၍မိန့်ဆိုတော်မူထား၏၊ ထိုစကားအရ "ကိလေသာကင်း၊ အကြောင်းရင်းကြောင့်၊ သေခြင်းနောက်မှာ၊ ရဟန္တာ၊ ရုပ်မှာမပုပ်သို့"ဟုဥဒါန်းထိုးတော်မူခဲ့ကြသည်။

မိုးကုတ် ဆရာတော်ကြီးကလည်း "တရားသဘောကြောင့် မပုပ်သို့"ဟု မိန့်မြွက်နေ၏၊ လက်တွေ့နှင့်လည်း ကိုက်ညီနေသည်။

## တစ်ဘဝသာသနာ

# အရိုးက ဓာတ်တော်ဖြစ်အောင်

[သက္ကရာဇ် ၁၃၁၈-ခု တော်သလင်းလဆန်း ၁၃-ရက်၊ (၁၇.၉.၅၆)နေ့တွင် ဟောသောတရားမှ။]

* အလွန်တွေ့ခဲကြုံခဲလှတဲ့ သာသနာတော်ကြီးနဲ့ တွေ့ကြုံနေရတဲ့ အခိုက်၊ ဆရာသမားကောင်းနဲ့လဲ တွေ့နေရတဲ့ အခိုက်၊ ရခဲတဲ့ လူ့ဘဝကိုလဲ ရနေတဲ့ အခိုက် မပေါ့လိုက်ကြပါနဲ့ (မှန်ပါဘုရား)

* ကျောင်းဒကာ ဦးကျော်သိန်းရေး (မိုးကုတ်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့်ကျင့်စဉ်) စာအုပ်၊ နှာ-၁၇၄။

အထူးအားဖြင့် အရိုးကြီးပွားရေး မလုပ်လိုက်ကြပါနဲ့ (မှန်ပါ) အရိုးက ဓာတ်တော်ဖြစ်အောင်သာ ကြိုးစားကြပါ။ (မှန်ပါဘုရား)

အရိုးအသွေးအသားက ဓာတ်တော် ဖြစ်တယ်ဆိုတာ အမေ မွေးကတည်းက ဖြစ်လာတာ မဟုတ်ပါဘူး၊ (မှန်ပါ)

တရားကို အားထုတ်လို့ တရားက ပြုပြင်သောကြောင့် တရားသဘောအရ ဓာတ်တော်ဖြစ်လာရတယ်လို့-မှတ်ကြပါ (မှန်ပါဘုရား)

# တရားကလုပ်လို့ ဓာတ်တော်ဖြစ်သွားတာ

[မိုး(၁၇) ဒုတိယကြိမ် ရိုက်၊ နှာ-၂၀၊ ၂၁၊ ၂၂၊ ၂၃၊ ၁၃၂၃-ခု ဒုတိယ ဝါဆိုလဆုတ်-၁၃-ရက် (၉.၈.၆၁)]

ဒကာ ဒကာမတို့ "အသေဝနာစ ဗာလာနံ"ရယ်၊ "ပဏ္ဍိတာနဉ္စ သေဝနာ"ရယ် ၂မျိုး ရှိတယ် (မှန်ပါဘုရား) လူမိုက်တွေနဲ့ မပေါင်းနဲ့၊ လူလိမ္မာတွေနဲ့ ပေါင်း-လို့ အဓိပ္ပာယ်ရတယ် (မှန်ပါဘုရား)

လူမိုက်နဲ့ ပေါင်းရင် လူမိုက်ဖြစ်၊ လူမိုက်နေ၊ လူမိုက်သေ (မှန်ပါ) လူလိမ္မာနဲ့ ပေါင်းရင်တော့ လူလိမ္မာ ဖြစ်၊ လူလိမ္မာနေ၊ လူလိမ္မာသေ (မှန်ပါဘုရား)

လူမိုက်သေရင် လူမိုက်မသာ၊ လူလိမ္မာသေရင် လူလိမ္မာမသာဖြစ် (မှန်ပါ) မသာချင်း ခြားနားတယ် (ခြားနားပါတယ် ဘုရား)

လူမိုက်မသာက ပုပ်ရိသွားတယ်၊ လူလိမ္မာမသာကျတော့ ဓာတ်တော် ဖြစ်သွားတယ် (မှန်ပါဘုရား) ပုပ်ရိတဲ့မသာက လူမိုက်မသာ (မှန်ပါ) ဓာတ်တော်တွေ ဖြစ်လာတဲ့မသာက (လူလိမ္မာမသာပါ ဘုရား)

"တစ်သက်လုံး ဖုံးလာသမျှ သေခါမှပေါ်" ဆိုတာလို ဖြစ်နေပြီ (မှန်ပါ) တစ်သက်လုံး အဝတ်နဲ့ ဖုံး၊ အစားနဲ့ ဖုံး၊ ဖြီးလိမ်းပြီး ဖုံး၊ အဲဒီလို ဖုံးငြားသော်လဲ သေတဲ့အခါကျတော့ ဓာတ်တော်မကျဘဲနဲ့ ပုပ်လိုက်၊ ညှီလိုက်၊ ဟောင်လိုက်နဲ့ မြေထဲ မြှုပ်လိုက်ရတဲ့ မသာမျိုး (မှန်ပါ) အဲဒါက ဗာလကလုပ်တာ (မှန်ပါဘုရား)

ပဏ္ဍိတနဲ့ ပေါင်းရင်တော့ သစ္စာနုလောမိကဉာဏ်တွေနဲ့ ဖြစ်ပျက်တွေ မြင်၊ ဖြစ်ပျက်တွေ မုန်း၊ ဖြစ်ပျက်တွေ ဆုံးတာ မြင်ရလို့၊ ၄-ကြိမ်လောက် ဆုံးတာကို မြင်ပြီးရင် သေတဲ့အခါ ဓာတ်တော်ကျတယ် (မှန်ပါဘုရား)

အဲဒါ ပဏ္ဍိတက လုပ်လိုက်တာ၊ သမ္မာဒိဋ္ဌိက လုပ်လိုက်တာပေါ့ (မှန်ပါဘုရား) ဒါဖြင့် ပဏ္ဍိတာနဉ္စ သေဝနာ ပုဂ္ဂိုလ်များကျတော့ ဓာတ်တော်အဖြစ်သို့ ရောက်တယ် (မှန်ပါဘုရား)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

တစ်သက်လုံး ဖုံးပြီးလာတာ သေတော့ ဓာတ်တော်တွေများကျတယ်ဆိုတော့ ဒကာကြွယ်တို့ ဦးလှဘူးတို့ ကောင်းတာပေါ့၊

(ကောင်းပါတယ် ဘုရား)

အဲဒီကျမှ ပူဇာစ ပူဇနေယျာနံ ဖြစ်သွားတယ်၊ ဓာတ်တော်တွေဟာ ပူဇော်ထိုက်သွားတယ် (မှန်ပါ) ဧတံ မင်္ဂလ မုတ္တမံ-တဲ့၊ အဲဒါဟာ ကောင်းမြတ်တဲ့ မင်္ဂလာဖြစ်သွားတာပဲ (မှန်ပါဘုရား)

## မဂ်၄-တန်ရလျှင် ဓာတ်တော်ဖြစ်

[၁၃၂၂-ခု တန်ခူးလဆန်း ၉-ရက် (၂၄.၃.၆၁)နေ့ ဟော ဝိဇ္ဇောပမသုတ် (စောင်းအိုးထဲ၌ အသံရှာ)။]

"ဣတိ ဝုတ္တံ မဟေသိနာ"ဆိုပြီးတော့ ဣတိဝုတ် ပါဠိတော်မှာ ဟောထားတာ ရှိတယ် (မှန်ပါ) တစ်ကပ် တစ်ကပ်မှာ လူတစ်ယောက် တစ်ယောက်၏ အရိုးတွေဟာ ပျောက်မကုန်ဘူးဆိုရင် စုပုံထားလိုက်ပါက ဝေပုလ္လ တောင်ကြီးလောက် ရှိမယ်-တဲ့ (မှန်ပါဘုရား)

ဘုန်းကြီးတို့ မျက်မြင်နဲ့ နှိုင်းစာရမယ်ဆိုရင် မန္တလေးတောင် စစ်ကိုင်းတောင်ကြီးတွေလောက် ရှိမှာပေါ့ (မှန်ပါဘုရား)

ဒါ-ဘာ့ကြောင့် ဒီလောက်ဖြစ်ရတာလဲဆိုရင် အဝိဇ္ဇာနဲ့ တဏှာကြောင့် (မှန်ပါ) ဘုရားက ဟောထားတယ် (အဝိဇ္ဇာနီဝရဏာနံ တဏှာသံယောဇနာနံ သန္ဓာဝတံ သံသရတံ)တဲ့ (မှန်ပါ)

သံသရာထဲ လည်ကြရတဲ့ အကြောင်းရင်း ၂-ပါးပေါ့ (မှန်ပါ) ဘယ်သူတွေတုံး (အဝိဇ္ဇာနဲ့ တဏှာပါဘုရား) အေး... သူတို့ မချုပ်သမျှ အရိုးကြီးပွားရေးပဲ-လို့ ဒကာဝတို့ မောင်ကိုတို့ မောင်ထွန်းလှိုင်တို့က မှတ်ကြ (မှန်ပါ) အရိုးကြီးပွားရေးဖြစ်အောင် အဝိဇ္ဇာနဲ့ တဏှာက တည်ထောင်ကြတာ (မှန်ပါ) သူတို့ လက်အောက်က ကံလဲ ပါသေးတာပေါ့ (မှန်ပါ)

အဲဒါကြောင့် အဝိဇ္ဇာနဲ့ တဏှာ မချုပ်သမျှ အရိုးကြီးပွားရေးပဲ (မှန်ပါ) အဲဒီအရိုးကြီးပွားရေးကို ဓာတ်သိမ်းကြအောင် ဦးခင်မောင်တို့ (မှန်ပါ) ဘာအရိုးမှ မဖြစ်ချင်ကြနဲ့ (မှန်ပါ) ဓာတ်တော်သာ ဖြစ်ချင်ဖြစ်ကြပါစေ (မှန်ပါ) မဂ်၄-တန် ရအောင် လုပ်ရင် ဓာတ်တော်ဖြစ်တယ် (မှန်ပါဘုရား)

ဓာတ်တော်ဖြစ်ပြီးရင် နောက် ဘာအရိုးမှ မဖြစ်တော့ဘူး (မှန်ပါ) အရိုးကြီးပွားရေးဓာတ်သိမ်းပြီ (မှန်ပါ) ကံလဲ နေရစ်ခဲ့ပြီ (မှန်ပါဘုရား) နောက်ထပ် အကျိုးမပေးတော့ဘူး (မှန်ပါ)

## ဓာတ်သိမ်းအောင် ဘယ်လိုလုပ်ရမလဲ

အေး... အဲဒီလို အရိုးကြီးပွားရေး ဓာတ်သိမ်းနိုင်အောင် ဘယ်လိုလုပ်ရမလဲဆိုရင် အဝိဇ္ဇာကို ဝိဇ္ဇာ ဖြစ်အောင် လုပ် (မှန်ပါ) ဘယ်လို ဖြစ်အောင် လုပ်ကြမယ် (အဝိဇ္ဇာကို ဝိဇ္ဇာ ဖြစ်အောင် လုပ်ရပါမယ် ဘုရား)

ပြီးတော့ တဏှာကိုလဲ အလောဘ ဖြစ်အောင် လုပ် (မှန်ပါ) တဏှာဆိုတာ လောဘပဲ (မှန်ပါ) အဲဒီ လောဘကို အလောဘဖြစ်အောင် လုပ် (မှန်ပါ)

အဲဒီလို လုပ်နိုင်ရင် အဝိဇ္ဇာလဲ ချုပ်၊ တဏှာလဲ ချုပ်တယ် (မှန်ပါ) သူတို့ ၂-ခု အဝိဇ္ဇာနဲ့ တဏှာမရှိရင်

အရိုးကြီးပွားရေးကို မထူထောင်တော့ဘူး၊ (မှန်ပါ) ဒါပဲ ဒါပဲ၊ ဒါ–အကြောင်းရင်းပဲ (မှန်ပါဘုရား)

ဟုတ်ပြီ အဲဒီအဝိဇ္ဇာနဲ့ တဏှာ ချုပ်အောင် ဘယ်လို လုပ်မလဲ (မှန်ပါ) ခန္ဓာထဲ ဉာဏ်နဲ့ကြည့်ပါ၊ (မှန်ပါဘုရား) ဘယ်လိုလုပ်ရမလဲ (ခန္ဓာထဲ ဉာဏ်နဲ့ ကြည့်ရပါမယ် ဘုရား)

ခန္ဓာက ဘယ်နှစ်ပါးလဲ (ငါးပါးပါ ဘုရား) ချုံးလိုက်ရင် (ရုပ်နာမ် ၂ပါးပါ ဘုရား) အေး... အဲဒီရုပ်နာမ် ၂–ပါး၊ ခန္ဓာငါးပါးက ဖြစ်–ပျက် ဖောက်ပြန် ပြောင်းလွဲနေကြတာပဲ (မှန်ပါ)

အေး... အဲဒီဖြစ်ပျက် ပြောင်းလွဲ ဖောက်ပြန်နေတဲ့ အထဲ ယောကျ်ား မိန်းမ ပုဂ္ဂိုလ် သတ္တဝါ ရှာ၊ တွေ့မလား၊ (မတွေ့ပါဘုရား) စောင်းအိုးထဲ စောင်းသံရှာလို့ မတွေ့သလိုပေါ့ (မှန်ပါဘုရား) အဲဒီဖြစ်ပျက်နေကြတာ ဘာသစ္စာတွေလဲ (ဒုက္ခသစ္စာတွေပါ ဘုရား)

# ဘာလို့ ဓာတ်တော် ဖြစ်လာတာလဲ

ဟိုတုန်းက မသိပါဘူး၊ ခုမှ သိလာတာပါ၊ ခုမှ သမာဓိထူထောင်ပြီး ကြည့်လို့ သိလာတာ မြင်လာတာပါ (မှန်ပါဘုရား) ဒီတော့ အဝိဇ္ဇာက ဝိဇ္ဇာဖြစ်မလာဘူးလား (ဖြစ်လာပါတယ် ဘုရား)

ပြီးတော့ ဖြစ်ပျက် ဖောက်ပြန် ပျက်စီးနေမှန်း သိလာပြန်တော့လဲ တဏှာက လိုချင်သေးသလား (မလိုချင်တော့ပါ ဘုရား) မလိုချင်တာက အလောဘ၊ ဝိရာဂလို့လဲ ခေါ်တယ် (မှန်ပါ) ဝိရာဂဆိုတာ မဂ်ပဲ၊ ဝိရာဂေါတိ မဂ္ဂေါ-တဲ့၊ (မှန်ပါ) ဒီတော့ လောဘက အလောဘ ဖြစ်လာတာပေါ့ (မှန်ပါဘုရား)

အဲလိုဖြစ်လာတော့ အဝိဇ္ဇာနဲ့ တဏှာ မချုပ်သေးဘူးလား (ချုပ်ပါပြီဘုရား) သူတို့ချုပ်ကုန်ရင် အရိုးကြီးပွားရေး မဖြစ်တော့ဘူး၊ (မှန်ပါ) အရိုးက ဓာတ်တော်တွေပဲ ဖြစ်လာတော့တယ် (မှန်ပါဘုရား)

အခုလို ဓာတ်တော်တွေ ဖြစ်လာတယ်ဆိုတာ တရားကလုပ်လို့ ဖြစ်လာတာ (မှန်ပါ) နဂိုက မွေးလာတုန်းကတော့ သူ့လို ကိုယ့်လို အရိုးပါပဲ၊ မထူးပါဘူး (မှန်ပါ)

မဂ် ၄–တန်ရအောင် အားထုတ်လို့ ရဟန္တာဖြစ်၊ ရဟန္တာဖြစ်ရင်လဲ အရိုးတွေဟာ ဓာတ်တော်ဖြစ်ကုန်တော့တာပဲ (မှန်ပါဘုရား) ရှင်းပြီလား (ရှင်းပါပြီဘုရား)

ကဲ– ဒီတွင် တော်ကြဦးစို့။

**မှတ်ချက်။** ။ဆရာတော် ဘုရားကြီး၏ ဤ မိန့်ကြားချက်အရ - (က) မဂ်၄-တန် ဆိုက်လျှင် ဓာတ်တော်ကျသည်၊ (ခ)မဂ်၄–တန် မဆိုက်သေးလျှင် ဓာတ်တော် မကျ၊ (ဂ)အပြန်အလှန်အားဖြင့် ဓာတ်တော် ကျလျှင် မဂ်၄–တန်ဆိုက်ပြီ၊ (ဃ)ဓာတ်တော်မကျလျှင် မဂ်၄–တန် မဆိုက်သေး– ဟု သိသာနိုင်တော့သည်။

# စေတီတည်ထားရန် ဆုံးဖြတ်ကြခြင်း

ကျေးရွာရှင် မိုးကုတ် ဆရာတော်ဘုရားကြီး၏ ကျင့်စဉ်များသည် မှန်ကန်၍ ဓာတ်တော်များ ကြွင်းရစ်ကြ၏၊ ယင်းအဖြစ်ကို နောင်လာ နောက်သား ရှင်လူများ ထင်ရှားသိနိုင်ရန် ဓာတ်တော်ကိန်းဖို့ စေတီတည်ရမည်။

ထိုစေတီအတွင်း၌ အရိုးမှ ဖြစ်သော ဓာတ်တော်များ၊ အသားမှ ဖြစ်သော ဓာတ်တော်များ၊ အသွေးမှ ဖြစ်သော ဓာတ်တော်များ ထည့်သွင်းဌာပနာကြရမည်။

ထိုစေတီကိုလည်း ရုပ်ကလာပ်တော် မီးသဂြိုဟ်

ရာ ဌာန၌ (ငှက်ချေးခံအုတ်ပလ္လင်ကို ငုံခြုံ၍) တည်ထား ရမည်။

မိုးကုတ်ဆရာတော်ဘုရားကြီး၏ ကျင့်စဉ်ကို နောင်လာ နောက်သားများ သိနိုင် ကျင့်နိုင်အောင် သာ၀ကများက အားထုတ်ကြိုးပမ်းကြရမည်။

ထို့ပြင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဟောပြောစဉ် သစ္စာတရား ဒေသနာတော်များ ပျောက်ကွယ်မကုန်အောင် နည်းအမျိုးမျိုးဖြင့် ထိန်းသိမ်းကြရမည်။



## တစ်ဘဝသာသနာ

# မင်္ဂလာဓာတုစေတီတော် တည်ထားကြခြင်း

၁၃၂၄–ခု ပြာသိုလပြည့်ကျော် (၁၅)ရက်၊ [၂၄.၁.၆၃] ကြာသပတေးနေ့၊ နံနက်(၁၀)နာရီ မင်္ဂလာအချိန်တွင် ပန္နက်ချ စတင်၍ စေတီတော်ကို တည်ဆောက်ခဲ့ကြသည်။

၁၃၂၆–ခု ပထမ ဝါဆိုလပြည့်ကျော် (၄)ရက်၊ တနင်္ဂနွေနေ့၊ နံနက်(၁၀)နာရီအချိန်တွင် ပထမဌာပနာ တိုက်ကို ပိတ်ကြသည်။

၁၃၂၆–ခု ပထမဝါဆိုလပြည့်ကျော် (၁၅)ရက်၊ ကြာသပတေးနေ့၊ နံနက်(၁၀)နာရီအချိန်တွင် ဒုတိယ ဌာပနာတိုက်ကို ပိတ်ကြပြန်သည်။

၁၃၂၆–ခု ဒုတိယဝါဆိုလပြည့်နေ့ (၂၄.၇.၆၄) သောကြာနေ့၊ နေ့လယ်(၁၂)နာရီတိတိအချိန်တွင် ထီးတော်ကို ကြီးကျယ်ခမ်းနားစွာဖြင့် တင်ကြသည်။

**မှတ်ချက်။** ။စေတီတော်ကို မြေနိမ့်ပိုင်း ပွဲတော်အင်း အတွင်း၌ တည်ဆောက်ထားသည်၊ ထို့ကြောင့် မိုးတွင်းအခါ မြစ်ရေတွေ ဝင်လာတတ်၏၊ ထိုအခါမျိုးတွင် ကျယ်ပြောသော ရေပြင်ပေါ်မှာ စေတီတော်က မင်္ဂလာအပေါင်းခညောင်းလျက် တင့်တယ်စွာ စံပယ်၍ နေတော့သည်။

ယခု ထီးတော်တင်ချိန်တွင်လည်း ရေပြင်ကြီး ဖြစ်နေ၍ ကရဝိက်ဖောင်ဖြင့် ပင့်ဆောင်ကာ ထီးတော်ကို တင်ကြရပါသည်၊

၁၃၂၆–ခု သီတင်းကျွတ်လပြည့်ကျော် (၄)ရက်၊ (၂၅.၁၀.၆၄) တနင်္ဂနွေနေ့ (ခန္ဓာဝန်ချပြီးနောက် ၂–နှစ်ပြည့်မြောက်သောနေ့) နံနက် ၇–နာရီအချိန်တွင် သံဃာတော် အပါး ငါးရာတို့ဖြင့် အနေကဇာတင်ကြ၍ "မင်္ဂလာဓာတုစေတီတော်" ဖြစ်ပေါ်လာရလေသည်။

အနေကဇာတင်ပြီး၍ ၇–နာရီ ၃၀–မိနစ်အချိန်တွင် သံဃာတော်အပါး(၅၀၀) ငါးရာတို့အား သင်္ကန်းအစုံ (၅၀၀)တို့ဖြင့် လှူဒါန်းကြပြီး ဆွမ်းတော်ကြီး လောင်းလှူပွဲ ကျင်းပကြသည်။

နေ့လယ် မွန်းလွဲ (၁)နာရီ (၂၀)မိနစ်အချိန်ကား ဆရာတော်ဘုရားကြီး၏ ခန္ဓာဝန်ချချိန် ဖြစ်၏၊ ယင်းအချိန်တွင် (၂)နှစ်ပြည့်မြောက် အထိမ်းအမှတ်ဖြင့် ဆရာတော်ဘုရားကြီး၏ ဉာဏ်တော်အား ပူဇော်ပွဲ ကျင်းပကြလေသည်။

## မင်္ဂလာ ဓာတု စေတီတော်ဆိုင်ရာ အတိုင်းအထွာ ပမာဏ

| | | |
|---|---|---|
| ၁။ | စေတီဝတ္တကမြေအကျယ် (တစ်မျက်နှာလျှင်) | – ၉၆ပေ။ |
| ၂။ | အခြေခံအုတ်ပလ္လင်တော်အချင်း | – ၄၆ပေ။ |
| ၃။ | အခြေခံအုတ်ပလ္လင်တော် (မြေအောက်) | – ၅ပေ၊ ၁၁လက်မ |
| ၄။ | အခြေခံအုတ်ပလ္လင်တော် (မြေပေါ်) | – ၁၁ပေ။ |
| ၅။ | ကျောက်စာတိုက်ပလ္လင် | – ၃ပေ၊ ၆လက်မ |
| ၆။ | ကျောက်စာတိုက် အမိုးဝိုင်းအထိအမြင့် | – ၁၉ပေ။ |
| ၇။ | အမိုးဝိုင်းအချင်း | – ၃၂ပေ။ |
| ၈။ | စေတီ၏ဖိနပ်တော်အချင်း | – ၁၅ပေ၊၆လက်မ |
| ၉။ | အမိုးဝိုင်းအထက် ဖိနပ်တော်မှ စိန်ဖူးတော်အထိ ဉာဏ်တော်အမြင့် | – ၃၃ပေ။ |
| ၁၀။ | မြေပြင်မှ စိန်ဖူးတော်အထိအမြင့် | – ၆၁ပေ။ |
| ၁၁။ | စေတီတော်၏ထီးမျက်နှာဝအချင်း | – ၂၇လက်မခွဲ။ |

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## စေတီတော်အတွင်း၌ ဌာပနာသွင်းသော ပစ္စည်းများ

(၁) အကြည်ဓာတ်မပျက်သော မျက်လုံးတော်၊

(၂) ဓာတ်တော်ဖြစ်ပြီးတစ်ပိုင်း အရိုးတော်တစ်ပိုင်း ဓာတ်တော်များ၊

(၃) ချိတ်ဆက်ဖြစ်သော လက်ဆစ်အရိုးတော်များ၊

(၄) သွေးမှဖြစ်သော ဓာတ်တော်များ၊
[ဆရာတော်ဘုရားကြီး သက်တော်ထင်ရှား ရှိစဉ်က ဆံရိတ်သောအခါ ဆံပင်တို့ကို ပုလင်းတွင် ထည့်၍ ကိုးကွယ်ကြ၏၊ နောင်အခါတွင် ထိုဆံဖင်တို့သည် လုံးထွေး၍သွားကြ၏၊ ယင်းဓာတ်တော်များကို ဆိုလိုသည်။]

(၆) အခြားသောကျောက်သံပတ္တမြားနှင့် အဖိုးတန် စိန်ရွှေရတနာများ ဖြစ်ကြသည်။

**မှတ်ချက်။** ။မင်္ဂလာဓာတုစမ္မ စေတီတော်၏ အောက်ခံ ထောင့်လေးထောင့်ရှိ နယားရုပ်ကြီး ၄–ခုကို မိုးကုတ်ဆရာတော်ဘုရားကြီး၏ အစ်မ အရင်းဖြစ်သူ ပဲခူးမြို့၊ လိပ်ပြာကန်ရပ်၊ သီလရှင် ကျောင်းတိုက်၊ ဆရာကြီး (ဒေါ်သုစာရီခေါ်) ဒေါ်ကိတ္တိက လှူဒါန်းသည်။

## သားတော်စေတီကဲ့သို့

သဗ်ပုဏ္ဏားကြီး၏သားတော်စေတီသည် စိမ်းစိုညို့မှိုင်းသော တောင်တန်းကြီး၏ အနီးရှိ မြို့တံခါး၀တွင် ကိုယ်လုံးတော်မှ ထုံးဖြူရောင်က တလွင်လွင်၊ ထိပ်ဖူးထီးတော်မှ နေခြည်ရောင်တွင် ရွှေရည်အရောင်တို့က အမျှင် အမျှင်၊ ဆည်းလည်းသံတို့ကလည်း လေပင့်တိုင်း တချွင်ချွင်ဖြင့် နေ့စဉ်ပင် တရားဓမ္မဟောပြရင်း တည်ရှိနေသလို–

ယခုအခါ အမရပူရမြို့ တောင်ဘက် အထွက်တံခါး၀တွင်လည်း ပြိုးပြိုးပြက်ပြက်၊ မှန်ရောင်တွေ တလက်လက်ဖြင့်၊ နှစ်သက် ကြည်ညိုဖွယ်၊ ထူးခြားသော စေတီငယ်တစ်ဆူ တည်ရှိခဲ့ကြောင်းကို အစပိုင်းက ဖော်ပြခဲ့ပါပြီ။

ဤစေတီငယ်မှာ အစစ အရာရာ သွင်ပြင်လက္ခဏာ ထူးခြားနေ၍ အများက စိတ်ဝင်စားကြ၏၊ မေးမြန်းကြ၏၊ စူးစမ်းကြ၏၊ လေ့လာကြ၏၊ "ဤစေတီငယ်၏ ဖြစ်ရပ် အတိတ်သမိုင်းကြောင်းတို့ကား အဘယ်သို့ပါနည်း..."

အထက်ပါအတိုင်း အစပိုင်းက မေးခဲ့ကြသော မေးခွန်းများကို ယခုအခါ ပြည့်ပြည့်ဝဝ ကုန်စင်အောင် စုံစုံလင်လင် ဖြေကြား၍ ပြီးပါပြီ၊ မေးခွန်းရှင်များလည်း သိလိုသော ဆန္ဒ၊ အားရအောင် ပြည့်ဝ၍၊ ကျေနပ်ကြလိမ့်မည်ဟု ယူဆပါသည်။

ကျေနပ်ကြသည့်အပြင် စေတီရှင် ဆရာတော်ဘုရားအား ကြည်ညို၍၊ ဆရာတော်ဘုရားအား ယုံကြည်၍၊ ဆရာတော်ဘုရား ညွှန်ကြားပြသသည့်အတိုင်း လိုက်နာ၍ ကျင့်သုံး၍၊ ရွှင်ပြုံးလန်းဆန်း၊ ဘေးမသန်းသည့် အေးချမ်းသော ခေမာနိဗ္ဗူသို့ ကြည်ကြည်ဖြူဖြူ ဆိုက်ရောက်တောင်မူနိုင်ကြပါစေ...။

## တစ်ဘဝသာသနာ

# ဘုရားစကားကို ထောက်ခံပြလိုက်ခြင်း

မိုးကုတ် ဆရာတော် ဘုရားကြီးက ယခုလို ဓာတ်တော်တွေ ကျပြသွားတာဟာ မိမိတို့ ဆရာတပည့် တစ်စုအတွက်မျှက၊ မိမိတို့ သံဃာ့ဂိုဏ်းတစ်ခု အတွက်မျှမက၊ မိမိတို့ တစ်နိုင်ငံလုံးအတွက်မျှမက၊ မိမိတို့ သာသနာတော်ကြီးတစ်ရပ်လုံးအတွက် သက်သေပြဖို့ ဖြစ်လာခြင်းပဲ၊ သာဓကေ ထုတ်ဖို့ ဖြစ်လာခြင်းပဲ၊ ထောက်ခံဖို့အတွက် ဖြစ်လာခြင်းပဲ။

မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီး ပရိနိဗ္ဗာန်စံခါနီးတွင် သုဘဒ်ရဟန်းက မေးလျှောက်၍ ဘုရားရှင်က ဖြေကြားထားသော စကားတစ်ခွန်း ရှိသည်၊ ယင်းမှာ–

* "ဣမေ စ သုဘဒ္ဒ ဘိက္ခူ သမ္မာ
ဝိဟရေယျုံ၊ အသုညော လောကော
အရဟန္တေဟိ အဿ"တဲ့။

ဆိုလိုတဲ့ အဓိပ္ပာယ်မှာ–

"အို... သုဘဒ်... ဤသာသနာတွင်းရှိ ရဟန်းတို့သည် နည်းမှန်လမ်းမှန် ကျင့်ကြံ ကြိုးကုတ်အားထုတ်၍ နေကြပါမူကား ဤလောကကြီးသည် ရဟန္တာတို့ဖြင့် မဆိတ်သုဉ်းနိုင်ရာ..."

ဤစကားခွန်းသည် ပျောက်ကွယ်လုမျှ ဖြစ်ခဲ့ရချေ၏၊ ယုံကြည်စရာ မဟုတ်သလိုလည်း ဖြစ်ခဲ့ရလေသည်၊ အဘယ့်ကြောင့်ဆိုသော် သာဓကေ ထူ၍ မိုးမိုးမတ်မတ် ရပ်ပြီး ပြမည့်သူ မရှိသောကြောင့် ဖြစ်၏။

တစ်ဘက်ကလည်း အဋ္ဌကထာ ဆရာတို့က ခေတ်ကာလတို့ကို နှစ်(၅၀၀)စီ ပိုင်း၍ ပိုင်း၍၊ ဒါက ဝိမုတ္တိယုဂခေတ်၊ ဒါက သမာဓိယုဂခေတ်၊ ဒါကတော့ သီလယုဂခေတ်၊ သုတယုဂခေတ်၊ ဒါနယုဂခေတ်ဆိုပြီး သတ်မှတ်ကာ "တရားထူး မရနိုင်"ဟူ၍ အခိုင်အမာ ဆိုထား၏၊ ထိုသို့ ခြောက်လှန့်ထားသည်ကိုလည်း ရင်ထဲ နှလုံးထဲ၌ စွဲနေမိကြသည်။

ထို့ကြောင့် ယခု မိမိတို့ ကြုံတွေ့နေရသော ခေတ်သည် "တရားထူးရနိုင်သောခေတ်မဟုတ်"ဟု ဆုတ်နစ်ကာ စိတ်ပျက် အားလျော့နေမိခဲ့ကြ၏။ "တရားထူး မရနိုင်အတူတူ သိပ်ပြီး အပင်ပန်းခံနေရန် မလို"ဟု ယူဆကာ ခပ်ပေါ့ပေါ့ ခပ်အေးအေးပင် နေလာခဲ့ကြသည်။

အမှန်မှာ ယခု မိုးကုတ်ဆရာတော်ဘုရားကြီးတို့ တရားအားထုတ်ခဲ့သော အချိန်အခါသည် (ဆဋ္ဌသင်္ဂါယနာမတင်မီက ဖြစ်သောကြောင့်) ဒါနယုဂခေတ် ဖြစ်၏၊ ဒါနတွေသာ လှိုင်လှိုင်လုပ်နေကြသည်၊ တရားထူး ရနိုင်သောခေတ် မဟုတ်–ဟု (အဋ္ဌကထာဝါဒ–အရ) ပြောနေကျ ဆိုနေကျ ဖြစ်၏။

သို့သော် ဓာတ်တော်တွေ ကျ၍ မိုးကုတ်ဆရာတော် ဘုရားကြီးက ယခုလို သက်သေတွေ ထူပြလိုက်သောအခါ အားလုံး အံ့အားသင့်ကုန်ကြရလေသည်၊ ဘုရားစကားတော်ကိုလည်း ပြန်လည် သတိ ရလာကြရလေ၏။

ထို့ကြောင့် "(သမ္မာဝိဟရေယျုံ) နည်းမှန်လမ်းမှန်သာ ကျင့်ကြံကြိုးကုတ် အားထုတ်၍ နေထိုင်ကြပါလျှင် ဘယ်ခေတ် ဘယ်အချိန်မဆို ရဟန္တာတို့ဖြင့် မဆိတ်သုဉ်းနိုင်"ဟူသော ဘုရားစကား မှန်ကန်ကြောင်းကို သက်သေ သာဓကေ ထူ၍ ပြလိုက်ခြင်း ဖြစ်ပေတော့သတည်း။

---

* သုတ်မဟာဝါပါဠိတော်၊ ၁၂၅

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## တရားရမည့်သူ တရားမရသေးသမျှ မသေ

* ပဋိသမ္ဘိဒါမဂ်ပါဠိတော် ဣဒ္ဓိကထာ အခန်း၌ ဣဒ္ဓိအမျိုးအစား (၁၀)ပါးရှိကြောင်းကို ဟောပြထားပေ၏၊ ယင်းတို့မှာ အဓိဋ္ဌာနာ ဣဒ္ဓိ၊ ဝိကုဗ္ဗနာ ဣဒ္ဓိ၊ မနောမယာ ဣဒ္ဓိ၊ ဉာဏဝိပ္ဖါရာ ဣဒ္ဓိ အကြောင်းကို ရွေး၍ ဖော်ပြပါအံ့-

"ဉာဏဿ ဝိပ္ဖါရော ဝေဂေါ အဿာ အတ္ထီတိ ဉာဏဝိပ္ဖါရာ"ဟု အဋ္ဌကထာ ဆရာကြီး ဝိဂ္ဂြိုဟ်ဖြင့် ဖွင့်ပြ၏၊ အဿာ-ထိုတန်ခိုးဣဒ္ဓိအား၊ ဉာဏဿ-ဉာဏ်၏၊ (ဝါ) အရဟတ္တမဂ် အရဟတ္တဖိုလ်ဉာဏ်၏၊ ဝိပ္ဖါရော-ပြန့်နှံ့သော၊ ဝေဂေါ-အဟုန်သည်၊ အတ္ထိ-ရှိ၏၊ ဣတိ-ထို့ကြောင့်၊ ဉာဏဝိပ္ဖါရာ-"ဉာဏဝိပ္ဖါရာ" မည်၏။

"အရဟတ္တမဂ် အရဟတ္တဖိုလ်ဉာဏ်၏ ပြန့်နှံ့သော အဟုန်ရှိသော တန်ခိုး" ဆိုလို၏၊ သူ့အဓိပ္ပာယ်မှာ ဤတန်ခိုးဣဒ္ဓိ၌ နောင်ဖြစ်လတ္တံ့သော အရဟတ္တမဂ် အရဟတ္တဖိုလ်ဉာဏ်၏ အရှိန်အဝါ တန်ခိုးတွေ လွှမ်းမိုးနေသည် ဟူလို။

ကာ ဣဒ္ဓိ = ဣဒ္ဓိဆိုတာ ဘာလဲ?
ဣဇ္ဈနဋ္ဌေန ဣဒ္ဓိ = ပြီးစီးပြည့်စုံတတ်သော အနက်သဘောကြောင့် "ဣဒ္ဓိ"ဟု ခေါ်ရသည်။

ထိုဉာဏဝိပ္ဖါရာ ဣဒ္ဓိ ရှိသူများမှာ တရား မရမချင်း မသေနိုင်၊ ဆိုလိုသည်မှာ ယခု ဘဝအတွင်း နောက်ပိုင်းတွင် အရဟတ္တမဂ် အရဟတ္တဖိုလ်ဉာဏ်တွေ ရမည့် သူများသည် မရမချင်း မသေသေး၊ ဘေးရန်အန္တရာယ်တို့မှ ကြံဖန်လွတ်မြောက်သည်။

နောင်ရမည့် အရဟတ္တမဂ် အရဟတ္တဖိုလ်တို့၏ အရှိန်အဝါတွေက လှမ်းပြီး တားသဖြင့် ဘေးရန်များမှ လွတ်ရသည် ဟူ၏။

ဘေးရန်များ လွတ်မြောက်သွားရပုံတို့ကို ထိုပါဠိတော်၌ပင် (က)အရှင်ဗာကုလ (ခ)အရှင်သံကိစ္စ (ဂ)အရှင် ဘူတပါလ တို့ကို သာဓက ထုတ်ပြထားသည်။

## ၁။ အရှင်ဗာကုလမထေရ် (ပဋိသမ္ဘိဒါမဂ်၊၄၂၇၈)

အရှင်ဗာကုလ လောင်းလျာသည် ကောသမ္ဗီပြည်သူဌေးတစ်ဦးအိမ်မှာ ပဋိသန္ဓေကိန်း၏၊ မွေးဖွားလာသောအခါ ကလေးငယ်ကို ယမုနာမြစ်သို့ အခြွေအရံများဖြင့် ဆင်း၍ ရေချိုးပေးကြသည်၊ ငါးကြီးတစ်ကောင်က လာ၍ ဟပ်ယူမျိုသွားလေ၏။

သို့သော် ဘုန်းကံရှိသော ကလေးဖြစ်၍ ငါးကြီး၏ ဝမ်းထဲမှာ ချမ်းချမ်းသာသာ နေရသည်၊ ငါးကြီးမှာမူကား ကလေး၏ တန်ခိုးအရှိန်အဝါကြောင့် ပူလောင်သော ထွန်သွားကြီးကို မျိုရသလို ဖြစ်ပါသတတ်။

သို့ဖြစ်၍ မနေနိုင်ဘဲ ပြေးမိပြေးရာ ပြေးလေရာ ယူဇနာ(၃၀)ကွာသော ဗာရာဏသီသို့ ရောက်သွားပြီး လျှင် တံငါသည်တို့၏ ပိုက်ကွန်၌ မိလေ၏။

ကလေးငယ်၏ အစွမ်းကြောင့် ထိုငါးကြီးမှာ ပိုက်ကွန်မှ ထုတ်လေလျှင် ချက်ချင်း သေလေသည်၊ လှည့်လည်ရောင်းကြရာ သူဌေးကြီးတစ်ဦး၏ အိမ်သို့ ရောက်၍ ဝယ်ယူသည်၊ ငါးကြီးကို ခွဲစိတ်သောအခါ ကလေးငယ်ကို တွေ့ရလေ၏၊ သူဌေးကြီးသည် နန်းတော်သို့ သွား၍ ဘုရင့်ထံ တင်ပြထားသည်။

ကောသမ္ဗီက ကလေးမိဘတို့က သတင်းကြား၍ "ကျွန်ုပ်တို့ကလေး၊ ပေးပါ"ဟု တောင်းဆိုကြ၏၊

* ပဋိသမ္ဘိဒါမဂ်ပါဠိတော်၊၃၈၃

မပေးနိုင်၊ ထိုအခါ ဘုရင်ကြီးက ၂–ဦးလုံးပိုင် သတ်မှတ်၍ ပေးလိုက်ရသည်၊ ထို့ကြောင့် "ဗာကုလ"ဟု တွင်၏။

[ဗာ=၂ခု၊ ကုလ=အမျိုး၊ အမျိုး ၂မျိုး ရှိသူ၊ အမျိုး၂မျိုးပိုင်သူ–ဟု အဓိပ္ပာယ်ရ၏။]

အမျိုး ၂–မျိုးလုံးထံမှာ အလှည့်ကျနှင့် ချမ်းသာစွာ နေရ၏၊ အသက်(၈၀) ပြည့်သောအခါ ရဟန်းလုပ်လာသည်၊ တရားအားထုတ်၍ ရဟန္တာကြီးဖြစ်၏၊ နောက်ထပ် အသက်(၈၀) နေရပြန်သည်၊ ထို့နောက် ပရိနိဗ္ဗာန်ပြုသွား၏။

ဤသို့လျှင် ငါးကြီး၏ ဝမ်း၌ အသက် မသေ၊ ဘေးရန် လွတ်ကင်းလာသည်မှာ အရှင် ဗာကုလ၏ ထိုဘဝမှာ ရမည့် အရဟတ္တမဂ်ဉာဏ်၏ အစွမ်းအာနုဘော်ကြောင့် ဖြစ်သည်၊ ဉာဏဝိပ္ဖါရာ ဣဒ္ဓိမည်၏။

## ၂။ အရှင်သံကိစ္စမထေရ် (ပဋိသံ၊၄၊၂၈၀)

သာဝတ္ထိမှာ ကိုယ်ဝန်အရင့်အမာနှင့် မိခင်တစ်ဦး သေဖူး၏၊ မီးရှို့ သင်္ဂြိုဟ်ကြသည်၊ တစ်ကိုယ်လုံး လောင်သွားသော်လည်း ကိုယ်ဝန်အသားအိတ်ကြီးကား မီးမလောင်ဘဲ ဖြစ်နေ၏၊ တံစူးဝါးဖြင့် ထိုအသားအိတ်ကြီးကို ၂–ချက် ၃–ချက် ထိုးသောအခါ ကလေးငယ်၏ နဖူးစပ်၌ ထိုးမိလေသည်၊ ကလေးငိုသံထွက်ပေါ်လာ၏။

ထိုအခါ ကလေးငယ် မသေမှန်းသိ၍ ကောက်ယူ ဖောက်ထုတ် မွေးကျွေး ပြုစုကြလေသည်၊ ဤကလေးငယ်(၇)နှစ်အရွယ်သို့ ရောက်သောအခါ ကိုရင်ဝတ်ချင်သည်ဟု ပူဆာ၏။

သို့ဖြစ်၍ အရှင်သာရိပုတ္တရာကြီးထံ ပို့ကြသည်၊ ခေါင်ရိတ်ဆံချအဆုံးတွင် ရဟန္တာကြီး ဖြစ်သွားလေ၏။

ဤသို့လျှင် မီးထဲမှာ မသေရဘဲ ဆွဲထုတ်နိုင်ခြင်းသည်၊ ဘေးရန် လွတ်ကင်းခြင်းသည် ဉာဏဝိပ္ဖါရာ ဣဒ္ဓိပင် ဖြစ်သည်။

## ၃။ ဘူတပါလမထေရ် (ပဋိသံ၊၄၊၂၈၁)

ရာဇဂြိုဟ်မြို့ရှိ ဘူတပါလကလေးငယ်၏ ဖခင်သည် ဆင်းရဲသူ ဖြစ်၏၊ ထင်းခုတ်ရောင်းစားရသည်၊ တောထဲမှ ထင်းတွေတိုက်ပြီး ပြန်လာကြရာ သုသာန်နားအရောက်တွင် နွားတွေက လန့်ဖျပ်၍ ရုန်းထွက်ပြေးကုန်ကြ၏၊ ညနေပိုင်းနေဝင်ရီတရောအချိန်ဖြစ်သည်။

သားငယ်ကို လှည်းပေါ်တွင် ထားခဲ့၍ ဖခင်လုပ်သူသည် နွားတွေနောက်သို့ တရကြမ်း လိုက်ရ၏၊ မြို့တွင်းရှိ အိမ်သို့ ရောက်မှပင် နွားတွေကို မီတော့သည်၊ နွားတွေဆွဲ၍ ပြန်လာသောအခါ မြို့တံခါးကြီး ပိတ်နှင့်နေပြီ၊ အပြင်သို့ ထွက်၍ မရတော့၊ ခက်ကြပြီ။

ကလေးငယ်သည် တစ်ယောက်တည်း လှည်းပေါ်မှာ နေ၍ စောင့်ရင်းက အိပ်ပျော်သွားရှာ၏၊ ဘီလူး သားရဲတို့က ကလေးငယ်ကို စားမည် ပြုကြ၏၊ အခြားဘီလူးသားရဲတို့က တားမြစ်ကြသည်၊ မစားဝံ့ကြ။

ဤကလေးငယ်အရွယ်ရောက်လျှင် ရဟန်းပြုလေ၏၊ တရားအားထုတ်သောအခါ "ရဟန္တာကြီး" အထိ ဖြစ်လေသည်၊ "ဘူတပါလမထေရ်"ဟု တွင်၏။

ဤသို့ ဘီလူးသားရဲဘေးတို့မှ လွတ်မြောက်ရခြင်းသည်လည်း ဉာဏဝိပ္ဖါရာ ဣဒ္ဓိအစွမ်းကြောင့် ဖြစ်သည်။

နောင်တစ်ချိန်မှာမှ ယခုလို ပေါ်ပေါက်လာမည့် အရဟတ္တမဂ်ဉာဏ်၏ အစွမ်းကြောင့်ဟု ဆိုလိုသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ၄။ သပ္ပဒါသမထေရ် (ဓမ္မပဒ၊ ဋ္ဌ၊ ၀၊ ၄၃၄)

သာဝတ္ထိမှာ အမျိုးသားတစ်ယောက် ဘုရားတရားတော်ကို နာရ၍ ရဟန်းဘောင်သို့ ရောက်လာ၏၊ ထို့နောက် ပျင်းရိသုန်မှုန်နေသည်၊ သို့သော်–

"ငါလို လူသည် လူ့ဘဝမှာ နေလို့ မတော်၊

ရဟန်းဘဝနဲ့ပဲ သေမည်၊ ဓာတ်သိမ်းမည်"

ဤသို့ တွေး၍ သေဖို့ရန် အမျိုးမျိုး ကြံစည်နေခဲ့၏၊ အထမမြောက်ခဲ့၊ တစ်နေ့တွင် ရဟန်းတွေ တစ်စု မီးတင်းကုပ်ထဲမှ မြွေပွေးတစ်ကောင်ကို တွေ့၍ အိုးတစ်လုံးတွင် ထည့်ပြီး စွန့်ပစ်ရန် ထွက်လာကြသည်။

ပျင်းရိနေတဲ့ ကိုယ်တော်က "အဲဒါ ဘာလဲ"ဟု မေး၏၊ "မြွေပွေး"ဟု ပြောကြသည်၊ "ဘာလုပ်ကြမလို့လဲ" "အဝေးကို သွားလွှတ်မယ်–လို့" "ဒါဖြင့်ပေး တပည့်တော် သွားလွှတ်မယ်"ဟု ဆို၍ အိုးကို လက်ပြောင်းယူလိုက်၏။

လမ်းတွင် မြွေကိုက်ခံကြည့်သည်၊ မြွေက မကိုက်လို၊ ထိုအခါ အိုးထဲသို့ လက်နှိုက်၍ မွေကြည့်၏၊ မကိုက်၊ သို့ဖြစ်၍ မြွေ၏ပါးစပ်ကို ဖြဲပြီး လက်ချောင်းကလေးတစ်ခု ထိုးသွင်းကြည့်၏၊ ထိုအခါတွင်လည်း မကိုက်။

သို့ဖြစ်၍ "ဒါဟာ မြွေပွေးမဟုတ်ပါဘူး၊ ရေမြွေပါ အလကား အကောင်"ဟု ဆိုကာ လမ်းတွင် ထားခဲ့၏၊ ပြန်လာသောအခါ ဤအကြောင်းအရာအားလုံးကို ပြောပြ၏၊ ကြားရသူအပေါင်းက အံ့အားသင့်နေကြသည်။

တစ်နေ့တွင် သင်တုန်းဓားတစ်ချောင်းကို ယူသွား၍ သစ်ပင်တစ်ခုကို မှီပြီး ရပ်နေ၏၊ ပြီးလျှင် ကိုယ့်လည်ပင်းကိုယ် လှီးရန် အသင့် အနေအထားလုပ်နေသည်၊ နောက်ပြန်စဉ်းစားနေ၏–

ရဟန်းပြုသည့်အချိန်မှစ၍ ယနေ့တိုင်အောင် သီလစင်ကြယ်နေသည်ကို တွေ့ရသည်၊ ပီတိတွေ ဖြစ်လာ၏၊ ယင်းပီတိတို့ကို ခွာပြီး ဝိပဿနာ ရှုသောအခါ ပဋိသမ္ဘိဒါ ပတ္တ ရဟန္တာကြီး ဖြစ်သွားရလေသည်။

---

**မှတ်ချက်။** ။ဤသို့လျှင် တရားရမည့်သူ ဖြစ်၍ မြွေက မကိုက်ရဲခြင်း ဖြစ်သည်၊ မြွေမကိုက်အောင် နောင်ကျမှ ဖြစ်ပေါ်ရရှိမည့် အရဟတ္တမဂ် အရဟတ္တဖိုလ်တို့က လှမ်း၍ တားသည်၊ တားသလို ဖြစ်၏။

အဘယ့်ကြောင့်ဆိုသော် ယခု ရရှိနေသော ဣန္ဒြိတွင် နောင်ကျမှ ဖြစ်ပေါ်မည့် အရဟတ္တမဂ် အရဟတ္တဖိုလ်ဉာဏ်တို့၏ အရှိန်အဝါတွေ လွှမ်းမိုးနေသောကြောင့် ဟူ၏။

တစ်နည်းတော့လည်း လွန်ခဲ့သော (၃)ဘဝက ဤမြွေသည် ဤရဟန်း၏ ကျေးကျွန်ဖြစ်ခဲ့ဖူးသည်ဟူ၏၊ သို့ဖြစ်၍ အရှင်သခင်ကို ပြန်၍ မကိုက်ရဲ၊ ဤအကြောင်းလည်း တစ်ခုပါပေမည်။

ဤဣန္ဒြိသည် ဖြစ်လတ္တံ့သော ဉာဏ်၏ အရှိန်တန်ခိုး လွှမ်းမိုးပျံ့နှံ့နေသော ဉာဏဝိပ္ဖါရိဒ္ဓိဖြစ်သည်။

## ၅။ ဗာဟိယ ဒါရုစိရိယ

[အံ၊၁၊ပါ၊၂၅၊ဋ္ဌ–၂၁၇။
အပ၊ဒါန၊ပါ၊ဒု၊၁၂၇၊ဋ္ဌ၊ဒု၊၂၃၂။ ဥဒါန၊ပါ၊၈၄၊ဋ္ဌ–
၇၀။ ဓမ္မပဒ၊ဋ္ဌ၊ပ၊၄၀၈။]

ဗာဟိယသည် အများနှင့်အတူ ပင်လယ်တွင်း၌ သင်္ဘောပျက်၏၊ အများအပြား သေကျေကုန်ကြ၏၊ သူ့မှာ ပျဉ်ပြားတစ်ချပ်ရ၍ ၎င်းပျဉ်ပြားကို အားပြုပြီးလျှင် ကူးခပ်လာခဲ့၏၊ အသက် မသေဘဲ သုပ္ပါရကကမ်းစပ်သို့ ရောက်လာသည်၊ အဝတ်အစားတို့လည်း

ရေထဲမှာ ကျန်ရစ်ကြ၏၊ ထို့ကြောင့် ပျဉ်ချပ်ကို ခန္ဓာကိုယ်မှာကပ်၍ လျှော်ဖြင့် စည်းပြီး ချုံထဲမှာ ဝင်နေသည်။

လူတစ်ယောက်က တွေ့သွား၍ "ခြုံးခြံစွာ ကျင့်နေတဲ့ သူတော်စင်ကြီး"ဟု သမုတ်ကာ ကြေညာလေတော့သည်။ ထိုအခါမှစ၍ လူတွေ ဝိုင်းအုံလာကြပြီး လျှင် သစ်သီးဝလံ စားဖွယ်သောက်ဖွယ်တို့ ပေါ်များလာတော့သည်၊ ဤအဖြစ်ကို သူက သာယာနေ၏။

ထို့ကြောင့် နောက်ထပ် ပျဉ်ချပ်တို့ကို ထပ်မံရှာဖွေပြီးလျှင် လျှော်ဖြင့်တွဲ၍ ကိုယ်မှာ ပတ်ထားသည်၊ သို့ဖြစ်၍ "ဒါရုစိရိယ"ဟု ခေါ်ကြ၏၊ [ဒါရု=သစ်သား ပျဉ်ချပ်၊ စိရိယ=စီ၍စပ်၍ပတ်ထားသူ။] မူရင်းနာမည် "ဗာဟိယ"နှင့် တွဲ၍ "ဗာဟိယဒါရုစိရိယ" ဖြစ်တော့သည်။

သူသည် ခေသူ မဟုတ်ပါ၊ လွန်လေပြီးသော ကဿပဘုရားသာသနာ နောက်ပိုင်း၌ မြင့်မား မတ်စောက်သော တောင်ကလပ်ပေါ်တက်၊ လှေကားကို ဖြတ်ချပြီး အပြတ်အသတ် ကျင့်ကြသော ရဟန်း(၇)ပါးတွင် တစ်ပါးအပါအဝင်ဖြစ်၏။

ယခုလို သူတော်စင်မဟုတ်ဘဲလျက် အယောင်ဆောင်ပြီး လာဘ်လာဘကို သာယာနေသောအခါ ထို(၇)ပါးတွင် အပါအဝင်ဖြစ်၍ ဗြဟ္မာ့ပြည်သို့ ရောက်သွားသော ဗြဟ္မာတစ်ဦးက လာရောက်သတိပေးသည်။

"မိတ်ဆွေ... သူတော်စင် မဟုတ်ဘဲလျက် အယောင်ဆောင်မနေပါနှင့်၊ ဒီကနေ မြောက်အရပ်မှာ သာဝတ္ထိ ဆိုတာ ရှိတယ်၊ အဲဒီကို သွားပါ၊ ဘုရားပွင့်နေပြီ၊ တရားသွား၍ နာပါ၊ ကျင့်ပါ"

ဤသို့သတိပေးချက်အရ ယူဇနာ (၁၂၀) ဝေးသော သာဝတ္ထိကို တစ်ညလုံး မနားဘဲ သွားခဲ့၏၊ မနက် မိုးလင်းသောအခါ ရောက်လာသည်၊ ဘုရားက မြို့ထဲသို့ ဆွမ်းခံကြွနေပြီ၊ ဆိုင်းငံ့မနေဘဲ နောက်က အတင်းလိုက်၍ တရားဟောဖို့ တောင်းပန်သည်၊ တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ် တောင်းပန်မှ ဟော၏၊ တိုတိုပင် ဖြစ်သည်။

"ဒိဋ္ဌေ ဒိဋ္ဌမတ္တံ၊
သုတေ သုတမတ္တံ၊
မုတေ မုတမတ္တံ၊
ဝိညာတေ ဝိညာတမတ္တံ ဘဝိဿတိ"

ဤမျှဖြင့် ၄မဂ် ၄ဖိုလ် ဆိုက်၍ ရဟန္တာကြီးအထိ ဖြစ်၍ သွားလေသည်၊ ခိပ္ပါဘိညတေဒဂ်ဘွဲ့ထူးရ၏။

**မှတ်ချက်။** ။ဤသို့ တရားထူးရမည့်သူ ဖြစ်သောကြောင့် သင်္ဘောပျက်ရာတွင် သူမသေဘဲ ကျန်ရစ်ခဲ့ရလေသည်၊ ယခုအချိန်ကျမှ ရမည့် အရဟတ္တမဂ် အရဟတ္တဖိုလ်တို့က စောစောက သေမည့်ဘေးကို လှမ်းပြီး တားသည်–ဟူလို၊ ဉာဏဝိပ္ဖါရိဒ္ဓိပင် ဖြစ်သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဉာဏဝိပ္ဖါရိဒ္ဓိများ

ဖော်ပြခဲ့ပြီးသော အထောက်အထားတို့အရ "တရားရမည့်သူများ တရား မရသေးမချင်း မသေ၊ အန္တရာယ်အမျိုးမျိုးမှ ကင်းလွတ်ရသည်" ဆိုသည့် အချက်ကို ကျမ်းဂန်တို့က အခိုင်အလုံ ဆိုနေကြပါ၏၊ ယင်းအဆိုကား ယခုလည်း ထင်ရှားလှပါသည်။

ဤအဆိုအမိန့်အတွက် ယခုလို ဓာတ်တော်များ ကျသည့် မိုးကုတ်ဆရာတော်ဘုရားကြီး ဖြစ်လာမည့် အလောင်းအလျာ ကိုရင်ဝိမလကလေး၏ ငယ်စဉ်ဘဝကို လှမ်းမြော်ရှုကြည့်ကြပါစို့–။

ကိုရင် ဝိမလကလေး ၁၄–နှစ်သားအရွယ်က ညီငယ်မောင်ဘရင်ကလေးနှင့်အတူ လှေငယ်တစ်စင်းဖြင့် ရွာတောင်ဘက်က ဒုဋ္ဌဝတီမြစ်ကို ဖြတ်သန်းကျော်လွှားခဲ့ဖူးသည်။

ထိုစဉ်က ရေဝဲကတော့ကြီး၏ နယ်နိမိတ်အတွင်းသို့ ချဉ်းနင်းဝင်ရောက်သွားပါလျက် သူတို့မှာ ဘေးမသီရန်မခ သေရမည့်အန္တရာယ်မှ လွတ်မြောက်ခဲ့ကြရသည်မှာ ဤဉာဏဝိပ္ဖါရိဒ္ဓိအစွမ်းကြောင့်ပင် ဖြစ်ပေမည်၊ ဤသို့ ယုံကြည်နိုင်ကြရပါတော့သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဝဲဂယက်မှ လွဲထွက်နိုင်ခဲ့ခြင်း

၁၄–နှစ်သားရွယ် တစ်ချိန်တုန်းက ကိုရင်ဝိမလသည် ဥယျာဉ်တော်ရွာ၏ တောင်ဘက် ဒုဋ္ဌဝတီမြစ်ငယ်မြစ်အတွင်းက ဝဲဂယက် ဝဲသြဃကြီးကို ကျော်ဖြတ်နိုင်ခဲ့သလို၊ ယခုအခါတွင် သံသရာ ဝဲသြဃကြီးကို ကျော်ဖြတ်တော်မူနိုင်ခဲ့လေပြီ။

တစ်ချိန်တုန်းကတွင်မူကား ဤကဲ့သို့ သြဃလေးဖြာ သံသရာပင်လယ်ရေပြင်ကျယ်ကြီးကို ဤကဲ့သို့ ကူးမြောက်နိုင်လိမ့်မည်ဟု မည်သူမျှ သိနိုင်စွမ်း မရှိခဲ့ကြချေ၊ ကိုရင်ဝိမလကလေး ကိုယ်တိုင်လည်း သိနိုင်မည် မဟုတ်ချေ၊ သို့ရာတွင် ကိုရင်ဝိမကလေး၏ ဉာဏ ဝိပ္ပါရိဒ္ဓိတို့ကမူ သိနေသလို ဖြစ်ကြ၏၊ သို့ဖြစ်၍

ဤကဲ့သို့ ကျော်ဖြတ်နိုင်မည်ဆိုသည်ကို ကိုရင်ဝိမလ၏ ဉာဏဝိပ္ပါရိဒ္ဓိတို့က အတိတ်နိမိတ်အဖြစ်ဖြင့် ကြိုဆိုကျော်ဖြတ်ပြခြင်းများပေလော။

## နှိုးဆော်သတိပေးခြင်း

“တရားရမည့်သူများ တရား မရသေးမချင်း မသေ၊” ထိုပုဂ္ဂိုလ်၏ ဉာဏဝိပ္ပါရိဒ္ဓိအစွမ်းကြောင့် အန္တရာယ်အမျိုးမျိုးမှ ကြဲဖန်၍ လွတ်မြောက်လာရတတ်၏၊ သေတွင်းမှ သီသီကလေး ကပ်၍ လွတ်မြောက်လာရတတ်လေသည်။

လက်နက် ဘေးဒဏ် အန္တရာယ် အရပ်ရပ်မှ၊ ကပ်၍ ကပ်၍ လွတ်လာကြသူများ ရှိတတ်ကြ၏၊ ထိုပုဂ္ဂိုလ်တို့အဖို့ “ငါတို့သည် တရားရမည့်သူများကွ” ဟု နှလုံးပိုက်သင့်ကြတော့သည်။

ဤသဘောမျိုး ပုဂ္ဂိုလ်တွေ များစွာ ရှိပါ၏၊ တွေ့လည်း တွေ့နေရပါသည်၊ “တရားရမည့်သူတွေ” ဟု ဆိုချင်ပါ၏၊ သို့သော် အိပ်နေ၍ကား ရမည် မဟုတ်၊ အလုပ်–လုပ်မှသာ ရရှိနိုင်ပေမည်၊ သတိပြုတော်မူကြပါကုန်။

## မြင်းမိုရ်တောင်နှင့် ဖိ၍ သတ်သော်လည်း

ပစ္ဆိမဘဝိကဿ သတ္တဿ ဟိ သိနေရုနာ
ဩတ္ထရိယမာနဿပိ အရဟတ္တံ အပ္ပတွာ
ဇီဝိတက္ခယော နာမ နတ္ထိ။

(ဓမ္မပဒအဋ္ဌကထာ၊ပ၊၄၂၆)

အဓိပ္ပာယ်မှာ “ပစ္ဆိမဘဝိကသား တရား ရ၍ ရဟန္တာဖြစ်မည့်သူဆိုလျှင် မြင်းမိုရ်တောင်နဲ့ ဖိသတ်တာတောင် (တရားမရသေးမချင်း) မသေ”ဟု ဆိုလို၏။

ဤကား စကားကို အလွန်အကျွံ ပြောဆိုခြင်း ဖြစ်သည်၊ အမှန်ကတော့ မြင်းမိုရ်တောင်နဲ့ ဖိသတ်ရင် သေမှာပေါ့၊ ဆိုလိုသည်မှာ နောင်ကျမှ ရမည့် မဂ်ဖိုလ်တို့၏ အရှိန်အဝါတို့က အလွန်ကြီးမား၏၊ သေဘေးနှင့် ကြုံသော်မှ မသေ၊ မဂ်ဖိုလ်တို့ရဲ့ အရှိန်အဝါတွေက လှမ်း၍ လှမ်း၍ တားသဖြင့် လွတ်–လွတ်သွားရသည်ဟု ပြောလိုခြင်း ဖြစ်၏။

# နပ်မည့်ထမင်းအိုး–မီးထိုး၍လည်း ပေးဦးမှ

ထိုသို့ တရားရမည့်သူများ ဖြစ်ကြသော်လည်း အလုပ်–လုပ်ပါမှ ရနိုင်မည်၊ အလုပ်–မလုပ်ဘဲနဲ့ မရနိုင်၊ ဘုရားလက်ထက်က အဘိုးအိုနဲ့ အဘွားအို ခွက်လက်စွဲ၍ တောင်းစားနေကြ၏၊ သူတို့သည် သူဋ္ဌေးသားနှင့် သူဋ္ဌေးသမီးများ ဖြစ်ကြသည်၊ တစ်ဘက်လျှင် ကုဋေ ရှစ်ဆယ်စီ ပါခဲ့ကြ၏၊ ယခု ကုန်ပြီ။

*ဘုရားက အမိန့်ရှိသည်– "ပထမအရွယ်မှာ စီးပွားရေး လုပ်ကြလျှင် သူတို့သည် ပထမ တန်းစား သူဋ္ဌေး ဖြစ်နိုင်ကြ၏၊ တရား အားထုတ်ကြလျှင် အဘိုးက ရဟန္တာ၊ အဘွားက အနာဂါမ် ဖြစ်နိုင်ကြသည်။

ဒုတိယအရွယ်မှာ စီးပွားရေး လုပ်ကြလျှင် ဒုတိယတန်းစားသူဋ္ဌေး၊ တရား အားထုတ်ကြလျှင် အဘိုးက အနာဂါမ်၊ အဘွားက သကဒါဂါမ်။

တတိယအရွယ်ကျမှ ထပြီး စီးပွားရေး လုပ်တောင် တတိယတန်းစား သူဋ္ဌေးတော့ ဖြစ်နိုင်သေး၏၊ တရား အားထုတ်ကြလျှင် အဘိုးက သကဒါဂါမ်၊ အဘွားက သောတာပန် ဖြစ်နိုင်သည်"တဲ့။

သူတို့သည် တိဟိတ်ပုဂ္ဂိုလ်များ ဖြစ်၍ တရား ရနိုင်သောကြောင့် မိန့်တော်မူနေခြင်း ဖြစ်၏၊ သို့သော် လောကီရေးလည်း မလုပ်၊ လောကုတ္တရာရေးလည်း မလုပ်ခဲ့ကြ၊ သို့ဖြစ်၍ ၂–ဘက် ရှုံးခဲ့ကြရသည်၊ ဤသည့်အချက်ကို ထောက်၍ "နပ်မည့် ထမင်းအိုး ပေမယ့်– မီးထိုး၍ ပေးဦးမှ နပ်မည်"ဟု သတိပြုနိုင်တော့၏။



* ဓမ္မပဒ အဋ္ဌကထာ၊၃၊၈၁

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဒေသနာတွေပျောက်ကွယ်ကုန်မည်စိုး၍

မိုးကုတ်ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချသွားသောအခါ ဆရာတော်ဘုရားကြီး၏ သာဝက အရင်းအချာ ဦးသံဒိုင်က စိတ်မောကိုယ်မောနှင့် စဉ်းစားနေမိပါသတတ်–

"တစ်ချိန်တုန်းက ဆရာတော်ဘုရားကြီးအား ရန်ကုန်သို့ ကြွ၍ ဒကာ ဒကာမတို့ကို ဆုံးမတော်မူပါ–ဟု လျှောက်ထားခဲ့ဖူးသည်။

ထိုအခါ ဆရာတော်က "အေး... မင်းက ရှေ့ကနေ ရန်ကုန်မှာ တရားလမ်း ခင်းထားနှင့်၊ အတော်အသင့် တရားသက်ဝင်ကြတော့မှ ငါ လာခဲ့မယ်"ဟူ၍လည်း မိန့်ဆိုဖူးသည်။

ဝါမဆိုခင်က လာလည်း လာခဲ့ပြီးပြီ၊ ဟောလည်း ဟောခဲ့ပြီးပြီ၊ သို့သော် ဤမျှဖြင့် မိမိက အားမရသေး၊ နှစ်စဉ် နှစ်တိုင်း ကြွလာဖြစ်အောင် စီမံမည်–ဟု အားခဲထားခဲ့သည်၊ ကြံစည်တိုင်း မဖြစ်ချေတကား။

ယခု ခန္ဓာဝန်ချသွားပြီ၊ နောက်ထပ် ဆရာတော်ဘုရားထံမှ တရားဒေသနာများ မရနိုင်တော့ချေ။

နောက်ထပ် မရနိုင်သည်ထက် ယခု ဟောကြားထားပြီး တရားဒေသနာများ ပျောက်ကွယ်မကုန်ဖို့နှင့် တတ်နိုင်လျှင် အများနားနိုင် ကျင့်နိုင်အောင် ကျယ်ကျယ်ပြန့်ပြန့် ဖြစ်ဖို့ အရေးကြီးသည်..."

စသည်ဖြင့် စဉ်းစားနေခဲ့ပါသတတ်၊ ယင်းသို့ စဉ်းစားပြီးနောက် "တစ်ယောက်တည်း ဆောင်ရွက်နေခြင်းဖြင့် မတွင်ကျယ်နိုင်၊ အများနှင့် စုပေါင်းပြီး အဖွဲ့အစည်းနဲ့ ဆောင်ရွက်မှ တွင်ကျယ်မည်"

ဤသို့ စဉ်းစားပြီးလျှင် အဖွဲ့အစည်းတစ်ခု ဖွဲ့စည်းရန် အစီအစဉ် ရေးဆွဲပါသတတ်။

## ရန်ကုန်မြို့၊ မိုးကုတ်ဝိပဿနာအဖွဲ့ စတင်ဖွဲ့စည်းခြင်း

**အချိန်မှာ**

၁၃၂၄–ခု တန်ဆောင်မုန်း လဆန်း (၇)ရက်၊ ၁၉၆၂–ခု နိုဝင်ဘာလ (၃)ရက်နေ့ ဖြစ်၏။

**နေရာဌာန**

ရန်ကုန်မြို့၊ ဆင်းဒွစ်လမ်း၊ အမှတ်–၃၃၊ ဦးသံဒိုင်+ဒေါ်တင်တင်တို့၏ နေအိမ်။

**ရည်ရွယ်ချက်**

၁။ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ၊ မိုးကုတ်ဆရာတော်ဘုရားကြီး ဟောကြားတော်မူခဲ့သော တရားစဉ် ဒေသနာများကို (မန္တလေး၊ အမရပူရ၊ မိုးကုတ်မြို့ရှိ) အဖွဲ့များနှင့် တိုင်ပင်ကြ၍ ကဏ္ဍ ခွဲခြားကြမည်၊ ဟောကြားပြီး တရားခွေများ ရသမျှ စုဆောင်းမည်။

ပြီးလျှင် တာရှည်ခံနိုင်အောင် စာအုပ်စာတမ်းဖြင့် ဖြစ်စေ၊ ဓာတ်ပြားဖြင့် ဖြစ်စေ၊ အမျိုးအစားကောင်းတဲ့ (တိပ်ခွေ)ဖြင့် ဖြစ်စေ ကူးယူထားရန်။ [ထိုစဉ်က တိတ်ရီကော်ဒါကြီးတွေသာ ပေါ်သေး၏၊ ထိုတိပ်ခွေမျိုးကို ရည်ရွယ်ပြောခြင်း ဖြစ်သည်။]

၂(က)။တရားစဉ်ဒေသနာနှင့် လုပ်ငန်းစဉ်များကို ပြည်တွင်း၌ အနယ်နယ်အရပ်ရပ်သို့ နယ်လှည့်၍ ဖွင့်လှစ်ဟောကြားရန်နှင့် သက်ဆိုင်ရာ စာရွက်စာတမ်းများ ဝေငှရန်။

(ခ)မိုးကုတ် ဆရာတော်ဘုရားကြီး၏ တရား

ဒေသနာများကို စာအုပ်အဖြစ် ရိုက်နှိပ်ရန် အဖိုးနှုန်းချိုသာစွာဖြင့် ဖြန့်ဝေရန်။

၃။တရားစဉ်များ၌ စိတ္တာနုပဿနာလုပ်ငန်းစဉ်ကို နိုင်ငံခြားဘာသာများဖြင့် ပြန်ဆိုပြီးလျှင် စာအုပ်ရိုက်၍ ပြည်ပသို့ ပို့ပြီး ကျယ်ကျယ်ပြန့်ပြန့် သာသနာပြုရန်။

ဤရည်ရွယ်ချက်(၃)မျိုးကို အကောင်အထည်ဖော်နိုင်ဖို့အတွက် အဦးဆုံးအနေဖြင့် အစည်းအဝေးခေါ်လိုက်သည်၊ လူပေါင်း(၈၀)ကျော် တက်လာကြ၏။

တက်လာကြသော ပုဂ္ဂိုလ်များမှာ မောဂေါကပင်ဆရာတော်ဘုရားကြီးရဲ့ တရားတိပ်ခွေတွေကို နာယူပြီး ကြည်ညိုနေကြသူများနှင့် ဆရာတော် ဘုရားကြီးနှင့် ရင်းနှီးသူများ ဖြစ်ကြသည်။

ဦးသံဒိုင်၏ တိုက်၌ ညနေ ၃–နာရီအချိန်တွင် လူစုံသောအခါ အစည်းအဝေး စတင် ကျင်းပကြ၏၊ အထက်ဖော်ပြပါအတိုင်း ရည်ရွယ်ချက်များကို ရှင်းပြသည်။

၎င်းရည်ရွယ်ချက်များကို အကောင်အထည်ဖော်နိုင်ရန် ကျွန်တော် တစ်ယောက်တည်းအနေနှင့် မတတ်နိုင်ပါ၊ သို့ဖြစ်ပါ၍ အများနှင့် စုပေါင်းပြီး ဖော်နိုင်ရန် ယခုလို အစည်းအဝေး ခေါ်ရခြင်း ဖြစ်ပါသည်–ဟု ဦးသံဒိုင်က ရှင်းပြသည်။

ထို့နောက် ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း "အလုပ်အမှုဆောင်အဖွဲ့"အဖြစ် ရွေးကောက်တင်မြှောက်ကြပါသည်။

**အလုပ်အမှုဆောင်အဖွဲ့**

၁။ ဥက္ကဋ္ဌ ဦးအောင်ဇံဝေ (ဝန်ကြီးဟောင်း)
၂။ ဒု–ဥက္ကဋ္ဌ မြန်အောင် ဦးတင် (ဝန်ကြီးဟောင်း)
၃။ ဒု–ဥက္ကဋ္ဌ ဦးသံဒိုင် (ဦးဘိုးငြိမ်းကုမ္ပဏီ)
၄။ အတွင်းရေးမှူး ဦးဘသောင်း (စတီးဘရားသားကုမ္ပဏီ ကိုယ်စားလှယ်)
၅။ ငွေထိန်း ဦးသန်းမောင် (ကျားပျံ–မကောက်)

**အဖွဲ့ဝင်ပုဂ္ဂိုလ်များ**

၁။ ဗုဒ္ဓဝင် ဆရာထွန်း (ဓမ္မကထိက)
၂။ ဦးသာဒင် (အငြိမ်းစားအမြဲတမ်းခွန်မင်းကြီး)
၃။ ဦးထွန်းရင် (ဓာတ်ကောလီ)
၄။ ဦးချန်ထွန်း (မြန်မာ့ချစ်ဆွေကုမ္ပဏီ)
၅။ ဦးဘအေး (ပုလိပ်မင်းကြီးဟောင်း)
၆။ သခင်ဝတင် (ကုန်သည်)
၇။ ဦးမြ (မြန်မာကုမ္ပဏီ)
၈။ ဦးချစ်မောင် (ပိုးထည်ကုမ္ပဏီ၊ ၂၅–လမ်း)
၉။ ဦးညွန့် (ဆန်းကုမ္ပဏီ)
၁၀။ ဦးဖေအောင် (ဦးဖေအောင်ကုမ္ပဏီ)
၁၁။ ဦးအောင်ချို (ကျောက်ကုန်သည်၊ စထရင်းဟိုတယ်)
၁၂။ ဦးသိန်းလွင် (ကျောက်ကုန်သည်၊ ဗိုလ်ချုပ်ဈေး)
၁၃။ ဝိုင်–အမ်–ဘီ–အေမှ ကိုယ်စားလှယ်တစ်ဦး၊
၁၄။ ဦးညွန့် (ဟန်ဇား)
၁၅။ ဦးထွန်းအောင် (ရှမ်း+မြန်မာကုမ္ပဏီ)

**တိုက်တွန်းချက်**

ဆရာတော်ဘုရားကြီး၏ ဈာပနကိစ္စအတွက် မိမိတို့ သဒ္ဓါတရားအလျောက် လှူဒါန်းလိုသော ပုဂ္ဂိုလ်များသည် ရန်ကုန်မြို့၊ ဆင်းဒွစ်လမ်း၊ အမှတ်–၃၃၊ ဦးသံဒိုင်ထံသို့ဖြစ်စေ၊ အမရပူရ–ဈာပနအဖွဲ့သို့ တိုက်ရိုက် ဖြစ်စေ ပေးပို့လှူဒါန်းနိုင်ကြပါသည်။

ဘသောင်း
အတွင်းရေးမှူး

---

**မှတ်ချက်။** ။မိုးကုတ် ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချတော်မူပြီးနောက် (၁၇)ရက်အကြာတွင် ဤအဖွဲ့ကို ဖွဲ့စည်းတည်ထောင်ခြင်းဖြစ်သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဘုရားပြီးလျှင် ထီးတင်ရသလို–တရားပြီး၍ ထီးတင်ခဲ့ခြင်း

သက္ကရာဇ် ၁၃၂၄–ခု နှစ်သစ်ကူး ပြီးနောက် မိုးကုတ်မြို့မှာပင် ဆရာတော်က ဆက်လက် တရားဟောနေတော်မူသည်။ တန်ခူးလ၊ ကဆုန်လ၊ နယုန်လ ကုန်သည်အထိ ဟောတော်မူနေ၏။ ခါတိုင်းဆိုလျှင် ဝါဆိုလပြည့်ခါနီးမှ အမရပူရသို့ ပြန်လေ့ ရှိသည်။ ယခုနှစ်တော့ ရန်ကုန်သို့ သွားစရာ ကိစ္စ ရှိနေ၍ ဝါဆိုလဆန်းကပင် အမရပူရသို့ ပြန်ရမည်။

ထို့ကြောင့် မိုးကုတ်မြို့မှာ နယုန်လပြည့်ကျော် ၁၄ ရက် (လကွယ်) နေ့ အထိ နေတော်မူ၍ တရားဟောတော်မူ၏။ ဤ နောက်ဆုံးနေ့တွင် ဆရာတော်က ဤသို့ မိန့်တော်မူသည်–

"မြေပေါက်စေတီ ဘုရားများ တည်တဲ့အခါ ဘုရားပြီးလျှင် ထီးတင်ရမြဲဖြစ်တယ်၊ ထို့အတူပဲ ဒီမှာလဲ ဒီမြို့မှာ တရားပွဲတွေအကုန်လုံး သိမ်းပြီဖြစ်လို့ ဒီကနေ့ တရားထီးတင်ရမယ်" တဲ့။

ဤသို့ မိန့်တော်မူပြီးလျှင် မိုးကုတ်မြို့မှာ နောက်ဆုံးအနေဖြင့် "သောတာပန် စိတ်ထား အင်္ဂါ ၇ ပါး"ကို "တရားထီးတင်"သည့် အနေဖြင့် အထွတ်အထိပ်တင်ကာ ဟောကြားပေးတော်မူခဲ့သည်။

တရားသမားတွေအတွက် မိမိအဆင့်အတန်းကို တိုင်းတာဖို့ရန် ပေတံပေးခဲ့သလိုလည်း ဖြစ်၏။ ကျေးဇူးလည်း များလှပါသည်။ တရားပွဲအပြီးတွင် "ကဲ နာရီလည်း စေ့ပြီ၊ တရားပွဲလည်း သိမ်းပြီ" တဲ့။

ဟိုစဉ်တုန်းကတော့ ဘာကြောင့် ဤသို့ မိန့်သည်ဟု မသိခဲ့၊ နောက်မှ တစိမ့်စိမ့်တွေးပြီး "ဩော် ဒါကြောင့်မို့ ဒီလို မိန့်တာကိုး" ဟု သဘောပေါက်ရကြရပါတော့သည်။

## သလ္လေခ သုတ်တော်

ရန်ကုန်မြို့၊ ဗဟန်း၊ ၆ ထပ်ကြီး ဘုရားကြီး ကျောင်းတိုက်၌ သံဃာတော်များအား မိုးကုတ် ဆရာတော် ဘုရားကြီးက ဆုံးမ ဩဝါဒ ပေးရာတွင်– "သလ္လေခသုတ်" အကြောင်းကို တစ်ပိုင်းတစ်စ အမြွက်မျှ ထည့်သွင်း မိန့်ကြားသွားခဲ့ပါသည်။

ထိုသုတ်တော်မှာ မူလပဏ္ဏာသ ပါဠိတော်၌ ပါရှိ၏။ အနည်းငယ်မျှ ကောက်နုတ်ဖော်ပြရသော်–

* ဘုရားရှင်ကိုယ်တော်မြတ်ကြီး သာဝတ္ထိမြို့ ဇေတဝန် ကျောင်းတော်၌ သီတင်းသုံးတော် မူခိုက်ဖြစ်သည်။ ထိုအခါ အရှင်သာရိပုတ္တရာ၏ ညီတော် မဟာစုန္ဒရဟန်းက ဘုရားထံ ချဉ်းကပ်၍ "သလ္လေခ" အကြောင်းကို လျှောက်ထား၏။ ထိုလျှောက်ထားချက်အရ မြတ်စွာဘုရားက ဤသို့ မိန့်တော်မူသည်–

ဣဓ ခေါပန ဝေါစုန္ဒ သလ္လေခေါ ကရဏီယော၊
ပရေ ဝိဟိံသကာ ဘဝိဿန္တိ၊ မယမေတ္ထ
အဝိဟိံသကာ ဘဝိဿာမာတိ သလ္လေခေါ
ကရဏီယော။

၁။ စုန္ဒ .. ဤလောကကြီးအတွင်း၌ သင်တို့သည် "သလ္လေခ"ဆိုတဲ့ ခေါင်းပါးတဲ့ အကျင့်ကို ဤသို့ ပြုကျင့်ထိုက်၏။ "သူတစ်ပါးတွေက ညှင်းဆဲနှိပ်စက်သူတွေ ဖြစ်ကြကုန်အံ့၊ ငါတို့က မညှင်းဆဲ–မနှိပ်စက်သူတွေ ဖြစ်ကြမယ်"ဟူ၍ သလ္လေခ အကျင့်ကို ကျင့်ထိုက်၏။

---
* မူလပဏ္ဏာသ ပါဠိတော်၊ ၅၀

## တစ်ဘဝသာသနာ

## အရာရာတိုင်းမှာ ကောင်းတဲ့ဘက်ကနေ

၂။ သူတစ်ပါးတွေက ပါဏာတိပါတ၊ အဒိန္နာဒါနတွေ ပြုကြလျှင် ငါတို့တွေက မပြုလုပ်ဘဲ ရှောင်ကြဉ်ကြသူများ ဖြစ်ကြမယ်။
၃။ သူတစ်ပါးတွေက အဗြဟ္မစာရီ (မမြတ်တဲ့ အကျင့်) ကို ကျင့်ကြလျှင် ငါတို့တွေက ဗြဟ္မစာရီ (မြတ်တဲ့ အကျင့်) ကို ကျင့်ကြမယ်။
၄။ သူတစ်ပါးတွေက မုသာဝါဒတွေ (လိမ်လည်) ပြောကြလျှင် ငါတို့တွေက မုသာဝါဒတွေ မပြောဘူး၊ ရှောင်ကြဉ်ကြမယ်။
၅။ သူတစ်ပါးတွေက ပိသုဏာဝါစာ (ဂုန်းတိုက်) ဖရုသဝါစာ (ရုန့်ရင်းကြမ်းတမ်းစွာပြော)၊ သမ္ဖပ္ပလာပဝါစာ (အနှစ်အသားကင်း– ပိန်ဖျင်းတဲ့စကား) တွေ ပြောကြလျှင် ငါတို့တွေ ရှောင်ကြဉ်ကြမယ်၊
၆။ သူတစ်ပါးတွေက အဘိဇ္ဈာ၊ ဗျာပါဒ၊ မိစ္ဆာဒိဋ္ဌိတွေ ဖြစ်ကြလျှင် ငါတို့တွေက ရှောင်ကြဉ်ကြမယ်၊ ဤနည်းအားဖြင့် မိမိတို့က အရာရာတိုင်းမှာကောင်းတဲ့ဘက်ကချည်း နေသောအားဖြင့် သလ္လေခ အကျင့်ကို ကျင့်ကြရမည်။

ဤကား အမြွက်မျှသာ ကောက်နုတ်ဖော်ပြခြင်းဖြစ်၏။ မူရင်းစာကိုယ်မှာ ကျယ်ကျယ်ပြန့်ပြန့် ဟောပြထားလျက်ရှိသည်။ အကျယ်ကိုသိလိုမူ မူလပဏ္ဏာသပါဠိတော်မှာ ရှုပါလေ။

## အားလုံး တရားရချင်လို့ နာတာမဟုတ်

မိုးကုတ်ဆရာတော်ဘုရားကြီး ခန္ဓာဝန်မချမီ ၂–လလောက်အလိုတွင် ဆရာတော်၏ ညီတစ်ဝမ်းကွဲ (ရဟန်းလူထွက်၊ ငယ်စဉ်ကလည်း အတူနေခဲ့ဖူးသူဖြစ်သော) ဦးဘရင်တစ်ယောက် ပေါက်လာ၏၊ သူသည် ဥယျာဉ်တော်ရွာနှင့် တစ်စပ်တည်း ဖြစ်သော မြစ်ငယ်မြို့ကလေးမှာ အစိုးရဌာနတစ်ခု၌ အလုပ်လုပ်နေသူ ဖြစ်သည်။

စပ်မိစပ်ရာ စကားတွေ လျှောက်ပြောနေကြရာက ဆရာတော်၏ တရားပွဲသို့ လာကြတဲ့ ပရိသတ်အကြောင်းသို့ ရောက်လာတော့သည်၊ ဦးဘရင်က လျှောက်ထား၏ –

“အခု… အရှင်ဘုရားဟာ သိပ်ပြီး နာမည်ကြီးနေတယ်၊ အရှင်ဘုရားရဲ့ တရားပွဲကလဲ လူတွေ အင်မတန် စည်ကားပါဘိသနဲ့ တပည့်တော်တို့လဲ လာနာတာပဲ၊ ပြီးတော့ မီးရထားနဲ့ ပြန်ကြတယ်။

မန္တလေးမြို့၊ ဦးချစ်ဆွေ+ဒေါ်မမတို့အိမ်မဏ္ဍပ်ရုံကြီးမှာဆိုရင်လဲ ပရိသတ်တွေက ၆–ထောင်ကျော် ၇–ထောင်လောက်တောင် ရှိမယ် ထင်တယ် ဘုရား။

ဒါပေမယ့် အကုန်လုံး တရားရချင်လို့ လာနာတာတော့ မဟုတ်ဘူး–လို့ ဆိုချင်တယ် ဘုရား…”

ထိုအခါ ဆရာတော်က ပြုံးပြီး မေးပါသတတ်၊ “မင်းက ဘယ်လို ထင်လို့လဲ၊ ပြောစမ်းပါအုံး”၊ ဤသို့ ခွင့်ပြုချက်ရသဖြင့် ဦးဘရင်က ဆက်ပြီး လျှောက်ရပြန်ပါသတတ်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## လေးပုံ-ပုံရင် တစ်ပုံမျှသာ

တရားပွဲကိုလာတဲ့ပရိသတ်ကြီးကို ၄ပုံ-ပုံမယ် ဘုရား၊ ဉပမာ ပရိသတ်ကြီးက ၄-ထောင် လာတယ် ဆိုပါတော့၊ အဲဒီအထဲက (၁၀၀၀)လောက်က သူဌေး သူကြွယ် ကုန်သည် မင်းစိုးတွေ လာကြလို့ သူတို့နဲ့ နီးရာစပ်ရာနွယ်ရာတွေ ရောပါလာကြတာ။

နောက်(၁၀၀၀)လောက်က အရှင်ဘုရား နာမည် ကြီးလို့၊ နာမည်ကြီးတဲ့ ဆရာထံမှာ၊နာလိုက်ဦးမည်ဆိုပြီး လာနာကြတာ။

နောက် (၁၀၀၀)လောက်က ပေါ့ပေါ့ဆဆပဲ နာနေကြတယ်၊ လေးလေးပင်ပင် မဟုတ်ကြပါဘူး။

"အဲ... နောက်ဆုံး (၁၀၀၀)လောက်ကတော့ တကယ်ပါပဲ၊ အရှင်ဘုရားကိုလဲ ကြည်ညိုကြ တယ်၊ တရားလဲရချကြတယ်၊ အဲဒါကြောင့် နာတာ၊ ဒါကြောင့် ၄ပုံ-ပုံရင် တစ်ပုံလောက် သာပါပဲ..."

ဤသို့ လျှောက်သောအခါ ဆရာတော်က ပြုံးနေသည်၊ ပြီးမှ "အေး... မင်းက မဆိုးဘူးကွ၊ ခန့်မှန်းတတ်တယ်၊ အဲဒီတစ်ပုံထဲကရော တစ်နေ့မှာ ဘယ်နှစ်ယောက် လောက် တရားရမယ် ထင်တုံး"၊ ဤသို့ ဆက်လက် မေးနေပြန်သဖြင့် ဆက်လက်၍ လျှောက်ထားနေရပြန်ပါ သတတ်။

## မင်းနောက်ကျသွားပြီကွာ

"ခန့်မှန်းရမယ်ဆိုယင် တရားတစ်ပွဲမှ ကျွတ် တမ်းဝင်ပါက ၃-ယောက်လောက်ပေါ့ ဘုရား၊ ဒီတော့ ၁၀-ရက်ဆိုရင် အယောက် (၃၀)၊ တစ်လဆိုရင် (၉၀)လောက်ပဲ ရှိမှာပေါ့"

"အင်း... မင်းက ပိုပိုမိုမို တွက်တာ ကိုးကွ၊ မင့်ဟာက များသေးတယ်၊ တကယ် တော့ တရားတစ်ပွဲမှာ ကျွတ်ရင် တစ်ယောက်၊ သို့မဟုတ် နှစ်ယောက်ပေါ့ကွာ..."

"မှန်ပါ အဲဒါကြောင့် တပည့်တော် လျှောက်ချင်တာက အရှင်ဘုရား ပျံတော်မမူ ပါနဲ့အုံး၊ ကျွတ်တမ်းဝင်မယ့်သူတွေ၊ အရှင်ဘုရား ရဲ့ သာဝကတွေ အများကြီး ကျန်ဦးမှာပါ"

ဤသို့ လျှောက်သောအခါ ဆရာတော်က "မင်း ပြောတာ နောက်ကျသွားပြီကွာ..."ဟု မိန့်တော်မူပြီးလျှင် ငေးမောကာ စကားတွေ ပြတ်သွားတော့သည် ဟူ၏။

---

**မှတ်ချက်။** ။ဤ အကြောင်း အရာများကို ၁၃၅၂-ခုနှစ် တန်ဆောင်မုန်းလတွင် တွေ့စဉ်တုန်းက အသက်(၈၄)နှစ်ရှိနေပြီ ဖြစ်သော ဦးဘရင် ကိုယ်တိုင်က ပြန်လည်ပြောပြခြင်း ဖြစ်ပါသည်။

## မိုးကုတ်ဝိပဿနာပြန့်ပွားရေးအဖွဲ့ လပတ်အစည်းအဝေး

**နေရာဌာန**

ရန်ကုန်မြို့၊ ဆင်းဒွစ်လမ်း၊ အမှတ်-၃၃၊ ဦးသံဒိုင်၏ တိုက်။

**နေ့ရက်မှာ**

၁၃၂၄-ခု နတ်တော်လဆန်း (၅)ရက် ၁၉၆၂-ခု ဒီဇင်ဘာလ(၁)ရက် စနေနေ့။

**အချိန်မှာ**

ညနေ(၂)နာရီအချိန်။

အထက်ပါ နေရာဌာန၊ နေ့ရက်၊ အချိန်အတိုင်း အစည်းအဝေးကျင်းပကြ၏။

**အစည်းအဝေးအစီအစဉ်**

၁။ ဆရာတော် ဘုရားကြီးအား လက်အုပ် မိုး၍ ရှိခိုးရန်။

၂။ နယ်မှလာသော စာများကို ဖတ်ကြားပြရန်။

၃။ လွန်ခဲ့သောလက ဆောင်ရွက်ခဲ့ပြီးများကို အစီရင်ခံရန်။

၄။ နယ်က ဖြစ်စေ၊ မြို့ပေါ်က ဖြစ်စေ တိပ်ခွေတရားပွဲ တောင်းလာပါက မည်သို့ ဆောင်ရွက်ရမည်ကို စီစဉ်ရန်။

၅။ ဆရာတော် ဘုရားကြီး၏ အန္တိမဗျာပနမှာ ပြာသို လဆန်း ၉-ရက်မှ ပြာသို လပြည့်နေ့အထိ (၇) ရက် ကျင်းပမည် ဖြစ်ကြောင်း အကြောင်းကြားစာ ရောက်ရှိပါ၍ မည်သို့ကူညီဆောင်ရွက်သင့်သည်ကို စဉ်းစားဆုံးဖြတ်ရန်။

---

**အမှာ။** ။ရှေးက အခြေအနေကလေးများကို အကဲခတ်နိုင်ရန် တင်ပြနေခြင်း ဖြစ်ပါသည်၊ မူလအဖွဲ့ဝင်လူကြီးတစ်ဦးဖြစ်သူ ဦးချန်ထွန်းထံမှ အစည်းအဝေးမှတ်တမ်းကလေးများကို ရ၍ တင်ပြနိုင်ခြင်း ဖြစ်ပါသည်။

## အရိယာကို သိဖို့ မလွယ်ပါ

သောတာပန်၊ သကဒါဂါမိ၊ အနာဂါမိ၊ ရဟန္တာဟူ၍ အရိယာပုဂ္ဂိုလ်များ အဆင့်ဆင့် ရှိကြရာ အရိယာအချင်းချင်းပင်လျှင် အောက် အောက် ပုဂ္ဂိုလ်တို့က အထက်အထက်ပုဂ္ဂိုလ်တို့ကို မသိနိုင်၊ အထက်အထက်ပုဂ္ဂိုလ်တို့ကသာ အောက်အောက်ပုဂ္ဂိုလ်တို့ကို သိနိုင်သည်ဟု ဆို၏။

သာမန်ပုထုဇဉ်တို့က အရိယာပုဂ္ဂိုလ်တို့ကို သိဖို့မှာကား အဘယ်မှာလျှင် လွယ်ကူချောတော့မည်နည်း။

တစ်ခါတွင် စိတ္တလတောင်၌ သီတင်းသုံးသော ရဟန္တာမထေရ်ကြီးတစ်ပါးသည် နောက်ပါတောထွက်ရဟန်းကြီးနှင့် အတူ ဆွမ်းခံကြွသွားနေခိုက် ဖြစ်၏၊ မထေရ်ကြီး၏ သပိတ်တို့ကိုပါ တောထွက်ကိုယ်တော်ကြီးက သယ်ယူလာရသည်၊

လမ်းတွင် တောထွက်ကိုယ်တော်ကြီးက ညည်းညည်း ညူညူဖြင့် ပြော၏-

"ယခုနယ်အခါများ တပည့်တော်ဖြင့် ရဟန္တာပုဂ္ဂိုလ်ကို ဖူးချင်လိုက်တာ ဘုရား၊ ဘယ်တော့များမှ ရဟန္တာပုဂ္ဂိုလ်နှင့် တွေ့နိုင်မည်လဲ မသိဘူးဘုရား ..."

ထိုအခါ မထေရ်ကြီးက အမိန့်ရှိပါသတဲ့-

"ရဟန္တာပုဂ္ဂိုလ်ဆိုတာ သိဖို့ မလွယ်ဘူးကွယ့်၊ သူတို့ကလဲ သိမှာ စိုးကြတယ်၊ တချို့များ ရဟန္တာပုဂ္ဂိုလ်နဲ့ အတူတူနေတာတောင် မသိဘူးတဲ့။

ဘယ်လောက်များလဲ ဆိုရင် ရဟန္တာပုဂ္ဂိုလ်ရဲ့ သပိတ်သင်္ကန်းတွေကို ယူဆောင်ကိုင်တွယ်နေရတာတောင် ရဟန္တမှန်း မသိကြဘူးတဲ့ကွယ့်"

ဤသို့ ရိပ်ဖမ်း သံဖမ်းမျှ အမိန့်ရှိတော်မူ၏၊ သို့သော်လည်း တောထွက်ကြီးကား မရိပ်မိ မသိရှိပါလေတဲ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ကျောင်းအမကြီး ဒေါ်ဖုံအား ဆရာတော်က မိန့်ကြား

ကျောင်းအမကြီး ဒေါ်ဒေါ်ဖုံသည် ရိုးသားလှပါ၏၊ စိတ်ထားဖြူစင်လှပါသည်၊ စေတနာသဒ္ဓါတရားရက်ရောစ၏၊ ရှေးကောင်းမှုပါရမီနှင့် လာခဲ့သူဖြစ်၍လည်း **အစစအရာရာ** ပြည့်စုံနေသူ ဖြစ်ပါသည်၊ မိုးကုတ်ကျောက်တွင်းများစွာကို ပိုင်ခဲ့၏၊ တစ်နေ့တွင် ကျောင်းသို့ ရောက်လာခိုက် မိုးကုတ်ဆရာတော်ကြီး ဦးဝိမလအား လျှောက်ထားမိသည်။

"အခု ပြည်မြို့မှာ ရဟန္တာပေါ်လို့တဲ့ ဘုရား၊ အဲဒါကို သွားဖူးကြမယ်လို့ တပည့်တော်မတို့ လူစုနေကြတယ် ဘုရား..."

"အေး... ရဟန္တာ ဖူးတာ ကောင်းပါတယ်၊ ကုသိုလ်ရတာပေါ့၊ ဒါပေမယ့် ခင်ဗျားတို့က ရဟန္တာကို သိလို့လား၊ ဘယ့်နှယ်လုပ်ခွဲခြားမလဲ"

"ခင်ဗျားတို့က အင်မတန် နုံတဲ့သူတွေ၊ ကဲ... ပြောစမ်းပါဦး၊ ရဟန္တာကြီး ရှေ့က ထိုင်ပြတာတောင် သိနိုင်မလား"

ဤသို့ မိန့်သောအခါ ကျောင်းအမကြီး ဒေါ်ဖုံက ကောက်ကာ ငင်ကာဖြင့် ခပ်သွက်သွက်ပင် လျှောက်လိုက်တော့၏။

"အိုး... ဒါက လွယ်ပါတယ် ဘုရား၊ သူများတွေလဲ တရုန်းရုန်းနဲ့လာပြီး ဖူးနေကြမယ့်ဥစ္စာ၊ အဲဒါကို ကိုယ်ကလဲ ဝင်ပြီး ဦးချကန်တော့လိုက်ရုံပဲပေါ့၊ ဘာခက်တာမှတ်လို့"

ဟူ၍ ပြောကာ ကျောင်းအမကြီး ချော်ထွက်သွားလေသည်၊ ဆရာတော်ကတော့ ပြုံးပြီး ကျန်ရစ်ပါလိမ့်မည်။

## ဆရာတော်ဘုရားကြီး၏ ကျန်းမာရေး

မိုးကုတ် ဆရာတော် ဘုရားကြီး၏ ခန္ဓာကိုယ်သည် တောင့်တင်း ခိုင်မာတော်မူ၏၊ ချုချုချာချာ မဟုတ်၊ ငယ်ငယ်တုန်းကတော့ ပိန်သေးသေးပါတဲ့၊ ကြီးမှ ဝဖြိုး တောင့်တင်းလာခြင်း ဖြစ်ပါသည်-တဲ့၊ သို့ဖြစ်၍ အများအားဖြင့် ကျန်းမာတော်မူသည်ဟုပင် ဆိုရချေမည်။

သွားရာလာရာတိုင်း၌လည်း စိတ်မြန် ကိုယ်မြန်ရှိ၍ ဒိုးဒိုးဒိုင်းဒိုင်း ဖြစ်၏၊ ခပ်ကြမ်းကြမ်းဟု ဆိုရလေမည်လော-။

သင်းပိုင်းဝတ်ရာ၊ ကေသီရန်းရာ၊ ခြုံထည်ခြုံရာတို့၌ ကပိုကရိုကြီးပင် ဖြစ်သည်၊ ငယ်ရွယ်စဉ်တုန်းက ပြုပြုပြင်ပြင် ရှိကောင်းရှိမည် ဖြစ်သော်လည်း အသက်ကြီးသောအခါ ဝတ်ရုံရာတို့၌ကား တစ်ခါတလေမျှ သပ်သပ်ရပ်ရပ် မတွေ့ရ၊ ဖြစ်သလို-ကြုံသလို ရုံတော်မူ-ရန်းတော်မူခြင်း ဖြစ်သည်။

အမြဲတမ်း စကြံသွားသော အလေ့ ရှိ၏၊ သို့သော်- ညဥ့်ပိုင်း ရောက်သောအခါ ကပ္ပိယ ဒါယကာတို့၏ ချိုးဖဲ့ နင်းနှိပ်မှုကိုလည်း ခံယူတော်မူသေးသည်။

အအိပ် အနေ နည်းပါးတော်မူ၏၊ နံနက် အရုဏ်ဆွမ်းချိန်၌ ဆန်ပြုတ် ဘုဥ်းပေးရာတွင် တော်တော် များများ ဘုဥ်းပေးတော်မူလေ့ ရှိသည်၊ အများအားဖြင့် ကျန်းမာသည်ဟုပင် ဆိုရပေမည်။

### တစ်ဘဝသာသနာ

## မျက်စိ မမှိုင်း၊ နား မထိုင်း၊ ခါး မကိုင်း

ဆရာတော်၏ အသံတော်မှာ အသံဝါကြီး ဖြစ်၏၊ ခိုင်မာ၏၊ ခန့်ညား၏၊ ဩဇာရှိ၏၊ လွှမ်းမိုးနိုင်၏၊ ကြည်လည်ပြတ်သား၏၊ အသံကောင်း အမျိုးအစားထဲက ဖြစ်သည်။

သက်တော် ၄၀–ကျော်၊ ၄၅၊၅၀–အရွယ်တို့၌ ဟောသော တရားသံများ ဆိုလျှင် "ဒေါင်းဒေါင်း–ဒေါင်းဒေါင်း"နှင့် အင်မတန် အသံမာတော်မူ၏။

သက်တော် ၆၀–နားသို့ ကပ်လာသောအခါတွင်ကား အသံတော်များလည်း လျော့လာ၏၊ တစ်ခါတစ်ရံ တရားဟောရင်း သလိပ်သံများ ပါလာသည်၊ ထွေးခံထဲသို့ ထွေးထည့်သံများ ကြားလာရ၏၊ အသက်အရွယ်တော်က စကားပြောလာသလို ဖြစ်တော့သည်။

လေငန်းရောဂါလည်း ဖက်လာ၏၊ သွေးတိုးရောဂါလည်း စွက်လာ၏၊ အအေးမိတဲ့ကိစ္စများလည်း တစ်ချက်–တစ်ချက် ကြုံလာသည်။

သွားကတော့ ခိုင်မာပါ၏၊ နားလည်း ကောင်း၏၊ မထိုင်းပါ၊ ခါးလည်း မကိုင်းပါ၊ မျက်စိလည်း မမှိုင်းပါ၊ တစ်သက်လုံး မျက်မှန်တပ်ရသည် ဟူ၍ မရှိ၊ ကြည်လင်ပါ၏၊ စူးစူးစိုက်စိုက် ကြည့်တော်မူလေ့ရှိသည်။

## ပြိုးလဲ မပြိုးနဲ့၊ မဲ့လဲ မမဲ့နဲ့

[ မိုး (၂၆) နှာ–၁၃၈ မှစ၍ မိုးကုတ်ဆရာတော်ဘုရားကြီး ကိုယ်တိုင်ဟော တရားတို့မှ ကောက်နုတ်ဖော်ပြချက်များ။]

မြတ်စွာဘုရားက ဟောထားတယ်–

"ဖုဋ္ဌဿ လောကဓမ္မေဟိ၊ စိတ္တံ ယဿ နကမ္ပတိ" တဲ့၊ အဓိပ္ပာယ်က "ရဟန္တာ ပုဂ္ဂိုလ်များမှာ ကောင်း–ဆိုး နှစ်တန် လောကဓံ တရားတွေနဲ့ ကြုံလဲ မတုန်လှုပ်ဘူး"တဲ့ (မှန်ပါ) ပြိုးစရာတွေတွေလဲမပြိုးဘူး၊ မဲ့စရာတွေတွေလဲ မမဲ့ဘူးဆိုပါတော့ (မှန်ပါဘုရား)

ခင်ဗျားတို့ ကတော့ သေအတူ–ရှင်မခွဲလို့ ဆိုကြတယ် (ဆိုကြပါတယ်ဘုရား) အဲဒီတော့ ပြိုးစရာရှိလဲ အတူတူပြိုးမယ်၊ မဲ့စရာ ကြုံလဲ အတူတူ မဲ့ချင်ကြလို့ (မှန်ပါ) ဒီ သဘော ရောက်နေတယ် (ရောက်ပါတယ်ဘုရား)

ပြိုးတာဟာ တဏှာ (မှန်ပါ) အဲဒါ ဆိုရင် ဥပါဒါန်–ကံတွေလာတော့မယ်၊ (လာမှာပါဘုရား) လာရင် ဇာတိ ဇရာ မရဏဆိုပြီးတော့ ပဋိစ္စသမုပ္ပါဒ် ဆက်တော့မှာပေါ့ (မှန်ပါဘုရား) ဒါဟာ ပဋိစ္စသမုပ္ပါဒ် အလယ်ကနေ ပတ်တော့တာ (မှန်ပါဘုရား)

မဲ့တာကျတော့ ဒေါမနဿ (မှန်ပါ) အဲဒါဆိုရင် ဒေါသ၊ သောက၊ ပရိဒေဝ၊ ဥပါယာသ စသည် လာပြီးတော့ ပဋိစ္စသမုပ္ပါဒ် အဆုံးကနေ ပတ်အုံးမှာပဲ (ပတ်မှာပါဘုရား)

အေး––အဲဒါကြောင့် ပြောနေရတာ "ပြိုးလဲ မပြိုးနဲ့ မဲ့လဲမမဲ့နဲ့" လို့ (မှန်ပါဘုရား)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ကြားအလယ်အလတ် ဥပေက္ခာ ဖြစ်ဖို့

ဒီတော့ ဘယ်လိုနေရမလဲဆိုရင် ဖြစ်–ပျက် မြင်အောင်ရှုနေ (မှန်ပါ) ဖြစ်ပျက်မြင်နေတဲ့ အခိုက်မှာ ပြုံးစရာလဲမရှိ၊ မဲ့စရာလဲမရှိဘူး (မှန်ပါဘုရား)

အများအားဖြင့် ဖြစ်လာတာကို ပြုံးချင်ကြတယ်၊ မပြုံးနဲ့ (မှန်ပါ) ပျက်သွားတာကိုလဲမဲ့တတ်ကြတယ်၊ မမဲ့နဲ့ (မှန်ပါဘုရား)

ဖြစ်လာတာကို မပြုံးနဲ့၊ ပျက်သွားတာကိုလဲ မမဲ့နဲ့ (မှန်ပါ) ဒီကြားထဲမှာ နေဆိုတော့ ဥပေက္ခာ ဖြစ်သွားတာပေါ့ (မှန်ပါဘုရား)

အပြုံးနဲ့ စခဲ့ရင် အမဲ့မှာ အဆုံးသတ်ရ တတ်တယ် (မှန်ပါ) ခန္ဓာ ရရပါလို၏လို့ အပြုံးနဲ့ ဆုတောင်းတယ် (မှန်ပါ) နောက်တော့ ခန္ဓာကြီး ရပြီး အိုနာသေဖောက်ပြန်လာတဲ့အခါ အမဲ့နဲ့ အဆုံးသတ်ရတတ်လို့ ပြောတာ (မှန်ပါဘုရား)

အဲဒါကြောင့် အရိယာပုဂ္ဂိုလ်တွေက အပြုံးကို မကြိုက်တာ၊ အပြုံးနောက်မှာ အမဲ့တွေ ပါ–ပါလာတတ်လို့ (မှန်ပါ)

ဒီတော့ ဒီနေရာမှာ ဥပေက္ခာ သိပ် အရေးကြီးတယ် (မှန်ပါဘုရား) ပြုံးတယ်ဆိုတာ ခန္ဓာရဲ့ ပင်ကိုယ်သဘောမသိကြလို့ (မှန်ပါ) မဲ့တယ်ဆိုတာလဲ ခန္ဓာရဲ့ ပင်ကိုသဘော မသိကြလို့ပါပဲ (မှန်ပါဘုရား)

ပင်ကိုယ်သဘောကြီးက မပြတ်တရစပ် ဖြစ်ပျက်နေကြတဲ့ ဥစ္စာပဲ (မှန်ပါ) အဲဒါကို မြင်အောင်ကြည့်နေတဲ့သူဟာ ပြုံးစရာလဲမရှိ၊ မဲ့စရာလဲမရှိ (မှန်ပါ) အဲလို မပြုံး–မမဲ့ဆိုတော့ ကြားအလယ်အလတ် ဥပေက္ခာ ဖြစ်သွားတာပေါ့ (မှန်ပါဘုရား)

# သင်္ခါရုပေက္ခာဉာဏ်လို့လဲ ဆိုနိုင်

ဖြစ်ပျက် မြင်နေတာဟာ ဝိပဿနာဉာဏ် (မှန်ပါ) မဂ္ဂင်ငါးပါးနဲ့ မြင်နေတာ (မှန်ပါ) ဥပေက္ခာလဲဖြစ်တယ် (မှန်ပါဘုရား) မြင်စိတ်၊ ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ အဲဒီ ၄ မျိုးမှာ ဥပေက္ခာချည်းပဲ မဟုတ်လား (ဟုတ်ပါတယ်ဘုရား)

အေး–အဲဒါကြောင့် ဝိပဿနာလဲဖြစ်၊ ဥပေက္ခာလဲဖြစ်လို့မို့ ဝိပဿနာ+ဥပေက္ခာ (မှန်ပါ) နှစ်ခုတွဲစပ်ပြီး ပြောတော့ "ဝိပဿနုပေက္ခာ" လို့ ဖြစ်သွားတာပေါ့ (မှန်ပါဘုရား) ဒါ ဥပရိပဏ္ဏာသမှာလာတာ (မှန်ပါ)

ဒါဖြင့် ဒီ ဝိပဿနုပေက္ခာနဲ့ အဖြစ်အပျက်တွေကို မြင်နေတယ်ဆိုတော့ အပြုံး+အမဲ့ မပါဘူး၊ အပြုံး အမဲ့ လွတ်နေတယ် (မှန်ပါဘုရား)

ဘာလို့လဲဆိုတော့ ဖြစ်တာမြင်လဲ "သြော် ဒါဟာ ဖြစ်တဲ့ သဘောပဲ၊ ဓမ္မနိယာမလို့ သိထားတယ်၊ (မှန်ပါဘုရား) ပျက်တာမြင်လဲ "ဒါဟာ ပျက်တဲ့ သဘော၊ ဓမ္မနိယာမပဲ"လို့ သိထားတယ် (မှန်ပါဘုရား)

အဲဒီလို ဓမ္မရဲ့ အဖြစ်အပျက် သဘောမျှပဲလို့ သိထားတော့–ဒီနောက်က အပြုံးကော လိုက်သေးလား (မလိုက်ပါ) အမဲ့ကော လိုက်သေးလား (မလိုက်ပါဘုရား)

အပြုံး–အမဲ့ကို ဇာတ်သိမ်းတော့တယ် (မှန်ပါ) ဒါဆိုရင် ဒီဝိပဿနုပေက္ခာဉာဏ်ကို အားကိုးရမယ် (မှန်ပါဘုရား)

မျက်စိနဲ့ အဆင်းနဲ့ ဆုံတော့ မြင်စိတ်ပေါ်တယ်၊ သုံးခုဆုံတာ ဖဿ၊ ဖဿပစ္စယာ ဝေဒနာ–ဆိုတဲ့ နေရာမှာ သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာ ဝေဒနာလို့ (၃)မျိုး ထိုက်သလို လာနိုင်တာပဲ (မှန်ပါ၊ လာနိုင်ပါတယ်ဘုရား)

## တစ်ဘဝသာသနာ

အဲဒီမှာ ဝေဒနာ မတွေ့ရဘဲ ဖြစ်ပျက်တွေချည်း တစ်တန်းတည်း တွေ့ရအောင် ရှုလိုက်ရင် ဝိပဿနုပေက္ခာဖြစ်သွားတယ် (မှန်ပါဘုရား) ဒါဟာ ပါဠိတော်အသုံးပဲ၊(မှန်ပါ) ငှိကာ အလိုအားဖြင့် "သင်္ခါရုပေက္ခာဉာဏ်" ဖြစ်သွားတယ်လို့ ဆိုလိုတယ် (မှန်ပါဘုရား)

ဘာပြုလို့လဲဆိုတော့ ဝေဒနာသုံးမျိုးလုံးဟာ ပြုပြင်လို့ ပေါ်လာရတဲ့ တရား၊ သင်္ခတတရား၊ သင်္ခါရတရားပဲ (မှန်ပါ) အဲဒီ သင်္ခါရတရားတွေကို ရှုတဲ့ ဥပေက္ခာ ဖြစ်လို့မို့ "သင်္ခါရုပေက္ခာဉာဏ်" လို့လဲဆိုလို့ ရတာပဲ (မှန်ပါဘုရား)

ဒါဆို အဆင့်မြင့်နေပြီ၊ သင်္ခါရုပေက္ခာပြီးရင် အနုလောမဉာဏ်၊ မဂ်ဉာဏ်ပဲ (မှန်ပါဘုရား)

[မိုး (၁) နှာ–၄၀၈]

## သကျတို့ထုံး နှလုံးမူဟန်တူရဲ့

တစ်ခါတုန်းက ဦးအောင်ချီသည် မိုးကုတ်မြို့ အရှေ့ပိုင်းထဲတွင် အိမ်တစ်လုံး ဆောက်ဖူး၏၊ အိမ်တက်မင်္ဂလာအလှူ လုပ်သောအခါ ဆရာတော်ဦးဝိမလက "အကျိုး များအောင် ဒီအိမ် ငါ့ကို လှူလိုက်"ဟူ၍ မိန့်တော်မူပါသတတ်။

မြတ်စွာဘုရား အမှူး ရှိသော သံဃာတော်များ နေပြည်တော်သို့ ကြွတော်မူစဉ်က ဖြစ်၏၊ ထိုအချိန်တွင် လွှတ်တော်အဆောက်အအုံကြီးက ဆောက်လုပ်ပြီးစ၊ မည်သူမျှ မသုံးစွဲရသေး။

"မြတ်စွာဘုရား… လောကသားတို့ အကျိုးများအောင် မြတ်စွာဘုရားအမှူးရှိသော သံဃာတော်များ ဦးစွာပထမအသုံးပြုပေးတော်မူပါ ဘုရား"

ဤသို့ သာကီဝင်မင်းသားတို့ လျှောက်ကြ၏၊ သို့ဖြစ်၍ အသုံးပြုတော်မူဖူးသည်၊ ယခုလည်း ဤကျင့်ထုံးကို နှလုံးမူလေသလော၊ မပြောတတ်။

ထို့ကြောင့် အိမ်ရှင် ဦးအောင်ချီ+ဒေါ်လှည္ဆွန့်တို့ကလည်း မညည်းမညူ၊ ကြည်ကြည်ဖြူဖြူပင် ဆရာတော်အား လှူလိုက်ကြလေသည်။

ထိုညမှစ၍ မှောင်စပျိုးချိန်တွင် ဆရာတော့်ကျောင်းသို့ သွား၍ ကားဖြင့်ပင်၊ ည–အိမ်မှာ နာရီဝက်ခန့် တရားဟော၊ ကိုယ်တော်တိုင် တရားလဲ ထိုင်လိမ့်ဦးမည် ထင်ပါသည်၊ ပြီးတော့ ညကျိန်းစက်၊ မနက်ကျမှ ပြန်ပို့ရသည်။

ဤသို့လျှင် ၃–ရက်တိုင်တိုင် ပြုလုပ်ပေးတော်မူ၏၊ ချီးမြှောက်တော်မူခြင်းပင် ဖြစ်သည်၊ ပြီးမှ ပြန်၍ စွန့်တော်မူသည်ဟူ၏။

ဤသို့ပြန်၍စွန့်သည်ကို မသိကြသဖြင့် ဘေးမှ အချို့ပုဂ္ဂိုလ်တို့က မဲ့ကြစွဲ့ကြပြီးလျှင် "ဆရာတော်အား အိမ်ကို လှူတယ်လဲ ပြောသေး၊ အိမ်ရှင်တွေက အိမ်ပေါ်ကလဲ မဆင်းကြဘူး"ဟု ပြောကြပါသတတ်။

## မိုးကုတ်ဝိပဿနာပြန့်ပွားရေးအဖွဲ့ ဒုတိယ–နှစ်ပတ်လည်အစည်းအဝေး

**နေရာဌာန**

ရန်ကုန်မြို့၊ ဆင်းဒွစ်လမ်း၊ အမှတ်–၃၃၊ ဦးသံဒိုင်၏ တိုက်၊ အဖွဲ့တည်ရာဌာန။

**နေ့ရက်**

၁၃၂၆–ခု ကဆုန်လဆန်း(၁၁)ရက်၊ ၁၉၆၄–ခု ဧပြီလ(၂၁)ရက်၊ အင်္ဂါနေ့။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

**အချိန်**

နံနက်(၈)နာရီအချိန်။

သတ်မှတ်ထားသည့် နေရာဌာန၊ နေ့ရက်၊ အချိန်တွင် အစည်းအဝေး ကျင်းပကြသည်။

### အစည်းအဝေး အစီအစဉ်များ

၁။ ဆရာတော်ဘုရားကြီးအား လက်အုပ်မိုး၍ ရှိခိုးကြရန်။

၂။ အတွင်းရေးမှူးက နှစ်ချုပ်အစီရင်ခံစာကို ဖတ်ကြားရန်။

၃။ နှစ်ချုပ်ရှင်းတမ်းကို ဆွေးနွေးကြရန်။

၄။ အမှုဆောင်အဖွဲ့သစ် ဖွဲ့စည်းရေးကိစ္စကို စဉ်းစားရန်။

ဤအခန်းသို့ ရောက်လာသောအခါ သဘာပတိဖြစ်သော ဦးအောင်ဇံဝေက ဤသို့ တင်ပြ၏၊

(က) ဦးသံဒိုင်သည် ဤမိုးကုတ်ဝိပဿနာအဖွဲ့ကို လက်ဦးပထမ စတင် တည်ထောင်သူဖြစ်သည်က တစ်ကြောင်း။

(ခ) ဆရာတော် ဘုရားကြီးရဲ့ တရားတွေကို ရန်ကုန်မြို့၌ အဖွဲ့မဖွဲ့ခင်ကပင် ဟိုနေရာ ဒီနေရာ အနှံ့အပြား လိုက်လံဖွင့်လှစ်ပေးခြင်းကိစ္စကို အပတ်တကုတ် ကြိုးစားသူဖြစ်သည်က တစ်ကြောင်း။

(ဂ) ဤမျှ တိုတောင်းလှသော အချိန်ကာလအတွင်းမှာ ယခုကဲ့သို့ တိုးတက်လာအောင် ငွေအား လူအားနှင့် အချိန်ပြည့် ပေး၍ ဆောင်ရွက်သူ ဖြစ်သည်က တစ်ကြောင်း။

အဲဒီအကြောင်းတို့ကြောင့် ဥက္ကဋ္ဌနေရာကို စဉ်းစားလျှင် ဦးသံဒိုင်သည် အသင့်လျော်ဆုံးသော ပုဂ္ဂိုလ်ဖြစ်ကြောင်း အကြံဉာဏ်ပေးပါသည်။

ယင်းအဆိုပြုချက်ကို မြန်အောင် ဦးတင်က ထောက်ခံ၍ အားလုံးက သဘောတူကြပါသည်၊ ထို့နောက် တစ်ဆက်တည်းပင် မြန်အောင် ဦးတင်က ဦးသံဒိုင်အား "ငွေထိန်းတာဝန်"ကိုပါ ယူရန် အဆိုပြုသဖြင့် ဦးသံဒိုင်က လက်ခံရပါတော့သည်။

ထို့နောက် မြန်အောင် ဦးတင်ကပင် ဆက်လက်၍ လစ်လပ်သွားသော "ဒု-ဥက္ကဋ္ဌ"နေရာ၌ ဦးအောင်ချိကို အဆိုပြုသဖြင့် အားလုံးက သဘောတူကြပါသည်။

မြန်အောင် ဦးတင်ကိုလည်း ဒုတိယဥက္ကဋ္ဌနေရာ၌၊ ဦးဘသောင်းကိုလည်း အတွင်းရေးမှူးနေရာ၌ ဆက်လက် ထမ်းဆောင်ကြပါရန် တိုက်တွန်းကြသဖြင့် ထိုအတိုင်း တာဝန်ယူကြပါသည်။

ထို့နောက် အဖွဲ့သစ်ကို ဖွဲ့စည်းကြရာ ယခုအခါ နာယကနေရာများပါ ပါလာကြ၏၊ အောက်ပါအတိုင်း ဖြစ်ကြသည်။

### နာယကကြီးများ

၁။ ဦးအောင်ဇံဝေ (ဝန်ကြီးဟောင်း)

၂။ ဦးမာဒင် (ဟသ်ာတ)

၃။ ဦးသန်းမောင် (ကျားပျံ)

၄။ ဒေါ်ဒေါ်ဖုံ (ကျောင်းအမကြီး)

### အလုပ်အမှုဆောင်အဖွဲ့

| | | |
|---|---|---|
| ၁။ | ဥက္ကဋ္ဌ | ဦးသံဒိုင် (ဦးဘိုးငြိမ်းကုမ္ပဏီ) |
| ၂။ | ဒု-ဥက္ကဋ္ဌ | မြန်အောင် ဦးတင် (ဝန်ကြီးဟောင်း) |
| ၃။ | ဒု-ဥက္ကဋ္ဌ | ဦးအောင်ချိ (ကျောက် ကုန်သည်) |
| ၄။ | ငွေထိန်း | ဦးသံဒိုင် (ဦးဘိုးငြိမ်းကုမ္ပဏီ) |
| ၅။ | အတွင်းရေးမှူး | ဦးဘသောင်း (စတီးဘရားသားကုမ္ပဏီ ကိုယ်စားလှယ်) |

### အဖွဲ့ဝင်လူကြီးများ

၁။ ဗုဒ္ဓဝင်ဆရာထွန်း (ဓမ္မကထိက)

၂။ ရတနာပုံ ဆရာချစ် (ဓမ္မထိက)

၃။ ဦးထူးရွှေ (ဓမ္မကထိက)

၄။ ဆရာကျော်

၅။ သခင်ဝတင် (ကုန်သည်)

၆။ ဦးမြရင်

၇။ ဦးထွန်းရင် (ခတ်ကောလိ)

## တစ်ဘဝသာသနာ

| | |
|---|---|
| ၈။ ဦးချစ်မောင် | ၁၅။ ဦးမြင့် |
| ၉။ ဦးသာဒင် | ၁၆။ ဦးသိန်းလွင် |
| ၁၀။ (ဟံဇာ) ဦးညွန့် | ၁၇။ ဦးအုံးခိုင် (ဝိုင်၊အမ်၊ဘီ၊အေ) |
| ၁၁။ (ဆန်း) ဦးညွန့် | ၁၈။ ဦးသိန်းမောင် (ရွှေ) |
| ၁၂။ ဦးချန်ထွန်း (မြန်မာ့ချစ်ဆွေကုမ္ပဏီ) | ၁၉။ ဦးထွန်းအောင် (ရှမ်း+မြန်မာကုမ္ပဏီ) |
| ၁၃။ ဦးဟုတ်တိန် | |
| ၁၄။ ဦးတိန်ပို | |

ဦးဘသောင်း
အတွင်းရေးမှူး

## ရွှေတိဂုံခြေတော်ရင်းမှ အဖွားသဲနု ဇရပ်

အဖွဲ့အစည်း တည်ထောင်စဖြစ်၍ အဖွဲ့တည်ရာ ဌာနနှင့် ဓမ္မာရုံ မရှိသေးပါ၊ တရားဟောရာဌာန လိုအပ်နေခဲ့သည်၊ သို့ဖြစ်၍ ရွှေတိဂုံစေတီတော်ကြီး **တောင်ဘက်အလယ်**ပစ္စယံ၌ရှိသော အဖွားသဲနုဇရပ်ကို အသုံးပြုခွင့်ပေးပါရန် မေတ္တာရပ်ခံရတော့သည်။

အသုံးပြုခွင့်ရသဖြင့် အဖွားသဲနုဇရပ်၌ စတင်၍ တရားပွဲများ ကျင်းပကြသည်၊ ဆရာတော်ဘုရားကြီး၏ တရားတိပ်ခွေများကို ဖွင့်ပြသည်။

ထို့ပြင် ဗုဒ္ဓဝင် ဆရာထွန်း၊ ရတနာပုံ ဆရာချစ်၊ ဦးထူးရွှေစသော ပုဂ္ဂိုလ်တို့ကလည်း တရားချီးမြှင့်ပေးကြပါသည်။

တစ်ပတ်ထက် တစ်ပတ် ပရိသတ်တွေ များ၍ များ၍ လာကြရာ ဓမ္မာရုံမဆံ့အောင် ဖြစ်ရပါတော့သည်၊ ကျယ်ဝန်းသော နေရာတစ်ခုရဖို့ လိုအပ်လာတော့၏။

## အမြတ်ခွန်ဓမ္မာရုံ

ထိုအချိန်တွင် အဖွဲ့ဝင်တစ်ဦးဖြစ်သော အမြတ်ခွန် မင်းကြီးဟောင်း ဦးသာဒင်က ပြောလာပါသည်။

> "ကျွန်တော်တို့ အမြတ်ခွန်ဓမ္မာရုံကြီးမှာ ကျယ်ဝန်းပါသည်၊ သို့ရာတွင် မပြီးစီးသေးပါ၊ နောက်ထပ် (၇၀၀၀၀)ကျပ် ခုနစ်သောင်းဖိုးခန့် ဖြည့်စွက် မွမ်းမံပါလျှင် ပြီးစီးသွားနိုင်ပါသည်၊ ပြီးလျှင် အလိုရှိသလို အသုံးပြုပါ။"

ဤကိစ္စကို အများသဘောတူညီကြ၏၊ သို့ဖြစ်၍ ငွေအားများ ထပ်မံဖြည့်စွက်လျက် ဆောက်လုပ်ကြရာ မကြာမီ ပြီးစီးသွားတော့၏၊ ထို့နောက် ၁၉၆၅–ခုနှစ် (သုံးနှစ်ကြောက် နှစ်ပတ်လည်အမီ) ရွှေတိဂုံမြောက်ဘက်မုခ်အနီးတွင်ရှိ အမြတ်ခွန်ဓမ္မာရုံသို့ ပြောင်းရွှေ့နိုင်ခဲ့ကြသည်။

မြန်မာသက္ကရာဇ် ၁၃၂၇–ခုနှစ် ကဆုန်လပြည့်နေ့ (ခရစ် ၁၉၆၅–ခု မေလ ၁၅–ရက်နေ့)တွင် ရိပ်သာ ဟောင်းဖွားသဲနုဇရပ်မှ ရိပ်သာသစ် အမြတ်ခွန်ဓမ္မာရုံသို့ ပြောင်းရွှေ့လာခဲ့ကြသည်၊ ပြီးလျှင် (၁၀)ရက်စခန်းများ ဖွင့်ကြ၏။

စတင် ဖွင့်သော ၁၀–ရက် စခန်းပွဲတွင် အမျိုးသမီး ယောဂီ (၄)ဦးရှိသည်၊ ၎င်းတို့မှာ–

(၁) ဒေါ်မေ
(၂) ဒေါ်ငွေ
(၃) ဒေါ်အုန်း
(၄) ဒေါ်မြခိုင် တို့ ဖြစ်ကြ၏။

အစပိုင်း၌ ဤမျှသာ ဖြစ်သည်၊ တရားထိုင်ရမည်ကို ကြောက်သလိုလို ရှက်သလိုလို ဖြစ်နေကြဟန်တူ၏၊ နောက်အကြိမ်များတွင်မှ တစ်ကြိမ်ထက် တစ်ကြိမ် ယောဂီဦးရေ တိုး၍ တိုး၍ လာသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

### မိုးကုတ်တရားတော်များပြန့်ပွားရန် ရှေ့ပိုင်းမှ ဆောင်ရွက်ခဲ့သော ပုဂ္ဂိုလ်ကြီးများ



(ရှေ့တန်း–ဝဲမှယာသို့)
ဦးဘသန်း၊ ဦးသန်းမောင်(ကျားပျံ)၊ ဦးသံဒိုင်(ဥက္ကဋ္ဌ)၊ ဦးရှိန်ယန်၊ ဦးကျော်ငြိမ်း၊ ဦးချစ်ယုံ။
(နောက်တန်း–ဝဲမှယာသို့)
ဦးလှရွှေ၊ ဦးချန်ထွန်း၊ ဦးအောင်ကျော်၊ ဦးကိုကြီး၊ ဦးမြင့်၊ ဦးအောင်ချို၊ ဦးညွန့်(ဟံဇား)၊
ဦးတင်အောင်၊ ဆရာ ဦးကျော်။

## ပျောက်ကွယ်မကုန်အောင် ထိန်းသိမ်းကြခြင်း

ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဟောပြောချက်ဒေသနာများ ပျောက်ကွယ်မကုန်ရေး အတွက် တပည့် ဒါယကာ ဒါယိကာမတို့က နည်းအမျိုးမျိုးဖြင့် ထိန်းသိမ်းစောင့်ရှောက်ထားကြသည်။

၁။ ဆရာတော်ဘုရားကြီး၏ ဟောပြောချက် ဒေသနာများကို အသံသွင်းကြိုးခွေတို့ဖြင့် ဖမ်းယူထိန်းသိမ်းထားကြခြင်း။

၂။ ယင်းအသံသွင်းကြိုးခွေတို့မှ တစ်ဆင့် စာလုံးအဖြစ်သို့ ပြောင်းယူ၍ စာအုပ်ရိုက်နှိပ်ကာ စာအုပ်အဖြစ်ဖြင့် ထိန်းသိမ်းထားကြခြင်း။

၃။ အမရပူရမြို့၊ မင်္ဂလာဓာတုမေ္မစေတီတော် အနီးရှိ၊ ကျောက်စာတိုက်အတွင်း၌ အချို့ တရားတော်များကို ကျောက်ထက်အက္ခရာ တင်၍ ထိန်းသိမ်းထားကြခြင်း။

ဤကိစ္စကို မိတ္ထီလာမြို့၊ ဦးမြင့်ဆွေ (မူလ

မှော်စရိယ) အမှူးရှိသော မိုးကုတ်ဝိပဿနာပြန့်ပွားရေး အဖွဲ့က တာဝန်ယူ လှူဒါန်းကြသည်။]

၄။ ဆရာတော် ဘုရားကြီး ဟောကြားသော တရားတော် (၈၈)ပုဒ်ကို ရေးခေတ်ကလို ပေထက်အက္ခရာတင်၍ ထိန်းသိမ်း ထားရှိကြခြင်း။

ဤကိစ္စကို ရန်ကုန်မြို့၊ ဗဟန်း၊ ဋ္ဌတ္တာလစ်လမ်း၊ အမှတ်–၈၄၊ ဦးအောင်ဖေ၊ ဇနီး–ဒေါ်စံသာနှ မိသားစုတို့က ပြုလုပ်လှူဒါန်းကြသည်၊ အင်္ဂါပေါင်း(၅၀)ရှိ၍၊ ၃–နှစ်ကြာမှ ပြီးသည် ဟူ၏။

## အသံတော်တွေ ကျန်ရစ်၍ လွန်စွာ ကျေးဇူးများ

မိုးကုတ် ဆရာတော် ဘုရားကြီး၏ အသံတော်တွေ ယနေ့အထိ ကျန်ရစ်နေသည်မှာ အနိုင်းအဆမရှိ ကျေးဇူးတွေ များသွားရ၏၊ ယနေ့အထိ သက်တော်ထင်ရှား ရှိသလို ဖြစ်နေသည်၊ မှော်ရုံခန်းမကြီးထဲမှာ ပလ္လင်ပေါ်တွင် ဆရာတော်ဘုရားကြီးရဲ့ ရုပ်တုတော်ကို တင်ပြီး တရားတိပ်ခွေကို ဖွင့်ထားလိုက်လျှင် အကယ်ပင် ဆရာတော် ဘုရားကြီး ထိုင်ဟောနေသလို ထင်ရတော့သည်။

အသံတော်ကို တိုက်ရိုက် နာယူရတာ ဆိုတော့ စာအုပ်ကို ဖတ်ရတာထက် ပို၍ အရသာ ရှိလှပါ၏၊ စာအုပ်ဆိုတာက ပြုပြင်မှုတွေ – ပြောင်းလဲထားမှုတွေ ရှိနိုင်သေးသည်။

ယခု အသံတော်ထဲမှာကား ဆရာတော် ဘုရားကြီး ဆိုလိုတဲ့ ဝိညတ်တွေ–ဟန်တွေ အပြည့်ပါနေပါ၏၊ ထို့ကြောင့် ဆရာတော်ကြီး ဆိုလိုတဲ့ အဓိပ္ပာယ်တွေ များစွာ ပေါ်လွင်–ထင်ဟပ်နေပါသည်။ ကျေးဇူး များလှပါ၏။

ထို့ပြင်– "ဘယ်နေ့–ဘယ်ရက်–ဘယ်ဌာနမှာ ဟောသည်"ဟူ၍လည်း အစကတည်းက မှတ်တမ်းတင်နိုင်ခဲ့သဖြင့် ပို၍ အားရစရာ ဖြစ်လာသည်။

## မနိုင်းကောင်း–နိုင်းကောင်း၊ နိုင်းရပါလျှင်

ဤနေရာတွင် မနိုင်းကောင်း–နိုင်းကောင်း နိုင်းရပါလျှင် ပထမသင်္ဂါယနာတုန်းကနှင့် တူသွားသလိုဖြစ်သည်၊ ပထမဦးဆုံး သင်္ဂါယနာတင်တုန်းက တရားတစ်ပုဒ်ကို ဘုရားဟော ဟုတ်–မဟုတ် စစ်တမ်းထုတ်လို၍ အရှင်မဟာကဿပကြီးက မေးမြန်းရ၏။

ထိုအခါ အရှင်အာနန္ဒာက ဖြေရသည်– "ဤတရားပုဒ်ကို ဘယ်တိုင်း–ဘယ်ဌာန–ဘယ်မြို့–ဘယ်ရွာ–ဘယ်နေရာမှာ–ဘယ်သူ့ကို အကြောင်း ပြု၍ မြတ်စွာဘုရား ဟောကြားပါသည် ဘုရား" ဟူ၍ လျှောက်ထားရသည်။

မိုးကုတ် ဆရာတော်ကြီးရဲ့ တရားပုဒ်တို့သည်လည်း ထို့နည်းအတူ မှတ်တမ်းထိုးနိုင်ခဲ့၏၊ ဘယ်မြို့–ဘယ်ရွာ–ဘယ်နေရာ–ဘယ်ဌာန–ဘယ်ရက်မှာ ဟူ၍ မှတ်တမ်းတင်နိုင်ခဲ့သည်။ တရားနာခံ ပုဂ္ဂိုလ်တို့၏ အမည်ကို ကြားရရုံမျှဖြင့် နေရာကို သိနိုင်လေတော့သည်။

ဥပမာ– ဒကာကြွယ်၊ ဒကာသစ်၊ ဒကာလှဘူး၊ မောင်ချစ်စိန်၊ မောင်ထွန်းတင် ဟူသော နာမည်တို့ကို ခေါ်၍ ဟောလျှင် "ဤတရားကို အမရပူရမှာ ဟောသည်"ဟု သိနိုင်တော့၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သစ္စာတရားတွေချည်း ဟော၍ သဘောကျကြ

ဤသို့လျှင် ဆရာတော်ကြီးက တရားဟောပြီ– ဆိုလျှင် သစ္စာတရားတွေကိုချည်း ဟောကြား၏၊ လူကြိုက်လည်း များ၏၊ တိတ်ရီကော်ဒါကြီးတို့ဖြင့် အသံဖမ်းယူကြသည်၊ မည်သူမဆို ဖမ်းယူနိုင်ကြ၏။

တစ်နေ့သောအခါတွင် တိတ်ရီကော်ဒါတို့ဖြင့် ဝိုင်းဝန်း ဖမ်းယူနေကြရာ များလွန်း၍ ရေတွက်ကြည့်မိကြပါသတတ်၊ (၃၆)လုံး ရှိသည် ဟူ၏။

ဤအကြောင်းအရာများကို မျက်မြင် ကိုယ်တွေ့ မီလိုက်သော ဦးအေးမောင် (နောင်တွင် ဦးအဂ္ဂ၊ ဝမ်းတွင်းသဲတော မိုးကုတ်ရိပ်သာ ဖြစ်လာသူ) က ပြောပြ၍ သိရပါသည်။]

မောင်ချစ်ဆွေ၊ မောင်ထွန်းလှိုင်၊ မောင်ကို၊ ဦးသန်းမောင်၊ ဦးအောင်ဖေဝေတို့ စသည်ဖြင့် ခေါ်လျှင် မန္တလေးမှာ ဟောတဲ့ တရား။

သို့မဟုတ်– ဒကာကြီးလယ်၊ ကိုပေါ်၊ ကိုဝ၊ မောင်နိုင်၊ ဒကာကြီးလှိုင်၊ မောင်အောင်ချို စသည် ခေါ်လျှင် မိုးကုတ်မြို့မှာ ဟောတဲ့ တရား။

ဦးသံဒိုင်၊ မောင်ထွန်းရင်၊ သခင် ဝတင်၊ မြန်အောင် ဦးတင်၊ ဦးညွန့်၊ ဦးသန်းမောင်ကြီး စသည် ခေါ်လျှင် ရန်ကုန်မှာ ဟောတဲ့ တရား–ဟူ၍ သိနိုင်တော့သည်။ ဤကား လူပုဂ္ဂိုလ်တို့ကို သိနေ၍ ပြောနိုင်ခြင်း ဖြစ်၏။

## ပထမသင်္ဂါယနာ၏ ကျေးဇူး အလွန်အကျူးများခဲ့

အိန္ဒိယနိုင်ငံ ဗုဒ္ဓဂါယာသို့ ဘုရားဖူးသွားခဲ့ကြစဉ်က ဖြစ်၏၊ ရာဇဂြိုဟ်မြို့၊ ဝေဘာရတောင် ကမ္ဘားယံ၊ ပထမသင်္ဂါယနာတင်သော နေရာသို့ ရောက်ကြသည်၊ ထိုအခါ ရွှေဆောင်လမ်းပြ– မိဂဒါဝုန် ဦးနန္ဒ ကိုယ်တော်ကလေးက ဤသို့ ပြောပြ၏–

> "ဒီ ပထမ သင်္ဂါယနာ တင်တဲ့ နေရာဟာ အင်မတန် အရေးကြီးတဲ့ နေရာ ဖြစ်ပါတယ်၊ ဘာပြုလို့လဲ ဆိုတော့– သာသနာတော် အတွက် အသက် သွေးကြော သဖွယ် အရေးကြီး တဲ့ လုပ်ငန်း– လုပ်တဲ့နေရာ ဖြစ်လို့ပါပဲ။
>
> ဘုရား ပရိနိဗ္ဗာန်ပြုပြီးခါစ ဟိုတစ်ချိန်တုန်းက အရှင်မဟာကဿပ အမှူးရှိတဲ့ သံဃာတော် (၅၀၀) ငါးရာ တို့ကသာ သင်္ဂါယနာ မတင်ခဲ့ဘူး ဆိုပါလျှင် ယခုအချိန်မှာ ဒီသာသနာတော်ကြီး မတွေ့နိုင်တော့ဘူး၊ မရှိတော့ဘူး၊ ကွယ်ပျောက်ပြီ၊ ယခု ထိုမထေရ်မြတ်ကြီးတို့ ကျေးဇူးကြောင့် ဒီသာသနာတော်ကြီး သက်တမ်း ရှည်နိုင်ခဲ့တာ၊ ယခုအထိ တွေ့နေနိုင်ကြရတာ"–

တဲ့။

## တစ်ဘ၀သာသနာ

## တရားတွေ ကျန်ခဲ့လို့–ထိန်းသိမ်းခဲ့လို့သာ

ဟုတ်ပါသည်၊ ပထမသင်္ဂါယနာ တင်ခဲ့သော လုပ်ငန်းသည် နယ်နယ်ရရ ကျေးဇူးများသည် မဟုတ်၊ အလွန့်အလွန် အထူးကျေးဇူးများခဲ့၏၊ ယနေ့တိုင်အောင် သာသနာတော်ကြီးကို တွေ့နေကြရသည်မှာ ထိုပထမ သင်္ဂါယနာတင်ခဲ့သော လုပ်ငန်းကြောင့် ဖြစ်သည်။

ထိုစဉ်ကသာ သင်္ဂါယနာ မတင်ခဲ့ဘူး ဆိုပါလျှင် ယခုအခါ သာသနာတော်ကြီး မရှိတော့ပြီ၊ ကွယ်ပျောက်နေပြီ၊ တရားထူးများလည်း ရနိုင်ခွင့် မရှိကြတော့။

ထို့အတူ ဤ၌လည်း မိုးကုတ် ဆရာတော်ဘုရားကြီး ဟောသမျှ–ပြောသမျှတွေကို တိပ်ခွေဖြင့် ထိုစဉ်က ဖမ်းယူမထားခဲ့ဘူးဆိုပါလျှင်– ဖမ်းယူပြီးသမျှတွေကိုလည်း ဆက်လက် ထိန်းသိမ်းမထားခဲ့ဘူး ဆိုပါလျှင်– ယနေ့ ဤတရားမျိုး နာကြားခွင့် မရနိုင်ကြတော့ပေ၊ ယနေ့ ရရှိသော အခွင့်အရေးမျိုး– အကျိုးအမြတ်တို့ကိုလည်း မရရှိနိုင်ကြတော့ပေ။

ယခုကား တရားတွေ ဖမ်းယူထားခဲ့ကြလို့ မပျောက်ပျက်အောင်လည်း ဆက်လက် ထိန်းသိမ်းလာခဲ့ကြလို့ အနှိုင်းအဆ မရှိ အကျိုးတွေ ရနေကြရခြင်း ဖြစ်လေသည်။

## ပတ္တမြားမြေ မင်္ဂလာဓာတုစေတီတော်

ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ဝိပဿနာ အခြေချ စတင်ခဲ့သော ပတ္တမြားမြေ မိုးကုတ်မြို့တွင်လည်း "မင်္ဂလာဓာတုစေတီ"တစ်ဆူ တည်ထားကိုးကွယ်ကြ၏၊ ဆရာတော်ဘုရားကြီး သီတင်းသုံးခဲ့သော ထင်းရှူးခြံရပ်၊ မင်္ဂလာကျောင်းတိုက်အတွင်း၌ပင် ဖြစ်သည်။ လမ်းမပေါ်မှ မော်၍ ဖူးမြော်နိုင်ရန် စီမံထားကြ၏။

ထိုနှစ်က ဆရာတော်ဘုရားကြီး၏ တပည့်ကြီး အရင်း ဆရာတော် ဦးနရိန္ဒ မိုးကုတ်မြို့၌ ဝါကပ်တော်မူ၏၊ မိုးကုတ်ဝိပဿနာတရားများ ပြန့်ပွားအောင်လည်း ကြိုးစားတော်မူသည်၊ ထိုနှစ်ကား ၁၃၂၈–ခုနှစ် ဖြစ်၏။

၁၃၂၈–ခုနှစ်ဝါတွင်းကာလတွင် စေတီတည်ဖို့ လုံးပန်းကြပြီးလျှင် ဝါမကျွတ်မီပင် သီတင်းကျွတ်လဆန်း (၆)ရက် [၂၀.၁၀.၆၆] ကြာသပတေးနေ့၊ နံနက် (၇)နာရီအချိန်တွင် ဆရာတော်ဦးနရိန္ဒကိုယ်တော်တိုင် စေတီတော်အတွက် ပန္နက်ချသည်။

၁၃၂၈–ခု တပို့တွဲလပြည့်ကျော် (၁၁)ရက် အင်္ဂါနေ့တွင် စေတီတော်၌ ဌာပနာတိုက်ပိတ်ကြသည်။ တက်ညီလက်ညီဖြင့် ဆောင်ရွက်လိုက်ကြရာ (၁)နှစ်ခန့်မျှဖြင့် လုံးဝပြီးစီးအောင်မြင်သွား၏။

ထို့ကြောင့် ၁၃၂၉–ခု သီတင်းကျွတ်လဆန်း (၁၅)ရက်မှ သီတင်းကျွတ်လပြည့်ကျော် (၄)ရက်နေ့အထိ (၅)ရက်တိုင်တိုင် စေတီပူဇော်ပွဲကျင်းပကြသည်။

၁၃၂၉–ခု သီတင်းကျွတ်လပြည့်ကျော် (၄)ရက် [၂၂.၁၀.၆၇] နေ့ တနင်္ဂနွေနေ့တွင် စေတီတော်ကို သိုက်မြိုက်သော အခမ်းအနားတို့ဖြင့် ထီးတော်တင်ကြသည်၊ ထို့နောက် သံဃာတော်အရှင်မြတ်တို့ဖြင့် အနေကဇာ တင်ကြ၍ "မင်္ဂလာဓာတုစေတီတော်"ဟု သမုတ်လိုက်ကြသည်။

---

**မှတ်ချက်။** ။ဤထီးတော်တင်သော နေ့ကား ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချပြီးနောက် (၅)နှစ်ပြည့်မြောက်သော နေ့ကြီးပင် ဖြစ်တော့၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# မြို့ရွာအနှံ့ ခရီးဖြန့်ကြ၍

မိုးကုတ်ဆရာတော်ဘုရားကြီး၏ တရားတို့ကား အစပိုင်း၌ နာ၍ မရတတ်ချေ၊ သစ္စာတရားများဖြစ်၍ ခက်လည်း ခက်၏၊ နောက်ပိုင်း၌ သဘောပေါက်လာသောအခါကျမှ ကြိုက်လာကြ စွဲလာတတ်ကြသည်။

ဤနည်းအားဖြင့် တရွေ့ရွေ့လာခဲ့ကြရာ ၁၉၆၅ ခုနှစ်နောက်ပိုင်းလောက်တွင် မိုးကုတ်တရားကို အတော်လူကြိုက်များနေကြပြီ၊ နယ်တကာ ရပ်တကာမှလည်း ဖိတ်စာများ ရောက်လာနေကြပြီ၊ သို့ဖြစ်၍ ထိုအချိန်ကစပြီး ဓမ္မကထိကများဖြင့် အနယ်နယ်အရပ်ရပ်သို့ သွားကာ တရားပွဲများ ကျင်းပဟောပြကြတော့သည်။

အချို့မြို့ရွာတို့၌ မိုးကုတ်အဖွဲ့ခွဲများလည်း ဖွဲ့စည်း တည်ထောင်ပေးခဲ့ကြ၏၊ အချို့ဒေသ၌ ရတနာပုံဆရာချစ်၊ အချို့ဒေသ၌ ဆရာတော် ဦးသောဘိတ၊ ဦးဓမ္မိဿရတို့ ဖြစ်ကြသည်။

အမြတ်ခွန်ဓမ္မာရုံ၌ ဦးပဥ္စင်း ဦးဓမ္မိဿရကိုပင့်၍ (၁၀)ရက် စခန်းများ ကျင်းပကြ၏၊ ဤတရားကို လူကြိုက်များလာပြီးလျှင် နောက်ပိုင်း၌ ယောဂီများ (၁၀၀)ကျော်အထိ တိုးတက်များပြားလာကြသည်။

ဤသို့လျှင် နှစ်စဉ်နှစ်တိုင်း တရားစခန်းပွဲများ ကျင်းပလာခဲ့ကြ၏၊ လူကြိုက်လည်း များသည်ထက်များ–များလာကြသည်၊ အချိန်ကာလတို့လည်း တရွေ့ရွေ့ ပြောင်းခဲ့ရာမှ ၁၉၆၉–ခုနှစ်ထဲသို့ ဝင်လာတော့သည်၊ အမြတ်ခွန်ဓမ္မာရုံ၌ (၄)နှစ်ရာသီအထိ ဖြစ်လာ၏။

နောက်ပိုင်းတွင် အမြတ်ခွန်ဓမ္မာရုံဆိုင်ရာ ပုဂ္ဂိုလ်တို့က "ဓမ္မာရုံ ထိန်းသိမ်းအုပ်ချုပ်ရေးကို ပြန်လည်အပ်နှံပါ"ဟု ဆိုလာကြတော့သည်၊ ထိုအခါမှ မိုးကုတ်အဖွဲ့အနေဖြင့် "ကိုယ်ပိုင်နေရာ သီးသန့်ရှိဖို့ လိုအပ်လာပြီ"ဟု သိလိုက်ကြရတော့၏၊ ထိုအခါမှစ၍ မြေနေရာ ရှာကြရတော့သည်။

# ကိုယ်ပိုင်မြေနေရာ ရှာကြခြင်း

မိုးကုတ်ဝိပဿနာအဖွဲ့အနေဖြင့် ကိုယ်ပိုင်မြေနေရာ ရှာဖွေနေချိန်တွင် အငြိမ်းစား သံအမတ်ကြီး ဦးကြင်နှင့် ဇနီး ဒေါ်မြမေတို့က (သူတို့နှင့် ကပ်လျက်ရှိသော) နတ်မောက်လမ်း၊ အမှတ်–၈၂၊ ယခု ခြံကြီးကို ပိုင်ဆိုင်သူတို့က ရောင်းလိုကြကြောင်း အဖွဲ့ဝင်လူကြီးတို့အား သတင်းပေးလာသည်။

သို့ဖြစ်၍ အဖွဲ့ဝင်လူကြီးတစ်ဦး ဖြစ်သော ဦးမြင့်နှင့် ကြည့်မြင်တိုင် ထီးတန်းမှ သဘာဝဓမ္မဆရာတော်တို့ သွားရောက်ကြည့်ရှုကြ၏၊ သဘောကျလာခဲ့ကြသည်။

ဝင်းခြံကြီးကလည်း ကျယ်ပြန့်၊ ကုန်းမြင့်ယောင်ယောင်လည်း ဖြစ်၊ သွားရေးလာရေးလည်း လွယ်ကူ၊ အဆောက်အအုံကြီးကလည်း ကြီးမား၊ နတ်မောက်လမ်းမကြီးနှင့်လည်း ခပ်လှမ်းလှမ်းဖြစ်၍ တိတ်ဆိတ်ငြိမ်သက်၊ အဘက်ဘက်မှ အဆင်ပြေ၍ သဘောကျကြသည်။

ပြန်လာပြောပြ၍ အားလုံး ကျေနပ်သဘောကျ ဝယ်ယူဖို့ ဆုံးဖြတ်ကြတော့၏၊ ထို့နောက် ခြံကြီးနှင့် ပတ်သက်သော အမွေဆိုင် ၁၉–ဦးနှင့် ညှိနှိုင်းကြသည်။

ယင်းအမွေဆိုင်တို့၏ အကြီးအကဲများဖြစ်သည့် ဒေါ်ချိန်ကင်း၊ ဒေါ်ချိန်လျှမ်း၊ မိသားစုနှင့် ဒေါ်မြနွယ် ညီအစ်မတို့ အကူအညီများလည်း ပါရသည်၊ သဘာဝဓမ္မဆရာတော်က ရောင်းသူ ဝယ်သူ နှစ်ဘက်လုံးနှင့် ရင်းနှီးနေသည်ဖြစ်၍ "ဖြစ်မြောက်အောင်မြင်အောင် ဆောင်ရွက်ပေးကြ"ဟု ဆုံးမတိုက်တွန်းတော်မူ၏။

## ယခုလက်ရှိ မိုးကုတ်အဖွဲ့ချုပ် နေရာ

ဤသို့အားဖြင့် မိုးကုတ်ဝိပဿနာအဖွဲ့အတွက် ကိုယ်ပိုင်မြေနေရာကို ရှာဖွေလာခဲ့ကြရာ ယခုလက်ရှိ၊ ရန်ကုန်မြို့၊ နတ်မောက်လမ်း၊ အမှတ်-၈၂၊ ခြံကြီးကို တွေ့၍ သဘောကျကြ၏၊ ဆိုင်ရာ ပုဂ္ဂိုလ်တို့နှင့် ညှိနှိုင်းပြီးကြပြီ၊ သို့ဖြစ်၍ ရှေ့နေရှေ့ရပ်တို့ဖြင့် အစီအစဉ်ပြုလုပ်ကြတော့၏၊ မိမိတို့ရှေ့နေက-

"၁၉၆၉-ခု ဇူလိုင်လ (၃၁)ရက်ကို နောက်ဆုံးထား၍ ကန့်ကွက်လိုသူ ရှိပါက ကန့်ကွက်နိုင်သည်၊ ကန့်ကွက်သူမရှိလျှင် ထိုရက်နောက်ပိုင်း၌ အရောင်းအဝယ်ပြုလုပ်ကြမည်"

ဟူ၍ ကြေညာတော့သည်၊ ထို့နောက် ကန့်ကွက်သူမရှိဘဲ အရောင်းအဝယ်ဖြစ်ကြသဖြင့် ယခုလက်ရှိ မြေနေရာကြီးကို "မိုးကုတ်ဝိပဿနာအဖွဲ့ပိုင်"အနေဖြင့် ရလိုက်ကြတော့သည်။ သက္ကရာဇ် ၁၃၃၁-ခု ဒုတိယဝါဆိုလ၊ ခရစ် ၁၉၆၉-ခု ဩဂုတ်လထည်းတွင် ဖြစ်သည်။



ရန်ကုန်မြို့၊ နတ်မောက်လမ်း၊ အမှတ်-၈၂ ရှိ ယခုလက်ရှိ မိုးကုတ်ဝိပဿနာစမ္မရိပ်သာ

## အရင်းခံ ကျောင်းဒကာ ကျောင်းအမများ

ဤသို့ နှစ်ဦးနှစ်ဘက် ပြေလည်အောင် ညှိနှိုင်းပြောဆိုကြပြီးနောက် မိုးကုတ်ဝိပဿနအဖွဲ့ချုပ်၏ အရင်းခံ ပင်မ ဖြစ်ကြသော အောက်ပါပုဂ္ဂိုလ်များ စုပေါင်းလိုက်ကြသည်၊ စုပေါင်းကြပြီးနောက် ဝင်းခြံကြီးနှင့် ခြံတွင်းရှိ တိုက်တာအဆောက်အအုံတို့အတွက် ငွေကြေးပမာဏများစွာပါဝင်ကြ၍ ဝယ်ယူလှူဒါန်းလိုက်ကြတော့သည်။

၁။ ကျောင်းအမကြီး ဒေါ်ဒေါ်ဖုံ၊

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

၂။ ဦးသန်းမောင်+ဒေါ်ဒေါ်ကောက် (ကျားပျံ)
၃။ ဦးသံဒိုင်+ဒေါ်တင်တင် (ဥက္ကဋ္ဌကြီး)
၄။ ဦးအောင်ကျော်+ဒေါ်စိန်စိန်
၅။ ဦးမြင့်+ဒေါ်သန်းသန်း
၆။ ဦးအောင်ချို+ဒေါ်လှညွန့်
၇။ ဦးလှရွှေ+ဒေါ်လှလှ

သယ်ယူရရှိကြပြီးနောက်တွင်လည်း ပြုပြင်ခြင်း၊ မွမ်းမံခြင်း၊ အသစ်ထပ်မံဆောက်လုပ်ခြင်းတို့ဖြင့် ဆက်လက် လှူဒါန်းနေကြရသည်။

**မိုးကုတ်တရားတော်များပြန့်ပွားရန် အမာခံကျောင်းအမများ**



(ရှေ့တန်း–ဝဲမှယာသို့)
ဒေါ်လှညွန့်၊ ဒေါ်ကောက်(ကျားပျံ)၊ ကျောင်းအမကြီးဒေါ်ဒေါ်ဖွံ့၊ ဒေါ်တင်တင်။
(နောက်တန်း–ဝဲမှယာသို့)
ဒေါ်သန်းသန်း၊ ဒေါ်စိန်စိန်၊ ဒေါ်လှလှ။

## ဝိပဿနာစာအုပ်တွေ ဖြစ်လာဖို့ ခက်ခဲခဲ့

ရန်ကုန်မြို့၊ မိုးကုတ်ဝိပဿနာအဖွဲ့ချုပ်မှ အဖွဲ့ဝင် လူကြီးတစ်ဦးဖြစ်သူ ဦးချန်ထွန်းက ဤသို့ ပြန်လည် ပြောပြပါသည်။

“ဦးသံဒိုင်တို့ အမရပူရက ဆရာတော် ဘုရားကြီးရဲ့ ဈာပနပွဲပြီးလို့ ပြန်လာကြတယ်၊ ဈာပနပွဲမှာ ငွေတွေ ပိုနေလို့တဲ့၊ ရန်ကုန်သာသနာပြု

ဌာနကိစ္စအတွက် သုံးရအောင် ဆိုပြီး ဟိုက သုံးထောင်လား ဘယ်လောက်လား မသိပါဘူး၊ ပေးလိုက်တာ။

ဒီတော့ ဦးသံဒိုင်က ရန်ကုန်မှာ မိုးကုတ်ဝိပဿနာအဖွဲ့ တည်ထောင်ပြီးပြီ၊ တရားတွေ ပြန့်အောင် ကြိုးစားနေပြီ၊ ရပ်ကွက်ထဲက ဓမ္မာရုံတွေကို လိုက်ပြီး အခမဲ့တရားခွေတွေကို ဖွင့်ပေးနေပြီး တစ်ဆယ့် လေးငါး ယောက်လောက်များ လာပြီး နာဖော်ရလျှင် ကျေနပ်လို့၊ မုန့်ဟင်းခါးကျွေး ဆေးလိပ်တည်၊ လက်ဖက်ရည်လဲ တိုက်လိုက်သေး။

နောက်တော့မှ တဖြည်းဖြည်း ကြိုက်လာကြတာ၊ အစပိုင်းက နာမည့်သူ မရှိ၊ အဲဒီလိုကိစ္စတွေအတွက်ရယ်၊ စာအုပ်ရိုက်ဖို့ ကိစ္စတွေအတွက်ရယ် အဘက်ဘက်က ငွေတွေ ကုန်တာ၊ ဟိုက ပို့လိုက်တဲ့ငွေဆိုတာ ဘာများတာ မှတ်လို့၊ အဲဒီငွေတွေကုန်တော့ သူ့အိတ်ထဲကချည်း ထုတ်တာ။

စပြီးစာအုပ်ထုတ်ဖို့ ကြိုးစားတုန်းကများ လက်ရေးတိုသမားတစ်ယောက်ကို ငှားတယ်၊ တိတ်ရိကော်ဒါကို ဖွင့်၊ လက်ရေးတိုနဲ့ လိုက်ရေး၊ ဒါပေမယ့် ပါဠိတွေကျတော့ မရဘူး။

"သံခိတ္တေန ပဉ္စုပါဒါနက္ခန္ဓာ ဒုက္ခာ"တို့လို ပါဠိတွေ ရွတ်ပြီဆိုရင် မရေးတတ်တော့ဘူး၊ ဒီတွင် ပြေးတာပဲ။

နောက်တစ်ယောက်ခေါ်၊ သူလဲ ရိုးရိုးအကြောင်းအရာတွေကိုသာ လိုက်ရေးနိုင်တာ၊ ပါဠိကျတော့ မရပြန်ဘူး၊ ဒီတော့-

"အန်ကယ်ရဲ့... ကျွန်တော်တို့ မတတ်နိုင်ဘူးဗျ၊ ပါဠိကျတော့ မီအောင် လိုက်ပြီး စာလုံးမပေါင်းနိုင်တော့ဘူး" ဆိုပြီး ပြေးတာပဲ။

အဲဒီလိုနဲ့ ပြေးကြတာ သုံးလေးယောက်လောက်တောင်ရှိမယ် ထင်တယ်၊ နောက်တော့မှ သာသနာရေးဌာန ဗုဒ္ဓသာသနာအဖွဲ့က လူတစ်ယောက်၊ ဘုန်းကြီးလူထွက်ပါပဲ၊ နာမည်တော့ မမှတ်မိဘူး၊ လက်ရေးတိုလဲ တတ်တယ်၊ အဲဒီလူကျမှ မြဲတော့တယ်"။

## စာအုပ်ဖြစ်ချင်ရှာလွန်းလို့

အဲဒီလူနဲ့ စာမူဖြစ်လာပြန်တော့လဲ တန်းပြီး ထုတ်ဝေသေးတာ မဟုတ်ဘူး၊ ဆရာတော်ကြီး ပြောတာတွေနဲ့ မလွဲအောင်၊ တိမ်းပါးချွတ်ချော်မှု မရှိအောင် အကြိမ်ကြိမ် ပြန်တိုက်။

သတ်ပုံသတ်ညွှန်းမှန်အောင်၊ အရေးအသားမလွဲအောင် ဟိုလူလိုက်ပြ ဒီလူလိုက်ပြ၊ ဟို ဖတ်စမ်းပါဦး၊ ဒီ ဖတ်စမ်းပါဦးနဲ့ အကြိမ်ကြိမ် စစ်ဆေးပြီးတော့မှ စာပုံနှိပ်စက် တင်တော့တာ၊ အံမယ်လေး... စာတစ်အုပ်ဖြစ်ဖို့ မလွယ်လိုက်တာ။

အဲဒီလိုကုန်တာတွေဟူသမျှ သူ့အိတ်ထဲကချည်းထုတ်တာ၊ လက်ရေးတိုသမားတွေဆိုလဲ ဟိုသူ့၁၅ဝိ၊ ဒီသူ့-၂ဝဝိ၊ ဟိုသူ့-ဘယ်လောက်၊ "ရော့-အင့်"နဲ့ သူကချည်း ထုတ်ပေးနေတာ၊ သူ့ခမျာ စာအုပ်ဖြစ်ချင်ရှာလွန်းလို့။

ဆရာတော်ဘုရားကြီးအပေါ် အင်မတန် ကြည်ညိုတာ၊ တရားကိုလဲ မမိုတ်မသုန် ယုံကြည်တာကိုး၊ အဲဒီလိုပါ။

အခု ဖတ်ရတဲ့သူတွေကသာ လွယ်လွယ်ကလေးနဲ့ ဖတ်ကြရတာ၊ အံမယ်လေး... ဒီစာအုပ်တစ်အုပ်ဖြစ်ဖို့ အဆင့်ဆင့် ကြိုးစားရ၊ အကြိမ်ကြိမ် တည်းဖြတ်ရ၊ အတန်တန် ညှိနှိုင်းရနဲ့။

သူ့စေတနာ သူ့ဇွဲကို အင်မတန် ချီးကျူးဖို့ကောင်းတယ်၊ ကျွန်တော်တို့ဖြင့် သူ့ကို မီအောင် မလိုက်နိုင်သေးပါဘူး"တဲ့။ ပြန်လည် ပြောပြပါသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဟောပြောမှုဖြင့်လည်း တစ်နည်းတစ်ဖုံ

ဦးသံဒိုင်သည် "ဝိပဿနာတရားတွေ ကျယ်ပြန့်ဖို့အတွက် စာအုပ်တွေ ထုတ်ဝေရုံမျှဖြင့် မလုံလောက်သေး၊ နှုတ်ဖြင့် ဟောပြောမှုကိုလည်း လိုအပ်သေးသည်" ဟု ယူဆထားဟန် ရှိသည်။

ဒါနဲ့ ရန်ကုန်မြို့၊ ပုဇွန်တောင်၊ ရွှေဘုန်းပွင့်ဘုရားဇရပ်မှာ ဟောပြောနေတဲ့ ရတနာပုံ ဆရာချစ်ကို သွားပြီး အကူအညီ တောင်းပြန်ရော၊ ရတနာပုံ ဆရာချစ်က ဘုန်းကြီးလူထွက်ပဲ၊ (၂၄)ဝါရမှ ထွက်တာ၊ စာတတ်ပေတတ်။

"ဆရာရယ်... မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့ ဝိပဿနာတရားတွေကို လေ့လာစမ်းပါ၊ အခြေအမြစ် ကျအောင် ဟောဒီ တိပ်ခွေတွေ နာ၊ စာအုပ်တွေဖတ်၊ တတ်ပြီဆိုတော့ ဆရာ ဟောစမ်းပါ။

ဒီ(မှု)ကို ဆရာလိုက်မယ်ဆိုရင် ဆရာ့အတွက်ရော ဆရာ့မိသားစုအတွက်ပါ စားဝတ်နေရေးကို ကျွန်တော် တာဝန်ယူမယ်၊ ကဲ... ဘယ့်နှယ်လဲ"

အဲဒီလို စုံစမ်းမေးမြန်းတဲ့အခါ ရတနာပုံ ဆရာချစ်က မိုးကုတ်ဆရာတော်ကြီးကို ကြည်ညိုရင်းစွဲရှိပြီးသားဆိုတော့ "လိုက်မယ်"လို့ ကတိပေးပါသတဲ့။

အဲဒီအချိန်ကစပြီးတော့ ဆရာချစ်ဟာ ဦးသံဒိုင်ရဲ့ တိုက်မှာ (၂)နှစ်ခန့်မျှ တိပ်ခွေတွေနားထောင်၊ မိုးကုတ်စာအုပ်တွေ ဖတ်နဲ့ လေ့လာနေတယ်။

အဲဒီနောက်မှ ရွှေတိဂုံ မြောက်မုခ် (ဖွားသဲနုဇရပ်) မှာ စပြီး ပွဲထုတ်တာ၊ ရတနာပုံ ဆရာချစ်ဆိုတာက အသံကလဲ ကောင်းကောင်း၊ အပြောကလဲ ပိုင်ပိုင် ဆိုတော့ သိပ်သဘောကျကြ။

အဲဒီကနေပြီး တစ်စ တစ်စနဲ့ ပရိသတ်တွေ များလာ၊ သဘောပေါက်တဲ့သူတွေ တိုးလာနဲ့ တွင်ကျယ်လာခဲ့ကြတော့တာ။

ဆရာတော်ဘုရားကြီးရဲ့ တရားတွေက အစ ပထမ နာလို့ မရချင်ဘူး၊ နားမဝင်နိုင်ဘူး၊ ဘာတွေ ဟောမှန်းလဲ မသိဘူး၊ ခက်တယ်၊ သစ္စာတရားတွေ မဟုတ်လား။

အဲ... သဘောပေါက်လာပြီဆိုတော့ တွန်းလှတ်၊ မရတော့ဘူး၊ စွဲသွားပြီ၊ ဖွတ်လာတော့တာပဲ" ဟူ၍ ပြန်လည်ပြောပြပါသည်။

## အလွန့်အလွန် ကံကောင်းကြခြင်း

မိုးကုတ်ဆရာတော်ဘုရားကြီးက သိပ်ပွဲထွန်းကားသောခေတ်တွင် ပေါ်ပေါက်လာခဲ့ရ၏၊ သို့ဖြစ်၍ ဆရာတော်ဘုရား ဟောကြားသော တရားတို့ကို အသံသွင်းကြိုးခွေတို့ဖြင့် ဖမ်းယူနိုင်ဖို့အခွင့်ရခဲ့သည်။

ထို့ကြောင့် ယနေ့တိုင်အောင် ဆရာတော်ဘုရားကြီး သက်တော်ထင်ရှား ရှိနေသလို အသံတော်ကို ကြားနေကြရသည်၊ အသံတော်၏ အမူအရာ ဝိညတ်ကိုပါ ကြားနေကြရသဖြင့် ဟန်ပန်ကိုပါ မြင်ယောင်နေကြရတော့၏။ ထို့ကြောင့် မိမိတို့တွေ အလွန့်အလွန် ကံကောင်းကြလေသည်။

ရှေးသထုံခေတ်မှစ၍ သရေခေတ္တရာ ပုဂံ မြင်းစိုင်း စစ်ကိုင်း ပင်းယ၊ အင်းဝ၊ အမရပူရ၊ မန္တလေး စသည်ဖြင့် မြန်မာပြည်မှာ သာသနာတော်လောကဋ္ဌ ထူးခြားသော ဆရာတော်ဘုရားကြီး ပေါ်ပေါက်တော်မူခဲ့ကြ၏၊ သို့သော် ယခုလို သိပ်ပွဲထွန်းကားသောခေတ်နှင့် မကြုံခဲ့ရ၍ ဆရာတော်ဘုရားကြီးတို့၏ အသံတော်ကို

ဖမ်းယူထားနိုင်ခြင်း မရှိခဲ့ကြချေ။

ကျေးဇူးတော်ရှင် မိုးကုတ်ဆရာတော်ဘုရားကြီးကား ထူးခြားလှပါ၏–

(၁) သိပ္ပံခေတ်ကြီးနှင့် ကြုံခြင်း၊

(၂) တိပ်ခွေဖမ်းနိုင်သော ဒကာ ဒကာမများနှင့် ဆုံရခြင်း၊

(၃) ဆရာတော်ဘုရားကြီးကလည်း နေ့ညမအား ဖွဲလုံ့လထား၍ ဟောကြားပေးတော်မူခြင်း၊

ဤသို့သော အကြောင်းအင်္ဂါများ စုံညီခဲ့ကြ၍ ယခုထိအောင် အသံတော်များကို နာယူနိုင်ခွင့်ရကြလေသည်၊ သက်တော်ထင်ရှားရှိနေသလိုပင် ဖြစ်၏၊ ပလ္လင်ပေါ်မှာ ထိုင်၍ ယခုဟောနေသလိုပင် ဖြစ်တော့သည်။

အခြားအခြားသော မထေရ်ကြီးတို့ကား ကိုယ့်ကိစ္စပြီးလျှင် အေးအေးပင် နေတော်မူကြ၏၊ တရားဟောပြမှု နည်းပါးတော်မူကြသည်၊ မိုးကုတ်ဆရာတော်ဘုရားကြီးမူကား ထိုသို့မဟုတ်ချေ၊ "မိမိသိသလိုပင် သိပါစေ" ဟု စေတနာ အပြည့်အဝ ထားပြီး ကြိုးစားပမ်းစား ဟောကြားပေးတော်မူသည်။

ထို့ကြောင့်လည်း တရားတော်အပုဒ်ပေါင်း များစွာ ကျန်ရစ်ခဲ့လေ၏၊ မန္တလေးမြို့၊ ကျောင်းဒကာ ဦးကျော်သိန်း၊ ကျောင်းအမ ဒေါ်တင်လှတို့၏ သားမောင်ကျော်စိန် စုဆောင်းချက်အရဆိုလျှင် အပုဒ်ပေါင်း (၁၀၀၀) တစ်ထောင်ကျော် ရှိလေသည်။

အတိအကျပြောရလျှင် (၁၃၀၄)ပုဒ်၊ တစ်ထောင်နှင့် လေးပုဒ် စုမိ၏၊ ဤအထဲတွင် ပျောက်ပျက်ကုန်သောတရားပုဒ်များမပါ၊ သံဖမ်းစက်တွေ မပေါ်ခင်က ဟောသော တရားများ မပါသေး။

## မိုးကုတ်တရားမှန်လျှင်

"မိုးကုတ်ဝိပဿနာတရား" ဆိုတာ အင်္ဂါရပ်တွေ ရှိပါတယ်၊ သူ့အင်္ဂါရပ်တွေ ညီညွတ်မှ "မိုးကုတ်တရား" လို့ သတ်မှတ်နိုင်ပါတယ်၊ အင်္ဂါရပ်တွေကတော့–

၁။ ပဋိစ္စသမုပ္ပါဒ် အခြေခံရမယ်၊

၂။ ရုပ်နာမ်ခွဲ ပညတ်ပရမတ်ခွဲရမယ်၊

၃။ ဒိဋ္ဌိကို **အသိဉာဏ်နဲ့ကွာအောင်**– ခွာပေးမှု ပါရမယ်၊

၄။ ရှုခင်းရှုကွက် ရှုပုံရှုနည်း ပါရမယ်၊

၅။ သစ္စာဆိုက်ရမယ် (ဆိုက်အောင် ဟောပြရမယ်)

ဒါတွေ မပါဘူး–ဆိုရင် "မိုးကုတ်တရား မဟုတ်ဘူး" လို့ဘဲ မှတ်ပါ၊ ဖော်ပြခဲ့ပြီး အချက်တွေထဲက အနည်းဆုံး ၃ပုံ ၂ပုံတော့ ပါစေရမယ်။

---

**မှတ်ချက်။** ။မိုးကုတ်တရားက ဝတ္ထုဇာတ်လမ်း ဦးစားပေး မဟုတ်၊ "လုပ်ငန်းခွင် ဦးစားပေး" "ရှုခင်းရှုကွက် ဦးစားပေး" ဖြစ်သည်၊ ထို့ပြင် အသံကို ရှေ့တန်း မတင်ရ၊ တရားသဘာဝကို နားလည်အောင် ရှင်းပြခြင်းမျိုးသာ ဖြစ်သည်။

ဤသို့လျှင် အများနှင့်မတူဘဲ တစ်မူခွဲ၍သွားခြင်း ဖြစ်တော့၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## လူချင်လာအောင် ပရိယာယ်မဆွယ်

မိုးကုတ်ဆရာတော်ကြီး ဟောပြီးသမျှ အသံသွင်းကြိုးခွေဖြင့် ဖမ်းယူလိုက်နိုင်သမျှ တရားပုဒ်တို့ကို လိုက်လံရှာဖွေစုရုံးကြည့်ရာ အပုဒ်ပေါင်း(၁၀၀၄)မျှ တွေ့ရှိကြရ၏၊ ပျောက်ပျက်ကုန်သော တရားပုဒ်များ မပါသေး။ အသံဖမ်းခေတ် မရောက်ခင်က ဟောသော တရားပုဒ်များလည်း မပါသေး။

ထိုတရားပုဒ်များတွင် လူချင်အောင် တန်းချင်အောင် နိမိတ်ပြ ပရိယာယ်ဆွယ်၍ ဟောသော တရားများ တစ်ပုဒ်တစ်လေမျှ မပါ။

လူတတ်တန်းတတ်အောင် ရည်ရွယ်ချက် မမှားအောင်၊ ဆုတောင်းမလွဲအောင် ပြုပြင်ပေးသော စကားများသာ ပါရှိသည်။

အများအားဖြင့် တရားအားလုံးလိုလိုပင် သစ္စာတရား အလုပ်ပေးတရား လုပ်ငန်းခွင်ဝင်တရားများချည်း ဖြစ်ကြ၏၊ ဤအချက်ကလည်း အများနှင့်မတူသော ထူးခြားချက်တစ်ရပ်ပင် ဖြစ်သည်။

## မြန်မာအဋ္ဌကထာ ဇေတဒဂ်ဘွဲ့ထူးရနိုင်

သက္ကရာဇ် ၁၃၄၆–ခုနှစ်က ဖြစ်၏၊ မြစ်ဝကျွန်းပေါ်မြို့တစ်မြို့သို့ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက မင်းကွန်း ဆရာတော်ကြီး ဦးဝိစိတ္တသာရာဘိဝံသ ကြွလာတော်မူသည်၊ မလွန်ဆန်လှသင်းထောက်ကပင့်၍ ရေစက်ချပေးရန် ကြွလာတော်မူခြင်း ဖြစ်၏၊ ဒကာတစ်ဦးက လျှောက်သည်–

"ဆရာတော်ဘုရား... ယခုအခါ မိုးကုတ်ဝိပဿနာတရားတွေဟာ အနှံ့အပြား ဖြစ်လာကြပါတယ်၊ မိုးကုတ်ဆရာတော်ကြီးရဲ့ ဟောပြောချက် တွေဟာ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတွေနဲ့ ညီပါရဲ့လား ဘုရား..."တဲ့။

ထိုအခါ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက မင်းကွန်းဆရာတော်ကြီး ဦးဝိစိတ္တသာရာဘိဝံသက ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတွေနဲ့ ညီတယ် မညီဘူး မဖြေတော့ဘဲနဲ့–

"အင်း... မြတ်စွာဘုရားသာ ရှိမယ် ဆိုရင် မြန်မာဘာသာနဲ့ မြန်မာလူမျိုးတွေကို နားလည်အောင် ဟောတဲ့နေရာမှာ ဇေတဒဂ်ဘွဲ့ထူး ပေးလောက်ပါပေတယ်၊ "မြန်မာအဋ္ဌကထာဆရာကြီး"လို့ ဇေတဒဂ်ဘွဲ့ထူးရလောက်ပါပေတယ်"

ဤသို့ မိန့်တော်မူတော့၏၊ မေးလျှောက်သော ဒကာမှာ မိုးကုတ်ဝိပဿနာကို တွန်းလို တိုက်လိုသော သူဖြစ်၏၊ သို့ဖြစ်၍ တိပိဋကဓရဆရာတော်ကြီးကို အကာအကွယ်လာ၍ ယူခြင်း ဖြစ်သည်။

သို့သော် တိပိဋကဓရဆရာတော်ကြီးက အထက်ပါအတိုင်း မိန့်လိုက်သောအခါ ထိုဒကာမှာ ရှေ့သို့ မတိုးသာအောင် ဖြစ်၍သွားရလေသတတ်။

## မိုးကုတ်ဆရာတော်ကြီး၏ အစွမ်း

အကြောင်း တိုက်ဆိုင် လာတိုင်း မင်းကွန်း တိပိဋကဓရ ဆရာတော်ကြီးက အောက်ပါအတိုင်း မိန့်လေ့ ရှိပါသတဲ့–

"မိုးကုတ် ဆရာတော်ကြီးဟာ မြတ်စွာဘုရား ဟောကြားတော်မူတဲ့ ပါဠိတော်တစ်ပိုဒ်ကို ထုတ်ပြပြီး လျှင် အနက်အဓိပ္ပာယ်တွေကို အကုန်ယူပြနိုင်စွမ်းရှိ၏၊ ထိုသို့ ယူပြရာ၌ အံ့သြလောက်ပါပေတယ်။

ယင်းပါဠိတော်စာပိုဒ်ကို အဋ္ဌကထာဆရာ ဋီကာ ဆရာတွေကလဲ ပါဠိဘာသာဖြင့် အဓိပ္ပာယ်တွေ ဖွင့်ပြ ကြတာပဲ၊ သို့သော် ထိုအဋ္ဌကထာဆရာ ဋီကာဆရာ တွေထက်ပင် မိုးကုတ်ဆရာတော်ကြီး ယူပြပုံ အဓိပ္ပာယ် ဖော်ပြပုံတွေက ပို၍ သဘာဝကျနေ၏၊ ပို၍လည်း စုံ လင်နေတော့တယ်။

ရှိသမျှ အဓိပ္ပာယ်တွေကို ခပ်၍ သိမ်း၍ ကျုံး၍ မကျန်ရအောင် ကုန်အောင် ယူပြနိုင်စွမ်းရှိပါပေ၏၊ အဋ္ဌကထာဖွင့် ဋီကာဖွင့်တို့တွင် မပါဝင်သေးသော အခြားအဓိပ္ပာယ်များကိုပါ ဆွဲယူဖော်ပြနိုင်စွမ်း ရှိပါပေ တယ်။

မြန်မာဘာသာဖြင့် ပြည့်ပြည့်ဝဝ အဋ္ဌကထာ ဖွင့်၍ ပြနိုင်စွမ်းရှိပါပေတယ်၊" ဤသို့ မိန့်တော်မူလေ့ ရှိပါသတဲ့။

ထို့ကြောင့်ပင် တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက မင်းကွန်း ဆရာတော်ကြီး ဦးဝိစိတ္တသာရာဘိဝံသက "မြန်မာ အဋ္ဌကထာဆရာကြီး"လို့ တေဒဂ်ဘွဲ့ထူး ရလောက် ပါပေတယ်"ဟု မိန့်တော်မူခြင်း ဖြစ်ပေလိမ့်မည်။

## သဒ္ဒါနည်းသန်တဲ့စိတ်နဲ့ မလေ့လာပါနဲ့

မိုးကုတ်ဆရာတော်ကြီးက ပါဠိတော်တစ်ပုဒ်ကို ထုတ်ပြပြီးလျှင် သူ၏ဆိုလိုရင်းကို အပြည့်အဝ အကုန် အစင် အဓိပ္ပာယ် ယူပြ၏၊ မကျန်ရအောင် ခပ်ပြီး သိမ်းကျုံးယူပြသည်၊ သဒ္ဒါနည်းကျအောင် အနက်ပေး နေမှုကို သိပ်ပြီး ဂရုစိုက်တော်မမူ။

ဤအချက်ကို သဒ္ဒါသန်သော ပုဂ္ဂိုလ်တို့က "သဒ္ဒါနည်းမကျဘူး"ဟူ၍ အပြစ်မတင်သင့်၊ သဒ္ဒါနည်း ကျအောင် အနက်ပေးနေဖို့ထက် အဓိပ္ပာယ်ကုန်အောင် ယူပြဖို့က အဓိကကျသည်ကို သတိပြုရာ၏။

* ဤသဘောမျိုးပင် သီဟိုဠ်ခေတ်က ရဟန္တာ မထေရ်ကြီးတစ်ပါးထံ ပုထုဇဉ်ရဟန်း ၂-ပါး လာကြ၍ အကြောင်းအရာတစ်ခုကို သူတို့မသိသဖြင့် မေးနေကြ ၏။

ရဟန္တာမထေရ်ကြီး၏ မိန့်ကြားချက်များတွင် "သမုဒ္ဒေါ သမုဒ္ဒေါ"ဟူ၍ လေသံပြင်းပြင်းဖြင့် မိန့်ကြား နေသည်၊ "ပင်လယ်သမုဒ္ဒရာ"ကို ဆိုလို၏။

ထိုအခါ ပုထုဇဉ်ရဟန်းတစ်ပါးက "သမုဒ္ဒေါ" လို့ ဒထွေးနဲ့ လေသံပျော့ပျော့ ပြောရမယ့်နေရာမှာ ဒီ မထေရ်ကြီးက "သမုဒ္ဒေါ"လို့ ဓအောက်ခြိုက်နဲ့ လေ သံပြင်းပြင်း ပြောနေတာပဲ၊ မှားနေပြီဆိုတာကို သိနေ၏၊ သို့ဖြစ်၍ "သမုဒ္ဒေါ–လား" "သမုဒ္ဒေါ–လား ဘုရား" ဟူ၍ ကြားဖြတ်ပြီး ပြန်မေးလိုက်မိတော့သည်။

ထိုအခါတွင် မထေရ်ကြီးက "သမုဒ္ဒေါဆိုဆို၊ သမုဒ္ဒေါပြောပြော၊ တို့ကတော့ ဆားငန်ရေတွေ ရှိတဲ့ ပင်လယ်ကြီးကို ပြောတာပဲ၊ ဟင်... သဒ္ဒါနည်းတွေကို ဒီလောက်မှ လိုက်နေချင်ရင် မဟာဝိဟာရကျောင်း

* ဥပရိပဏ္ဏာသ႒၊၁၉

တိုက်တို့ ဇေတဝန်ကျောင်းတိုက်တို့ကို သွားကြပါလား ဟဲ့”ဟူ၍ ဆိုကာ မောင်းထုတ်တော့သတတ်၊ (သဒ္ဒါနည်းကျဖို့ထက် အဓိပ္ပာယ်အနှစ်အသား အမှန်ရဖို့က လိုရင်းဟု ဆိုလိုသည်။)

ထို့ကြောင့်ပင်လျှင် တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက မင်းကွန်းဆရာတော်ကြီး ဦးဝိစိတ္တသာရာဘိဝံသက မိန့်တော်မူသည်–

“မိုးကုတ်ဆရာတော်ကြီးဟာ မြတ်စွာဘုရားသာ ရှိပါလျှင် “မြန်မာအဋ္ဌကထာဆရာကြီး” လို့ တေဒဂ်ဘွဲ့ထူးဖြင့် မြတ်စွာဘုရား၏ ချီးကျူးခြင်းကို ခံယူတော်မူရမှာ” တဲ့။

## အင်မတန် ဉာဏ်ကြီးတဲ့ ပုဂ္ဂိုလ်ပဲ

ဤသို့လျှင် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက မင်းကွန်းဆရာတော်ကြီး ဦးဝိစိတ္တသာရာဘိဝံသက မိုးကုတ်ဆရာတော်ကြီးကို “မြန်မာအဋ္ဌကထာဆရာကြီး”လို့ တေဒဂ်ဘွဲ့ထူးပေးခြင်းခံရမှာ”ဟူ၍ ဂုဏ်ပြုသလို–

စစ်ကိုင်းတောင်ရိုး၊ ရွှေဟသ်ာတိုက်သစ် ဆရာတော် ဘုရားကြီး ဦးပဏ္ဍိတ၊ အဂ္ဂမဟာပဏ္ဍိတ၊ အဘိဓဇမဟာရဋ္ဌဂုရု၊ အဘိဓဇမဟာသဒ္ဓမ္မဇောတိက၊ သက်တော် (၁၀၀) တစ်ရာကျော်နှစ်ကလည်း ကိုယ်တော်တိုင် ဤသို့ အမိန့်ရှိတော်မူဖူးပါသည်။

“တောင်မြို့၊ မိုးကုတ်ဆရာတော် ဦးဝိမလထံမှာ တို့ စာလိုက်ဖူးတယ်၊ အဲဒီတုန်းက ပဋ္ဌာန်းချတာ၊ အင်မတန် ဉာဏ်ကြီးတဲ့ပုဂ္ဂိုလ်ပဲ”

“ပဋ္ဌာန်းအဘိဓမ္မာဆိုတာ ပင်လယ်ပြင်ကြီးလို၊ ကျယ်လဲကျယ်၊ နက်လဲနက်၊ ခက်လဲခက်၊ တစ်ဖက်ကမ်းရောက်အောင် ကူးခပ်ပို့နိုင်ခဲ့ဘိခြင်း၊ အဲဒါ သူက စာသင်သားတွေကို ကူးခပ်ပို့ပေးနိုင်တယ်၊ အဲဒီလောက် အစွမ်းသတ္တိ ရှိတယ်”တဲ့။

## ဘုန်းကြီးရဲ့တရားပွဲတိုင်း ပရိသတ်ကများပြား

တစ်ဖန်တုံလည်းတိပိဋကဓရဓမ္မဘဏ္ဍာဂါရိက မင်းကွန်းဆရာတော်ကြီး ဦးဝိစိတ္တသာရာ ဘိဝံသက မြန်မာပြည်အောက်ပိုင်း မြန်ဝကျွန်းပေါ်ဒေသ ကြို့ပင်ကောက်မြို့သို့ ကြွလာတော်မူ၏။ ၁၃၃၉–ခုနယုန်လပြည့်ကျော် ၁၃–ရက် (၁၉၇၇–ခု ဇွန်လ ၁၃–ရက်) တနင်္လာနေ့က ဖြစ်ပါသည်။

ကြို့ပင်ကောက်မြို့၊ မလွန်ဆန်လှုအသင်းထောက် အတွက် ရေစက်ချတရားဟောပေးရန်ဖြစ်၏၊ အခမ်းအနားမှာ မဟာလောကသိရီဘုရားကြီး သံတန်ဆောင်းအတွင်းဖြစ်ပါသည်။

ထိုအချိန်က ကြို့ပင်ကောက်မြို့၊ မိုးကုတ်ဝိပဿနာ အဖွဲ့ခွဲ (၃၂)ကလည်း မဟာလောကသိရီ ဘုရားကြီး ဝင်းအတွင်း ဆွမ်းစားကျောင်းတွင် ခေတ္တယာယီဖွင့်ထားခိုက်ဖြစ်၍ မိုးကုတ်ဆရာတော်ဘုရားကြီး၏ ရုပ်တုနှင့်တကွ တည်ရှိသည်။

ည ၇–နာရီခွဲအချိန်တွင် တရားပွဲကြီး စတင်တော့၏ပရိသတ်ကြီးမှာများပြားလှ၏၊ဆရာတော်ကြီး ဦးဝိစိတ္တသာရာဘိဝံသက ပရိသတ်ကြီးကို ကြည့်ပြီး ဤသို့တရား နိဒါန်းချီတော်မူသည် –

# တရားနာပရိသတ်က အကြိုက်ငါးမျိုးရှိ

ဘုန်းကြီးရဲ့ တရားပွဲတိုင်းမှာ တရားနာပရိသတ်တွေက များပြားလှေ့ရှိပါတယ်၊ အခုလဲ ပြည့်လျှံလို့၊ ကြပ်ညပ်လို့ များပြားလှပါတယ်၊ ကြက်ပျံမကျစည်ကားလှပါတယ်၊ သို့သော်တရားနာပရိသတ်က အကြိုက်၅–မျိုးရှိကြပါတယ်၊ *အင်္ဂုတ္တိုရ်ပါဠိတော်၊ ပဥ္စကနိပါတ်မှာအတိအကျ ဟောထားတာဘဲ။

ဘယ်သူတွေလဲဆိုတော့–သဒ္ဒပသန္နပရိသတ်၊ ရူပ ပသန္နပရိသတ်၊ ဂုဏ ပသန္နပရိသတ်၊ လူခ ပသန္နပရိသတ်၊ ဓမ္မပသန္နပရိသတ်လို့ ၅–မျိုး။ အဲဒီထဲက–

၁။ သဒ္ဒပသန္နဆိုတာ အသံကောင်းတာကို မှ ကြည်ညိုတာ အဲဒီလို ပရိသတ်ကလဲ ရှိသေးတယ်၊ အသံနေအသံထား၊ အလှဲ့ အပဲ့ကောင်းကိုမှ ကြည်ညိုတဲ့ ပရိသတ်ပေါ့လေ၊ မဂ်ဖိုလ်နိဗ္ဗာန်တော့မရနိုင်ပါဘူး။

၂။ ရူပသန္နဆိုတာ ရုပ်ရေ အဆင်းကို ကြည်ညိုတာ၊ ဓမ္မကထိက ကိုယ်တော်က ရုပ်ဆင်းအင်္ဂါ ဥပဓိရှိတာကို ကြည်ညိုတဲ့ ပရိသတ်သူလဲမဂ်ဖိုလ်နိဗ္ဗာန်မရနိုင်ပါဘူး။

၃။ ဂုဏပသန္နဆိုတာ ဂုဏ်ပုဒ်ကိုကြည်ညိုတာ၊ ဂုဏ်ရှိတဲ့ဓမ္မကထိကကိုမှ ကြည်ညိုတာ၊ ဘုန်းကြီးကိုပဲ ဆိုကြပါစို့ "ဒီဘုန်းကြီးက တိပိဋကဓရတဲ့၊ အင်မတန်ဂုဏ်ရှိတယ်၊ မင်းစိုးရာဇာတွေကတောင် ကိုးကွယ်တာ၊ တိပိဋကဓရ ပုဂ္ဂိုလ်ဆိုတာ အင်မတန်မှ ရှားတယ်မဟုတ်လား" ဆိုပြီး ကြည်ညိုတဲ့ပရိသတ်၊ ဒီပရိသတ်မျိုးလဲ မဂ်ဖိုလ်နိဗ္ဗာန် မရနိုင်ပါဘူး။

၄။ လူခပသန္နဆိုတာ ခေါင်းခေါင်းပါးပါး အကျင့်ရှိသူ၊ ခြိုးခြိုးခြံခြံအကျင့်ရှိသူကိုမှ ရွေးပြီး ကြည်ညိုတာ၊အဲဒီပရိသတ်မျိုးလဲ မဂ်ဖိုလ်နိဗ္ဗာန် မရနိုင်ပါဘူး။

၅။ ဓမ္မပသန္နဆိုတာ တရားဓမ္မသက်သက်ကို ကြည်ညိုတာ၊ အဲဒါမျိုးကျတော့ အသံကိုလဲ ပဓာနမထား၊ ရုပ်ဆင်းဥပဓိကိုလဲ မကြည့်၊ ဂုဏ်ကိုလဲမငဲ့၊ ခေါင်းခေါင်းပါးပါး အကျင့်ကိုလဲ ဂရုမစိုက်၊ ဓမ္မသက်သက်ကိုသာ (နိဗ္ဗာန်အရောက်ပို့နိုင်တဲ့ ဓမ္မသက်သက်ကိုသာ) ကြည်ညိုတဲ့ ပရိသတ်မျိုး၊ အဲဒီပရိသတ်မျိုးသာလျှင် ဒီဘဝမှာ တရားထူးရနိုင်တယ်တဲ့။

---

* အင်္ဂုတ္တိုရ်ပါဠိတော်၊ ပဥ္စက၊

# ဘုန်းကြီးတို့ ဓမ္မထက် ၂–တောင်လောက် ပိုမြင့်နေ

အဲဒီဓမ္မပသန္နပရိသတ်ဆိုတာကတော့ ဦးရေနည်းပါးလှပါတယ်၊ အခုခေတ် ဥပမာပြရမယ်ဆိုရင် မိုးကုတ်တရားနာပရိသတ်တို့ကိုပဲ ပြရမှာပဲ။

အမရပူရမြို့၊ မင်္ဂလာတိုက်ဟောင်း၊ မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလ၊ အဲဒီ ဆရာတော်ဘုရားကြီးဟောပြတဲ့ဓမ္မတို့ကတော့ အလွန်အင်မတန်မှ ပီသလှပါပေတယ်၊ တစ်ထိုင်တည်းနဲ့ နိဗ္ဗာန်အရောက် ဦးတည်ပို့ပေးနိုင်တဲ့ တရားတော်များလဲ ဖြစ်ပါတယ်၊ အဲဒီတရားတော်များကို ကြည်ညိုတဲ့ ပရိသတ်မျိုးမှပဲ ဓမ္မပသန္နပရိသတ်မျိုးလို့ ချီးကျူးကြရမှာပဲ။

ပြီးတော့ "မိုးကုတ်ဆရာတော်ဘုရားကြီး ဦးဝိမလဟောတဲ့ တရားတော်များကလဲ ဘုန်းကြီးတို့ရဲ့ခေါင်းပေါ် ၂–တောင်လောက်က ကျော်ပြီးသွားတဲ့တရားများ ...."

ဤသို့လျှင် နှုတ်တော်က ထုတ်ဖော်မိန့်ဟရင်း လက်တော်ကလည်း ဦးခေါင်းပေါ် ရောက်အောင် ထောင်ပြတော်မူပါသတတ်။

**မှတ်ချက်**။ ။ မိုးကုတ်ဆရာတော်ဘုရားကြီးဟောတရားများကို တိပိဋကဓရ ဆရာတော်ကြီးက ဤမျှလောက်အသားပေး၍ မိန့်နေခြင်းမှာ ခန္ဓာဉာဏ်ရောက်တရားများဖြစ်သောကြောင့် မိန့်နေခြင်းဖြစ်၏။

ဆိုလိုသည်မှာ ဘုန်းကြီးတို့အခုပိဋကတ်သုံးပုံကို ဆောင်နိုင်နေတယ် – သိနေတယ်ဆိုတာ "ဘယ်စာမျက်နှာမှာ ဘယ်အကြောင်းအရာတွေပါတယ်" ဆိုတာ မှတ်ထားတာ၊ သညာနဲ့ မှတ်တာပေါ့။

မိုးကုတ်ဆရာတော်ဘုရားကြီးကတော့ "ခန္ဓာကိုယ်ထဲ ဘယ်လိုဖြစ်နေတယ်"ဆိုတာကို ပညာဉာဏ်နဲ့ ထိုးဖောက်ပြီးသိတာ၊ ပညာသိ–သိတာ။

ဤသို့ကွာခြားနေ၍ အသားပေးနေခြင်းဖြစ်လေသည်။

---

**မှတ်ချက်**။ ဤအကြောင်းအရာများကို ကြို့ပင်ကောက်မြို့၊ မိုးကုတ်အဖွဲ့ခွဲ (၃၂)၏ အတွင်းရေးမှူး ဦးမြင့်သိန်းက ပြောပြ၍ သိရပါသည်။

ထိုစဉ်က မိုးကုတ်ဓမ္မကထိက ဦးသိန်းရွှေတို့လည်း ကိုယ်တိုင်နာယူလိုက်ရ၍ မှတ်တမ်းတင်ထားခြင်းဖြစ်ပါသတတ်။

# ပဉ္စင်္ဂိကမဂ်နှင့် အဋ္ဌင်္ဂိကမဂ်

"အရှုခံတရားတစ်ခုကို ရှုဉာဏ်များနဲ့ ရှုတဲ့နေရာမှာ ပဉ္စင်္ဂိကမဂ်ဖြင့် ရှုပါ"လို့ မိုးကုတ်ဆရာတော်ကြီးက ခဏ ခဏ မိန့်တော်မူတယ် (မှန်ပါ) ပဉ္စင်္ဂိကမဂ်ဆိုတာ ဘယ်ဟာတွေလဲ ဆိုတော့ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ ဆိုတဲ့ ငါးပါးပေါ့ (မှန်ပါ) အင်္ဂါငါးပါးရှိလို့ "ပဉ္စင်္ဂိကမဂ်"လို့ ခေါ်တာ (မှန်ပါ) လောကီမဂ္ဂင်ငါးပါးလို့လဲ ခေါ်လို့ရတယ် (မှန်ပါဘုရား)

အဲဒီငါးပါးတွင် ရှေ့၂ပါးက ပညာမဂ္ဂင်၊ နောက် ၃ပါးက သမာဓိမဂ္ဂင်လို့ နာမည်ရကြတယ် (မှန်ပါ) အဲဒီငါးပါးထဲကို သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝဆိုတဲ့ သီလမဂ္ဂင်၃ပါး ပေါင်းထည့်လို့ ရှိယင် (၈)ပါးဖြစ်သွားမယ် (မှန်ပါ) အဲဒီကျတော့ အင်္ဂါရှစ်ပါးရှိလို့ "အဋ္ဌင်္ဂိကမဂ်"ဖြစ်သွားတယ် (မှန်ပါ) လောကုတ္တရာ မဂ္ဂင်ရှစ်ပါးလို့လဲ ခေါ်လို့ရတယ် (မှန်ပါဘုရား)

အဲဒီလို ပဉ္စင်္ဂိကမဂ်နဲ့ အဋ္ဌင်္ဂိကမဂ်(၂)မျိုး ရှိရာတွင် "တရားရှုတဲ့အခါ ပဉ္စင်္ဂိကမဂ်နဲ့ ရှုပါ"လို့ မိန့်တော်မူတာ (မှန်ပါ)

အို… မြတ်စွာဘုရားက မင်္ဂလာရှစ်ပါးဟောထားတာမဟုတ်လား၊ ဘာပြုလို့ ရှစ်ပါးနဲ့ မရှဘဲ ငါးပါးနဲ့ ရှနေရတာလဲ (မှန်ပါ)

အေး… အဲဒါရဲ့ အဖြေကတော့ ပုထုဇဉ်တို့ သန္တာန်မှာ (၈)ပါးမဖြစ်နိုင်၊ (၅)ပါးသာ ဖြစ်နိုင်လို့ပါပဲ (မှန်ပါဘုရား)

ရှင်းပြပါဦးမယ်၊ မြတ်စွာဘုရားက မင်္ဂလာတွေ ရှိသမျှ အကုန်ဖော်ပြ၍ ဟောမြွက်ထားခြင်းမို့ (၈)ပါး ဖြစ်နေတာပါ (မှန်ပါ)

တကယ် တရားရှုပြီဆိုတော့ အစပိုင်းမှာ ပုထုဇဉ်တို့အနေနဲ့ (၈)ပါးလုံး တစ်ပြိုင်နက် မရနိုင်ပါဘူး၊ (၅)ပါးပဲ ရနိုင်တယ် (မှန်ပါဘုရား)

ဒီပဉ္စင်္ဂိကမဂ်နှင့် အဋ္ဌင်္ဂိကမဂ်ရဲ့အကြောင်းကို ဓမ္မသင်္ဂဏီပါဠိတော်၊ ဝိဘင်းပါဠိတော်ကြီးများမှာ အကျယ်အပြန့် ဟောပြထားတာပါ–ပါတယ် (မှန်ပါ)

လိုရင်းအချုပ်ကတော့ "ဘယ်လို အချိန်အခါမျိုးမှာ ပဉ္စင်္ဂိကမဂ် ဖြစ်သလဲ"လို့ ကိုယ်တော်တိုင် မေးခွန်းထုတ်ပြီးတော့၊ ဘုရားရှင်ကိုယ်တော်မြတ်ကြီးက ကိုယ်တော်တိုင်ပဲ ဖြေပြထားပါတယ်။

* အဖြေကတော့ လောကီကာမာဝစရကုသိုလ်စိတ်တွေ ဖြစ်တဲ့အခါမျိုးမှာ ပဉ္စင်္ဂိကမဂ်ဖြစ်နိုင်တယ်တဲ့ (မှန်ပါ)

ကဲ… ယခု တရားအားထုတ်နေဆဲ အချိန်မျိုးမှာ ဘာစိတ်တွေ ဖြစ်နိုင်သလဲ စိစစ်ကြစို့၊ လောကီကာမာဝစရ ကုသိုလ်စိတ်တွေပဲ ဖြစ်နိုင်မှာပေါ့ (မှန်ပါ) ဒါဆိုရင် ဒီအချိန်မှာ "ပဉ္စင်္ဂိကမဂ်" ပဲ၊ (မှန်ပါဘုရား)

## အလုပ်လုပ်သော မဂ္ဂင်တို့ကိုသာ ရွေး၍

ဒီနေရာမှာ အဋ္ဌသာလိနီအဋ္ဌကထာဆရာကြီးက "ဒီပဉ္စင်္ဂိကမဂ်နှင့် ပတ်သက်ပြီးတော့ တချို့ပုဂ္ဂိုလ်တွေက သံသယဝင်နိုင်တယ်"တဲ့၊ အဲဒါကြောင့် ဖြေရှင်းပါမယ်"လို့ ဆိုပြီး ကိုယ်တိုင် စောဒကလုပ်၍ မေးခွန်းထုတ်ပါတယ်၊ ပီးတော့ ကိုယ်တိုင်ပဲ ဖြေပြထားပါတယ်၊ အမေးနဲ့ အဖြေတို့ကတော့–

> "မြတ်စွာဘုရားက နေရာတော်တော်များများမှာ "မဂ္ဂင်ရှစ်ပါး မဂ္ဂင်ရှစ်ပါး"နဲ့ ဟောထားပါတယ်၊ ဘယ့်နှယ်ကြောင့် ဒီဓမ္မသင်္ဂဏီပါဠိတော်ကြီးမှာကျတော့ "မဂ္ဂင်ငါးပါး=ပဉ္စင်္ဂိကမဂ်"လို့ ဟောကြားရပါလိမ့်မလဲ…"

အဲဒီလို အဋ္ဌကထာဆရာကြီးက ကိုယ်တိုင် မေးခွန်းထုတ်ပြီးတော့ ကိုယ်တိုင်ပဲ ဘုရားအာဘော်ကျဖြေပြထားပါတယ် (မှန်ပါဘုရား)

> နိယျာနဋ္ဌေနစ ဟေတွဋ္ဌေနစ
> ပဉ္စဝ မဂ္ဂ မဂ္ဂင်္ဂါနိ ဟောန္တိ၊
> တေန ဝုတ္တံ "ပဉ္စင်္ဂိကော မဂ္ဂေါ
> ဟောတိ"တိ–တဲ့။

မဂ္ဂင်ရှစ်ပါးရှိသော်လည်း အကုန်လုံးအလုပ်လုပ်ကြသည်မဟုတ်၊ လောကီမဂ္ဂင်ငါးပါးတို့သည်သာလျှင် အလုပ်လုပ်ကြသည်၊ ထို့ကြောင့် သူတို့ကို ကာရကမဂ္ဂင်ဟု ခေါ်ရ၏။

> "ဝဋ်ဆင်းရဲမှ ထွက်မြောက်စေတတ်တဲ့ အနက်သဘော၊ နိဗ္ဗာန်သို့ ရောက်စေတတ်တဲ့ သမ္ပါပကဟိတ် ဟူသော အနက်သဘောအားဖြင့် အလုပ်–လုပ်ကြ၏၊ ထို့ကြောင့် အလုပ်လုပ်သော ဤငါးမျိုးတို့သည်သာလျှင် (ဤနေရာ၌) "မဂ္ဂင်"တို့ ဖြစ်ကြ၏၊ ထို့ကြောင့် "ပဉ္စင်္ဂိကမဂ်"ဟု ဟောတော်မူခြင်း ဖြစ်သည်"

အဲဒီအဖြေကို မကျေနပ်တဲ့ အနေနဲ့ စောဒကပုဂ္ဂိုလ်က ထပ်မံတက်လာပြန်တယ် (မှန်ပါ) တက်ပုံက

* [အဘိဓမ္မာ၊၁၊ပါ၊၃၁။ဋ္ဌ၊၁၉၈။]

"အရိယာမဂ်ဆိုတာ အင်္ဂါရှစ်ပါးရှိရတယ် မဟုတ်လား" တဲ့၊ (မှန်ပါ) အဖြေကတော့–

ကိစ္စာပိ ဟိ အရိယော အဋ္ဌင်္ဂိကော မဂ္ဂေါ။ ဟုတ်ပါ တယ်တဲ့၊ သို့သော်–

လောကိယစိတ္တေ ပန ကေကန္ဒဏော
တိဿော ဝိရတိယော နလဗ္ဘန္တိ၊
တသ္မာ "ပဉ္စင်္ဂိကော"တိ ဝုတ္တော။

လောကီစိတ်တွေထဲမှာ တစ်ချိန်ထဲ တစ်ပြိုင်နက် (သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝဆိုတဲ့) ဝိရတီ စေတသိက် သုံးပါးတို့ကို မရအပ်ကုန်၊

(၃ ပါးလုံး တစ်ပြိုင်နက် မပါဝင်ရကုန်) ထို့ကြောင့် "ပဉ္စင်္ဂိကမဂ်"ဟု ဆိုခြင်း ဖြစ်ပါတယ်တဲ့ (မှန်ပါဘုရား)

## ပဉ္စင်္ဂိကမဂ်ပဲ ဖြစ်နိုင်ခွင့်ရှိ

ဟုတ်ပါသည်၊ အဲဒီ၃ပါးထဲက ပါလို့ ပါရင် တစ်ပါးပဲ ပါဝင်နိုင်တယ် (မှန်ပါ) အဲဒီအခါမျိုးမှာ "ဆဋင်္ဂိကမဂ်=အင်္ဂါ၆ပါးရှိတဲ့မဂ်"လို့ ခေါ်နိုင်ပါရဲ့တဲ့ (မှန်ပါဘုရား)

သို့သော် ရှောင်ကြဉ်စရာ ဝီတိက္ကမိတဗ္ဗရှိမှသာ အဲဒီတစ်ပါးကလဲ လာရမှာ (မှန်ပါ) ရှောင်ကြဉ်စရာ မရှိရင် တစ်ပါးမှ မလာရဘူး (မှန်ပါဘုရား)

ကဲ... စိစစ်ကြစို့၊ ယခုလို ရုပ်နာမ်ခန္ဓာအပေါ်၌ အနိစ္စ၊ ဒုက္ခ၊ အနတ္တ (ဖြစ်–ပျက်) ရှုနေတဲ့အခိုက်မှာ ရှောင်ကြဉ်စရာ အကုသိုလ်ရှိပါ့မလား (မရှိနိုင်ပါ)

အေး... ရှောင်ကြဉ်စရာ အကုသိုလ်မရှိရင် ရှောင်ကြဉ်တတ်တဲ့ သီလမဂ္ဂင်၃ပါးလဲ မလာရဘူး၊ လုံးဝကို မလာရဘူး (မှန်ပါ)

မလာရရင် ဘယ်နှစ်ပါးကျန်တော့မလဲ၊ (ငါးပါးပဲ ကျန်တော့တယ်) ဘယ်သူတွေလဲ၊ (သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ တို့ပါ ဘုရား)

အေး... အဲဒီငါးပါးပဲ ဖြစ်နိုင်ခွင့် ရှိတယ် (မှန်ပါ) ပဉ္စင်္ဂိကမဂ်ပေါ့ (မှန်ပါဘုရား)

ဘာပြုလို့ (သီလမဂ္ဂင်၃ပါး) ဝိရတီစေတသိက် ၃ပါးလုံး တစ်ပြိုင်နက် မပါဝင်ရသလဲ၊ အဖြေကတော့ သူတို့၃ပါးက တစ်ပါးနဲ့တစ်ပါး သဘောချင်းမှ မတူကြပဲကိုး၊ အဲဒါကြောင့် တစ်ယောက်ဝင်နေခိုက် ကျန်၂–ယောက်က အပြင်ဘက် ထွက်ပြီး ထိုင်နေရတဲ့ သဘော (မှန်ပါ)

အဲဒါကြောင့် သင်္ဂြိုဟ်ကျမ်းကလေးကလဲ ဆိုတယ် မဟုတ်လား–

"လောကိယေသု ပန ကာမာဝစရကုသလေ
သွေ့ဝ ကဒါစိ သံဒိဿန္တိ ဝိသုံ ဝိသုံ"တဲ့။

လောကီကာမာဝစရ ကုသိုလ်စိတ်တွေထဲမှာသာ (ဝိရတီစေတသိက်၃ပါး၊ သို့မဟုတ် သီလမဂ္ဂင်၃ပါး)ဟာ ရှောင်ကြဉ်စရာရှိတဲ့ တစ်ရံတစ်ခါ၌ ၃ပါးလုံးမတွဲဘဲ တကွဲတပြားစီ ပါဝင်နိုင်ကြတယ်တဲ့ (မှန်ပါဘုရား)

ဒီလိုဆိုတော့ အထက်ပါ အဋ္ဌကထာကြီးနဲ့ သဘောသွား တစ်ထပ်တည်း ကျမသွားဘူးလား (ကျသွားပါတယ် ဘုရား)

ကျမှာပေါ့၊ အဋ္ဌကထာကြီးကို သင်္ဂြိုဟ်ကျမ်းကလေး မှီးရတာကိုး (မှန်ပါ ဘုရား)

## ဘယ်တော့မှ အဋ္ဌင်္ဂိကမဂ်ဖြစ်မလဲ

"ဒီလိုဆိုရင် ဘယ်တော့ကျမှ မဂ္ဂင်ရှစ်ပါး ပြည့်၍ အဋ္ဌင်္ဂိကမဂ် ဖြစ်မှာလဲ" အေး... ဒါ မေးဖို့ ကောင်းတာပေါ့၊ မေးရမယ့်မေးခွန်းပဲ (မှန်ပါ)

တိုတိုဖြေကြစို့ ဆိုရင် လောကုတ္တရာနယ်ထဲ ရောက်သွားမှပဲ မဂ္ဂင်ရှစ်ပါးပြည့်မယ်၊ အဋ္ဌင်္ဂိကမဂ် ဖြစ်မယ် (မှန်ပါဘုရား)

ရုပ်ကိုဖြစ်စေ၊ နာမ်ကိုဖြစ်စေ အရှုခံတရားတစ်ခုခုကို ရှုဉာဏ်ဖြစ်တဲ့ လောကီမဂ္ဂင်ငါးပါးနဲ့ ရှုနေပြီ (မှန်ပါ) ဖြစ်ပျက်တွေလဲ မြင်ပြီ၊ စိပ်စိပ်မြင်နေပြီ၊ ဖြိုင်ဖြိုင် မြင်နေပြီ (မှန်ပါ)

အဲဒီနောက် ဖြစ်ပျက်တွေ မုန်းလာပြီ (မှန်ပါ) ဖြစ်ပျက်တွေကို မလိုချင်တော့ဘူး၊ မတွယ်တာတော့ဘူး (မှန်ပါဘုရား)

အဲဒီလို ရှုနေရင်းက တဖြည်းဖြည်းနဲ့ ဉာဏ်တွေ ရင့်ကျက်–မြင့်တက်လာပြီ (မှန်ပါ) ခေါင်ထိပ်ရောက်လာပြီ (မှန်ပါ) ရှုနေရင်းက ဖြစ်ပျက်တွေဟာ "ဖျတ်" ခနဲ ဉာဏ်အောက်မှာ ပျောက်ကုန်ပါမယ် – တဲ့ (မှန်ပါဘုရား)

ဒီတော့ ရှုနေတဲ့ဉာဏ်တွေဟာ ဖြစ်ပျက်တွေကို မမြင်ရတော့ဘူး၊ အဖြစ်အပျက်မရှိတာတွေကိုပဲ မြင်နေရတော့တယ် (မှန်ပါဘုရား) အဖြစ်အပျက် မရှိတာနဲ့ သွားတည့်နေတယ် ဆိုပါတော့ (မှန်ပါ)

အေး... အဲဒီ "အဖြစ်အပျက် မရှိ" ဆိုတာ နိရောဓ မဟုတ်လား (ဟုတ်ပါတယ် ဘုရား) ဒီလိုဆိုရင် မေးမယ်၊

ဖြစ်ပျက်က ဘာသစ္စာ (ဒုက္ခသစ္စာပါ ဘုရား)

ဖြစ်ပျက်မရှိတာက ဘာသစ္စာ (နိရောဓသစ္စာပါ) အဲဒီနိရောဓသစ္စာနဲ့ ဉာဏ်နဲ့ သွားတည့်နေတယ် (မှန်ပါ) နိဗ္ဗာန်နဲ့ ဉာဏ်နဲ့ သွားပြီး တည့်နေတယ် ဆိုပါတော့ (မှန်ပါဘုရား)

အဲဒီအချိန်မှာ ဉာဏ်ငါးပါးမကတော့ဘူး (သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝဆိုတဲ့) သီလမဂ္ဂင်၃ပါး ဝင်လာတယ် (မှန်ပါ) ဝင်လာလို့ ဉာဏ်(၈)ပါး ဖြစ်ပါတယ်၊ (မှန်ပါဘုရား)

အဲဒါကြောင့်လဲ ဉာဏ်အားကောင်းလာတယ်၊ ဉာဏ်အားကောင်းလို့လဲ အဖြစ်အပျက်မရှိတဲ့ နိရောဓသစ္စာကို မြင်လိုက်တာပေါ့ (မှန်ပါဘုရား)

ဒီအချိန်မှာ လောကုတ္တရာနယ်သို့ ရောက်နေပြီ၊ ဒီကျမှပဲ မဂ္ဂင်က ရှစ်ပါး ပြည့်တော့တယ် (မှန်ပါ) အဋ္ဌင်္ဂိကမဂ်ဖြစ်သွားပြီ၊ (မှန်ပါ) လောကုတ္တရာမဂ်လို့လဲ ဆိုနိုင်တာပေါ့ (မှန်ပါဘုရား)

## မြဲတဲ့ သူ့ သန္တာန်မှ သီလ၃ပါးလုံး တည်

မဂ်စိတ်ပြီးရင် ဖိုလ်စိတ်၊ ပြီးတော့ ပစ္စဝေက္ခဏာ ဉာဏ်တွေ လာမယ် (မှန်ပါ) ဒီအခါ သောတာပန် ဖြစ်သွားပြီ၊ အရိယာဖြစ်သွားပြီ (မှန်ပါဘုရား)

အဲလို အရိယာပုဂ္ဂိုလ်ဖြစ်သွားမှလဲ သီလက မြဲသွားတော့တာ၊ အဓိသီလဖြစ်သွားတာ (မှန်ပါ)

သီလမြဲတဲ့ပုဂ္ဂိုလ်သန္တာန်မှာမှလဲ သီလမဂ္ဂင်၃ပါးလုံး အမြဲတည်ရှိသွားတော့တာ (မှန်ပါဘုရား) ဒါ့ကြောင့် သဂြိုဟ်ကျမ်းကလေးထဲမှာလဲ ဆိုထားတယ် မဟုတ်လား–

"ဝိရတိယော ပန တိဿောပိ
လောကုတ္တရစိတ္တေသု သဗ္ဗထာပိ
နိယတာ ဧကတောဝ လဗ္ဘန္တိ"တဲ့။

သူ့အဓိပ္ပာယ်က–

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

လောကုတ္တရာစိတ်တွေထဲကူမှပဲ ဝိရတီ စေတသိက် ၃ပါး (သီလမဂ္ဂင်၃ပါး)လုံး အခါခပ်သိမ်း အမြဲတမ်း ၃ပါးလုံးတွဲလျက် တစ်ပြိုင်နက်တည်း ရအပ်ကုန်၏၊ ပါဝင်နိုင်ကုန်၏"တဲ့။

အဲဒီလို အရိယာနယ်ထဲ ရောက်သွားမှပဲ မဂ္ဂင်ရှစ်ပါးလုံး ပြည့်စုံ၍ အဋ္ဌင်္ဂိကမဂ် ဖြစ်သွားတော့တယ် (မှန်ပါဘုရား)

[ပဏ္ဍာသ၊၃၊ပါ၊၁၁၈၊၁၁၉၊၁၂၀။ ဋ္ဌ၊၉၂၊၉၆။]

## လောကီမဂ်နှင့် လောကုတ္တရာမဂ်

လောကီ ကာမာဝစရ ကုသိုလ် ဉာဏသမ္ပယုတ်စိတ် ၄-ပါး၌ ယှဉ်သော (သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ) တို့သည် လောကီမဂ် ဖြစ်ကြ၏၊ အင်္ဂါ ငါးပါးရှိသောကြောင့် ပဥ္စင်္ဂိကမဂ်၊ အလုပ်လုပ်ကြသောကြောင့် ကာရကမဂ်၊ မဂ်စစ်ကြီး၏ ရှေ့အဖို့က လာနှင့် ရသောကြောင့် ပုဗ္ဗဘာဂမဂ် ဟုလည်း ခေါ်ရသည်။

လောကုတ္တရာကုသိုလ်မဂ်စိတ် ၄-ပါး၌ ယှဉ်သော (သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ) တို့သည် လောကုတ္တရာမဂ်ဖြစ်ကြပေကုန်၏၊ အင်္ဂါ ရှစ်ပါး ရှိသောကြောင့် အဋ္ဌင်္ဂိကမဂ်၊ အရိယာ နယ်ထဲကမဂ်ဖြစ်သောကြောင့် အရိယာမဂ်၊ ပုဗ္ဗဘာဂမဂ် ပြီးမှ ယခုလို မဂ်စစ်ကြီးအနေဖြင့် နောက်မှလာရသော ကြောင့် ပစ္ဆာဘာဂမဂ် ဟုလည်း ခေါ်ရသည်။

## လက္ခဏာရေးသုံးပါး သဘောများ

* ၁။ အနိစ္စ၊ အနိစ္စလက္ခဏာ

၂။ ဒုက္ခ၊ ဒုက္ခလက္ခဏာ

၃။ အနတ္တ၊ အနတ္တလက္ခဏာ

၁။(က) ဤ၆-မျိုးတွင် "အနိစ္စ" ဆိုတာ ခန္ဓာငါးပါးပင်ဖြစ်၏၊ အဘယ့်ကြောင့်နည်း- ဖြစ်ခြင်း၊ ပျက်ခြင်း၊ တစ်မျိုးတစ်ဖုံပြောင်းလွဲခြင်း သဘောရှိသောကြောင့်ပေတည်း။

တစ်နည်း- ရှိပြီးမှ မရှိဘဲ ဖြစ်သွားတတ်တဲ့ သဘော ရှိသောကြောင့်ပေတည်း။

မှတ်ချက်။ ။ "တစ်မျိုးတစ်ဖုံ ပြောင်းလွဲခြင်း" ဆိုတာ အိုမင်း၊ ယိုယွင်း၊ ရင့်ကျက်သွားခြင်းကို ဆိုလိုသည်။

(ခ) "အနိစ္စလက္ခဏာ" ဆိုသည်ကား ဖြစ်နေ- ပျက်နေ- တစ်မျိုးတစ်ဖုံပြောင်းလွဲနေသော သဘောလက္ခဏာပေတည်း၊ တစ်နည်း- ရှိပြီးမှ မရှိဘဲဖြစ်သွားခြင်း ဟူသော အမူအရာ အမှတ်အသားပေတည်း။

၂။(က) "ယံ အနိစ္စံ၊ တံ ဒုက္ခံ"="မမြဲတဲ့အရာသည် ဆင်းရဲပဲ" ဟူ၍ မြတ်စွာဘုရား ဟောထားသောကြောင့် ထိုခန္ဓာငါးပါးသည်ပင် "ဒုက္ခ" မည်၏၊ အဘယ့်ကြောင့်နည်း- မပြတ်တရစပ် နှိပ်စက်ခြင်း သဘော ရှိသောကြောင့်တည်း။

(ခ) "ဒုက္ခလက္ခဏာ" ဟူသည်ကား- မပြတ်တရစပ်နှိပ်စက်နေသော အခြင်းအရာ အမှတ်အသား ပေတည်း။

* စူဠနိဒ္ဒေသ အဋ္ဌကထာ၊၉၈

၃။(က) "ယံ ဒုက္ခံ၊ တံ အနတ္တာ"="ဆင်းရဲတဲ့ အရာသည် အနတ္တပဲ" ဟူ၍ မြတ်စွာဘုရား ဟောထားသောကြောင့် ထိုခန္ဓာငါးပါးသည်ပင် "အနတ္တ" မည်၏၊ အဘယ့်ကြောင့်နည်း– မိမိအလိုဆန္ဒသို့ မလိုက်ပါသောသဘော ရှိသောကြောင့်တည်း။

(ခ) "အနတ္တလက္ခဏာ" ဆိုသည်ကား– မိမိအလိုဆန္ဒသို့ မလိုက်ပါသောအခြင်းအရာ အမှတ်အသား ပေတည်း။

## ဘယ်လိုပုဂ္ဂိုလ်အား လက္ခဏာရေးသုံးပါး ထင်လာမည်နည်း

* ဥဒယဗ္ဗယံ ပဿန္တဿ ဟိ အနိစ္စလက္ခဏံ ယထာဘူတံ ဥပဋ္ဌာတိ၊ ဥဒယဗ္ဗယပဋိပီဠနံ ပဿတော ဒုက္ခလက္ခဏဉ္စ။

"ဒုက္ခမေဝ ဟိ သမ္ဘောတိ၊
ဒုက္ခံ တိဋ္ဌတိ ဝေတိစာ" တိ

ပဿတော အနတ္တလက္ခဏဉ္စ။

အဖြစ်–အပျက်ကိုမြင်သောပုဂ္ဂိုလ်အား အနိစ္စလက္ခဏာသည် ဟုတ်တိုင်းမှန်စွာ ရှေးရှုထင်လာ၏။

အဖြစ်–အပျက်ဖြင့် နှိပ်စက်နေခြင်းကို မြင်သောပုဂ္ဂိုလ်အား ဒုက္ခလက္ခဏာသည် (ဟုတ်တိုင်းမှန်စွာ ရှေးရှုထင်လာ၏။)

"ဒုက္ခအစု သည်သာလျှင် ဖြစ်ပေါ်၏၊ ဒုက္ခအစု သည်သာလျှင် ရပ်တည်၏၊ ဒုက္ခအစု သည်သာလျှင် ချုပ်ပျောက်၏" ဟူ၍ မြင်သောပုဂ္ဂိုလ်အား အနတ္တလက္ခဏာသည် (ဟုတ်တိုင်းမှန်စွာ ရှေးရှုထင်လာ၏။)

ဤ လက္ခဏာရေး သုံးပါးတို့သည် အဖြစ်–အပျက်ကိုမြင်သော ပုဂ္ဂိုလ်တို့၏ အာရုံတို့သာလျှင် ဖြစ်ကြကုန်၏။

## မိစ္ဆာဒိဋ္ဌိ ၆၂–ပါးဆိုတာ

| | | |
|---|---|---|
| ၁။ | သဿတဒိဋ္ဌိ | ၄ ပါး |
| ၂။ | ဧကစ္စသဿတဒိဋ္ဌိ | ၄ ပါး |
| ၃။ | အန္တာနန္တိကဒိဋ္ဌိ | ၄ ပါး |
| ၄။ | အမရာဝိက္ခေပဒိဋ္ဌိ | ၄ ပါး |
| ၅။ | အဓိစ္စသမုပ္ပန္နဒိဋ္ဌိ | ၂ ပါး |
| | ပေါင်း = | ၁၈ ပါး |

[ဤ(၁၈)ပါးသည် ပုဗ္ဗန္တကပ္ပိက=သံသရာ၏ ရှေ့အစွန်းကို ကြံစည်ပြီး မှားသော ဒိဋ္ဌိများ ဖြစ်၏။]

| | | |
|---|---|---|
| ၁။ | သညီဝါဒဒိဋ္ဌိ | ၁၆ ပါး |
| ၂။ | အသညီဝါဒဒိဋ္ဌိ | ၈ ပါး |
| ၃။ | နေဝသညီနာသညီဝါဒဒိဋ္ဌိ | ၈ ပါး |
| ၄။ | ဥစ္ဆေဒဒိဋ္ဌိ | ၇ ပါး |
| ၅။ | ဒိဋ္ဌဓမ္မနိဗ္ဗာနဝါဒီဒိဋ္ဌိ | ၅ ပါး |
| | ပေါင်း = | ၄၄ ပါး |

[ဤ(၄၄)ပါးသည် အပရန္တကပ္ပိက=သံသရာ၏ နောက်အစွန်းကို ကြံစည်ပြီး မှားသော ဒိဋ္ဌိများ ဖြစ်၏။]

ဤသို့လျှင် ၁၈+၄၄=၆၂ပါး ဖြစ်ကြ၏။

(သီလက္ခန်ပါဠိတော်၊ ဗြဟ္မဇာလသုတ်မှ)

**မှတ်ချက်။** ။ထို၆၂–ပါးတို့တွင် ဥစ္ဆေဒဒိဋ္ဌိ ၇–ပါးမှ တစ်ပါး ကျန်၅၅ပါးသည် သဿတဒိဋ္ဌိများ ဖြစ်ကြ၏။ [သတ္တေဝ ဥစ္ဆေဒဒိဋ္ဌိယော၊ သေသာ သဿတဒိဋ္ဌိယော။]

ထို၆၂–ပါးတွင်လည်း အမေး–အဖြေပြု၍ ပြောတတ်ကြသည်ကား (က)သဿတ၊ (ခ)ဥစ္ဆေဒ (ဂ) ဧကစ္စသဿတ (ဃ)အမရာဝိက္ခေပတို့သာ ဖြစ်ကြသည်။

* ရှုဋ္ဌနိဒ္ဒေသ အဋ္ဌကထာ၊၉၈

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ထို၄-ပါးကို ထပ်၍ ချုံးလျှင် (က)သဿတ၊ (ခ)ဥစ္ဆေဒတို့သာဖြစ်ကြ၏၊ ထပ်မံ၍ချုံးပြန်လျှင် အရင်းခံဖြစ်သော သက္ကာယဒိဋ္ဌိတစ်မျိုးသာ ကျန်တော့ သည်။ မှန်၏၊ ၆၂-ပါးသော မိစ္ဆာဒိဋ္ဌိတို့သည်

သက္ကာယဒိဋ္ဌိမှ အရင်းခံကြ၍၊ သက္ကာယဒိဋ္ဌိမှ ပေါက်ပွားသွားကြခြင်း ဖြစ်သည်။ [ဒွါသဋ္ဌိဒိဋ္ဌိယော ဥပ္ပဇ္ဇမာနာ သက္ကာယဒိဋ္ဌိ ပမုခေနေဝ ဥပ္ပဇ္ဇန္တိ။]

# ယခုခေတ်မှာ သဿတနှင့် ဥစ္ဆေဒပဲ များ

ဘုရားရှင်ကိုယ်တော်မြတ်ကြီးက ကစ္စာနအနွယ်ဝင် ဖြစ်တဲ့ ရဟန်းအား ဤသို့ ဟောတော်မူသည်-

* "ဒွယနိဿိတော ခေါ ကစ္စာန လောကော၊
ယေဘုယျေန အတ္ထိတဉ္စေဝ နတ္ထိတဉ္စ"

**ကစ္စာန**-ကစ္စာနအနွယ်ဝင်ဖြစ်တဲ့ ရဟန်း၊ လောကော-လူအပေါင်းသည်၊ ယေဘုယျေန-များသောအားဖြင့်၊ အတ္ထိတဉ္စေဝ-ရှိသည်၏ အဖြစ်လည်းကောင်း (ဝါ) အမြဲရှိနေသည်၊ ခိုင်နေသည်၊ မြဲနေသည်ဟု ယူစွဲသော သဿတဒိဋ္ဌိလည်းကောင်း။

နတ္ထိတဉ္စ-မရှိသည်၏ အဖြစ်လည်းကောင်း၊ (ဝါ) မရှိဘဲဖြစ်သွားပြီးနောက် အဆက်အစပ်နောက်ထပ် မရှိဘဲ ပြတ်သွားသည်ဟု ယူစွဲသော ဥစ္ဆေဒဒိဋ္ဌိ လည်းကောင်း၊ ဣတိ-ဤသို့၊ ဒွယနိဿိတော-နှစ်မျိုးအပေါ်မှာ မှီပြီး နေတတ်၏။

အရပ်ထဲ လိုက်ပြီး စာရင်း ကောက်ကြည့်လျှင် သဿတဒိဋ္ဌိသမားနှင့် ဥစ္ဆေဒဒိဋ္ဌိသမား၊ သည်(၂)မျိုးပဲ ရှိမည် ဟူလို။

# သဿတနှင့် ဥစ္ဆေဒတို့ သဘော

မဇ္ဈိမ ပဏ္ဏာသ အဋ္ဌကထာ
(ဒီဃနခသုတ်၊ နှာ-၁၄၃)

ဧတ္ထစ သဿတဒဿနံ အပ္ပသာဝဇ္ဇံ ဒန္ဓဝိရာဂံ၊ ဥစ္ဆေဒဒဿနံ မဟာသာဝဇ္ဇံ ခိပ္ပဝိရာဂံ၊ ကထံ?

သဿတဝါဒီ ဟိ ဣဓလောကံ ပရလောကဉ္စ အတ္ထီတိ ဇာနာတိ၊ သုကတဒုက္ကဋာနံ ဖလံ အတ္ထီတိ ဇာနာတိ၊ ကုသလံ ကရောတိ၊ အကုသလံ ကရောန္တော ဘာယတိ၊ ဝဋ္ဋံ အဿာဒေတိ၊ အဘိနန္ဒတိ၊ ဗုဒ္ဓါနံဝါ ဗုဒ္ဓသာဝကာနံဝါ သမ္မုခီဘူတော သီဃံ လဒ္ဓိံ ဇဟိတုံ နသက္ကောတိ၊ တသ္မာ တံ သဿတဒဿနံ အပ္ပသာဝဇ္ဇံ ဒန္ဓဝိရာဂန္တိ ဝုစ္စတိ။

ဥစ္ဆေဒဝါဒီ ပန ဣဓလောက ပရလောကံ အတ္ထီတိ ဇာနာတိ [မူကွဲ နဇာနာတိဟုလည်း ပါရှိ] သုကတဒုက္ကဋာနံ ဖလံ အတ္ထီတိ ဇာနာတိ။ [မူကွဲ နဇာနာတိဟုလည်း ပါရှိ။] ကုသလံ နကရောတိ၊ အကုသလံ ကရောန္တော န ဘာယတိ၊ ဝဋ္ဋံ န အဿာဒေတိ၊ နာဘိနန္ဒတိ၊ ဗုဒ္ဓါနံဝါ ဗုဒ္ဓသာဝကာနံဝါ သမ္မုခီဘာဝေ သီဃံ ဒဿနံ ပဇဟတိ၊ တသ္မာ ဥစ္ဆေဒဒဿနံ မဟာသာဝဇ္ဇံ၊ ခိပ္ပဝိရာဂန္တိ ဝုစ္စတိ။ ။

**သဿတဒိဋ္ဌိရှိသူသဘော**

၁။ ဟိုဘဝ ဒီဘဝ ရှိသည်ဟု ယုံကြည်။

* နိဒါနဝဂ္ဂသံယုတ်ပါဠိ၊၂၅၇

## တစ်ဘဝသာသနာ

၂။ ကောင်းတာ လုပ် ကောင်းကျိုးပေး၊ မကောင်းတာ လုပ် မကောင်းကျိုးပေး၏ဟု ယုံကြည်။
၃။ ကုသိုလ်ကောင်းမှုပြု။
၄။ အကုသိုလ်လုပ်ရမှာ ဝန်လေး။
၅။ ဘုရားနဲ့တွေ့တွေ့၊ ဘုရားတပည့်များနဲ့တွေ့တွေ့ နိဗ္ဗာန်ကို ချက်ချင်း မယူချင်သေး၊ ဘုံဘဝထဲမှာ ပျော်ချင်သေးသည်။
[သူကအပြစ်နည်းပါးသည်၊ကျွတ်တမ်းဝင်ရန်နှေးသည်။]

ဥစ္ဆေဒဒိဋ္ဌိရှိသူသဘော

၁။ ဟိုဘဝ ဒီဘဝ ရှိသည်ဟု မယုံကြည်။

၂။ ကောင်းတာလုပ် ကောင်းကျိုးပေး၊ မကောင်းတာလုပ် မကာင်းကျိုးပေး၏ဟု မယုံကြည်။
၃။ ကုသိုလ်ကောင်းမှု မပြု။
၄။ အကုသိုလ်ကို ရဲရဲကြီး လုပ်နေ။
၅။ ဘုရားနဲ့တွေ့တွေ့၊ ဘုရားတပည့်များနဲ့တွေ့တွေ့ သစ္စာတရားတွေကို နာလိုက်ရလျှင် သူ့အယူကို စွန့်၍ ချက်ချင်း နိဗ္ဗာန်ရအောင် အားထုတ်သည်၊
[သူက အပြစ်ကြီးသည်၊ ကျွတ်တမ်းဝင် မြန်သည်။]

# "ဖိုလ်ဝင်စားတယ်"ဆိုတာ

ဤအကြောင်းအရာများနှင့်ပတ်သက်၍ မိုးကုတ်ဆရာတော်ကြီး ကိုယ်တော်တိုင် ဟောပြောချက်တို့မှ မူရင်းအတိုင်းယူ၍ တင်ပြပါမည်။ [မိုး(၃၀)နှာ–၃၆၈မှ စ၍။]

* ၁။ မဂ်နောက်က ဖိုလ် နှစ်ကြိမ် သုံးကြိမ် လိုက်တယ်။

၂။ ဝိပဿနာနောက်ကတော့ ဖိုလ်အကြိမ်များစွာ လိုက်တယ်။

ဒါဖြင့် "ဖိုလ်ဝင်စား"တဲ့ အဓိပ္ပာယ်ကလေး နည်းနည်း ရှင်းပြပေးပါ့မယ်နော် (မှန်ပါ၊ ကိုင်း... ခန္ဓာကိုယ်ကို ကြည့်ကြပါစို့ ဒကာ ဒကာမတို့...

ကြည့်လိုက်တဲ့အခါကျလို့ရှိရင် ခဏ္ဍဖြစ်၍ ခဏ္ဍပျက်တာကလေးတွေ မတွေ့ပေဘူးလား (တွေ့ပါတယ် ဘုရား)

ခဏ္ဍဖြစ်၍ ခဏ္ဍပျက်တာကလေးတွေချည်း တွေ့တွေ့ တွေ့တွေ့နေတာက ဘယ်သူ့အမြင်တုံး (သောတာပန် ပုဂ္ဂိုလ်အမြင်ပါ ဘုရား) သောတာပန်ပုဂ္ဂိုလ်ဆိုတာ သောတာပတ္တိဖိုလ်ပုဂ္ဂိုလ်ကို ဆိုလိုတယ် (မှန်ပါဘုရား)

ကောင်းပြီ၊ အဲဒီပုဂ္ဂိုလ်က ခဏ္ဍကလေးတွေ ဖြစ်၍ ခဏ္ဍကလေးတွေချည့်ပျက်တာကို မြင်တော့တယ် (မှန်ပါ) ဘာမြင်ပါလိမ့် (ခဏ္ဍကလေးတွေ ဖြစ်ပြီး ခဏ္ဍကလေးတွေ ပျက်တာချည်း မြင်ပါတယ် ဘုရား)

ခန္ဓာကိုယ်ထဲမှာ ခဏ္ဍကလေးတွေချည်း ဖြစ်လိုက်–ပျက်လိုက်၊ ဖြစ်လိုက်–ပျက်လိုက်၊ အဲဒါတွေကို သောတာပန်ပုဂ္ဂိုလ်က မြင်နေတာ (မှန်ပါ)

မြင်နေတော့ ဒါကလေးတွေ မြင်ရင်း မြင်ရင်း မတ္တနဲ့ တစ်ခါတည်း ဒီအမြင်ကလေးတွေဟာ ပထမတော့ ဒါကို မြင်နေသေးတာပဲ (မှန်ပါ)

မြင်ရာကနေပြီး သူကတော့ ဒုက္ခသစ္စာကို ပိုင်းခြားတယ်၊ သမုဒယသစ္စာကို ပယ်တယ်၊ ဒါတွေ မလာတော့ဘူး၊ "ဖျတ်"ဆို ဒုက္ခသစ္စာဖြစ်ပျက်တွေ ချုပ်ပြီး နိရောဓသစ္စာဘက် အာရုံပြုကူးသွားတာပဲ (မှန်ပါ) ဖြစ်ပျက်ကနေပြီး မဂ်မပါဘဲနဲ့ ကူးသွားတာ (မှန်ပါဘုရား)

---

* ပဋိသမ္ဘိဒါမဂ်၊ဠ၊ပ၊၂၆၀

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သိ–ပယ်–ဆိုက်–ပွား မပါတော့ဘဲ

ဒကာ ဒကာမတို့ ဘယ်လို ကူးသွားပါလိမ့် (ဖြစ်ပျက်ကနေပြီး မဂ်မပါဘဲနဲ့ကူးသွားပါတယ် ဘုရား)

အေး... ဖြစ်ပျက်ကနေပြီး "ဒုက္ခသစ္စာကို ပိုင်းခြား၊ သမုဒယသစ္စာကို ပယ်၊ နိရောဓသစ္စာကို မျက်မှောက်ပြု၊ မဂ္ဂသစ္စာကို ပွားများ"၊ ဒီလို အစီအစဉ်တွေ မလာတော့ဘူး၊ သစ္စာလေးပါး တစ်ပြိုင်နက် မလာတော့ဘူး၊ (မှန်ပါဘုရား)

တစ်ခါတည်း ဒုက္ခသစ္စလဲ ချုပ်ပြီးရော၊ နိရောဓသစ္စာကို အာရုံပြုပေါ်လာတာပဲ (မှန်ပါဘုရား)

ဒုက္ခသစ္စာချုပ်ပြီးတော့ နိရောဓသစ္စာပေါ်တာပဲ၊ အာရုံပြုသောအားဖြင့် ပေါ်လာတယ် (မှန်ပါ)

ဒါက နိရောဓသစ္စာ နိဗ္ဗာန်၊ ဒါက ဖိုလ်ဇောတွေ ပေါ့ဗျာ (မှန်ပါဘုရား) [ပလတ်စတစ်ခွက်ကလေး ၂–လုံး ချပြသည်။]

ဝိပဿနာ ချုပ်သွားပြီး ဝိပဿနာနောက်က ဘာလိုက်သတုံး (ဖိုလ်လိုက်ပါတယ် ဘုရား) ဖိုလ်လိုက်လာတယ်၊ မဂ် လုံးဝမပါဘူး (မှန်ပါဘုရား)

ဒါဖြင့် ဒကာ ဒကာမတို့ ဖိုလ်သည်ကား ဆိုလို့ ရှိရင် ဘာနဲ့ တည့်နေသတုံးဆိုတော့ ဒုက္ခသစ္စာချုပ်တဲ့ နိဗ္ဗာန်နဲ့ တည့်နေတယ် (မှန်ပါ)

ပထမ ဖိုလ်ပေါ်လာပြီး ပထမဖိုလ်နဲ့ တည့်နေတယ် (မှန်ပါ) ပထမဖိုလ်ချုပ်သွားတော့ ဒုတိယဖိုလ်နဲ့ တည့်နေပြန်တယ် (မှန်ပါ) နိဗ္ဗာန်ကတော့ အမြဲပေါ့ဗျာ၊ ဖိုလ်ကတော့ အလှည့်နဲ့ (မှန်ပါ)

ဒါဖြင့် "နိဗ္ဗာနံ ဖလဿ"၊ ဒုတိယဇောကိုလဲ "နိဗ္ဗာနံ ဖလဿ အာရမ္မဏပစ္စယေန ပစ္စယော" ဆိုတဲ့အတိုင်း မလာပေဘူးလား (လာပါတယ်ဘုရား)

နောက်တတိယဇောကိုရော "နိဗ္ဗာနံ ဖလဿ" ပါပဲ၊ နိဗ္ဗာန်ချည်း တွေ့နေတာပဲ (မှန်ပါ) ဒါဖြင့် နိဗ္ဗာန် ဘယ်လောက်ထိအောင် တွေ့နိုင်သတုန်း မေးလို့ရှိရင်ဖြင့် အရေအတွက်မရှိဘူး၊

နိဗ္ဗာန် ဘယ်လောက် တွေ့ရမှာတုံး (အရေအတွက် မရှိအောင် တွေ့ရမှာပါ ဘုရား) အရေအတွက်မရှိအောင် တွေ့ရမှာဆိုတော့ ဒါဟာ "ဖလသမာပတ်ဝင်စားတာ" လို့သာ မှတ်လိုက်ပေတော့၊ ဖိုလ်စိတ်နဲ့ချည်းနေတော့တာပဲ (မှန်ပါ) ရှင်းပြီနော် (ရှင်းပါပြီဘုရား)

# ကျမ်းဂန်အဆိုနှင့်လည်း ညီညွတ်

ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ၊ ပထမအုပ်၊ မျက်နှာ–၂၆၀၊ ဖလဉာဏနိဒ္ဒေသဝဏ္ဏနာအခန်းတွင်လည်း–

"ဥပ္ပန္နတီတိ မဂ္ဂါနန္တရံ သကိံဝါ
ဒွိက္ခတ္တုံဝါ ဥပ္ပန္နတိ၊ ဖလသမာပတ္တိ–
ကာလေ ပန ဗဟုက္ခတ္တုံ၊ နိရောဓါ
ဝုဋ္ဌဟန္တဿ ဒွိက္ခတ္တုံ ဥပ္ပန္နတိ"

ဟု ဖွင့်ပြထား၏၊ အဓိပ္ပာယ်မှာ "ဖိုလ်စိတ်ဖြစ်တယ်ဆိုတာ မဂ်ရဲ့နောက်မှာ တစ်ကြိမ်၊ နှစ်ကြိမ် ဖြစ်ကြ၏၊ ဖိုလ်ဝင်စားနေတဲ့အခါမှာတော့ အကြိမ်များစွာ ဖြစ်သည်၊ နိရောဓသမာပတ်မှ ထတဲ့အခါမှာ ဖိုလ်စိတ် နှစ်ကြိမ်ဖြစ်၏။" ဤသို့ ဖွင့်ဆိုထားသည်နှင့်လည်း ကိုက်ညီသည်။ ဤကား အရိယာဖြစ်ပြီးသား ပုဂ္ဂိုလ် "ဖိုလ်ဝင်စား" ပုံကို ဆိုခြင်း ဖြစ်၏။

ပုထုဇဉ်ဘဝက သောတာပန်အဖြစ်သို့ တက်ရာ၌ကား မဂ်နောက်က ဖိုလ်တစ်ကြိမ်၊ သို့မဟုတ် နှစ်ကြိမ်မျှသာ ဖြစ်သည်–တဲ့။

## တစ်ဘဝသာသနာ

# နိဗ္ဗာန်ဟာ ရုပ်လား နာမ်လား

"နိဗ္ဗာန်"ဆိုတာ ရုပ်တွေ နာမ်တွေ ချုပ်ငြိမ်းနေတဲ့ သဘော၊ နိရောဓဖြစ်နေတဲ့ သဘောပဲ (မှန်ပါ) ဒီတော့ နိဗ္ဗာန်ဆိုတာ ရုပ်တွေ နာမ်တွေ မရှိဘူး၊ (မှန်ပါ) မိမိသူတစ်ပါးအများသူငါတို့၏ သန္တာန်မှာ ဖြစ်ပေါ်နေတဲ့ ရုပ်နာမ်မျိုး လုံးဝမရှိတဲ့နေရာ၊ (မှန်ပါဘုရား)

မေး- ဒီလိုဆိုရင် နိဗ္ဗာန်ဟာ ရုပ်ဓမ္မလား၊ နာမ်ဓမ္မလား၊ ဘယ်အထဲ ထည့်မလဲ။

* ဖြေ- နိဗ္ဗာန်ဟာ နာမ်ဓမ္မပါ၊ နာမ်အမျိုးအစားထဲ ထည့်ရပါမည်။

ဤသို့လျှင် ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မိန့်မြွက်ထားပါသည်။ [သစ္စာအနက် ၁၆-ချက်၊ ဒု၊ ၁၀၃။] စောစောက "နိဗ္ဗာန်"ဆိုတာ ရုပ်နာမ် လုံးဝ မရှိဘူးလို့ ပြောခဲ့ပြီးပြီ၊ ယခု တစ်ဖန် နိဗ္ဗာန်ဟာ "နာမ်ဓမ္မ"လို့ ဆိုပြန်ပြီ၊ ဘယ်သို့ မှတ်ရပါမည်လဲ။

ဩော်... အများ သူငါတို့သန္တာန်မှာ ဖြစ်တဲ့ နာမ်ဓမ္မမျိုး မရှိဘူး-လို့ ပြောခဲ့တာပါ၊ အများသူငါတို့ သန္တာန်မှာ ဖြစ်ပေါ်တဲ့ နာမ်ဓမ္မက (ဥပါဒ်-ဌီ-ဘင်) (ဖြစ်-တည်-ပျက်) အတိုကောက်အားဖြင့် (ဖြစ်-ပျက်)နေကြတယ် (မှန်ပါ) ဖြစ်ပျက်မျိုးထဲက (မှန်ပါဘုရား)

"နိဗ္ဗာန်"ဆိုတဲ့ နာမ်ဓမ္မမျိုးကျတော့ (ဖြစ်-ပျက်) မရှိဘူး၊ ဖြစ်-ပျက် မရှိတဲ့ နာမ်ဓမ္မတစ်မျိုးလို့ မှတ်ကြရမယ် (မှန်ပါဘုရား)

ထို့ပြင် တစ်မျိုး တိုး၍ မှတ်ရဦးမှာက အများသူငါတို့သန္တာန်မှာ ဖြစ်ပေါ်ကြတဲ့နာမ်တရားတွေဆိုတာ အဝေးကို လှမ်းပြီး အာရုံယူကြတာ (မှန်ပါ) အဝေးမှာ ရှိတဲ့အာရုံတွေဆီကို လှမ်းပြီး ညွတ်ကြရတာ (မှန်ပါ) ကိုယ်က သူ့ဆီကို သွားညွတ်ကြရတဲ့သဘောမျိုး (မှန်ပါဘုရား)

"နိဗ္ဗာန်"ဆိုတဲ့ နာမ်တရားမျိုးကျတော့ အဲလို မဟုတ်တော့ဘူး၊ ပြောင်းပြန် (မှန်ပါ) "ငါ့ကို ညွတ်ကြ၊ ငါ့ကို ရှိခိုးကြ၊ ငါ့ကို ဦးတိုက်ကြ၊ ငါ့ဆီကို လာကြ"ဆိုတဲ့ သဘောမျိုး၊ (မှန်ပါ) သူနဲ့ဆိုင်ရာ မဂ်စိတ်ဖိုလ်စိတ်တွေက သူ့ဆီကို ညွတ်ကြရတာ (မှန်ပါဘုရား)

ဖလသမာပတ်ဝင်စားတဲ့ပုဂ္ဂိုလ်တွေဆိုရင် နာရီပေါင်းများစွာ ဝင်စားနိုင်တယ် (မှန်ပါ) ဖိုလ်စိတ်တွေနဲ့ နိဗ္ဗာန်ကို အာရုံပြုနေတာ (မှန်ပါ) နိဗ္ဗာန်ဆိုတဲ့ နာမ်ကတော့ အာရုံအပြုခံ (မှန်ပါဘုရား) သူ့ဆီကို ညွတ်ကြရတာ (မှန်ပါ)

နိရောဓသမာပတ်ဝင်စားတဲ့ပုဂ္ဂိုလ်များဆိုရင် နိဗ္ဗာန်ကိုချည်း (၇)ရက်တိတိ ညွတ်နေနိုင်ကြတယ် (မှန်ပါ) အာရုံပြုနေနိုင်ကြတယ် (မှန်ပါဘုရား) နိဗ္ဗာန်က အညွတ်ခံ (မှန်ပါ) အညွတ်ခံနာမ် (မှန်ပါဘုရား)

* ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာ၊ပ၊၁၀၂။

နိဗ္ဗာနံ အာရမ္မဏာဓိပတိပစ္စယတာယ အတ္တနိ အနဝဇ္ဇဓမ္မေ နာမေတိ။ ။

## ပဋိသမ္ဘိဒါမဂ်၊ဋ္ဌ၊ပရိညေယျအခန်းမှ

နာမဉ္စ စတ္တာရော ခန္ဓာ အရူပိနော, နိဗ္ဗာနဉ္စ. စတ္တာရော ခန္ဓာ နမနဋ္ဌေန နာမံ၊ တေ ဟိ အာရမ္မဏာဘိမုခါ နမန္တိ၊ သဗ္ဗမ္ပိ နာမနဋ္ဌေန နာမံ၊ စတ္တာရော ဟိ ခန္ဓာ အာရမ္မဏေ အညမညံ နာမေန္တိ။ နိဗ္ဗာနံ အာရမ္မဏာဓိပတိပစ္စယတာယ အတ္တနိ အနဝဇ္ဇဓမ္မေ နာမေတိ။ ။

(ပဋိသံ၊ဋ္ဌ၊ပ၊၁၀၂)

* ပဋိသံ၊ဋ္ဌ၊ပ၊၁၀၂

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

အဓိပ္ပာယ်ဘာသာပြန်ကား–

"နာမ်" ဆိုတဲ့ နေရာမှာ နာမ်ခန္ဓာ ၄ပါးနှင့် နိဗ္ဗာန်ပါဝင်၏၊ နာမ်ခန္ဓာ၄ပါးတို့သည်ညွတ်တတ်သော ကြောင့် နာမ်ဟု ခေါ်ရ၏၊ ဟုတ်ပါသည်၊ သူတို့တွေဟာ အာရုံသို့ ရှေးရှုမျက်နှာမူလျက် ညွတ်တတ်ကြကုန်၏။

နာမ်တရား အားလုံးပင် ညွတ်စေတတ်သော ကြောင့် နာမ်မည်၏၊ ဟုတ်ပါသည်၊ နာမ်ခန္ဓာ ၄ပါး တို့သည် အာရုံအတွင်း၌ အချင်းချင်း ညွတ်စေကြကုန် ၏။

နိဗ္ဗာန်သည်ကား အာရမ္မဏာဓိပတိ ပစ္စည်း၏ အဖြစ်ဖြင့် မိမိထံသို့ အပြစ် မရှိသော တရားတို့ကို ညွတ်စေ၏။

---

**မှတ်ချက်။** ။မိုးကုတ် ဆရာတော် ဘုရား ကြီးသည် ဤပဋ္ဌာန်းအဋ္ဌကထာကိုလည်း ကြည့် ရှုထားပြီး ဖြစ်ပါလိမ့်မည်၊ ထို့ပြင် မိမိ ကိုယ်တိုင် တွေ့ရှိချက်နှင့်လည်း ပေါင်းစပ်၍ ပိုင်ပိုင်နိုင်နိုင် မိန့် မြွက်တော်မူခြင်း ဖြစ်ပါလိမ့်မည်။

## နိဗ္ဗာန်ဟာ သာယာအေးငြိမ်းမှုကို ပေး

ဖလသမာပတ်ဝင်စားနေတဲ့ ပုဂ္ဂိုလ်တွေဆိုယင် နာရီပေါင်းများစွာ ဝင်စားနိုင်တယ်၊ နိဗ္ဗာန်ကို အာရုံပြု နေတဲ့ ဖိုလ်စိတ်တွေချည်း ဖြစ်နေတာ (မှန်ပါ)

ဖလသမာပတ် ဝင်စားနေတုန်းမှာဆိုရင် ဖိုလ် စိတ်တွေဟာ နိဗ္ဗာန်နဲ့ တစ်ခါတည်း တွဲနေတာ (မှန် ပါ) နိဗ္ဗာန်ကို အာရုံပြုနေတော့တာ (မှန်ပါ)

ဒါ့ကြောင့် "နိဗ္ဗာန်"ဆိုတာ သာမညပျော်စရာ မဟုတ်ဘူး၊ အလွန့်အလွန် ပျော်စရာ၊ အလွန့်အလွန် ကြည်နူးစရာဆိုတာ သိနိုင်တာပေါ့ (မှန်ပါ)

ဒါ့ကြောင့်လဲ "အမာနုသီ ရတိ ဟောတိ"လို့ မိန့်တော်မူကြတာပဲ (မှန်ပါ) အဓိပ္ပာယ်ကတော့ "လူတို့ ချမ်းသာနဲ့ မတူသော ချမ်းသာ"လို့ ဆိုလိုတယ် (မှန် ပါ)

မဂ်ဉာဏ် ဖိုလ်ဉာဏ်ရတဲ့ ပုဂ္ဂိုလ်တွေဟာ နိဗ္ဗာန် ကို အာရုံမပြုဘဲ နေကို မနေနိုင်ဘူးတဲ့ (မှန်ပါ)

ဒီတော့ နိဗ္ဗာန်ဟာ အေးငြိမ်းချမ်းသာ ကြည်နူး စရာ ကောင်းလှတဲ့ နာမ်ဓမ္မတစ်မျိုးပဲ (မှန်ပါ) အစဉ်အမြဲ ခိုင်မြဲနေတဲ့ နာမ်ဓမ္မ၊ နိစ္စ၊ ဓုဝ တရား (မှန်ပါ)

နိဗ္ဗာန်ဟာ အကောင်းတကာ့ အကောင်းဆုံးပဲ၊ ဘာကြောင့်လဲဆိုတော့ ဖြစ်ပျက်ဆိုတဲ့ မွေးသေတွေ၊ ဖြစ်ပျက်မသာတွေ မမြင်ရလို့ပဲ (မှန်ပါ)

ဟိုတုန်းကတော့ ကြည့်လိုက်တိုင်း ဖြစ်လိုက် ပျက်လိုက်၊ ဖြစ်လိုက် ပျက်လိုက်၊ မသာတွေချည်း မြင်နေရတယ် (မှန်ပါ)

အခု နိဗ္ဗာန်ကတော့ အဲလို မဟုတ်ဘူး၊ မသာ တွေကို မမြင်ရဘူး၊ မသာပွဲကို မရှိဘူး၊ ဒီတော့ ဒီ နေရာဟာ အကောင်းဆုံးပေါ့ (မှန်ပါဘုရား)

[ဤသည်တို့ကား မိုးကုတ်ဆရာတော်ဘုရားကြီး ၏ ဟောပြောချက်တို့မှ ကောက်နုတ် ဖော်ပြခြင်း ဖြစ်ပါသည်၊ သစ္စာအနက် ၁၆–ချက်စာအုပ်၊ နိရောဓ သစ္စာ အခန်းမှ ဖြစ်ပါသည်။]

## ထိုးနန်းစည်းစိမ်တွေဆိုတာ အလကား

နိဗ္ဗာန်ဟာ သက်သာမှုကို ပေးတယ်၊ အေးငြိမ်းမှုကို ပေးတယ်၊ ချမ်းသာမှုကို ပေးတယ်၊ ဒီတော့ နိဗ္ဗာန်ဟာ ချမ်းသာသုခအစစ်ကြီးပေါ့ (မှန်ပါဘုရား)

ဒါကြောင့်လဲ အရိယာပုဂ္ဂိုလ်တွေဟာ (စားရေးသောက်ရေး ကိစ္စကလေးတွေ ပြီးပြီဆိုရင်) ဆိတ်ငြိမ်ရာ အရပ်သို့ ချဉ်းကပ်ပြီး နိဗ္ဗာန်ကို အာရုံပြုနေကြတော့ တာပဲ (မှန်ပါ)

ဤမျှလောက် အေးငြိမ်းချမ်းသာမှုတွေကို သိကြလို့လဲ သူဌေးသူကြွယ် ကုန်သည် ပွဲစားတွေဟာ သူတို့ စည်းစိမ်တွေကို စွန့်လွှတ်နိုင်ကြတာပဲ (မှန်ပါ)

မင်းညီမင်းသား အမတ်ကြီးတွေလဲ ထို့အတူပဲ စွန့်လွှတ်နိုင်ကြတာပဲ (မှန်ပါ) အချို့ရှင်ဘုရင်ကြီးတွေဆိုရင် ထီးနန်းကို စွန့်ခဲ့ရတယ်၊ တိုင်းပြည်ကြီးတစ်ခုလုံးကို စွန့်လွှတ်နိုင်ခဲ့ကြတာပဲ (မှန်ပါဘုရား)

## ကာလသုံးပါးလုံးမှာ နိဗ္ဗာန်မရှိ

* တစ်နေ့သောအခါတွင် မိလိန္ဒမင်းကြီးက အရှင်နာဂသိန်အား လျှောက်ထားမေးမြန်းသည်၊

"အရှင်ဘုရား... ဝိပဿနာတရားအားထုတ်တဲ့ ပုဂ္ဂိုလ်တွေအတွက်ရဖို့ ရောက်ဖို့ရာ နိဗ္ဗာန်ကြီးက စောစောကတည်းက အသင့်စောင့်နေတာပါလား ဘုရား"

"ဟာ... ဒီလို စောင့်နေတာ မဟုတ်ဘူး၊ အတိတ်ကာလအနေနဲ့ ရှိနှင့်တာ မဟုတ်ဘူး ဒကာကြီးရ"

"ဒါဖြင့် နိဗ္ဗာန်ကြီးက နောင်ကျမှ ပေါ်လာမှာလား ဘုရား"

"အဲဒီလိုလဲ အနာဂတ်အနေမျိုးနဲ့ ပေါ် လာမှာ မဟုတ်ဘူး ဒကာကြီးရ"

"ဒါဖြင့် ပစ္စုပ္ပန် ကာလမှာပဲ နိဗ္ဗာန်ကြီးက (ဘုံနန်းပြာသာဒ်ကြီးလို) အမြဲတမ်း ရပ်တည်ပြနေမှာလား ဘုရား"

"ဟာ... ဘယ်ဟုတ်မလဲ...၊ ဒကာကြီး မေးတာတွေ တစ်ခုမှ မဟုတ်ဘူး"

[မိလိန္ဒပဉှာ၊ ၃၀၉၊ နိဗ္ဗာနံ န အတီတံ၊ န အနာဂတံ၊ န ပစ္စုပ္ပန္နံ။]

"ဒါဖြင့် အရှင်ဘုရား မိန့်ဆိုချက်အရ ခုတိုင်းဆိုရင် နိဗ္ဗာန်ဟာ ကာလသုံးပါးလုံးမှာ မရှိဘူး ဖြစ်နေတယ်"

"ဟုတ်တယ် ဒကာကြီး..."

"ကာလသုံးပါးလုံးမှာ မရှိဘူးဆိုရင် ဒီနိဗ္ဗာန်ကြီးဟာလဲ မရှိဘူးပေါ့ ဘုရား၊ ဒီလိုပဲ ပြောရမှာပဲ-"

"ဟာ... ဒီလိုလဲ မပြောရဘူး ဒကာကြီး ရဲ့"

"ဒါဖြင့် အရှင်ဘုရားဟာက ဘယ်လို မှတ်ရမှာလဲ ဘုရား"

"ကဲ... ဒကာကြီး၊ ဒီလိုဆိုရင်... ဥပမာနဲ့ ပြောပါမယ်၊ ဥပမာနဲ့ ပြောရင် နားလည်မှာပါ (မှန်ပါဘုရား)

---

* မိုး(၃)နှာ-၃၃၉

* မိလိန္ဒပဉှာ-၃၀၉

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ပွတ်ဖန်များ ပူ၊ ပူဖန်များ မီးဖြစ်

"လက်မလောက် တုတ်တဲ့ သစ်သားချောင်း အခြောက် တစ်တောင်လောက် ၂-ခု ယူခဲ့ပါ"

"မှန်ပါ ယူခဲ့ပါပြီ ဘုရား"

"တစ်ချောင်းကို မျက်နှာပြင်ရအောင် နည်းနည်းစားနဲ့ ပါးပုတ်" (မှန်ပါဘုရား) ပီးတော့ အောက်က တုံးလုံးလှဲခံထား (မှန်ပါဘုရား)

ကျန်တဲ့တစ်ချောင်းကို အဲဒီအောက်ခံ သစ်သားပေါ်မှာ ထောင်ပြီး (လက်ပွတ်စုံးနဲ့ လှည့်သလို) လှည့်ပေး၊ အမြန်နှုန်းလှည့်ပေး၊ ပွတ်ပေး (မှန်ပါ)

ကြာတော့ သစ်သားမှုန့်ကလေးတွေ ထွက်လာမယ် (မှန်ပါ) မရပ်နဲ့၊ ဆက်ပွတ် ဆက်ပွတ်၊ အမြန်နှုန်းနဲ့ပွတ် (မှန်ပါဘုရား)

ကြာတော့ပူလာမယ်၊ (မှန်ပါ) ပူလာလဲ ဆက်ပွတ်၊ မရပ်နဲ့၊ ဆက်ပွတ် (မှန်ပါဘုရား) ပူလွန်းမက ပူလာတော့ အမှုန့်ကလေးတွေကို မီးစွဲ လာမယ် (မှန်ပါ) ပွတ်ဖန်များတော့ ပူ၊ ပူဖန်များတော့ မီးဖြစ်လာပြီး မီးရလာတယ် ဒကာကြီးရ (မှန်ပါဘုရား)

[မိလိန္ဒပဉှာ၊ ၃၁၂၊ ဒွေ ကဋ္ဌာနိ သဃံဋ္ဋေတွာ အဂ္ဂိံ အဓိဂစ္ဆတိ၊ ဝေမေဝ ခေါ မဟာရာဇ အတ္တိ နိဗ္ဗာနံ။]

# အလုပ်လုပ်တဲ့သူ့အဖို့မှာတော့ ရှိ

အေး.... အဲဒီမှာမေးမယ်၊ စိစစ်ကြမယ် ဒကာကြီးရ (မှန်ပါဘုရား)

အဲဒီရလာတဲ့မီးဟာ အောက်ကခံတဲ့ သစ်သားထဲမှာ ပါသလား (မပါပါ ဘုရား)

အပေါ်က ထောင်ပြီးပွတ်တဲ့ သစ်သားထဲမှာရော ပါသလား (မပါပါဘုရား) မပါဘူး ဒကာကြီးရ (မှန်ပါ)

ဒါပေမယ့် ပွတ်ဖန်များတော့ ပူလာတယ်၊ ပူဖန်များတော့ ပူလွန်းမက ပူလာတော့ မီး ဖြစ်လာတယ် (မှန်ပါဘုရား)

အကယ်၍ အဲဒီသစ်သားချောင်း အခြောက် ၂-ခုကို မပွတ်ဘဲနဲ့ ဘေးနား အသာချထား၊ မီး ရပ့်မလား (မရနိုင်ပါဘုရား) ဒီသစ်သား-ဒီသစ်သားပဲနော် (မှန်ပါဘုရား)

ဒါဖြင့် ပွတ်တဲ့ သူ့အဖို့ မီး ရတယ်၊ (မှန်ပါ) မပွတ်တဲ့သူ့အဖို့ (မီး မရပါဘုရား) အဲဒီသဘောပဲ ဒကာကြီးရ၊ အလုပ်လုပ်တဲ့သူ့အဖို့ နိဗ္ဗာန်ရှိတယ် (မှန်ပါဘုရား) အလုပ်မလုပ်တဲ့သူ့အဖို့ဘယ်တော့မှ နိဗ္ဗာန်မရှိဘူး (မှန်ပါ) ကာလသုံးပါးလုံးမှာပဲ နိဗ္ဗာန် မရှိဘူး(မှန်ပါဘုရား) အဲဒါပြောတာပါ (မှန်ပါ)

အဲ... အလုပ် လုပ်တဲ့ သူ့အဖို့တော့ နိဗ္ဗာန်ပေါ်လာမယ် (မှန်ပါ) ဘယ်ကာလလို့ ပြောမလဲ (ပစ္စုပ္ပန်ကာလ ဖြစ်ရမှာပေါ့ဘုရား) ဟုတ်တယ်၊ ပစ္စုပ္ပန်ကာလပဲ (မှန်ပါ)

ဒါကို သာဓကပြနိုင်ပါတယ်၊ ပဋ္ဌာန်း ပါဠိတော်ကို သာဓက ထုတ်မယ် (မှန်ပါ)

"နိဗ္ဗာနံ မဂ္ဂဿ၊ နိဗ္ဗာနံ ဖလဿ
အာရမ္မဏ ပစ္စယေန ပစ္စယော"တဲ့၊

နိဗ္ဗာန်ကြီးက မဂ်ဉာဏ်ဖိုလ်ဉာဏ်အား အကြည့်ခံ အာရုံအဖြစ်နဲ့ ကျေးဇူးပြုတယ်-တဲ့ (မှန်ပါဘုရား)

ဘယ်ကာလဖြစ်မလဲ(ပစ္စုပ္ပန်ကာလဖြစ်ပါမယ်ဘုရား) ဟုတ်တယ် ပစ္စုပ္ပန်ကာလ (မှန်ပါဘုရား)

---

**မှတ်ချက်။** ။ဤသည်တို့ကား မိုးကုတ်ဆရာတော် ဘုရားကြီး ကိုယ်တော်တိုင် ဟောပြောချက်တို့မှ ကောက်နုတ်ချက်တို့ ဖြစ်ကြပါသည်။

## တစ်ဘဝသာသနာ

# နိဗ္ဗာန်မှာ ပဒဋ္ဌာန်မရှိ

သမုဒယသစ္စာ၊ ဒုက္ခသစ္စာ၊ မဂ္ဂသစ္စာ၊ နိရောဓ သစ္စာ–လို့ သစ္စာ၄–ပါးရှိသည်၊ ထိုတွင် သမုဒယနှင့် ဒုက္ခတို့က အယုတ်သစ္စာ ၂–ပါး၊ မဂ္ဂနှင့် နိရောဓတို့က အမြတ်သစ္စာ၂–ပါး ဖြစ်ကြ၏။

တစ်ဖန် အယုတ်သစ္စာ ၂–ပါးထဲတွင် သမုဒယ က အကြောင်း၊ ဒုက္ခက အကျိုးဟူ၍ ခွဲခြားနိုင်သေး သည်။

အမြတ်သစ္စာ ၂–ပါးထဲတွင်ကား မဂ္ဂက အ ကြောင်း၊ နိရောဓက အကျိုးဟု ခွဲခြား၍မရ၊ အဘယ့် ကြောင့်ဆိုသော် "နိရောဓ"ဖြစ်သော နိဗ္ဗာန်ဆိုတာ အသင်္ခတ ဓမ္မ ဖြစ်၏။ မည်သူကမှ မပြုလုပ်အပ်၊ အစကတည်းက ရှိပြီးသား တရား။

သူ့ကို မည်သည့်တရားက ပြုလုပ်၍ ပေါ်ပေါက် လာသည်ဟု ဆိုလို့မရ၊ ထို့ကြောင့် နိဗ္ဗာန်ဟာ အကျိုး တရားမဟုတ်၊ နိဗ္ဗာန်ဖြစ်အောင်လုပ်တဲ့အကြောင်းတရား လည်းမရှိ၊ နိဗ္ဗာန် ဖြစ်အောင်လုပ်တဲ့ ဇနက–နိဗ္ဗတ္တက အကြောင်းမျိုးမရှိ၊ ဒါ့ကြောင့် ဒါကို "နိဗ္ဗာန်မှာ ပဒဋ္ဌာန်မရှိ"ဟု ဆိုကြသည်၊ "အကြောင်းတရားမရှိ"ဟု ဆိုလိုရင်း ဖြစ်၏။ [ပဒဋ္ဌာန=နီးစွာသော အကြောင်း၊ ပြီးစေတတ်သော အကြောင်း၊" နိဗ္ဗာန်မှာ ထိုအကြောင်း တရား မရှိ–ဟု ဆိုလိုသည်။]

# အစကတည်းက ရှိနေသော ဟိုဘက်ကမ်း

အနည်းငယ်ချဲ့၍ ဆိုပါဦးမည်၊ ပရမတ္ထတရား တိုင်းမှာ (လက္ခဏာ၊ ရသ၊ ပစ္စုပဋ္ဌာန်၊ ပဒဋ္ဌာန်)ဆိုတဲ့ အင်္ဂါလက္ခဏာတွေ ပါရမြဲ ထုံးစံ ဖြစ်၏၊ သို့သော် နိဗ္ဗာန်ဆိုတဲ့ ပရမတ္ထတရားမှာတော့ ထိုလေးမျိုးတွင် "ပဒဋ္ဌာန်ဆိုတဲ့ အကြောင်းတရားမရှိ"ဟု ဆိုလိုသည်။

နိဗ္ဗာန်သည် အလုပ်လုပ်သူအဖို့ အစကတည်းက သူ့သဘာဝအတိုင်း အချိန်ကျလျှင် ပေါ်လာရမည့်တရား ရှိပြီးတရား ဖြစ်၏၊ ဟိုဘက်ကမ်းနှင့် တူသည်။

မဂ္ဂသစ္စာကား လှေနှင့် တူ၏၊ ဟိုဘက်ကမ်းကို ရောက်အောင် လှေဖြင့် သွားသလို ဖြစ်သည်၊ လှေနှင့် ဟိုဘက်ကမ်းတွင် ဟိုဘက်ကမ်းဖြစ်အောင် လှေက လုပ်သည် မဟုတ်၊ ရှိပြီးဖြစ်သော ဟိုဘက်ကမ်းကို ရောက်အောင် လှေဖြင့် သွားခြင်းသာလျှင် ဖြစ်၏။

ထို၂–မျိုးတွင် လှေကအကြောင်း၊ ဟိုဘက်ကမ်း က အကျိုး–ဟု ခွဲခြား၍မရသလို မဂ္ဂကအကြောင်း၊ နိရောဓက အကျိုးဟု ခွဲခြား၍မရ။

လှေဆိုတာ ဖြစ်စေတတ်တဲ့ ဇနက–နိဗ္ဗတ္တက အကြောင်းမျိုး မဟုတ်၊ ရောက်စေတတ်တဲ့ "သမ္ပာပက" အကြောင်းမျိုးသာ ဖြစ်သည်၊ ထို့အတူ မဂ္ဂသစ္စာ သည်လည်း နိဗ္ဗာန်ကို ဖြစ်စေတတ်တဲ့ ဇနက– နိဗ္ဗတ္တက အကြောင်းမျိုးမဟုတ်၊ ရောက်စေတတ်တဲ့ "သမ္ပာပက" အကြောင်းမျိုးဟူ၍သာ ဆိုလို့ရသည်။

တစ်ဖန်လည်း နိဗ္ဗာန်ဟာ အကျိုးတရားဆိုလျှင် အကြောင်းတရားရှိရဦးမည်၊ အကြောင်းပျက်တဲ့အခါ အကျိုးတရားနိဗ္ဗာန်လည်း ပျက်ရပေဦးမည်။

နိဗ္ဗာန်ကား ထိုသို့ ပျက်သည့်တရား မဟုတ်၊ အမြဲရှိသော တရား၊ နိစ္စ၊ ဓုဝ၊ သဿတ တရား။

အကြောင်း မရှိတဲ့တရား၊ ထို့ကြောင့် အပစ္စယ၊ (ဥပါဒ်–ဋ္ဌီ–ဘင်)အနေနဲ့ ဖြစ်တာ မဟုတ်တဲ့အတွက် အပဝတ္တ၊ အဇာတိ၊ ဘယ်သူမှ ပြုပြင်တာ မဟုတ်လို့ အသင်္ခတ။

ပျက်စရာ သေစရာ မရှိတဲ့အတွက် အမတ၊ အတ္တမဟုတ်တဲ့အတွက် အနတ္တ၊ ချမ်းသာတကာ့ ချမ်း သာ အစစ်ကြီး ဖြစ်တဲ့အတွက် သုခသာ ဖြစ်သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## နိဗ္ဗာန်နှင့်ပတ်သက်၍

၁။ မိုးကုတ်ဆရာတော်ဘုရားကြီးက နိဗ္ဗာန်နှင့်ပတ်သက်၍ အမိန့်ရှိပါသတဲ့–
"နိဗ္ဗာန်မှာ အကြောင်းမရှိ၊
အကြောင်းမရှိတဲ့အတွက် အကျိုး
မရှိဘူး–လို့ ယူလျှင် ဥစ္ဆေဒဒိဋ္ဌိ။
တစ်ခါ နိဗ္ဗာန်မှာ အေးချမ်းတဲ့
သဘောရှိတယ်–လို့ ယူပြန်လျှင်လဲ
သဿတဒိဋ္ဌိ ဖြစ်ပြန်ရော။
အဲဒါကြောင့် နိဗ္ဗာန်ကို ပြောလို့
မဖြစ်ဘူး"တဲ့။

၂။ စွန်းလွန်းဆရာတော်ဘုရားကြီးကတော့–
"နိဗ္ဗာန်ကို ပြောတော့မယ်ဆိုရင်
လက်ပိုက်နေဗျ"တဲ့။

မှတ်ချက်။ ။ဆရာတော် ဘုရားကြီး ၂–ပါး၏ မိန့်ကြားချက်တို့မှာ စကားလုံးချင်း မတူကြသော်လည်း ဆိုလိုရင်း အဓိပ္ပာယ် အတူတူပင် ဖြစ်၏။ [ရန်ကုန်မြို့၊ ငွေပန်းထိမ် ဒကာ ဦးညီလေးက ပြောပြခြင်း ဖြစ်သည်။]

## ဖြစ်စေတာမဟုတ် ရောက်အောင်ပို့တာ

ဤနေရာတွင် မိုးကုတ် ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မိန့်မြွက်သော အချက်တို့ကိုလည်း ကောက်နုတ် ဖော်ပြပါဦးမည်။ [မိုး (၁၇) နှာ–၂၉၉]

" ဒီနေရာမှာ ဘုန်းကြီး ပြောချင်တာက–

(က) မဂ်က နိဗ္ဗာန်ကို အကျိုးပေးတာလား

(ခ) နိဗ္ဗာန်ကို ရောက်အောင် ပို့တာလား–လို့ မေးရင် အကျိုးပေးတယ်လို့ မယူကြနဲ့၊ ရောက်အောင် ပို့တယ်လို့သာ ယူကြ (မှန်ပါဘုရား)

ဒီပြင်ဟာတွေကတော့ သူ့အကြောင်းနဲ့ သူ့အကျိုး၊ သူ့အကြောင်းနဲ့ သူ့အကျိုးလို့ ပြောစရာရှိတယ်၊ (မှန်ပါ) မဂ်ကတော့ အဲလိုမဟုတ်ဘူး၊ အကျိုးပေးတာ မဟုတ်ဘူး၊ မဂ္ဂင်ရှစ်ပါးက နိဗ္ဗာန်ကို ရောက်အောင် ပို့တယ်လို့သာ ယူကြ (မှန်ပါဘုရား)

နိဗ္ဗာန်ကို မဂ္ဂင်ကဖြစ်စေတာလားလို့ မေးရင် ဖြစ်စေတာ မဟုတ်ဘူး၊ နိဗ္ဗာန်ဟာဘယ်သူလုပ်လို့မှ ဖြစ်တာ မဟုတ်ဘူး (မှန်ပါ) နိဗ္ဗာန်ကို ဖြစ်စေတဲ့ အကြောင်းတရား မရှိ။

ဒကာကြွယ်တို့၊ ဒကာသစ်တို့၊ ဦးလှဘူးတို့က နားကြီးကြီးနဲ့ ထောင်ကြပါ။ နိဗ္ဗာန်မှာဇနက သဘောနဲ့ ဖြစ်စေတဲ့ အကြောင်းတရား မရှိ (မှန်ပါဘုရား)

ဖြစ်စေတဲ့ အကြောင်းတရား ရှိခဲ့သော်–ဖြစ်စေတဲ့ အကြောင်းတရား ပျက်ရင် နိဗ္ဗာန်ကြီးလည်း ပျက်နေရ လိမ့်ဦးမယ် (မှန်ပါဘုရား)

## တကယ်တော့ ကံမဟုတ်၊ ဉာဏ်သာလျှင်ဖြစ်

မဂ္ဂင်ရှစ်ပါးက နိဗ္ဗာန်ကို ဇနက သဘောနဲ့ ဖြစ်စေတာ မဟုတ်ဘူး၊ သမ္ပာပက သဘောနဲ့ ရောက်စေတာသာ ဖြစ်တယ် (မှန်ပါဘုရား) ရှိပြီးသား နိဗ္ဗာန်သို့ ရောက်အောင် ပို့တာ (မှန်ပါ)

ဒါဖြင့် မဂ္ဂင်တွေက နိဗ္ဗာန်ကို ရောက်အောင်ပို့တဲ့ ရောက်ကြောင်းသာ ဖြစ်တယ်၊ (မှန်ပါ) ဖြစ်ကြောင်း

တော့မဟုတ်ဘူး (မှန်ပါဘုရား) ဒါ သေသေချာချာ မှတ်ကြနော် ဒကာကြွယ်တို့က (မှန်ပါဘုရား) ကိုင်း... ဒါဖြင့်**အမဲကံ၊ အဖြူကံ၊ အမဲအဖြူရောတဲ့ကံ၊ အမဲအဖြူမရောတဲ့ကံလို့ ၄ မျိုးရှိတယ် (မှန်ပါ)**

မဂ္ဂင်ရှစ်ပါးက ဘယ်အမျိုးထဲ ပါသလဲ (အမဲအဖြူ မရောတဲ့ကံထဲ ပါပါတယ်ဘုရား) အေး ... အမဲအဖြူ မရောတဲ့ ကံဆိုတော အမဲအဖြူ မရောတဲ့ နိဗ္ဗာန်ကို အကျိုးပေးရမှာပေါ့ (မှန်ပါဘုရား)

အင်း...အဲဒီလို ကံလို့-အကျိုးပေး-လို့ ဆိုပင် ဆိုငြားသော်လည်း တခြား ကံတွေလို အကျိုး ပေးတာ မဟုတ်ပါဘူးတဲ့ (မှန်ပါဘုရား)

ဒီ မဂ္ဂင်ရှစ်ပါးက ရှိနေပြီးဖြစ်တဲ့ နိဗ္ဗာန်ကို ရောက်အောင်ပို့ပေးခြင်းမျိုးသာ ဖြစ်တာပါတဲ့ (မှန်ပါဘုရား) ဉာဏ်နားကြီးကြီးနဲ့ ထောင်မှ ဖြစ်မယ်နော (မှန်ပါဘုရား)

ကံတွေနဲ့ရောပြောလိုက်တော့ သူ့ကို ကံထင်နေကြတယ် (မှန်ပါ) ကံဆိုရင် အကျိုးပေးမယ် (မှန်ပါဘုရား) ကံမဟုတ်ပါဘူးတဲ့၊ သူဟာ ဉာဏ်ပါ (မှန်ပါ) ဖြစ်စေတဲ့အကြောင်း မဟုတ်။ ရောက်အောင် ပို့ပေးတဲ့ အကြောင်းသာ ဖြစ်တယ် (မှန်ပါဘုရား)

# တောင်ပုံရာပုံအလား မြင့်မားဖွယ်

မိုးကုတ်ဆရာတော်ကြီး ဦးဝိမလ တရားဟော လာခဲ့သည်မှာ ဒုတိယကမ္ဘာစစ်ကြီး မတိုင်မီက ဖြစ်ခဲ့၏၊ သို့သော် ထိုစဉ်ကမူ ဝိပဿနာတရားချည်း မဟုတ်ပေ၊ ယဉ်ကျေးမှုသဘောကို သုတ္တန်တို့ဖြင့် နှော၍ ဟောခဲ့ခြင်းမျိုးလည်း ပါသည်။

မိုးကုတ်မြို့၊ ပတ္တမြားမြေ၊ ဘော်ပတန်းဂူကြီးမှ ထွက်ပြီးနောက် ဒုတိယကမ္ဘာစစ်ကြီးအပြီးနောက်ပိုင်း တွင်မှ အဘိဓမ္မာကို အခြေခံ၍ ဝိပဿနာတရားချည်း ဟောလာခဲ့ခြင်း ဖြစ်သည်။

သို့သော် အသံဖမ်းစက်များ မပေါ်သေး၍ ဟောပြီးပျောက်-ဟောပြီးပျောက် ဖြစ်ခဲ့ကြ၏၊ အသံဖမ်းစက်များ ရရှိပြီးနောက် ၁၉၅၄-ခုနှစ် နောက်ပိုင်းသို့ ရောက်သောအခါတွင်မှ ဆရာတော်ကြီး၏ တရားတော်တို့ကို ကြိုးကြား-ကြိုးကြား ဖမ်းယူလာခဲ့ကြသည်၊ အချို့လည်း ပျောက်ပျက်ကုန်ကြ၏။

အများဆုံး ဖမ်းယူလာခဲ့နိုင်သည်မှာ ၁၉၅၉၊ ၆၀၊ ၆၁၊ ၆၂-ခုနှစ်တို့တွင် ဖြစ်ကြ၏၊ အချို့တရားတို့ကား မကျွမ်းကျင်၍ ဖမ်းယူစဉ်ကပင် အသံတွေ ပျက်ကုန်သည်လည်း ရှိကြ၏၊ အချို့ကား ဖမ်းယူပြီးမှ ပျောက်ပျက်ကုန်သည်လည်း ရှိကြသည်။

ယခုအခါ ရနိုင်သမျှ လိုက်လံစုဆောင်းရာတွင်ပင် တစ်နာရီဟော တရားတိပ်ခွေပေါင်း (၁၃၀၄)ခွေ၊ တစ်ထောင်နှင့်သုံးရာလေးခွေ တွေ့ရှိရလေသည်။

မေတ္တာ ကရုဏာတရားအပြည့်ထား၍ ဟောကြားခဲ့သော သစ္စာတရားတို့ ဖြစ်ကြ၏၊ ကိုင်ဖမ်းဆုပ်ယူ၍ ရစကောင်းသော စကားလုံးများ၊ အစိုင်အခဲ အထုအထည်ဒြပ်ရှိသော စကားလုံးများသာ ဖြစ်ခဲ့ပါမူ ပုံ၍ ထပ်၍ ထားပါက (စကားလုံးအပုံကြီးမှာ) ဆရာတော်ကြီး၏ ခန္ဓာကိုယ်လုံးတော် အရပ်တော်ထက် များစွာ မြင့်မောက်ကြီးမားပြီး တောင်ပုံ-ရာပုံအလား ဖြစ်ပေလိမ့်မည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ကိုယ့်နည်းနှင့်ကိုယ် သာသနာပြုကြခြင်း

ဤနေရာတွင် အမရပူရတစ်မြို့တည်းနေ ဆရာတော် အရှင်ဇနကာဘိဝံသနှင့် နှိုင်းယှဉ်၍ ပြလိုပါသေး၏၊ မိုးကုတ်ဆရာတော်ကြီးနှင့် သက်တူရွယ်တူ၊ မွေးခုနှစ်တူဖြစ်သော ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ထိုအချိန်က သံဃာတော်တွေ မြောက်မြားစွာဖြင့် အမရပူရမြို့မှာပင် စာပေတွေ ချပို့၊ ကျမ်းစာတွေ ရေးသားလျက် ကြီးစားပမ်းစား သာသနာပြုတော်မူလျက် ရှိသည်။

ထိုအချိန်ကဆိုလျှင် အမရပူရမြို့တော်၌ နေ(၂)စင်း ပြိုင်တူထွက်၍ အလင်းရောင်တွေ ဖြန့်ကြက်နေသလို ဖြစ်ကြသည်။

ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ကိုယ့်နည်း ကိုယ့်ဟန်ဖြင့် သာသနာပြုနေတော်မူခြင်း ဖြစ်၏၊ တစ်ဘဝလုံး ပိဋကတ်ကျမ်းစာတွေထဲ စိတ်ကို နှစ်ထားပြီး၊ တစ်ဘဝလုံး ကျမ်းစာတွေ ရေးသားခဲ့သည်၊ ပရိယတ် သာသနာတော်ကြီး မယိုင်မလဲ ခိုင်မြဲအောင် သာသနာပြုတော်မူခဲ့၏။

သို့ဖြစ်၍ သူ ရေးသားခဲ့သော ကျမ်းစာအုပ်တွေကို (မျိုးမတူရာတွေကိုပင်) စုပေါင်းပုံထပ်၍ ထားပါလျှင် မြင့်မားထွားကျိုင်းသော ဆရာတော် အရှင်ဇနကာဘိဝံသ၏ အရပ်တော်ထက်ပင် မြင့်နေသေးသည်။

ဤသို့လျှင် မိုးကုတ်ဆရာတော်ကြီးက နှုတ်တော်ဖြင့် ထုတ်ဖော် ဟောပြော၍ သာသနာပြုတော်မူခဲ့၏၊ ဆရာတော် အရှင်ဇနကာဘိဝံသကတော့ ကလောင်ဖြင့် ရေးသား၍ သာသနာပြုတော်မူခဲ့သည်။

တစ်ဖန် မိုးကုတ် ဆရာတော်ကြီးက ပဋိပတ်သာသနာတော်ကို ဦးစိုက်၍ ပြုတော်မူခဲ့၏၊ ဆရာတော် အရှင်ဇနကာဘိဝံသကတော့ ပရိယတ်သာသနာတော်ကို ဦးစိုက်၍ ပြုတော်မူခဲ့သည်။

ဤသို့လျှင် သာသနာတော်ကြီးမှာ ကြောင့်ကြမဲ့နေတော်မမူကြဘဲ ကိုယ့်နည်း ကိုယ့်ဟန်ဖြင့် သာသနာပြုတော်မူခဲ့ကြ–စောင့်ရှောက်တော်မူခဲ့ကြပါသည်။

# တရားနဲ့တွေ့ဖို့က ပိုပြီးအရေးကြီး

၁။ အချို့ပုဂ္ဂိုလ် တော်တော်များများက ပြောတတ်ကြသည်–

" သံသရာဝဋ်မှ မြန်မြန်လွတ်ရအောင် ဘုရားနဲ့ မြန်မြန်တွေ့ဖို့ အရေးကြီးတယ်"–တဲ့၊ "အဲဒါကြောင့် ဘုရားပွင့်ရင် ဆီမီးငါးတိုင်–ကြာငါးခိုင်နဲ့ လက်ဦးဖူးတွေ့ရပါလို၏" လို့ ဆုတောင်းကြရမယ်"တဲ့။

၂။မိုးကုတ် ဆရာတော်ကြီးကမူ ထိုသို့ မဟုတ်ချေ၊ "ဘုရားနဲ့တွေ့ဖို့ထက်–တရားနဲ့တွေ့ဖို့ကအရေးကြီးတယ်"တဲ့။

"ဘယ့်နှယ်ကွယ်... ဥပက တက္ကဒွန်းကြီးဟာ ဘုရားနဲ့ ဦးစွာ တွေ့တာပေါ့၊ ဒါပေမယ့် တွေ့–တွေ့ပဲ၊ တရားနဲ့ တွေ့မသွားရဘူး"

"ပြီးတော့– ရှင်ဒေဝဒတ် ကြည့်ပါလား၊ ဘုရားရဲ့ ယောက်ဖတော်ပဲ၊ အနီးကပ် တွေ့တာပေါ့၊ ဒါပေမယ့် တရားနဲ့ တွေ့မသွားတော့ ဒုက္ခ ရောက်သွားတယ် မဟုတ်လား"

"ဟော... ကာဠီ အမျိုးသမီးတို့ကျတော့ ဘုရားနဲ့ မတွေ့ပါဘူး၊ ဘုံ(၇)ဆင့်အပေါ်ထပ်မှာ

## တစ်ဘဝသာသနာ

နေတာ၊ နတ်သား (၂)ဦး သူတို့ချင်း ပြောသွားတဲ့ တရားအားထုတ်နည်းအတိုင်း အားထုတ်လိုက်တာ သောတာပန် ဖြစ်သွားရော၊ ဒီမှာ ဆိုရင် ဘုရားနဲ့ မတွေ့ပေမယ့် တရားနဲ့ တွေ့သွားတော့ ဘယ်လောက် အကျိုးကြီးသွားသလဲ…" ဤသို့ မိန့်တော်မူ၏။

## မိုးကုတ်နှင့်ပျား၊ ပျားနှင့်မိုးကုတ်

မိုးကုတ်ဆရာတော်နှင့် ပျားကောင်များသည် မည်သို့ အဆက်အစပ်ရှိကြသည်မသိ၊ ဆရာတော်၏ လောင်းလျာ ကိုရင်ဝိမလကလေး ၁၂–နှစ်သားက တစ်ကြိမ် သင်္ကန်းကိုလာ၍ ပျားစွဲ၏။

ထို့နောက် အသက်၂၀–ပြည့်၍ ရဟန်းခံသော အခါ ရဟန်းခံသော ထိုနေ့မှာပင် သိမ်မှအထွက် ဝါးလုံးတန်း၌ လွှမ်းထားသော အရှင်ဝိမလ၏ သင်္ကန်းကို ဒုတိယအကြိမ် ပျားစွဲပြန်လေသည်။

ထို့နောက် တစ်ဘဝလုံး၏နိဂုံးအချိန် အန္တိမအဂ္ဂိဈာပန ပြုရန် တစ်ရက်အလိုတွင် ဖြစ်၏၊ ကျောင်းဒကာ ဦးကျော်သိန်း၊ ဇနီး–ဒေါ်တင်လှတို့၏ မဏ္ဍပ်၌ ဆရာတော် ဘုရားကြီး ဦးဝိမလ၏ ရုပ်ကလာပ်တော် အပူဖော် ခံနေစဉ် မဏ္ဍပ်မျက်နှာကြက်မှာ တတိယအကြိမ် ပျားကောင်များ လာ၍ စွဲကြပြန်၏။

တစ်ဖန် ထိုအချိန်လောက်မှာပင် ပတ္တမြားမြေ မိုးကုတ်မြို့၌လည်း ဆရာတော်ကြီး ဦးဝိမလ သီတင်းသုံးသော မင်္ဂလာမဂ္ဂင်ရိပ်သာ မွှော်ရုံကြီး ကိုယ်ထည် ပတ်ပတ်လည်တွင် ပျားကောင်များ အနှံ့အပြား လာ၍ ဝိုင်းအုံနေကြ၏။

ယခုအခါတွင်ကား ရန်ကုန်မြို့၊ မိုးကုတ် ဝိပဿနာ အဖွဲ့ချုပ်ကြီး၌ ဆရာတော်ဘုရားကြီး၏ ဓာတ်ပုံနှင့် ဓာတ်တော်များ ထားရှိရာ မှန်ခန်းကိုလည်း ပျားကောင်တွေ လာ၍–လာ၍ အုံကြ၊ ပူဇော်ကန်တော့နေကြတော့သည်။

## ပျားစွဲလျှင် အားခဲပေတော့

ဤသို့ ပျားစွဲသည်ကို အချို့က မနှစ်သက်ကြ၊ "ယံ ဒုန္နိမိတ္တံ အဝမင်္ဂလဉ္စ" ထဲ ထည့်ပြီး မကောင်းသော နိမိတ်၊ မကောင်းသော အတိတ်၊ မကောင်းသော အမင်္ဂလာ–ဟု ဆိုကြသည်၊ ထို့ကြောင့် ခေါင်မိုးပေါ် ရေကို ပက်တင်၊ ကျလာသောရေကို လက်ပြန်ခံ၍ ထိုတံစက်ရေဖြင့် ထိုပျားအုံကို လက်ပြန်ပက်လွှတ်ရသည်–ဟု ဆိုကြ၏။

ထိုသို့ ဆိုကြသော်လည်း မိုးကုတ်ဆရာတော်ကြီး ဦးဝိမလအတွက်မှာကား ပျားကောင်များသည် ကောင်းသော နိမိတ်၊ ကောင်းသော အတိတ်၊ ကောင်းသော မင်္ဂလာများ ဖြစ်၍ နေကြလေသည်တကား။

ပျားကောင်များ အုံကြသလို ပရိသတ်တွေ အုံနေကြ၏၊ ပျားကောင်များ ဝိုင်းကြသလို ပရိသတ်တွေ ဝိုင်းနေကြ၏၊ ပျားကောင်များက အချိုအမြိန်ကို ပေးသလို မိုးကုတ်ကလည်း သစ္စာတရား အချိုအမြိန်တွေ ပေးသည်။

ယခုနောက်ပိုင်းတွင် အနယ်နယ်အရပ်ရပ်တို့၌ မိုးကုတ်ဝိပဿနာအဖွဲ့ခွဲတွေ ရှိကြ၏၊ ယင်းအဖွဲ့ခွဲဝင်းခြံအတွင်း၌ဖြစ်စေ၊ အဆောက်အအုံပေါ်မှာဖြစ်စေ ပျားစွဲလျှင် ထိုအဖွဲ့ခွဲ တိုးတက်ပြီ။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

**မန္တ** လေးမြို့၊ အောင်တော်မူရပ်၊ မြစန္ဒာလမ်း၊ မိုးကုတ်ဝိပဿနာပြန့်ပွားရေး အသံကူးဌာနမှာဆိုလျှင် အသံကူးစက်တွေကို လာ၍ ပူးစွဲ၏၊ သို့သော် နားမလည်သောကလေးတို့က ရေနွေးဖြင့် ပက်၍ လွှတ်သည် ဟူ၏၊ မပြုလုပ်သင့်။

မိမိတို့ သိသမျှ တင်ပြရသော် ပူးစွဲသောဌာနခွဲတို့မှာ ပြည်မြို့၊ တောင်ကြီး၊ မိုးနဲ၊ မကွေး၊ တောင်တွင်းကြီး၊ တောင်ငူ၊ ဖြူး၊ မိတ္ထီလာ၊ မိုးညို၊ မနေပြူ၊ မြောင်းမြ၊ ဖျာပုံ၊ ကော့သောင်း စသည်တို့ ဖြစ်ကြ၏၊ မန္တလေးမြို့၊ တောင်ပြင်၊ မြို့ဟောင်းရပ်၌ ဆရာတော် ဦးဓမ္မိဿရ တည်ထောင်သော မိုးကုတ်ရိပ်သာဝင်း၌ကား သစ်ပင်တိုင်းလိုလို၊ အဆောက်အအုံတိုင်းလိုလို ပူးအုံတွေ လာ၍ စွဲကြသည် ဟူ၏။ ပူးစွဲသော အခြားအဖွဲ့ခွဲများလည်း ရှိပါလိမ့်ဦးမည်။

ပူးစွဲလျှင် အားခဲပေတော့၊ တိုးတက်ပြီ၊ စိတ်ချ။

## မိုးကုတ်ရှိရာ ပူးတွေ လာသတဲ့

ဥက္ကဋ္ဌကြီး ဦးသံဒိုင်၏ (သမက်) ဦးဆွေတင်သည်လည်း မိုးကုတ်ဆရာတော်ဘုရားကြီးနှင့် တစ်နည်းမဟုတ်–တစ်နည်း လှည့်ပတ်၍ ဆက်စပ်နေပြန်၏၊ ဦးဆွေတင်သည် ဥက္ကဋ္ဌကြီး ဦးသံဒိုင်၏ (သမီး) ကြည်ကြည်ဒိုင်နှင့် စိတ်တူကိုယ်မျှ ရေစက်ဆုံကြပြီးလျှင် မိဘတို့ကဲ့သို့ သာသနာရေးအလုပ်တို့ကို ဆက်လက် ဆောင်ရွက်လျက် နေခဲ့ကြသည်။

> "မိုးကုတ် ဝိပဿနာ ဥပနိဿယများသည် မြန်မာပြည်တွင်း၌ကား အနှံ့အပြား ထွန်းကားနေကြလေပြီ၊ အမေရိကန်နိုင်ငံ၌ မရှိသေး၊ အမေရိကန်နိုင်ငံ၌လည်း ရှိဖို့ လိုအပ်သေးသည်"

ဦးဆွေတင်နှင့် ဒေါ်ကြည်ကြည်ဒိုင်တို့က အထက်ပါအတိုင်း စဉ်းစားနေမိခဲ့ကြပါသတတ်၊ ထိုသို့ စဉ်းစားခဲ့ကြပြီးလျှင် မိတ်ဆွေသင်္ဂဟတို့နှင့် စပေါင်းခဲ့ကြ၍ ယခုအခါ အမေရိကန်နိုင်ငံ (လော့စ်အိန်ဂျလိစ်) မြို့၌ "မိုးကုတ် ဝိပဿနာ သာသနာပြုဌာန" ဖွင့်လှစ်၍ ထားကြသည်။

မိုးကုတ် ဓမ္မကထိကများ ရောက်လာ ကြုံကြိုက်လျှင် ဓမ္မကထိကများ၏ ဟောပြောချက်တို့ကို နာယူကြ၏၊ ရောက်မလာကြလျှင် မိုးကုတ် ဆရာတော်ဘုရားကြီး၏ တရားတိပ်ခွေတို့ကို ဖွင့်၍ အများစုပေါင်း နာယူကြသည် ဟူ၏၊ ဤနည်းအားဖြင့် ရသမျှ အခြေအနေတွင် ရသလောက် ယူ၍၊ ဖြစ်နိုင်သလောက် အလုပ်–လုပ်နေခဲ့ကြသည် ဟူသတတ်။

ကြဲကြဲဖန်ဖန် သူတို့၏ "မိုးကုတ် ဝိပဿနာဌာန"ကိုလည်း ရံဖန်ရံခါ ပူးကောင် ကလေးများ လာ၍–လာ၍ ဝိုင်းအုံကြသည် ဟူ၏၊ ဆရာတော်ဘုရားကြီး၏ သစ္စာတရား အချိုအမြိန့်ကလေးများကို လာ၍ သောက်သုံးကြသလို ဖြစ်တော့သည်၊ မိုးကုတ်နှင့် ပူး– မည်သို့များ ဆက်စပ်နေလေသနည်း။

ထို့ပြင်– ဦးဆွေတင်က သူ၏ မွေးနေ့–မွေးရက်–မွေးချိန်ကို တစ်ခါတုန်းက ကိစ္စရှိ၍ ပြန်လည်စိစစ်ကြည့်ပါသတတ်။

> "အလို… ဆရာတော် ဘုရားကြီး အတွက် တတိယအကြိမ် ပူးစွဲသော နေ့၊ ပူးစွဲသော အချိန် (ပြာသိုလဆန်း ၁၄–ရက်၊ ညနေ ၃–နာရီ ကျော်ကျော် အချိန်) ဖြစ်နေပါပေါ့ ကလား…"

ဤသို့လျှင် ကြဲကြဲဖန်ဖန်–အံ့အားသင့်ဖွယ် ဦးဆွေတင်၏ မွေးနေ့နှင့် ဆက်စပ်နေပြန်တော့သတတ်။

## ဘာ့ကြောင့် ဖြစ်–ပျက် မမြင်နိုင်ရတာလဲ

အနိစ္စလက္ခဏံ တာဝ ဥဒယဗ္ဗယာနံ အမနသိ ကာရာ၊ သန္တတိယာ ပဋိစ္ဆန္နတ္တာ န ဥပဋ္ဌာတိ။

(ဝိသုဒ္ဓိမဂ်အဋ္ဌကထာ)

ဥဒယဗ္ဗယာနံ–ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ အဖြစ်အပျက်တို့ကို၊ အမနသိကာရာ–နှလုံးမသွင်းခြင်းကြောင့် လည်းကောင်း၊ သန္တတိယာ–မီးအလျှံအစဉ်ရေအယဉ်ပမာ ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ ဥပါဒ်–ဌီ–ဘင် အစဉ်မပြတ် တရစပ် တသွင်သွင် ဖြစ်ပျက်နေခြင်း အစဉ်ဖြင့်၊ ပဋိစ္ဆန္နတ္တာ–ဖုံးလွှမ်းနေသောကြောင့် လည်းကောင်း။

အနိစ္စလက္ခဏံ–အနိစ္စ လက္ခဏာသည်၊ (ဝါ) အတည်မမြဲ ပြောင်းလွဲနေသော အမှတ်အသားသည်၊ န ဥပဋ္ဌာတိ–မထင်ပေါ်ဘဲ ဖြစ်နေရလေ၏၊ ဆိုလိုရင်း အဓိပ္ပာယ်မှာ–

(က) ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ အဖြစ်အပျက်ကို နှလုံးမသွင်းလို့ တစ်ကြောင်း။

(ခ) ဖြစ်ပျက်အစဉ်တို့ဖြင့် ဖုံးလွှမ်းနေသောကြောင့် တစ်ကြောင်း။

ဤအကြောင်းတို့ကြောင့် အနိစ္စလက္ခဏာမထင် (ဖြစ်ပျက် မမြင်နိုင်ဘဲ) ဖြစ်၍ နေရလေသည်။

## ဖြစ်ပျက်မြင်အောင် ဘယ်လို လုပ်ရမလဲ

ဥဒယဗ္ဗယာနံ ပညာယ ပရိဂ္ဂဟေတွာ၊
သန္တတိယာ ဝိကောပိတာယ အနိစ္စလက္ခဏံ
ယာထာဝ သ,ရသတော ဥပဋ္ဌာတိ။

(ဝိသုဒ္ဓိမဂ် အဋ္ဌကထာ)

ဥဒယဗ္ဗယာနံ–ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ အဖြစ်အပျက်တို့ကို၊ ပညာယ–အနိစ္စဟု ရှုသော ဝိပဿနာဉာဏ်ပညာဖြင့်၊ ပရိဂ္ဂဟေတွာ–သိမ်းဆည်း၍၊ (ဉာဏ်ဖြင့် သိမ်းပိုက်၍)၊ သန္တတိယာ–ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ ဖြစ်ပျက် အစဉ်ကို၊ ဝိကောပိတာယ–အပိုင်းအပိုင်း ပြု၍ ဖြတ်တောက် ဖျက်ဆီးအပ်သည် ရှိသော်။

အနိစ္စလက္ခဏံ–အနိစ္စလက္ခဏာသည်၊ ယာထာဝသ,ရသတော–မဖော်ကမပြန် ဟုတ်မှန်သော မိမိတို့၏ ကိစ္စအားဖြင့်၊ ဥပဋ္ဌာတိ–ထင်လာရလေ၏၊ ဆိုလိုရင်း အဓိပ္ပာယ်မှာ–

(က) ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ အဖြစ်အပျက်တို့ကို ဉာဏ်ပညာဖြင့် သိမ်းပိုက်၍။

(ခ) ယင်းဖြစ်ပျက်အစဉ်တို့ကို အပိုင်းအပိုင်း ဖြစ်အောင် ဉာဏ်ဖြင့် ဖြတ်တောက် ဖျက်ဆီးမည် ဆိုလျှင် အနိစ္စလက္ခဏာ ထင်မြင်လာနိုင်၏၊ (ဖြစ်ပျက်တွေ မြင်၍ လာနိုင်၏–ဟူလို။)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဖြစ်ပျက်မြင်မှု၏စွမ်အား တန်ဖိုးကြီးမား

ဤ အကြောင်းအရာများနှင့် ပတ်သက်၍ ဆရာတော်ဘုရားကြီး ကိုယ်တိုင်ဟော [မိုး (၁၅)နှာ-၅၄၇] မှ ကောက်နုတ်ဖော်ပြပါမည်။

အဝိဇ္ဇာ မသိတာ (မှန်ပါ) သင်္ခါရ ပြုချင်သလို ပြုတာ (မှန်ပါ) ပြုချင်သလို ပြုလို့ ရောက်ချင်သလို ရောက်ရတဲ့ အပါယ်လေးပါးခန္ဓာ ပေါ်လာတယ် (မှန်လှပါဘုရား)

* ဒကာ–ဒကာမတို့ ... "ပမာဒ" ဆိုတဲ့ မေ့လျော့မှုဟာ အင်မတန် အပြစ်ကြီးတယ် (မှန်ပါ) သေးသေး မဟုတ်ဘူးနော်၊ ကြီးကြီး (မှန်ပါဘုရား)

မေ့တဲ့အပြစ်ဟာ သေးသေးလား–ကြီးကြီးလား (ကြီးကြီးပါ ဘုရား) တယ် ကြောက်စရာ ကောင်းလှပါလား တကာကြွယ် (မှန်ပါ) ဒါ့ကြောင့် ဘုရားသခင် ကိုယ်တော်မြတ်ကြီးက ဟောတာ–

"လူတစ်သိန်းသေလို့ လူပြည်တစ်ယောက် ပြန်မရောက်ဘူး၊ နတ်တစ်သိန်းသေလို့ နတ်ပြည် တစ်ယောက် ပြန်မရောက်ဘူး၊ အကုန် အပါယ် ရောက်သွားကြတယ်ဆိုတာ ဒီ မေ့ပြစ်တွေ ပေါ့ကွ" (မှန်ပါဘုရား)

ဒကာ ဒကာမတို့ ... ဘယ် အပြစ်ကြောင့် အပါယ်ကျပါလိမ့်၊ (မေ့ပြစ်ကြောင့်ပါဘုရား) ကဲ ... ဒါဖြင့် မေ့တာသည် အပါယ်လေးပါး သွားတဲ့ တရား (မှန်ပါ) မမေ့တာသည် အရိယာတရား (မှန်ပါဘုရား)

မေ့တာသည်... (အပါယ်လေးပါး သွားတဲ့ တရားပါ ဘုရား) မမေ့တာသည် (အရိယာတရားပါ ဘုရား) အေး ... အရိယာတရားဆိုတော့ ဘုန်းကြီးက မမေ့တဲ့ သတိပဋ္ဌာန် အလုပ်ကို ပေးမယ်၊ ခင်ဗျားတို့ ဘာမှ မစိုးရိမ်နဲ့ (မှန်ပါဘုရား)

ဘာမှ မစိုးရိမ်နဲ့၊ ခန္ဓာကိုယ်မှာ ဖြစ်–ပျက် တစ်ချက် မြင်လိုက်ရင် မစိုးရိမ်နဲ့၊ (မှန်ပါ) ဒါဟာ အင်မတန် အဖိုးတန်တဲ့ အလုပ်ဆိုတာ မှတ်လိုက်ကြစမ်းပါ (မှန်ပါ)

ဖြစ်ပျက်ကို ကျကျနန တစ်ချက် မြင်လိုက်လို့ ရှိရင် ကျွတ်တမ်းဝင်တယ် (မှန်ပါ) ဒါဖြင့် မမြင်မြင်အောင် ကြိုးစားကြရမယ်ကွ (မှန်ပါဘုရား) သဘောကျပလား (ကျပါပြီ ဘုရား)

အဖိုးတန်လွန်းလို့ ဘုန်းကြီးက တိုက်တွန်းနေတာ၊ ဦးမာဒင်တို့ ကျေနပ်လောက်ပါတယ် (ကျေနပ်ပါတယ် ဘုရား) ဖြစ်ပျက် တစ်ချက်မြင်ရင် အပါယ်လေးပါး တံခါး ပိတ်တယ် (မှန်ပါ) ဘယ်လောက် အဖိုးတန်တုန်း (တန်ပါတယ် ဘုရား)

လုပ်ဖြစ်အောင် လုပ်စမ်းပါလို့ ဘုန်းကြီးက တိုက်တွန်းတယ် (မှန်ပါဘုရား)

## သဗ္ဗေ သင်္ခါရာ အနိစ္စာ

ခန္ဓာငါးပါး ရုပ်နာမ်တရားတွေက တစ်ကိုယ်လုံး မတည်ငြိမ်ဘဲ အမြဲမပြတ် တရစပ် ဖြစ်ပျက်နေကြ၏၊ ယင်းသို့ ဖြစ်ပျက်နေသည်တို့ကို ဉာဏ်ဖြင့် တကယ် မြင်နေမှ "ဥဒယဗ္ဗယဉာဏ် ရတယ်"လို့ ဆိုနိုင်သည်။

ဖြစ်ပျက်နေတာတွေကို မမြင်သေးသမျှ ဝိပဿနာ ယောဂီ ပီပီသသ မဖြစ်နိုင်ကြသေးပါ၊ ရုပ်တွေ နာမ်တွေရဲ့ အဖြစ်အပျက်တို့ကို တကယ် မမြင်သေးဘဲနဲ့ "ရုပ်နာမ်တွေ ဖြစ်–ပျက်နေကြတာပဲ"လို့ ရော်ရမ်းမှန်းဆ စိတ်ကူးရုံမျှနှင့် ဝိပဿနာ မဖြစ်နိုင်သေး။

ရုပ်ဖြစ်ပျက်–နာမ်ဖြစ်ပျက်တွေကို တကယ် ဉာဏ်ဖြင့် ကိုယ်တိုင် တွေ့မြင်သောအခါကျမှသာလျှင်–

"သဗ္ဗေ သင်္ခါရာ အနိစ္စာ"

"သင်္ခါရတရားတွေ အကုန်လုံး မမြဲကြဘူး" ဆိုတာ တကယ် ဟုတ်ပါလား–လို့ ယုံကြည်လာမယ်။

* ဥပရိပဏ္ဏာသပါဠိတော်၊ ဒေဝဒူတသုတ်

## တစ်ဘဝသာသနာ

## သဗ္ဗေ ဓမ္မာ အနတ္တာ

"ယ ဒနိစ္စံ၊ တံ ဒုက္ခံ။
ယံ ဒုက္ခံ၊ တ ဒနတ္တာ"
"မမြဲတဲ့ တရားဟာ ဆင်းရဲ၊
ဆင်းရဲတဲ့ တရားဟာ အနတ္တ"

ဤသို့ ဟောတော်မူချက်အရလည်း ထိုယောဂီမှာ အဖြစ်အပျက်တွေက မပြတ် တရစပ် နှိပ်စက်နေတာတွေကို တွေ့ရလို့-

"သဗ္ဗေ သင်္ခါရာ ဒုက္ခာ"
"သင်္ခါရတရားတွေ အကုန်လုံး ဆင်းရဲ" ဆိုတာလဲ ဟုတ်တာပဲ-ဟု

ယုံကြည်မှုတွေ တိုးလာပေမည်၊ ထိုမှ တစ်ပါး- ဤ ရုပ်-ဤနာမ်များ မပြတ် တရစပ် ဖြစ်ပျက်နေကြရာတွင် "မကောင်းတဲ့ ဒုက္ခဝေဒနာများ မဖြစ်ပေါ်လာကြပါနဲ့" လို့ လက်ကာ ဟန့်တား၍ မရ၊ "ကောင်းတဲ့ သုခ ဝေဒနာကလေးများ ဖြစ်ပေါ်လာကြပြီးနောက် ပျောက်ပျက် မကုန်ကြပါနဲ့"လို့ တောင်းပန်၍လဲ မရ။

ကိုယ့်အလိုသို့ မလိုက်၊ ကိုယ့်အကြိုက်သို့ မပါတာတွေကို တွေ့ရသောကြောင့် "သဗ္ဗေ ဓမ္မာ အနတ္တာ" "ဓမ္မတွေ အကုန်လုံး အနတ္တ" ဆိုတာလဲ ဟုတ်ပေတာပဲ-ဟု ပို၍ သဘောပေါက်လာပေမည်။

## အနိစ္စမြင်ဖို့ ပထမ အရေးကြီး

ဤသာသနာတော်မှာ လိုရင်းကတော့ အနတ္တပါပဲ၊ ဒါပေမယ့် အနတ္တသို့ ရောက်အောင် ထိုးဖောက်၍ တောက်လျှောက် သိဖို့ မလွယ်၊ သဘောပေါက်ဖို့ ခက်ခဲ၏၊ သို့ဖြစ်၍ အနတ္တသို့ ရောက်ဖို့ရာ အခြေခံ ဖြစ်တဲ့ အနိစ္စကို မြင်အောင် ကြည့်နေရသေးခြင်း ဖြစ်သည်။

မိမိခန္ဓာကိုယ်ပေါ်မှာ ခဏမစဲ တသဲသဲ-အမြဲတမ်း ဖြစ်ပျက်နေတာတွေကို သိလာတော့မှ "မမြဲဘူး" ဆိုတဲ့ အနိစ္စ၊ ဖြစ်ပျက်တို့ဖြင့် နှိပ်စက်နေတာတွေကို တွေ့ရတော့မှ "ဆင်းရဲခြင်း"ဆိုတဲ့ ဒုက္ခ၊ အလိုသို့ မလိုက်၊ အကြိုက်သို့ မပါတာတွေကို တွေ့လာရတော့မှ "သူ့သဘော"ဆိုတဲ့ အနတ္တ၊ အဲဒါတွေကို ပီပီပြင်ပြင် မြင်လာနိုင်တယ်၊ ထို့ကြောင့် မြတ်စွာဘုရားက မေဃိယ ရဟန်းအား ဤသို့ ဟောတော်မူခြင်း ဖြစ်ပေတာပဲ-

* အနိစ္စသညိနော မေဃိယ အနတ္တသညာ
သဏ္ဌာတိ၊ အနတ္တသညီ အသ္မိမာနသမုဂ္ဃာတံ
ပါပုဏာတိ၊ ဒိဋ္ဌေဝ ဓမ္မေ နိဗ္ဗာနံ။

မေဃိယ-ချစ်သား မေဃိယ၊ အနိစ္စသညိနော-အနိစ္စ သညာ (မမြဲတဲ့ လက္ခဏာ) ထင်သော ပုဂ္ဂိုလ်အား၊ အနတ္တသညာ-အနတ္တသညာသည်၊ သဏ္ဌာတိ-အလိုလို ထင်လာ၏။ အနတ္တသညီ-အနတ္တသညာ ထင်သော ပုဂ္ဂိုလ်သည်၊ အသ္မိမာနသမုဂ္ဃာတံ-ငါဟူသော မာန်မာန တရားကို ပယ်ခွာခြင်းသို့၊ ပါပုဏာတိ-ရောက်ရလေ၏။

ဒိဋ္ဌေဝ ဓမ္မေ-မျက်မှောက်ဘဝ၌ပင်၊ နိဗ္ဗာနံ-သဉပါဒိသေသ နိဗ္ဗာန်သို့လည်း၊ (ပါပုဏာတိ-ရောက်ရလေတော့၏။)

**မှတ်ချက်။** ။ ဤ ဒေသနာတော်ကို စူးစူးစိုက်စိုက် သတိပြုသင့်၏၊ ဝိပဿနာလုပ်ငန်း၌ အခြေခံ အနေဖြင့် အနိစ္စမြင်ဖို့ ပထမ အရေးကြီးသည်၊ အနိစ္စမြင်လို့ ရှိရင် အနတ္တ ထင်နိုင်၏၊ အနတ္တလို့ အမှန်သိလျှင် မာနတရားတွေ ကင်းပြတ်သည်၊ မာနတရားတွေ ကင်းပြတ်လျှင် နိဗ္ဗာန်ကို မျက်မှောက်ပြုရလေတော့၏။

ထို့ကြောင့် ဦးစွာ ပထမ အရှုခံတရားဖြစ်တဲ့ ရုပ်နှင့် နာမ်ကို ကွဲပြားအောင် လေ့လာပါ၊ ပြီးလျှင် အခြေခံဖြစ်တဲ့ အနိစ္စမြင်ဖို့ (ဖြစ်-ပျက်မြင်ဖို့) ကြိုးစားပါ-ဟူ၍သာ တိုက်တွန်းရပါသည်။

* အင်္ဂုတ္တိုရ်ပါဠိတော်၊နဝက၊၁၆၉

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# သူဟာ အရင်းခံ လက်သည်ပေါ့

မေး။ ။ဆရာတော် ဘုရား... တပည့်တော်မတို့ ဝိပဿနာတရားအလုပ်–အားထုတ်ကြပါတယ်၊ မသိတာလေးတွေ မေးပါရစေ ဘုရား...။

ဖြေ။ ။အေး... မေးတာပေါ့၊ မေးနိုင်ပါတယ်။

မေး။ ။ဒီလိုပါ ဘုရား... ခန္ဓာကိုယ်တစ်ခုလုံး ရုပ်နာမ် ဖြစ်ပျက်တွေ ဖြိုင်ဖြိုင် မြင်လာကြရင် ပုထုဇဉ် ဘဝကို မတွယ်တာကြတော့ဘူး၊ အရိယာနယ် ဘက်ကို ရုန်းထွက်လိမ့်မယ်–လို့ ဆရာတော်တို့ ဟောနေကြတာပဲ၊ အဲဒါ ဘယ်လိုလဲ ဘုရား၊ ဘာလို့ ရုန်းထွက်တာလဲ။

ဖြေ။ ။သြော်... "ပုထုဇဉ်တွေ"ဆိုတာ အဝိဇ္ဇာ တိမ်သလာ အဖုံးအကာတွေ ရှိနေကြတော့ အမှန်အတိုင်း မမြင်နိုင်ကြဘူးပေါ့၊ ဒီတော့ ဟိုဟာ လိုချင်–ဒီဟာ လိုချင်၊ ဟိုဟာ ရချင်–ဒီဟာ ရချင်နဲ့ လောဘ တဏှာတွေ အတော မသတ်နိုင်ဘူး ဖြစ်လာကြတော့တယ် (မှန်ပါဘုရား)

အဲဒီမှာ အဝိဇ္ဇာက မသိတတ်တဲ့ သဘော၊ တဏှာက လိုချင်တတ်တဲ့ သဘော၊ မသိတော့ လိုချင်တာပေါ့၊ ဘေးရန် အန္တရာယ်တွေ များမယ် ဆိုတာ မသိလို့–လိုချင်တာ (မှန်ပါ)

အဲဒီနည်းနဲ့ တစ်ဘဝလုံး လောဘတဏှာတွေက မဆုံးနိုင်ဘူး၊ တင်းတိမ်ပြီ၊ အားရပြီ၊ ကျေနပ်ပြီလို့ကို မရှိကြဘူး၊ အဲလိုနဲ့ လာခဲ့ကြတာ သေခါနီးရောက်တော့ ဟိုဘက်ဘဝကို လှမ်းပြီး လိုချင်ပြန်ရော–တဲ့။

မေး။ ။မှန်ပါဘုရား၊ ဒီလိုဆိုတော့လဲ လွန်တာပေါ့။

ဖြေ။ ။အေး... ဟုတ်တယ်၊ လွန်တာပေါ့၊ ဟိုဘက်ဘဝမှာလဲ ဆက်ပြီး ဖြစ်ချင်သေးတယ်ဆိုတော့ လွန်တာပေါ့။

ဘယ်လောက် ဆိုးသလဲ၊ အဲဒါပဲ ကြည့်ပေတော့ (မှန်ပါဘုရား) သူ–မဝနိုင်ဘူး၊ အမြဲတမ်း ဆာလောင် မွတ်သိပ်နေတယ် ဆိုတာပေါ်နေတယ်၊ (ပေါ်နေပါတယ် ဘုရား)

အဲဒါနဲ့ သူ့ဆန္ဒအရ နောက်တစ်ဘဝ ဖြစ်ပေါ်၍ ပေးရပြန်ရော...။

မေး။ ။မှန်ပါ၊ ဒီလိုဆိုတော့ နောက်တစ်ဘဝ ဖြစ်ပေါ်လာအောင် လုပ်တာ သူပေါ့။

ဖြေ။ ။ဟုတ်တယ်လေ၊ **သူပေါ့ (လောဘတဏှာပေါ့)** သူဟာ အရင်းခံ လက်သည်ပဲ၊ (မှန်ပါဘုရား) အဲဒီလိုနဲ့ ဒီဘဝ–ဒီခန္ဓာကြီး ရလာရပြန်တော့ ဒုက္ခတွင်းထဲ ပြန်ဆင်းရပြန်တာပေါ့ (မှန်ပါ) အဲလိုနဲ့ ဒုက္ခ အဆက်မပြတ်အောင် သူလုပ်နေတာ။

# ဆွဲငင်အားမှ လွတ်မြောက်သွားသလို

မေး။ ။မှန်ပါ၊ ဒီအတိုင်းဆိုရင် သူ ရှိနေသမျှ ဒုက္ခ ပေးနေဦးမှာပဲ။

ဖြေ။ ။ပေးနေဦးမှာပဲ၊ ဒါ့ကြောင့် သူ မလိုချင်အောင် လုပ်နေကြရတာ၊ အမှန်အတိုင်း မမြင်လို့ လိုချင်စရာတွေ ထင်ပြီး လောဘတဏှာက လိုချင်နေတာပေါ့၊ အမှန်အတိုင်း မြင်လာရင် ဘယ်... လိုချင်စရာ ရှိလိမ့်မလဲ။

အဲဒါကြောင့် အဝိဇ္ဇာ တိမ်သလာတွေကို ခွာ၊ ဝိဇ္ဇာ ဖြစ်လာတော့ အမှန်အတိုင်း မြင်လာမယ်၊ ဝိဇ္ဇာဆိုတဲ့ ဉာဏ်ပညာနဲ့ ကြည့်တော့

ရုပ်ဓမ္မ–နာမ်ဓမ္မတွေဟာ တစ်ခုမျှ မတည်ငြိမ်ဘဲ ပြောင်းလွဲ ဖြစ်ပျက်နေကြတာတွေကို တွေ့လာမယ် (မှန်ပါ)

"ဖြစ်–ပျက်"ဆိုတာ မွေးပြီး–သေတာတွေကို ပြောတာ၊ အခု မွေး–အခု သေတွေပဲ၊ ဒီအခါမှာ "လိုချင်စရာ–ရချင်စရာတွေ မဟုတ်ပါလား"လို့ သိလာမယ်။

ဒီတော့ လိုချင်တတ်တဲ့ လောဘတဏှာတွေလဲ လျော့–လျော့လာမယ်၊ နည်းပါး–နည်းပါးလာမယ်။

မေး။ ။မှန်ပါ၊ "ဖြစ်–ပျက်နေကြတာပဲ"ဆိုတဲ့ အရုပ်ဆိုး–အကြည်းတန်တာတွေ မြင်နေရလို့ အဲဒီအာရုံပေါ်မှာ စွဲလမ်းကပ်ငြိမှုတွေ လျော့လာတာကို ပြောတာလား ဘုရား။

ဖြေ။ ။ဟုတ်တယ်၊ အနိစ္စ–ဒုက္ခ–အနတ္တ၊ အို–နာ–သေ၊ ဖြစ်–ပျက်တွေကို မြင်ရဖန်များလာတော့ အဲဒီရုပ်နာမ်ပေါ်မှာ လောဘတဏှာက မတွယ်တာတော့ဘူး၊ မကပ်ငြိတော့ဘူး၊ မစွဲတော့ဘူး၊ လောဘတဏှာရဲ့ ဆွဲအားမှ လွတ်သွားတော့တယ်။

မေး။ ။မှန်ပါ၊ သဘောပေါက်လာပြီ ဘုရား၊ အခုခေတ်မှာ ဒုံးပျံတို့ဂြိုဟ်တုတို့နဲ့ ကောင်းကင်ကို တက်နေကြတယ်၊ အဲဒီအခါမှာ မြေပြင်မှ အထက်ပေ (၄၀၀၀၀) လေးသောင်းကျော်တက်မိရင် ကမ္ဘာမြေကြီးရဲ့ ဆွဲငင်အားမှ လွတ်မြောက်သွားတယ်–လို့ သိပ္ပံပညာရှင်တွေက ဆိုပါတယ်၊ အဲဒီလိုလား ဘုရား။

ဖြေ။ ။အေး... ဟုတ်တယ်–ဟုတ်တယ်၊ ဆရာမကြီးပြောသလို ဆွဲငင်အားမှ လွတ်မြောက်သွားတဲ့ သဘောမျိုး၊ အထက်ကို တက်တယ်လို့တော့ ပြောလို့ မရဘူးပေါ့၊ လွတ်သွားပုံချင်းတော့ တူတယ်။

လိုချင်စရာ–ရချင်စရာ–သာယာဖွယ်တွေကိုသာ လောဘ တဏှာက ဆွဲတာကိုး၊ သာယာဖွယ် မဟုတ်တာတွေကျတော့ မဆွဲတော့ဘူး၊ ဒီတော့ ဆွဲငင်အားမှ လွတ်သွားတော့တာပေါ့။

မေး။ ။မှန်ပါဘုရား၊ လွတ်သွားတာနဲ့ အရိယာဘက်ကို ဘာလို့ မျက်နှာမူရတာလဲ ဘုရား။

ဖြေ။ ။အေး... အတိုချုံးပြီး ဖြေရရင်တော့ ဒုက္ခသစ္စာနယ်ဘက်မှာ ဖြစ်ပျက် ပူလောင်မှုတွေကို ငြီးငွေ့လို့ပါပဲ၊ ငြီးငွေ့တော့ ဖြစ်ပျက်တွေ မရှိတဲ့ အေးငြိမ်းရာ နိရောဓသစ္စာဘက်–အရိယာနယ်ဘက်ကို မျက်နှာ လည်ထွက်သွားတဲ့သဘော၊ အဲဒါကို ကူးသွားတယ်၊ အရိယာနယ်ဘက်ကို ရုန်းထွက်သွားတယ်လို့ ပြောတာပါ (မှန်ပါဘုရား။)

**မှတ်ချက်။** ။ဤအကြောင်းအရာများကို ဆရာမကြီး ဒေါ်စိန်ကြည် (M.Sc) လက်ထောက် ကထိက၊ ရူပဗေဒဌာန၊ မကွေးတက္ကသိုလ်မှမေးမြန်း၍ ဖြေကြားခြင်းတို့မှ ကောက်နုတ် ဖော်ပြပါသည်။

## ကစ္စာနဂေါတ္တသုတ်၊ (သဿတနှင့် ဥစ္ဆေဒ တစ်ခုခု)

* သာဝတ္ထိမှာ မြတ်စွာဘုရား သီတင်းသုံးတော်မူစဉ်က ဖြစ်၏၊ ကစ္စာနအနွယ် ရှိတဲ့ ရဟန်းတစ်ပါးက ဘုရားထံ ချဉ်းကပ်ပြီး မေးလျှောက်သည်။

"သမ္မာဒိဋ္ဌိ–သမ္မာဒိဋ္ဌိနဲ့ အပြောများကြပါတယ် ဘုရား၊ ဘယ်လောက် အတိုင်းအတာရှိမှ "သမ္မာဒိဋ္ဌိ" ဖြစ်ပါသလဲ ဘုရား"

ထိုအခါ မြတ်စွာဘုရားက ဟောကြားတော်မူရသည်–

"ဒွယနိဿိတော ခွာယံ ကစ္စာန လောကော

* နိဒါနဝဂ္ဂသံယုတ်ပါဠိတော်၊၂၅၇

ယေဘုယျေန အတ္ထိတဉ္စေဝ နတ္ထိတဉ္စ”
ကစ္စာန–ကစ္စာနရဟန်း၊ အယံလောကော–ဤသတ္တလောကကြီးသည်၊ (ဝါ) ဤလူအပေါင်းသည်၊ ယေဘုယျေန–များသောအားဖြင့်၊ အတ္ထိတဉ္စေဝ–ရှိသည်၏ အဖြစ် လည်းကောင်း၊ (ဝါ) မပြတ်မစဲ “ခိုင်မြဲတည်ရှိ” သဿတဒိဋ္ဌိ လည်းကောင်း။

နတ္ထိတဉ္စ–မရှိသည်၏ အဖြစ် လည်းကောင်း၊ (ဝါ) မခိုင်မမြဲ ရပ်စဲ ပြတ်တောက် အဆက်အစပ် ပျောက်သော ဉစ္ဆေဒဒိဋ္ဌိ လည်းကောင်း၊ (ဤတိ–ဤသို့) ဒွယနိဿိတော–နှစ်မျိုး နှစ်အုပ်စု အပေါ်၌ တည်နေတတ်၏။ [အဖို့အစု (၂)ခုတွင် တစ်ခုခုအပေါ်၌ တည်နေတတ်၏–ဟူလို။]

## ဉစ္ဆေဒနှင့် သဿတ စင်ကြယ်ခြင်း အကြောင်းရင်း

လောကသမုဒယံ ခေါ ကစ္စာန ယထာဘူတံ
သမ္မပ္ပညာယ ပဿတော ယာ လောကေ နတ္ထိ
တာ၊ သာ နဟောတိ။

ကစ္စာန–ကစ္စာန ရဟန်း၊ လောကသမုဒယံ–ရုပ်နာမ်လောက၏ ဖြစ်ပေါ်လာမှုကို၊ ယထာဘူတံ–ဟုတ်တိုင်းမှန်စွာ၊ သမ္မပ္ပညာယ–မှန်ကန်သော ဝိပဿနာ မဂ်ပညာဖြင့်၊ ပဿတော–မြင်သောသူအား၊ လောကေ–သြကာသလောကအတွင်း၌၊ ယာ နတ္ထိတာ–အကြင် မရှိသည်၏ အဖြစ်သည် (ဝါ) မခိုင်မမြဲ ရပ်စဲ ပြတ်တောက် အဆက်အစပ် ပျောက်သော ဉစ္ဆေဒဒိဋ္ဌိအယူသည်၊ (အတ္ထိ–ရှိ၏) သာ–ထိုဉစ္ဆေဒဒိဋ္ဌိအယူသည်၊ န ဟောတိ–မဖြစ်တော့။

[ဖြစ်ပေါ်လာမှုကို မြင်ရ၍ ဉစ္ဆေဒဒိဋ္ဌိ စင်ကြယ်သွားရခြင်း ဖြစ်၏၊ အတိုကောက်အားဖြင့် မှတ်ရလျှင် (ဖြစ်–ဖြစ်လာတာ မြင်–ဉစ္ဆေဒဒိဋ္ဌိစင်)။]

လောကနိရောဓံ ခေါ ကစ္စာန ယထာဘူတံ
သမ္မပ္ပညာယ ပဿတော ယာ လောကေ
အတ္ထိတာ၊ သာ နဟောတိ။

ကစ္စာန–ကစ္စာနရဟန်း၊ လောကနိရောဓံ–ရုပ်နာမ်လောက၏ ချုပ်ပျောက်သွားမှုကို၊ ယထာဘူတံ–ဟုတ်တိုင်းမှန်စွာ၊ သမ္မပ္ပညာယ–မှန်ကန်သော ဝိပဿနာ မဂ်ပညာဖြင့်၊ ပဿတော–မြင်သောသူအား၊ လောကေ–သြကာသလောကအတွင်း၌၊ ယာ အတ္ထိတာ–အကြင် ရှိသည်၏ အဖြစ်သည်၊ (ဝါ) မပြတ်မစဲ ခိုင်မြဲတည်ရှိ သဿတ ဒိဋ္ဌိ အယူသည်၊ (အတ္ထိ–ရှိ၏) သာ–ထို သဿတ ဒိဋ္ဌိ အယူသည်၊ န ဟောတိ–မဖြစ်တော့။

[အပျက်ကို မြင်ရ၍ သဿတဒိဋ္ဌိ စင်ကြယ်သွားရခြင်း ဖြစ်၏၊ အတိုကောက်အားဖြင့် (ပျက်ပျက်ကုန်တာ မြင်–သဿတဒိဋ္ဌိစင်)။]

## ဖြစ်စရာရှိလဲ ဒုက္ခ–ပျက်စရာရှိလဲ ဒုက္ခပဲ

ကစ္စာနရဟန်း... ဤသတ္တလောကကြီး တစ်ခုလုံး (သက်ရှိတွေ အားလုံး) များသောအားဖြင့် ဉပယ–ဉပါဒါန–အဘိနိဝေသလို့ ခေါ်တဲ့ တဏှာ–ဒိဋ္ဌိတို့ဖြင့် နှောင်ဖွဲ့ခြင်း ခံနေကြရ၏။

အရိယာသာဝကတို့သည်သာ တဏှာ–ဒိဋ္ဌိတို့ဖြင့် နှောင်ဖွဲ့ခြင်း မခံကြရပေ၊ မခံကြရ၍လည်း အမှန်အတိုင်း မြင်ကြရသည်၊ အဘယ်သို့ မြင်ကြသနည်း–

"ဒုက္ခမေဝ ဥပ္ပဇ္ဇမာနံ ဥပ္ပဇ္ဇတိ၊
ဒုက္ခံ နိရုဇ္ဈမာနံ နိရုဇ္ဈတီ"တိ
န ကင်္ခတိ န ဝိစိကိစ္ဆတိ။

ဥပ္ပဇ္ဇမာနံ-ဖြစ်ပေါ်လာသည် ရှိသော် (ဝါ) ဖြစ်ပေါ်မယ် ဆိုလို့ရှိရင် (ဝါ) ဖြစ်ခြင်း ဖြစ်ရင်၊ ဒုက္ခမေဝ-ဖြစ်ပျက် ဒုက္ခသစ္စာတရားသည်သာလျှင်၊ ဥပ္ပဇ္ဇတိ-ဖြစ်ပေါ်၏၊ (ဝါ) ဖြစ်ပေါ်စရာ ရှိ၏။

နိရုဇ္ဈမာနံ-ချုပ်ပျောက်သွားသည် ရှိသော်၊ (ဝါ) ချုပ်ပျောက်သောအခါတွင်လည်း၊ ဒုက္ခံဝေ-ဖြစ်ပျက် ဒုက္ခသစ္စာတရားသည်သာလျှင်၊ နိရုဇ္ဈတိ-ချုပ်ပျောက်သွား၏၊ (ဝါ) ချုပ်ပျောက်စရာ ရှိ၏၊ ဣတိ-ဤသို့ သိလာ၍၊ နကင်္ခတိ မယုံမှားတော့၊ န ဝိစိကိစ္ဆတိ-သို့လော သို့လော မဖြစ်တော့။

အပရပစ္စယာ ဉာဏမေဝဿ ဧတ္ထ ဟောတိ၊ ဧတ္တာဝတာ ခေါ ကစ္စာန သမ္မာဒိဋ္ဌိ ဟောတိ။

အပရပစ္စယာ-သူတစ်ပါးထံမှ ယုံကြည်မှု မဟုတ်သဖြင့် (ဝါ) ကိုယ်တိုင်တွေ့-ကိုယ်တိုင်သိ ဖြစ်သောကြောင့်၊ ဧတ္ထ-ဤတရားကိစ္စ၌၊ အဿ-ထိုပုဂ္ဂိုလ်၏၊ ဉာဏမေဝ-ကိုယ်ပိုင်ဉာဏ်သည်သာလျှင်၊ ဟောတိ-ဖြစ်တော့၏။

ကစ္စာန-ကစ္စာနရဟန်း၊ ဧတ္တာဝတာ-ပုဂ္ဂိုလ်သတ္တဝါဟု ယူဆသော အယူကို ဖယ်ရှားနိုင်သော ဤအတိုင်းအရှည်မျှဖြင့်၊ သမ္မာဒိဋ္ဌိ-သမ္မာဒိဋ္ဌိသည်၊ (ဝါ) မှန်မှန်ကန်ကန် မြင်သော အမြင်သည်၊ ဟောတိ-ဖြစ်တော့၏။

## အစွန်းနှစ်ခုကြားက သွားတော်မူခြင်း

ဤတရားနှင့် ပတ်သက်၍ ဆက်လက် ဟောတော်မူသေး၏၊ မြတ်စွာဘုရားကမူကား အများကဲ့သို့ ဝဲဘက်-ယာဘက် တစ်ဘက်ဘက်တွင် နေသည် မဟုတ်၊ မှန်ကန်သော အလယ်လမ်းမပေါ်တွင်သာ ရပ်တည်တော်မူ၏၊ မဇ္ဈိမာပဋိပဒါကျကျ ကျင့်သုံး၍ လျှောက်လှမ်းတော်မူသည်၊ ဟောတော်မူသည်၊ မည်သို့နည်း-

"သဗ္ဗံ အတ္ထီ"တိ ခေါ ကစ္စာန
အယမေကော အန္တော၊ "သဗ္ဗံ နတ္ထီ"တိ
အယံ ဒုတိယော အန္တော။
ဧတေ တေ ကစ္စာန ဥဘော အန္တေ
အနုပဂမ္မ၊ မဇ္ဈေန တထာဂတော ဓမ္မံ ဒေသေတိ-"အဝိဇ္ဇာပစ္စယာ သင်္ခါရာ။ပေ။နိရောဓော ဟောတီ"တိ။

ကစ္စာန-ကစ္စာနရဟန်း၊ သဗ္ဗံ-အလုံးစုံ အကုန်အစင် အစုံအလင် အမြဲတမ်း၊ အတ္ထိ-ရှိနေ၏၊ ဣတိ အယံ-ဤကဲ့သို့သော အယူသည်၊ ဧကော-တစ်ခုသော၊ အန္တော-သဿတဒိဋ္ဌိအစွန်းတည်း။

သဗ္ဗံ-အလုံးစုံ အကုန်အစင် အစုံအလင် အမြဲတမ်း၊ နတ္ထိ-ရှိမနေပါ၊ ဣတိအယံ-ဤကဲ့သို့သော အယူသည်၊ ဒုတိယော-နှစ်ခုမြောက်သော၊ အန္တော-ဥစ္ဆေဒဒိဋ္ဌိ အစွန်းတည်း။

ကစ္စာန-ကစ္စာနရဟန်း၊ ဥဘော-နှစ်ခုကုန်သော၊ ဧတေ တေ အန္တေ-ဤအစွန်းတို့သို့၊ အနုပဂမ္မ-မကပ်ရောက်မူ၍၊ မဇ္ဈေန-အလယ်လမ်းစဉ်ဖြင့်၊ (ဝါ) မဇ္ဈိမာ ပဋိပဒါ မဂ္ဂင် အလယ်လမ်းစဉ်ဖြင့်၊ တထာဂတော- မြတ်စွာဘုရားသည်၊ ဓမ္မံ- တရားတော်ကို၊ ဒေသေတိ- ဟောတော်မူ၏။

(ကိံ-အဘယ်သို့ ဟောတော်မူသနည်း၊)

"အဝိဇ္ဇာပစ္စယာ သင်္ခါရာ။ပေ။နိရောဓော ဟောတီ"တိ-ဟူ၍ (ဒေသေတိ-ဟောတော်မူ၏။)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သာတိရဟန်း (သဿတဒိဋ္ဌိ စွဲငြိနေ)

* မြတ်စွာဘုရားက သာဝတ္ထိ ဇေတဝန်မှာ သီတင်းသုံးတော်မူခိုက်၊ တံငါသည်၏သားသာတိရဟန်းမှ မိစ္ဆာဒိဋ္ဌိအယူတစ်ခု စွဲဝင်နေခဲ့သည်၊ ယင်းအယူမှာ–

"သတ္တဝါများသေလျှင် ဝိညာဏ်ကောင်– အသက်ကောင်ကလေးက တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်း–ကူးပြောင်း၍ ဝင်သည်၊ (ခိုင်မြဲနေသည်)" ဟူသော သဿတဒိဋ္ဌိ အယူဖြစ်၏။

ဤသို့ ယူမိခြင်း အကြောင်းရင်း မှာလည်း မြတ်စွာဘုရား ဟောကြားသော "ငါးရာ့ငါးဆယ်" ဇာတ်တော်များကို နာကြားရ၍ဖြစ်သည်၊ ထိုဇာတ်တော်များ၌ ဇာတ်ပေါင်းပြီဆိုလျှင်–

"ဟို ... တုန်းက ဝေဿန္တရာ မင်းကြီးသည် ယခု အခါ ငါဘုရား ဖြစ်လာ၏၊ ဟို ...တုန်းက သုဝဏ္ဏသာမသည် ယခုအခါ ငါဘုရား ဖြစ်လာ၏၊ ဟို ... တုန်းက ဆဒ္ဒန်ဆင်မင်းကြီးသည် ယခုအခါ ငါဘုရား ဖြစ်လာ၏"

ဤကဲ့သို့သော အဟောအပြောမျိုးကို ကြားနာရ၍ ဖြစ်သည်၊ ထိုအခါဝေဿန္တရာဘဝ၊ သုဝဏ္ဏသာမဘဝ၊ ဆဒ္ဒန်ဆင်မင်း ဘဝတို့၌ ခိုအောင်းခဲ့သော အသက်ကောင်– လိပ်ပြာကောင်– ဝိညာဏ်ကောင်ကလေးတို့သည်ပင် တစ်ဘဝမှ တစ်ဘဝသို့ ပြောင်းလာ–ပြောင်းလာပြီးလျှင် နောက်ဆုံး၌ ဘုရား ခန္ဓာကိုယ်သို့ ရောက်လာ၏၊ ဤသို့ သဘောပေါက်၍ စွဲယူလာခဲ့ခြင်း ဖြစ်သည်။

အနီးအနားမှ ရဟန်းတွေက သိကြ၍ သာတိရဟန်းထံ လာပြီး ပြောကြသည်– "ငါ့ရှင် ... သည်အယူမျိုး မယူပါနဲ့၊ ဘုရားကလဲ သည်လို မဟောပါ၊ မြတ်စွာဘုရားက ဟောတာဖြင့် ဝိညာဏ်ဟာ ပဋိစ္စသမုပ္ပန္နတရား၊ အကြောင်းကြောင့် ဖြစ်တဲ့ အကျိုးတရားပဲ၊ အကြောင်း တရားကင်း၍ ဖြစ်သော ဝိညာဏ်မရှိ" ဟူ၍သာ ဟောတော်မူပါသည်။

ဤသို့ ဝိုင်း၍ ပြောကြသော်လည်း မရ၊ သို့ဖြစ်၍ ဘုရားထံသွားပြီး လျှောက်ကြသည်၊ ဘုရားက အခေါ်ခိုင်း၍ စစ်ဆေးမေးမြန်းတော်မူ၏၊ ယူစွဲနေသည့်အတိုင်း ဝန်ခံရှာသည်၊ ဘုရားက အပြစ်တင်တော်မူ၏၊ ထို့နောက် သဿတဒိဋ္ဌိအစွဲကျွတ်အောင် ဆက်လက် တရား ဟောတော်မူရသည်။

## ယမကရဟန်း (ဥစ္ဆေဒဒိဋ္ဌိ အယူစွဲနေ)

** အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီး သာဝတ္ထိမှာ သီတင်းသုံးတော်မူခိုက် ဖြစ်သည်၊ ထိုအချိန်တွင် ယမကရဟန်းမှာ "ရုပ်စဲ ပြတ်တောက်သွားသည်" ဟု ယူဆသော ဥစ္ဆေဒဒိဋ္ဌိအယူ စွဲဝင်နေ၏။

"ခီဏာသဝေါ ဘိက္ခု ကာယဿ
ဘေဒါ ဥစ္ဆိဇ္ဇတိ ဝိနဿတိ၊
န ဟောတိ ပရံ မရဏာ"

"ရဟန္တာသေလျှင် ပြတ်စဲသွားသည်၊ နောက်ထပ် ပြန်၍ မဖြစ်တော့..."

ဤသို့သော ဒိဋ္ဌိ အယူစွဲ ဝင်နေပြီးလျှင် ဤသို့သော အပြောမျိုးကို ပြောနေတော့သည်၊ ဘေးပတ်ဝန်းကျင် သီတင်းသုံးဖော်ရဟန်းတွေ သိကြ၍ ဝိုင်းအုံ ရောက်လာ မေးမြန်းကြတော့၏–

"အရှင်ဘုရား... ဒီလို ယူစွဲ ခံယူနေတယ်လို့

* မူလပဏ္ဏာသပါဠိတော်၊ မဟာတဏှာသင်္ခယသုတ်၊ ၃၂၃

** ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်၊၈၉

ကြားပါတယ်၊ ဟုတ်ပါသလား…”

“ဟုတ်ပါတယ်၊ ဒီအတိုင်းပဲ သဘောပေါက် ခံယူထားပါတယ်…”

“ဟာ… အရှင်ဘုရား၊ မဟုတ်ပါဘူး၊ ဒီလို မပြောပ်နဲ့၊ ဘုရားကို မစွပ်စွဲပါနဲ့၊ ဘုရားကို စွပ်စွဲတာ မကောင်းပါဘူး၊ ဘုရားကလဲ အရှင် ဘုရား ပြောသလို “ရဟန္တာသေလျှင် ပြတ်စဲသွားသည်”လို့ မဟောပါဘူး”

ဤသို့ ဝိုင်း၍ ပြောကြသော်လည်း မရပေ၊ ထိုအခါ ရဟန်းတွေက အရှင် သာရိပုတ္တရာထံ ချဉ်းကပ်၍ အကျိုးအကြောင်း လျှောက်ထားကြတော့၏– “အရှင်ဘုရား… ယမကထံ ကြွ၍ ဆုံးမပါဦး…”

## အရှင်သာရိပုတ္တရာ၏ စစ်မေးခန်း

အရှင်သာရိပုတ္တရာသည် ယမကရဟန်းထံ ကြွလာ၍ ဟုတ်–မဟုတ် မေးသောအခါ “ဟုတ်ပါသည်” ဟု ဝန်ခံ၏၊ ထိုအခါ အရှင်သာရိပုတ္တရာက မေးရတော့သည်–

၁။ “ငါ့ရှင် ယမက… ရုပ်ဟာ မြဲသလား၊ မမြဲဘူးလား”

“မမြဲပါ ဘုရား…”

“ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏတို့ရော မြဲသလား၊ မမြဲဘူးလား”

“မမြဲကြပါ ဘုရား…”

[ဤသို့လျှင် တစ်ခုချင်း စစ်မေး၍ တိပရိဝဋ္ဋဒေသနာ အဆုံးမှာပင် ယမကရဟန်း သောတာပန် ဖြစ်သွား၏– ဟု အဋ္ဌကထာ၌ ဆိုသည်။]

၂။ “ငါ့ရှင် ယမက… ရုပ်ကို သတ္တဝါ–လို့ စွဲနေသေးသလား”

“မစွဲတော့ပ် ဘုရား” [တထာဂတောတိ သတ္တော။]

“ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏတို့ကိုရော သတ္တဝါ–လို့ စွဲနေသေးသလား”

“မစွဲတော့ပ် ဘုရား”

၃။ “ငါ့ရှင် ယမက… ရုပ်၌ သတ္တဝါ–လို့ စွဲနေသေးသလား”

“မစွဲတော့ပါ ဘုရား”

“ရုပ်မှတစ်ပါးကော သတ္တဝါ–လို့ စွဲစရာ ရှိသေးသလား”

“မရှိတော့ပါဘုရား”

“ဝေဒနာ၌၊ ဝေဒနာမှ တစ်ပါး။ သညာ၌၊ သညာမှ တစ်ပါး။ သင်္ခါရတို့၌၊ သင်္ခါရတို့မှ တစ်ပါး။ ဝိညာဏ၌၊ ဝိညာဏမှ တစ်ပါးကော သတ္တဝါ–လို့ စွဲစရာ ရှိသေးသလား”

“မရှိတော့ပါ ဘုရား”

၄။ “ငါ့ရှင် ယမက… ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ၊ ဤငါးပါး အပေါင်းကို သတ္တဝါ–လို့ စွဲနေသေးသလား”

“မစွဲတော့ပါဘုရား”

၅။ “ငါ့ရှင် ယမက… ရုပ် မရှိသော၊ ဝေဒနာ မရှိသော၊ သညာ မရှိသော၊ သင်္ခါရတို့ မရှိသော၊ စိတ် မရှိသော သူကို “သတ္တဝါ”လို့ စွဲနေသေးသလား”

“မစွဲတော့ပါ ဘုရား”

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဉာဏ်အလင်းရောင် ပေးလိုက်သောအခါ

"ငါ့ရှင် ယမက… ယခု မျက်မှောက်မှာပင် အဟုတ်အမှန်အားဖြင့် "သတ္တဝါ"ဟူ၍ ခေါ်ဆိုခြင်းငှာ မရထိုက်သော ဤအရာ၌ "ရဟန္တာ သေလျှင် ပြတ်သည်" ဟူသော အပြောအဆိုမျိုး ပြောဆိုခြင်းငှာ သင့်ပါမည်လော"

"မှန်ပါ- မသင့်ပါ ဘုရား" "ရှေ့ပိုင်းတုန်းကတော့ တပည့်တော်ရဲ့ ဉာဏ်ပညာက နုံ့တဲ့အတွက် ဒီအယူတွေ စွဲခဲ့ပါတယ် ဘုရား၊ ယခုတော့ အရှင်ဘုရား၏ တရားတွေကို နာရလို့ ဒိဋ္ဌိစွဲတွေလဲ ပျောက်ပါပြီ၊ တရားထူးကိုလဲ သိရပါပြီ ဘုရား"

မှတ်ချက်။ ။ ယောကျ်ား-မိန်းမ၊ ပုဂ္ဂိုလ်-သတ္တဝါ၊ သူ-ငါ၊ သောတာပန်-သကဒါဂါမ်-အနာဂါမ်-ရဟန္တာ စသော အမည်တို့သည် "ပညတ်"တို့သာလျှင် ဖြစ်ကြကုန်၏၊ ပရမတ္ထအားဖြင့် တကယ် အစစ်အမှန် ရှိသော အရာများ မဟုတ်ကြပေ၊ ပရမတ္ထအားဖြင့် တကယ် အစစ်အမှန် ရှိသော အရာတို့မှာ ရုပ်နှင့် နာမ်တို့သာ ဖြစ်ကြကုန်၏။

လူတို့သည် အများအားဖြင့် ပညတ်မှ မခွာနိုင်ဘဲ ဖြစ်နေကြရသည်၊ ပညတ်အစေးအတွဲတို့ဖြင့် လုံးထွေးရစ်ပတ်နေသလို ဖြစ်ကြ၏၊ ထို့ကြောင့်လည်း ပညတ်သိ-သိ၊ ပညတ်ပြော-ပြော၊ ပညတ်စွဲ-စွဲနေကြရသည်၊ သို့ဖြစ်၍ ယမကရဟန်းကလည်း ပညတ်ပြောအနေဖြင့် "ရဟန္တာ သေလျှင် ပြတ်စဲသွားသည်"ဟု ပြောခြင်းဖြစ်၏၊ ပညတ်-ပရမတ် မကွဲသေး။

အမှန်မှာ "ရုပ်နာမ်တွေ ချုပ်ငြိမ်းသွားကြသည်" ဟူ၍သာ ပြောရမည် ဖြစ်၏၊ ထို့ကြောင့် အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးက ခန္ဓာ ငါးပါးစဉ်တန်းထားပြီးလျှင် တစ်ခုချင်း စစ်ဆေး မေးမြန်းနေခြင်း ဖြစ်တော့သည်။

ယခုအခါတွင်ကား ယမကရဟန်းသည် ကောင်းစွာ သဘောပေါက်သွား၏၊ "ရုပ်နာမ်မျှသာ ရှိပါသည် တကား"တစ်စုံတစ်ယောက်ကများ "ရဟန္တာသေပြီးလျှင် ဘာဖြစ်သေးသလဲ"ဟု လာ၍ မေးလျှင် "ရုပ်နာမ် ၂-ပါး၊ ခန္ဓာ ၅-ပါး အနိစ္စ-ဒုက္ခ ဖြစ်၍ ချုပ်ပျောက်သွားခြင်းမျှသာ ဖြစ်သည်"ဟု ဖြေမည်"တဲ့၊ ဤသို့ ကွဲကွဲပြားပြား သိသွားသည်၊ သိပြီးလျှင် ယင်းရုပ်နာမ်တို့သည်လည်း "ဖြစ်ပျက် ဒုက္ခသစ္စာမျှသာပါတကား"ဟု နားလည်သွား၍ တရားထူး သိမြင်သွားလေသည်။

## အနုရာဓရဟန်း (ပညတ်-ပရမတ် မကွဲဘဲ ဖြစ်နေ)

* မြတ်စွာဘုရားက ဝေသာလီပြည်၊ မဟာ ဝုန်တော၊ စုလစ်မွန်းချွန် အထွတ် တပ်သော ကျောင်းတော်ကြီး၌ သီတင်းသုံးတော်မူခိုက် ဖြစ်သည်။

အနုရာဓ ရဟန်းကလည်း မြတ်စွာဘုရား၏ ကျောင်းတိုက်ကြီးနှင့် မနီးမဝေးတွင် သစ်ရွက်မိုးကျောင်းကလေး၌ နေထိုင်၏၊ တစ်နေ့တွင် တိတ္ထိပုဂ္ဂိုလ်ကြီးများ ရောက်လာ မေးမြန်းတော့သည်။ [မြတ်စွာဘုရားကိုတော့ သူတို့ တိုက်ရိုက် မမေးဝံ့ကြ။]

"ငါ့ရှင် အနုရာဓ… သင်တို့ရဲ့ ဆရာဟာ ပုဂ္ဂိုလ်ထူး-ပုဂ္ဂိုလ်မြတ်၊ ပုဂ္ဂိုလ်မွန်-ပုဂ္ဂိုလ်ချွန်ကြီးပါပဲ၊ အဲဒီပုဂ္ဂိုလ်ကြီးက ဘယ်လို အမိန့်ရှိပါသလဲ…"

၁။ ဟောတိ တထာဂတော ပရံမရဏာ။
၂။ န ဟောတိ တထာဂတော ပရံ မရဏာ။
၃။ ဟောတိစ နစ ဟောတိ တထာဂတော ပရံ မရဏာ။

* ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်၊၉၄

၄။ နေဝ ဟောတိ န နဟောတိ တထာဂတော ပရံ မရဏာ။

၁။ သတ္တဝါ သေပြီးရင် ဖြစ်သေးသလား။

၂။ သတ္တဝါ သေပြီးရင် မဖြစ်တော့ဘူးလား။

၃။ သတ္တဝါ သေပြီးရင် ဖြစ်တာ တချို့-မဖြစ်တာ တချို့လား။

၄။ သတ္တဝါ သေပြီးရင် ဖြစ်သည်လည်း မဟုတ်-မဖြစ်သည်လည်း မဟုတ်လား။

[တထာဂတောတိ သတ္တော-ဟု အဋ္ဌကထာ ဖွင့်သည်။]

## အလကား-ဆန်ပေါလို့ ကြီးနေတာ

ထိုသို့ ဝိုင်း၍ မေးကြသောအခါ အနုရာဓရဟန်းက ဘာမျှ ထူးထူးထွေထွေ မဖြေဆိုနိုင်၊ အနည်းငယ်မျှသာ ပြန်၍-

"မြတ်စွာဘုရားက ဒီလိုတော့ မဟောပါဘူး၊ အဲဒီလေးမျိုးမှတစ်ပါး တခြားသော နည်းဖြင့်သာ ဟောတော်မူပါတယ်"

ဤမျှသာ ပြောဆိုနိုင်၏၊ ထိုအခါ တိတ္ထိတို့က မကျေနပ်ကြ၊ လိုအပ်သည့် အဖြေကို မရသဖြင့် ဘုကျကျပင် ပြောဆိုသွားသေး၏။

"ဒီပုဂ္ဂိုလ်ဟာ ရဟန်းပြုတာ မကြာသေး၍ ရဟန်းကလေးရင်လဲ ဖြစ်ရမယ်၊ ဒါမှ မဟုတ်-ရဟန်းပြုတာ ကြာပြီဆိုရင်လဲ ထုံထိုင်း ဖျင်းအ-လူ့ဗာလကြီး လူမိုက်ကြီးရင်လဲ ဖြစ် ရမယ်၊ အလကား-ဆန်ပေါလို့ ကြီးနေတာ ပါ..."

ဤသို့ ပြောဆို၍ သွားကြလေ၏၊ ထို့နောက် အနုရာဓရဟန်းက စဉ်းစားမိပါသတတ်၊ "အင်း... ဒီ့ထက်ပိုပြီး မေးကြလျှင် ငါ ဘယ်လိုလုပ်ဖြေရမလဲ..." ဤသို့ စဉ်းစားကာ ဘုရားထံသို့ ပြေးလာသည်၊ ဖြစ်ကြောင်း ကုန်စင် လျှောက်ထား၏၊ ထိုအခါ မြတ်စွာဘုရားက-

## တိပရိဝဋ္ဋဓမ္မဒေသနာဖြင့် စစ်မေး

၁။ **အနုရာဓ ...ဘယ်လို သဘောပေါက်၍ သိထားသလဲ၊**

"ရုပ်ဟာ မြဲသလား၊ မမြဲဘူးလား"

"မမြဲပါ ဘုရား"

"အဲဒီ မမြဲတဲ့ ရုပ်ဟာ ချမ်းသာလား၊ ဆင်းရဲလား"

"ဆင်းရဲပါ ဘုရား"

"မြဲလဲ မမြဲ၊ ဆင်းလဲ ဆင်းရဲတဲ့ ရုပ်ဟာ ဖောက်ပြန်တတ်တဲ့သဘောရှိ၏၊ အဲဒါကို-

"**ဧတံ မမ** = ဒါ ငါ့ဥစ္စာ"

"**ဧသောဟ မသ္မိ** = ဒါ ငါကွ"

"**ဧသော မေ အတ္တာ** = ဒါ ငါပိုင်"

ဟူ၍ တဏှာ - မာန - ဒိဋ္ဌိဖြင့်ရှုနေလို့ (စွဲနေလို့) သင့်ပါမည်လား"

"မသင့်ပါဘုရား"

"ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏတို့ရော မြဲသလား၊ မမြဲဘူးလား၊"

"မမြဲကြပါဘုရား"

"အဲဒီ မမြဲတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏတို့ဟာ ချမ်းသာလား၊ဆင်းရဲလား၊"

"ဆင်းရဲပါဘုရား"

"မြဲလဲမမြဲ၊ ဆင်းလဲ ဆင်းရဲတဲ့ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏတို့ဟာ ဖေါက်ပြန်တတ်တဲ့သဘောရှိကြ၏၊ အဲဒါကို -

"ဧတံ မမ = ဒါ ငါ့ဥစ္စာ"

"ဧသောဟ မသ္မိ = ဒါ ငါကွ"

"ဧသော မေ အတ္တာ = ဒါ ငါပိုင်"

ဟူ၍တဏှာ–မာန–ဒိဋ္ဌိတို့ဖြင့် ရှုနေလို့ (စွဲနေလို့)

သင့်ပါမည်လား"

"မသင့်ပါ ဘုရား"

[ဒေသနာအဆုံးမှာပင် အနုရာဓ ရဟန်းသောတာပန်ဖြစ်။]

၂။ "အနုရာဓ ... ရုပ်ကို သတ္တဝါ -လို့စွဲနေသေးသလား"

"မစွဲတော့ပါ ဘုရား"

"ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏတို့ကိုရော သတ္တဝါ–လို့ စွဲနေသေးသလား"

"မစွဲတော့ပါ ဘုရား"

၃။ "အနုရာဓ ...ရုပ်၌ သတ္တဝါ–လို့ စွဲနေသေးသလား"

"မစွဲတော့ပါ ဘုရား"

"ရုပ်မှတစ်ပါးကော သတ္တဝါ–လို့စွဲစရာရှိသေး သလား"

"မရှိတော့ပါဘုရား"

"ဝေဒနာ၌၊ ဝေဒနာမှတစ်ပါး။ သညာ၌၊ သညာမှတစ်ပါး။ သင်္ခါရတို့၌၊ သင်္ခါရတို့မှတစ်ပါး။ ဝိညာဏ၌၊ ဝိညာဏမှ တစ်ပါးကော သတ္တဝါ– လို့ စွဲစရာ ရှိသေးသလား"

"မရှိတော့ပါ ဘုရား"

၄။ အနုရာဓ ...ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ၊ ဤငါးပါးအပေါင်းကို သတ္တဝါ– လို့ စွဲနေသေးသလား"

"မစွဲပါ ဘုရား"

၅။ အနုရာဓ ... ရုပ်မရှိသော၊ ဝေဒနာမရှိသော၊ သညာမရှိသော၊ သင်္ခါရတို့ မရှိသော၊ စိတ်မရှိ သောသူကို "သတ္တဝါ"လို့ စွဲနေသေးသလား"

"မစွဲတော့ပါဘုရား"

## ဉာဏ်ကို ဖွင့်ပေးလိုက်သောအခါ

အနုရာဓ... ယခု မျက်မှောက်မှာပင် အဟုတ်အမှန်အားဖြင့် "သတ္တဝါ" ဟူ၍ ခေါ်ဆိုခြင်းငှာ မရထိုက်သော ဤအရာ၌ "သတ္တဝါ သေပြီးရင် ဖြစ်သေးသလား" စသော အမေး (၄)ချက်ကို ဖြေဆိုခြင်းငှာ သင့်ပါမည်လော"

"မသင့်ပါ ဘုရား..."

"သာဓု သာဓု အနုရာဓ=ကောင်းပေစွ၊ ကောင်းပေစွ... အနုရာဓ..."။

"အနုရာဓ... ငါဘုရားသည် ရှေးတုန်းကရော၊ ယခုရော ဒုက္ခသစ္စာတရားကိုသာ ဟောတော်မူ၏၊ ဒုက္ခသစ္စာ၏ ချုပ်ရာ နိရောဓသစ္စာကိုလည်း ဟောတော်မူ၏"။

"ဒုက္ခဖြစ်၍–ဒုက္ခပျက်တာကိုပဲ ဟောတော်မူ၏–ဟု ဆိုလိုသည်၊ တစ်ပါး–တခြားသော ပုဂ္ဂိုလ်–သတ္တဝါ–သူ–ငါ–ယောကျ်ား–မိန်းမ စသည် ရှိတယ်လို့ မဟော"–ဟု ဆိုလိုသည်။

## အရှင် အနုရုဒ္ဓါ၏ အခက်အခဲ

ဘုရားရှင် ကိုယ်တော်မြတ်ကြီး နေပြည်တော်သို့ ကြွလာခိုက် အများအပြား ရဟန်းပြုကြ၏၊ အနုရုဒ္ဓါမင်းသားလည်း ပါဝင်သည်၊ အရှင် အနုရုဒ္ဓါ ဖြစ်လာ၏၊ ရဟန်းပြုကြပြီးနောက် တရားအားထုတ်ကြရာ အရှင်အနုရုဒ္ဓါက ပထမဝါတွင်းမှာပင် သမာပတ်တွေ ရှ်သည်။

အရှင်ဘုရား... တပည့်တော်ဟာ လောကဓာတ်တစ်ထောင်ကို ဒိဗ္ဗစက္ခုဉာဏ်ဖြင့် မြင်နိုင်စွမ်း ရှိပါသည် ဘုရား။

၂။ (က) လုံ့လဝီရိယလဲ မလျော့ပါ၊
(ခ) သတိလဲ မြဲပါသည်၊
(ဂ) ကိုယ်ခန္ဓာလဲ ငြိမ်းအေးပါသည်၊
(ဃ) သမာဓိလဲ တည်ပါသည်။

၃။ သို့ပါလျက် ဘယ့်နှာကြောင့် တပည့်တော်ဟာ အာသဝေါတို့မှ ကင်းကွာ၍ ရဟန္တာ မဖြစ်ဘဲ တန့်ခံနေရပါသလဲ ဘုရား။

သဟဿ လောကဓာတု ဒဿနသမတ္ထံ ဒိဗ္ဗစက္ခုဉာဏံ ဥပ္ပါဒေသိ=လောကဓာတ် တစ်ထောင်ကို မြင်နိုင်စွမ်း ရှိသော ဒိဗ္ဗစက္ခုဉာဏ်ကို ရရှိလေသည်။

သို့သော်- ရဟန္တာအထိကား မတက်နိုင်ဘဲ ဖြစ်နေ၏၊ တန့်ခံနေသည်၊ ဤသည်တွင် အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးထံ ချဉ်းကပ်၍ အခက်အခဲကို တင်ပြ လျှောက်ထားနေသည်။

* ၁။ ဣဓာဟံ အာဝုသော သာရိပုတ္တ ဒိဗ္ဗေန စက္ခုနာ ဝိသုဒ္ဓေန အတိက္ကန္တမာနုသကေန သဟဿလောကံ ဩလောကေမိ။

## အရှင်သာရိပုတ္တရာ၏ ညွှန်ကြားချက်

ကုက္ကုစ္စ (နောင်တ)တွေပေါ့။

"ငါ့ရှင်အနုရုဒ္ဓါ... သတိပေး တိုက်တွန်းပါ၏၊ ဆိုခဲ့ပြီး (၃)မျိုးဟာ အကုသိုလ်တွေပဲ၊ သူတို့ကို ဖယ်ရှား၍ နှလုံးမသွင်းဘဲ ထားပြီးလျှင် အမတဓာတ်သို့သာ စိတ်ကို ညွှတ်ပါ၊ အားထုတ်ပါ"

ထိုညွှန်ကြားချက် အတိုင်း အားထုတ်လိုက်ရာ မကြာမီ ရဟန္တာကြီးအထိ ဖြစ်သွားလေ၏၊ ထို့ကြောင့် ဟုတ်တိုင်းမှန်ရာ ညွှန်ပြတတ်တဲ့ ဆရာ အရေးကြီးသည်။ သို့ဖြစ်၍ "ယထာဘူတံ ဉာဏာယ သတ္ထာ ပရိယေသိတဗ္ဗော=ဟုတ်တိုင်း မှန်စွာ သိဖို့ရာ ဆရာကောင်း ရှာပါ"လို့ မြတ်စွာဘုရားက ခဏ-ခဏ မိန့်နေခြင်း ဖြစ်၏။

ထိုအခါ အရှင်သာရိပုတ္တရာ ကိုယ်တော်ကြီးက ဤသို့ မိန့်ကြားတော်မူ၏ -

၁။ ငါ့ရှင်ရဲ့ စကားစုပ်တွေထဲမှာပင် အခိပ္ပာယ်တွေ ပေါ်နေပြီ၊ "ငါဟာ လောကဓာတ် တစ်ထောင်ကို မြင်နိုင်စွမ်း ရှိတယ်ကွ"ဆိုတဲ့ ငါ့ရှင်ရဲ့ နံပါတ်(၁) စကားစုတွေဟာ မာနပဲ။

၂။ ပြီးတော့ နံပါတ်(၂) စကားစုတွေဟာက စိတ်တွေ ပြန့်လွင့်နေကြတာ ဆိုတော့ ဥဒ္ဓစ္စပေါ့။

၃။ "သို့ပါလျက် ဘယ့်နှာကြောင့် ယခု အထိ ရဟန္တာ မဖြစ်သေးဘဲ တန့်ခံနေရပါလိမ့်မလဲ" ဆိုတဲ့ နံပါတ်(၃) စကားစုတွေဟာ

* အင်္ဂုတ္တရအဋ္ဌကထာ၊၁၊၂၂၅

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဆရာကောင်း ရှာပါလို့ (၁၇၉၂)ကြိမ် မှာကြား

* ၁။ (က) ရဟန်းတို့... ဇရာမရဏ ဖြစ်ပုံကို ဟုတ်တိုင်းမှန်စွာ မသိ– မမြင်သော သူသည် ဇရာမရဏအပေါ်၌ ဟုတ်တိုင်း မှန်စွာ သိဖို့ရာ ညွှန်ပြတတ်တဲ့ ဆရာ ရှာရမည်။

(ခ) ဇရာမရဏဖြစ်ကြောင်းကို ဟုတ်တိုင်း မှန်စွာ...

(ဂ) ဇရာမရဏ၏ ချုပ်ရာကို ဟုတ်တိုင်း မှန်စွာ...

(ဃ) ဇရာမရဏ ချုပ်ရာသို့ ရောက်ကြောင်း အကျင့်ကို ဟုတ်တိုင်းမှန်စွာ...

၂။ ရဟန်းတို့... ဇာတိကို ဟုတ်တိုင်းမှန်စွာ... (၄) ချက်၊

၃။ ရဟန်းတို့... ကမ္မဘဝကို ဟုတ်တိုင်း မှန်စွာ... (၄) ချက်၊

၄။ ရဟန်းတို့... ဉပါဒါန်ကို ဟုတ်တိုင်း မှန်စွာ... (၄) ချက်၊

၅။ ရဟန်းတို့... တဏှာကို ဟုတ်တိုင်း မှန်စွာ... (၄) ချက်၊

၆။ ရဟန်းတို့... ဝေဒနာကို ဟုတ်တိုင်း မှန်စွာ... (၄) ချက်၊

၇။ ရဟန်းတို့... ဖဿကို ဟုတ်တိုင်းမှန်စွာ... (၄) ချက်၊

၈။ ရဟန်းတို့... သဠာယတနကို ဟုတ်တိုင်း မှန်စွာ... (၄) ချက်၊

၉။ ရဟန်းတို့... နာမ်နှင့် ရုပ်ကို ဟုတ်တိုင်း မှန်စွာ... (၄) ချက်၊

၁၀။ ရဟန်းတို့... ဝိညာဏ်ကို ဟုတ်တိုင်း မှန်စွာ... (၄) ချက်၊

၁၀။ ရဟန်းတို့... သင်္ခါရတို့ကို ဟုတ်တိုင်း မှန်စွာ... (၄) ချက်၊

တိုက်ရိုက် ၄၄ – ကြိမ်

ဤသို့လျှင် ပဋိစ္စသမုပ္ပါဒ် အင်္ဂါရပ်များကို စဉ်တန်းထားပြီးလျှင် - နောက်ဆုံးဖြစ်သော ဇရာမရဏကို စတင်၍ ဟောကြားတော်မူ၏၊ ထို ဇရာမရဏ၌ (ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာ) ဟူ၍ သစ္စာ ၄ပါးဖြင့် ဝေဖန်၍ ဟောကြားတော်မူသည်။

ထို့အတူ– ပဋိလောမအနေဖြင့် ဇာတိ၊ ကမ္မဘဝ၊ ဉပါဒါန်၊ တဏှာ၊ ဝေဒနာ၊ ဖဿ၊ သဠာယတန၊ နာမရူပ၊ ဝိညာဏ၊ သင်္ခါရ၊ စုစုပေါင်း (၁၁)မျိုးတို့၌လည်း တစ်မျိုး–တစ်မျိုး၌ သစ္စာ ၄ ပါးစီဖြင့် ဝေဖန် ဟောကြားတော်မူ၏။

ထို့ကြောင့် "ယထာဘူတံ ဉာဏာယ သတ္ထာ ပရိယေသိတဗ္ဗော" "ဟုတ်တိုင်းမှန်စွာ သိဖို့ရာ ဆရာကောင်း ရှာရမည်"ဟူ၍ ကိုယ်တော်တိုင် တိုက်ရိုက်ဟော (၁၁x၄)=၄၄–ကြိမ် ဖြစ်သွားလေသည်။

# သွယ်ဝိုက်၍ ဟောသော အကြိမ်ပေါင်း

နေရာတကာ ဆရာမပါလျှင် မပြီးချေ၊ "ဆရာမပြ–နည်းမကျ"ဟူ၍ပင် စကားပုံ ရှိသည် မဟုတ်ပါလော၊ လမ်းမှန် ညွှန်ပြ–ဆရာ မပါဘဲ သွားရသော ခရီးသည် လွဲချော်တတ်၏။

အရှင် သောဏသည် တရား အားထုတ်ရာ၌ ရည်ရွယ်ချက် ကောင်းသော်လည်း ဝီရိယ လွန်ကဲနေမိ၏၊ စင်္ကြံ သွားရလွန်း၍ ခြေဖဝါးများပင် ရောင်ကားပေါက်ကျ–သွေးတွေ ယိုရသည်အထိ ဖြစ်သွား၏။

---

* နိဒါနဝဂ္ဂသံယုတ်ပါဠိ၊သတ္ထုသုတ်၊၃၄၉

ဘုရား ကိုယ်တော်တိုင် ကြွ၍ မလျှော့မတင်း စောင်းကြိုးညှင်း ဥပမာပြရသည်၊ ထိုအခါကျမှ လမ်းမှန် ရောက်၍ တရားထူး ပေါက်သွားရလေသည်။

ထို့ပြင်– အရှင်အနုရုဒ္ဓါ၏ အခက်အခဲကိုလည်း အရှင် သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီး ဖြေရှင်းပေးမှ ပြေလည်ရသည် မဟုတ်ပါလော။

ထို့ကြောင့် ဆရာကောင်း လိုအပ်ကြောင်း သိသာနိုင်၏၊ "ဆရာကောင်း ရှာပါ" ဟူ၍လည်း မြတ်စွာ ဘုရားက ခဏ ခဏ မှာတော်မူသဖြင့် (၁၇၉၂)ကြိမ်မျှ ရှိလေသည်။

ဘုရားရှင် ကိုယ်တော်မြတ်ကြီးက (၄၅)ဝါ အတွင်း (၁၇၉၂)ကြိမ်တောင် မှာတော်မူတယ် ဆိုတော့ အရေးကြီးလို့ပေါ့။

# ပရိညာ ၃–ပါးအကြောင်း

ပရိညာအမျိုးအစား ၃–ပါးရှိ၏၊ ယင်းတို့မှာ
၁။ ဉာတပရိညာ
၂။ တီရဏပရိညာ
၃။ ပဟာနပရိညာတို့ ဖြစ်ကြ၏၊

(၁)အဓိပ္ပာယ်မှာ ဉာတ=သိအပ် သိသင့် သိထိုက်သော တရား၊ ထို "သိထိုက်သောတရား" ဆိုတာ ရုပ်နာမ် ၂–ပါး၊ ခန္ဓာ၅–ပါးတို့ ဖြစ်ကြသည်။

ပရိညာ(ပရိ+ညာ) ပရိ=ပိုင်းခြား၍၊ ညာ=သိတတ်သောဉာဏ်၊ ဉာတပရိညာ=သိအပ်သိသင့်သိထိုက်သော တရားတို့ကို+ပိုင်းခြား၍ သိတတ်သောဉာဏ်။

(၂)တီရဏ=စုံစမ်းသုံးသပ်ဆင်ခြင်သော (ဆင်ခြင်လျက်) ပရိညာ=ပိုင်းခြား၍ သိသောဉာဏ်၊ တီရဏပရိညာ=စုံစမ်းသုံးသပ်ဆင်ခြင်လျက်+ပိုင်းခြား၍ သိသောဉာဏ်။

(၃)ပဟာန=ပယ်တတ်သော (ပယ်လျက်)+ပရိညာ=ပိုင်းခြား၍ သိသောဉာဏ်။ ပဟာနပရိညာ=ပယ်လျက်+ပိုင်းခြား၍ သိသော ဉာဏ်။

# ပရိညာ ၃–ပါး၏ နယ်ပယ်

၁။ ရုပ်နာမ်ဓမ္မသင်္ခါရတို့ကို ပိုင်းခြားသော (နာမရူပပရိစ္ဆေဒ)ဉာဏ်မှစ၍ ပစ္စယပရိဂ္ဂဟဉာဏ်တိုင်အောင် အတွင်းသည် ဉာတပရိညာ၏ နယ်ပယ် ဖြစ်သည်။

၂။ သမ္မသနဉာဏ်မှ စ၍ ဥဒယဗ္ဗယဉာဏ် တိုင်အောင် အတွင်းသည် တီရဏပရိညာ၏ နယ်ပယ် ဖြစ်သည်။

၃။ ဘင်္ဂဉာဏ်မှစ၍ အထက်၌ကား ပဟာနပရိညာ၏ နယ်ပယ် ဖြစ်သည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## အသေရဲတာ သည်တစ်ပါးပဲ တွေ့ဖူး

အို–နာ–သေ အကြောင်း ရဲရဲပြောတာကတော့ သည်တစ်ပါးတည်းပဲ ရှိသည်၊ အခြားသူတွေက သိပ်ပြီး မပြောကြပါ၊ ဘာ့ကြောင့်လဲဆိုတော့ အများက ကြိုက်မှ မကြိုက်ကြဘဲကိုး။

အို–နာ–သေစကားလုံးတွေ များများပြောလာရင် "အို့... နိမိတ်မရှိ နမာမရှိ မပြောနဲ့"တဲ့၊ တားမြစ်တတ်ကြသည်၊ ထို့ကြောင့် သူတို့အကြိုက်ပဲ လိုက်ပြီး ပြောနေကြရတော့တာပေါ့။

အဲ... မိုးကုတ်ဆရာတော်ကြီးတို့ကတော့ မရဘူး၊ ကြိုက်–ကြိုက်၊ မကြိုက်–ကြိုက်၊ ဟုတ်တာတော့ ပြောထည့်လိုက်တာပဲ၊ မညှာဘူး၊ ဘယ်သူ့ကိုမှလဲ မငဲ့ဘူး။

လောကကြီးရဲ့ အို–နာ–သေကို ပြောရဲသလို သူ့ကိုယ်တိုင်ကျတော့လည်း အသေရဲလှပါသည်၊ ဤအကြောင်းအရာများကို တစ်ခါတွင် (ဝန်ကြီးဟောင်း၊ မြန်အောင်) ဦးတင်က ရန်ကုန်မြို့၊ သရက်တောကျောင်းတိုက်က ဆရာတော် ဦးဩဘာသာဘိဝံသအား ဤသို့ လျှောက်ထားပါသတတ်–

> "မိုးကုတ်ဆရာတော်ကြီးဟာ အသေရဲပါ့ဘုရား၊ သေမင်းနဲ့ ရဲရဲကြီး ရင်ဆိုင်သွားတယ် ဘုရား၊ အသေရဲတာတော့ သည်တစ်ပါးပဲ တွေ့ဖူးသေးတယ်၊ ရဲအောင် လုပ်ထားခဲ့လို့လဲ ရဲတာထင်ပါ့ဘုရား"တဲ့။

## သံဝေဂရှေ့သွားဖြင့် တရားဟော

မိုးကုတ် ဆရာတော်ဘုရားကြီး တရားဟောပြီဆိုလျှင် ရှေ့ပိုင်းက သံဝေဂပါတတ်သည်၊ ၁၀–မိနစ် ၁၅–မိနစ်ခန့် သံဝေဂဖြစ်ဖွယ် စကားတို့ကို ပြောတတ်သေး၏၊ ပြီးမှ ထိုသံဝေဂအပေါ် အခြေခံ၍ တရားအားထုတ်နည်း လုပ်ငန်းခွင် ဝင်လာတတ်သည်။

များစွာသော ဓမ္မကထိကတို့ကမူ တရားဟောပြီဆိုလျှင် ဇာတ်လမ်းကို ဦးစားပေးတတ်ကြ၏၊ ဇာတ်လမ်းဇာတ်ကွက်တို့ဖြင့် တန်ဆာဆင်၍ ပရိသတ်ကို ဆွဲဆောင်ခေါ်ငင်သွားတတ်ကြသည်၊ ထို့ကြောင့် အပြောကောင်းဖို့ လိုအပ်၏၊ ပရိယာယ်ကြွယ်ဖို့လည်း လိုအပ်သည်။

အချို့ကျတော့ အသံကို ဦးစားပေးတတ်ကြပြန်၏၊ ထိုပုဂ္ဂိုလ်တို့ကား အသံကို အနိမ့်–အမြင့်၊ အပင့်–အဟိုက်၊ အရှိုက်–အငင် လှိုင်းတို့ဖြင့် တန်ဆာဆင်လျက် ရွတ်ဆို ဟောပြော သွားတတ်ကြလေသည်။ ပရိသတ်ကြီးတစ်ခုလုံးကို အသံထဲမှာ နစ်နေအောင် ဖန်တီး ထား၏၊ ထိုပုဂ္ဂိုလ်တို့အတွက် အသံကောင်းဖို့ လိုအပ်သည်။

မိုးကုတ်ဆရာတော်ကြီးကား ထိုသို့ မဟုတ်ချေ၊ ဇာတ်လမ်း ဇာတ်ကွက်ကို ဦးစားပေးသည်လည်း မဟုတ်၊ အသံကို ဦးစားပေးလည်း မဟုတ်၊ အပြောကို ဦးစားပေးလည်း မဟုတ်၊ တရားလုပ်ငန်းခွင်ကိုသာ ဦးစားပေးသည်။

သံဝေဂပြောပြီးနောက် လုပ်ငန်းခွင်ကို ရောက်လာပြီ ဆိုလျှင် ကျယ်ကျယ်ပြန့်ပြန့်နှင့် လုပ်ငန်းသဘောကို ဖိ၍ ပြောတော့၏၊ လှည့်ကာ ပတ်ကာဖြင့် အရေးကြီးလျှင် ကြီးသလို ၂–ကြိမ် ၃–ကြိမ် ထပ်၍ ထပ်၍ ပြောပေးတော်မူ၏။

## တစ်ဘဝသာသနာ

# အကိုးသာစကေ ထုတ်ပုံချင်း မတူကြ

ထို့ပြင်– ဝတ္ထု သာစကေ ထုတ်ပုံချင်းလည်း မတူကြပေ၊ များစွာသော ယပ်လှဲ ဓမ္မကထိကတို့က ဒါနနှင့် ပတ်သက်၍– သီလနှင့် ပတ်သက်၍ အနာထပိဏ် သူဌေးကြီး၊ ကျောင်းအမ ဝိသာခါ၊ သီရိဓမ္မာ သောက၊ ကေသာဋကပုဏ္ဏားကြီး လင်မယား၊ ပန်းကလေးတစ်ပွင့် လှူရုံနဲ့ နတ်ပြည်ရောက်ပုံ စသည်တို့ကို အားကျဖွယ်တွေ ထုတ်ပြတတ်ကြ၏။

မိုးကုတ်ဆရာတော်ကြီးကား ထိုသို့ မဟုတ်ချေ၊ အစေလကဿပ၊ ဆန္န၊ ယမက၊ အနုရာဓ၊ အဂ္ဂိဝစ္ဆပုဏ္ဏား၊ သာတိ ရဟန်း စသည်ဖြင့် ဒိဋ္ဌိဖြုတ်လို့ ကောင်းတဲ့ သာစကေ များကို ထုတ်ပြလေ့ ရှိတော်မူသည်။

ထို့ပြင်လည်း– တရား ရှုခင်း ရှုကွက် နမူနာ ပြဖို့ ကောင်းတဲ့ ခေမက၊ ဝိသာခနှင့် ဓမ္မဒိန္နာ၊ ဖဂ္ဂုန ရဟန်း၊ တိဿရဟန်းကြီး စသည်တို့ကို ထုတ်ပြတော်မူလေ့ ရှိသည်။

# သစ္စာဆိုက်၍ တရားနိဂုံးချုပ်

တရားတစ်ပုဒ်တွင် အကြောင်းအရာတွေ အများကြီး စုပြုံ ပွတ်သိပ် ထည့်၍ မပေး၊ အရေးကြီးတဲ့ တစ်ချက် နှစ်ချက်မျှသာ ထပ်ပြန်တလဲလဲနှင့် စွဲသွားအောင် ပြော၍ နှလုံးသားတွင် ထည့်ပြီးပေးလိုက်တတ်သည်။

ဤလုပ်ငန်းခွင်တွင် သစ္စာသဘောတရားတို့ကိုလည်း ဟပ်ပြသည်၊ "သစ္စာတရားဆိုတာ ဒါပဲ"ဟူ၍ ထောက်ပြသည်၊ ကောက်ပြသည်၊ "သစ္စာဆိုတာ စာအုပ်ထဲမှာ ရှိတာ မဟုတ်၊ ခန္ဓာထဲမှာသာ ရှိတာ"ဟူ၍ ဖော်ပြပေးသည်။ ဤသို့ သစ္စာဆိုက်စေ၏။

ဤနည်းအားဖြင့် နောက်ဆုံးတွင် ဤကဲ့သို့ လုပ်ငန်းခွင်ဝင်၍ အားထုတ်သောကြောင့် ပေါက်မြောက်ကာ တရားထူးသိမြင်လာနိုင်သည်–ဟု နိဂုံးချုပ်တော်မူတတ်သည်။

# စိတ်–တစ်ခုယုတ်ကိုးဆယ်

လူ့ခန္ဓာကိုယ်တစ်ခုလုံး၌ အရေးကြီးသော ဌာန ၆–ဌာန ရှိကြ၏၊ မည်သည့် ဌာနတို့နည်း – မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်၊ ဘဝင်စိတ်တို့ ဖြစ်ကြသည်။

မျက်စိမှာ မြင်စိတ် ဖြစ်၏၊ နားမှာ ကြားစိတ်၊ နှာခေါင်းမှာ နံစိတ် မွှေးစိတ်၊ လျှာမှာ စားစိတ်၊ ခန္ဓာကိုယ်မှာ တွေ့ထိစိတ်၊ မနောလို့ ခေါ်တဲ့ ဘဝင်စိတ်မှာ တွေးတော ကြံစည်စိတ်တို့ ဖြစ်ကြသည်။

ဤသို့လျှင် ဖြစ်ရာ ဌာနကို အစွဲပြု၍ ပြောလျှင်ကား (မြင်စိတ်၊ ကြားစိတ်၊ နံစိတ်၊ စားစိတ်၊ တွေ့ထိစိတ်၊ ကြံတွေးစိတ်) ဟူ၍ စိတ်အမျိုးအစား ၆–မျိုး ရှိသည်။

ဘုံဌာနကို အစွဲပြု၍ ခေါ်လျှင်ကား– ကာမဘုံ၌ ကာမစိတ် ၅၄–ပါး၊ ရူပဘုံ၌ ရူပစိတ် ၁၅–ပါး၊ အရူပဘုံ၌ အရူပစိတ် ၁၂–ပါး၊ လောကုတ္တရာ အဝတ္ထာ

ဘုံ၌ လောကုတ္တရာစိတ် ၈-ပါး၊ ပေါင်း (၈၉)ပါး ရှိသည်။

အသစ်အဆန်း မဟုတ်ချေ၊ ယခင်စိတ်များပင် ဖြစ်ကြ၏၊ ဖြစ်ရာ ဌာန - ဖြစ်ရာ ဘုံကို အစွဲပြု၍ ခေါ်ဝေါ်ခြင်း ဖြစ်သည်။ [ကာမစိတ် ၅၄-ပါး ဆိုတာ အကုသိုလ်စိတ် ၁၂-ပါး၊ အဟိတ်စိတ် ၁၈-ပါး၊ ကာမာဝစရစိတ် ၂၄-ပါးတို့ကို ပေါင်းစု၍ ခေါ်ဆိုထားခြင်း ဖြစ်သည်။]

"စိတ်ပေါင်း (၈၉)ပါး" ဆိုတာ (၉၀)ပြည့်ဖို့ စိတ်တစ်ခုမျှသာ လိုတော့သည်၊ စိတ်တစ်ခုမျှသာ လျော့တော့သည်၊ စိတ်တစ်ခုမျှသာ ယုတ်တော့သည်၊ ထို့ကြောင့် ကျမ်းဂန်သုံး ဝေါဟာရအနေဖြင့် "စိတ်-တစ်ခု ယုတ် ၉၀" ဟု ခေါ်ဝေါ် သုံးစွဲရိုး ရှိကြ၏။

ဤမျှလောက် အရေအတွက် (၈၉)ပါး ရှိသော်လည်း "သိတတ်သော သဘော"အနေဖြင့် ပေါင်းစုလျှင်ကား "စိတ်"ဟူသော သဘော (၁)မျိုးသာ ရှိသည်။

## စေတသိက် ၅၂-ပါးရှိ

"စေတသိ ဘဝံ စေတသိကံ"ဆိုတဲ့ ဝစနတ္ထအရ စိတ်နှင့်အတူတကွ ဖြစ်တတ်သော သဘောတရားတို့ကို "စေတသိက်"ဟု ခေါ်သည်၊ စိတ်မှ ဖြစ်ပေါ်လာလျှင် ဆိုင်ရာစေတသိက်တို့လည်း ပါလာကြစမြဲဖြစ်၏၊ ထိုစေတသိက်တို့သည် (၅၂)မျိုး ရှိသည်၊ ယင်းတို့ကား-

(က) **သဗ္ဗစိတ္တသာဓာရဏ(၇)ပါး**
ဖဿ၊ ဝေဒနာ၊ သညာ၊ စေတနာ၊ ဧကဂ္ဂတာ၊ ဇီဝိတိန္ဒြိယ၊ မနသိကာရ။

(ခ) **ပကိဏ်းစေတသိက်(၆)ပါး**
ဝိတက္က၊ ဝိစာရ၊ အဓိမောက္ခ၊ ဝီရိယ၊ ပီတိ၊ ဆန္ဒ။

(ဂ) **အကုသိုလ်စေတသိက်(၁၄)ပါး**
မောဟ၊ အဟိရိက၊ အနောတပ္ပ၊ ဥဒ္ဓစ္စ၊ လောဘ၊ ဒိဋ္ဌိ၊ မာန၊ ဒေါသ၊ ဣဿာ၊ မစ္ဆရိယ၊ ကုက္ကုစ္စ၊ ထိန၊ မိဒ္ဓ၊ ဝိစိကိစ္ဆာ။

(ဃ) **သောဘနစေတသိက်(၂၅)ပါး**
သဒ္ဓါ၊ သတိ၊ ဟိရီ၊ ဩတ္တပ္ပ၊ အလောဘ၊ အဒေါသ၊ တတြမဇ္ဈတ္တတာ၊ ကာယပဿဒ္ဓိ၊ စိတ္တပဿဒ္ဓိ၊ ကာယလဟုတာ၊ စိတ္တလဟုတာ၊ ကာယမုဒုတာ၊ စိတ္တမုဒုတာ၊ ကာယကမ္မညတာ၊ စိတ္တကမ္မညတာ၊ ကာယပါဂုညတာ၊ စိတ္တပါဂုညတာ၊ ကာယုဇုကတာ၊ စိတ္တုဇုကတာ။ ။
သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ။
ကရုဏာ၊ မုဒိတာ။ ။ပညိန္ဒြေ။

## စေတသိက်တို့၏ သဘောအဓိပ္ပာယ်

**သဗ္ဗစိတ္တသာဓာရဏ ၇ ပါး၏ သဘော**

၁။ **ဖဿ** = အာရုံကို တွေ့ထိခြင်းသဘော။
၂။ **ဝေဒနာ** = အာရုံ အရသာကို ခံစားခြင်းသဘော။
၃။ **သညာ** = အာရုံကို မှတ်သားခြင်းသဘော။
၄။ **စေတနာ** = ယှဉ်ဖက်တရားတို့ကို ဆိုင်ရာကိစ္စ၌ ဆောင်ရွက်ကြဖို့ရာ စေ့ဆော်ခြင်း(တိုက်တွန်း နှိုးဆော်ခြင်း) သဘော။

၅။ **ကေဂ္ဂတာ** = အာရုံတစ်ခုတည်း၌ တည်တံ့နေခြင်း၊ တည်ကြည်နေခြင်းသဘော။

၆။ **ဇီဝိတိန္ဒြေ** = ယှဉ်ဖက်တရားတို့ကို စောင့်ထိန်းခြင်း သဘော [ဤ ဇီဝိတိန္ဒြေသည်နာမ်တရားတို့၏ အသက်။]

၇။ **မနသိကာရ** = စိတ်ထဲ၌ အာရုံပေါ်လာအောင် ပြုပေးသော သဘော [စိတ်ကို အာရုံသို့ ရောက်၍- ရောက်၍နေအောင်၊ စိတ်နှလုံးထဲ၌ အာရုံကိုသွင်းပေး သောကြောင့် "မနသိ+ကာရ = နှလုံးသွင်း" ဟုလည်း ခေါ်ကြ၏။]

### ပကိဏ်းစေတသိက် ၆ ပါး၏ သဘော

၁။ **ဝိတက်** = ယှဉ်ဖက်တရားတို့ကို အာရုံသို့ တင်ပေးခြင်း (ကြံစည်ခြင်း) သဘော။

၂။ **ဝိစာရ** = အာရုံကို သုံးသပ်ခြင်း (ထပ်၍ ထပ်၍ ယူခြင်း) သဘော။

၃။ **အဓိမောက္ခ** = အာရုံကို ဆုံးဖြတ်ချက်ချခြင်းသဘော။

၄။ **ဝီရိယ** = အားထုတ်ခြင်း (အားတက်သရော ရှိခြင်း) သဘော။

၅။ **ပီတိ** =နှစ်သက်ခြင်းသဘော။

၆။ **ဆန္ဒ** = လိုလားတောင့်တခြင်းသဘော။

### အကုသိုလ်စေတသိက် ၁၄ ပါး၏ သဘော

၁။ **မောဟ** =အာရုံ၏ အမှန်သဘာဝကို ဖုံးကွယ်ခြင်း သဘော။

၂။ **အဟိရိက** = ဒုစရိုက်မှ မရှက်ခြင်းသဘော။

၃။ **အနောတ္တပ္ပ** =ဒုစရိုက်မှ မကြောက်လန့်ခြင်းသဘော

၄။ **ဥဒ္ဓစ္စ** = ပျံ့လွင့်ခြင်းသဘော။

၅။ **လောဘ** = လောကီအာရုံကာမဂုဏ်တို့၌ချင်ခြင်း သဘော။ [ကုသိုလ်အရာ၌ လိုချင်ခြင်းကား ကုသိုလ် ဆန္ဒသာဖြစ်၏။ အထူးမှာ ငြိကပ်တွယ်တာတဲ့ သဘော ပါလျှင် လောဘ၊ တွယ်တာမှုသဘော မပါလျှင် ဆန္ဒ ဟူ၍ ခွဲခြားပါ။]

၆။ **ဒိဋ္ဌိ** = မှားမှားယွင်းယွင်း သိမြင်ခြင်း၊ (အယူမှားခြင်း) သဘော။

၇။ **မာန** = ထောင်လွှားတက်ကြွခြင်းသဘော။

၈။ **ဒေါသ** = ခက်ထန်ကြမ်းတမ်းခြင်းသဘော။

၉။ **ဣဿာ** = သူတစ်ပါး၏ ဂုဏ်သိန် စည်းစိမ် ချမ်းသာကို ငြူစူခြင်း၊ စောင်မြောင်းခြင်း သဘော။ [နှုတ်ခမ်းစူ၍မျက်စောင်းထိုး၍ ပြောဆိုကြည့်ရှုကြောင်း တရား။]

၁၀။ **မစ္ဆရိယ** = ကိုယ့်စည်းစိမ်ကို ဝန်တိုခြင်းသဘော။ [မပေးလို မကမ်းလို နှမြောတဲ့သဘော။]

၁၁။ **ကုက္ကုစ္စ** = ဒုစရိုက်ကို ပြုမိ၍လည်းကောင်း၊ သုစရိုက်ကို မပြုခဲ့မိ၍ လည်းကောင်း နောင်တဖြစ်ခြင်း။၊ ပူပန်ခြင်း သဘော။

၁၂။ **ထိန** = စိတ်စေတသိက်တွေ မလန်းဘဲခပ်ထိုင်းထိုင်း ဖြစ်နေခြင်းသဘော။

၁၃။ **မိဒ္ဓ** = စိတ်စေတသိက်တွေ မလန်းဘဲ ခပ်မှိုင်း မှိုင်းနေခြင်းသဘော။ [အိပ်ချင်မူးတူး ဖြစ်နေသည့်အခါ ဤစေတသိက် (၂) ပါး ထင်ရှား၏။]

၁၄။ **ဝိစိကိစ္ဆာ** = ဘုရားတရား သံဃာ စသည်များ အပေါ် ယုံမှားခြင်း သဘော။]

### သောဘနစေတသိက် ၂၅ ပါး၏ သဘော

၁။ **သဒ္ဓါ** = ဘုရား တရား သံဃာနှင့် ကံ, ကံ၏ အကျိုးစသည်ကို ကြည်ညိုမှု ယုံကြည်မှု သဘော။

၂။ **သတိ** = ဘုရား တရား သံဃာ စသော ကုသိုလ် ဆိုင်ရာကို အောက်မေ့မှု၊ အမှတ်ရမှုသဘော။

၃။ **ဟိရီ** = ဒုစရိုက်မှ ရှက်မှုသဘော။

၄။ **ဩတ္တပ္ပ** = ဒုစရိုက်မှကြောက်လန့်မှု။

၅။ **အလောဘ** = လောကီအာရုံ ကာမဂုဏ်ကိုမလိုချင် မှု၊ မစုံမက်မှု။

၆။ **အဒေါသ** = မခက်ထန်၊ မကြမ်းတမ်းမှု၊ [မေတ္တာ ဆိုတာ ဤစေတသိက်ပင် ဖြစ်၏။]

၇။ **တတြမဇ္ဈတ္တတာ** = စိတ်စေတသိက်တို့ကို မိမိတို့ကိစ္စတွင် အပိုအလွန် မရှိစေရအောင် အလယ်၌ တည့်မတ်မှု (လျစ်လျူရှုမှု) သဘော။
၈။ **ကာယပဿဒ္ဓိ** = စေတသိက်အပေါင်းငြိမ်းအေးမှု။
၉။ **စိတ္တပဿဒ္ဓိ** = စိတ်၏ ငြိမ်းအေးမှု။
၁၀။ **ကာယလဟုတာ** = စေတသိက် အပေါင်း၏ လျင်မြန် ပေ့ါပါးမှု။
၁၁။ **စိတ္တလဟုတာ** = စိတ်၏ လျင်မြန်ပေ့ါပါးမှု။
၁၂။ **ကာယမုဒုတာ** = စေတသိက်အပေါင်း၏ နူးညံ့မှု။
၁၃။ **စိတ္တမုဒုတာ** = စိတ်၏ နူးညံ့မှု။
၁၄။ **ကာယကမ္မညတာ** = စေတသိက်အပေါင်း၏ ကုသိုလ်ကောင်းမှု၌ ခံ့ညားမှု။
၁၅။ **စိတ္တကမ္မညတာ** = စိတ်၏ ကုသိုလ်ကောင်းမှု၌ ခန့်ညားမှု။
၁၆။ **ကာယပါဂုညတာ** = စေတသိက်အပေါင်း၏ (ကုသိုလ်ကောင်းမှု၌) ပြွမ်းတီးလေ့လာမှု။
၁၇။ **စိတ္တပါဂုညတာ** =စိတ်၏ ပြွမ်းတီးလေ့လာမှု။
၁၈။ **ကာယုဇုကတာ** = စေတသိက် အပေါင်း၏ ဖြောင့်မတ်မှု။
၁၉။ **စိတ္တုဇုကတာ** = စိတ်၏ ဖြောင့်မတ်မှု။

### ဝိရတီစေတသိက် ၃ ပါး၏ သဘော

[မကောင်းမှု ဒုစရိုက်မှ ရှောင်ကြဉ်ခြင်းကို "ဝိရတီ" ဟု ခေါ်သည်။]

၁။ **သမ္မာဝါစာ** = အသက်မွေးဝမ်းကျောင်းနှင့် မစပ်ဆိုင်သော ဝစီဒုစရိုက် ၄ ပါးမှ ရှောင်ကြဉ်မှု။
၂။ **သမ္မာကမ္မန္တ** = အသက်မွေးဝမ်းကျောင်းနှင့် မစပ်ဆိုင်သော ကာယဒုစရိုက် ၃ ပါးမှ ရှောင်ကြဉ်မှု။
၃။ **သမ္မာအာဇီဝ** = အသက်မွေးဝမ်းကျောင်းနှင့် စပ်ဆိုင်သော ဝစီဒုစရိုက် ၄ ပါး၊ ကာယဒုစရိုက် ၃ ပါးမှ ရှောင်ကြဉ်မှု။

### အပ္ပမညာ ၂ ပါးနှင့် ပညိန္ဒြေ

"ဤရွေ့ ဤမျှ" ဟု အတိုင်းအရှည်ပမာဏ မထားဘဲ သတ္တဝါ ပညတ်အပေါ်၌ အာရုံပြုသောတရားကို "အပ္ပမညာ" ဟု ခေါ်ရသည်။ ယင်းကား ၂-ပါး ရှိ၏။ ၂-ပါးမှာ
၁။ **ကရုဏာ** = ဒုက္ခိတ သတ္တဝါ ပညတ်ကိုအာရုံပြု၍ သနားမှုသဘော။
၂။ **မုဒိတာ** = သုခိတ သတ္တဝါ ပညတ်ကို အာရုံပြု၍ ဝမ်းမြောက်မှုသဘော။
**ပညိန္ဒြေ** = သိမှုကိစ္စ၌ အစိုးတရဖြစ်မှုသဘော။ [ဉာဏ်ဟူ၍လည်းကောင်း၊ အမောဟဟူ၍လည်းကောင်း ခေါ်သေး၏။]

---

**မှတ်ချက်။** ။ အားလုံး စုပေါင်းလိုက်လျှင် သောဘနသာဓာရဏ စေတသိက် ၁၉ ပါး၊ ဝိရတီ စေတသိက် ၃ ပါး ၊ အပ္ပမညာ ၂ ပါး၊ ပညိန္ဒြေ ၁ပါး၊ စုစုပေါင်း သောဘနစေတသိက်၂၅ ပါး ဖြစ်တော့သည်။

## စေတသိက်ကြောင့် စိတ်အမျိုးမျိုးဖြစ်ရ

စိတ်၏ သဘောတို့ကား အာရုံကို သိကာမျှသာ ဖြစ်ကြ၏၊ အကောင်း-အဆိုး မကွဲပြားကြပေ၊ စေတသိတို့ကြောင့်သာ ကွဲပြားကြရသည်။

ဥပမာ လောဘစေတသိက်နှင့်တွဲလျှင် လောဘစိတ် ဖြစ်ရ၊ ဒေါသစေတသိက်နှင့်တွဲလျှင် ဒေါသစိတ် ဖြစ်ရ၊ မာနစေတသိက်နှင့် တွဲလျှင် မာနစိတ် ဖြစ်ရ၊ မေတ္တာစေတသိက်နှင့် တွဲလျှင် မေတ္တာစိတ် ဖြစ်ရ၏။

စိတ်က ရေကြည်ကြည်သန့်သန့်နှင့် တူ၏၊ စေတသိက်တို့က ဆိုးဆေးထုပ်တွေနှင့် တူကြ၏၊ ဆိုးဆေး ၅၂-ထုပ်၊ အရောင်ကလည်း ၅၂-မျိုး

## တစ်ဘဝသာသနာ

ဖြစ်သည်၊ ရေကြည်ကြည်သန့်သန့်ထဲ၌ ဆိုးဆေးအနီ ထည့်လျှင် ရေနီဖြစ်သွား၏၊ အစိမ်းထည့်လျှင် ရေစိမ်း၊ အဝါထည့်လျှင် ရေဝါဖြစ်သွားရ၏၊ ရေသည် ဆိုးဆေး၏ အရောင်ခြယ်သခြင်းကို ခံရသလို စိတ်သည်လည်း စေတသိက်တို့၏ အရောင် ဆိုးခြင်းကို ခံရသည်၊

[ဆောင်]

စိတ်၏တံထွာ၊ ခမ္ဘတာကား၊
ကြံရာအာရုံ၊ ရမိရုံသာ၊ ဖုံဖုံ
ကောင်းဆိုး၊ မကွဲရိုးတည့်။
တစ်မျိုးတွဲဖက်၊ စေတသိက်
တွက်ကြောင့်၊ သက်သက် ဆိုး
ကောင်း၊ အရောင်ပြောင်း၍၊
မကောင်းတဲ့စိတ် - ကောင်းတဲ့စိတ်
ဟု၊ ခွဲကြိတ်စမြဲ၊ ဥဒါန်းကဲသည်...
စိတ်လဲ စေတသိက်ကြောင့်သာကို။

## ရုပ်ခန္ဓာ–နာမ်ခန္ဓာ ဖွဲ့သောအခါ

ခန္ဓာငါးပါး ဖွဲ့သောအခါ ရုပ်တရားတွေက ရူပက္ခန္ဓာ။ ။စေတသိက်၅၂-ပါးတို့တွင် သဗ္ဗ စိတ္တ သာဓာရဏစေတသိက်တွေထဲက ဝေဒနာကို ခွဲထုတ်၊ ဝေဒနာက္ခန္ဓာဖွဲ့။ ။သညာကိုခွဲထုတ်၊ သညာက္ခန္ဓာဖွဲ့။

ကျန်စေတသိက် ၅၀-တို့ကို သင်္ခါရက္ခန္ဓာဖွဲ့။ စေတသိက်၅၀-တို့တွင် သဗ္ဗစိတ္တသာဓာရဏထဲမှ စေတနာ စေတသိက်သည် သွက်လက်၏၊ ဖျတ်လတ်၏၊ လုပ်တတ်ကိုင်တတ်၏၊ ထို့ကြောင့် သူ့ကို "သင်္ခါရ"ဟု နာမည်ပေးထားသည်။

"သင်္ခါရ"နာမည်ရသော စေတနာခေါင်းဆောင်သော စေတသိက် ၅၀-အစုကို "သင်္ခါရက္ခန္ဓာ"ဟု ဖွဲ့စည်း၏၊ ခေါင်းဆောင်၏ နာမည်ကို တပ်ထားခြင်း ဖြစ်သည်။

သိတတ်သောစိတ်တွေဟူသမျှကိုကား "ဝိညာဏက္ခန္ဓာ"ဟု ဖွဲ့သည်။

ရုပ်ခန္ဓာတစ်ပါး၊ နာမ်ခန္ဓာ၄ပါးဖြစ်၏၊ နာမ်ခန္ဓာ ၄ပါးတွင် စေတသိက်ခန္ဓာက ၃ပါး၊ စိတ်ခန္ဓာက တစ်ပါးဖြစ်သည်။

## သစ္စာ၄-ပါး ခွဲခြားသောအခါ

အကုသိုလ်စေတသိက် ၁၄-ပါးတွင် ပါဝင်သော လောဘစေတသိက်သည် သမုဒယသစ္စာမည်၏၊ ကျန်သော ရူပက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ ၄၉ ပါး၊ ဝိညာဏက္ခန္ဓာတို့သည် ဒုက္ခသစ္စာမည်၏။

သောဘနစေတသိက် ၂၅-ပါးတွင် ပါဝင်သော ပညိန္ဒြေစေတသိက်သည် မဂ္ဂသစ္စာမည်၏။

သမုဒယသစ္စာအားလုံး၊ ဒုက္ခသစ္စာအားလုံး ချုပ်ငြိမ်းကုန်သော သဘောသည် နိရောဓသစ္စာမည်၏။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## သမ္မုတိဒေသနာနှင့် ပရမတ္ထဒေသနာ

* မြတ်စွာဘုရား ဟောကြားတော်မူသော ဒေသနာတော်တို့သည် (က) သမ္မုတိဒေသနာ နှင့် (ခ) ပရမတ္ထဒေသနာဟူ၍ ၂ မျိုးရှိ၏၊ ထိုတွင် ပုဂ္ဂိုလ်-သတ္တဝါ-သူ-ငါ-ယောကျာ်း-မိန်းမ-သမီး-သား၊ လူ-နတ်-ဗြဟ္မာ-ဦးဖြူ-ဦးနီ-ဒေါ်ဖြူ-ဒေါ်နီ-မပု-မအု-မနု စတဲ့ နာမည်ပညတ်တွေနဲ့ခေါ်ဝေါ်သမုတ် ပြောဆို ဟောကြားရသော ဒေသနာကို "သမ္မုတိဒေသနာ" ဟု ခေါ်ရသည်။

အနိစ္စ-ဒုက္ခ-အနတ္တ-၊ ခန္ဓာ-အာယတန-ဓာတ်၊ သတိပဋ္ဌာန် စသော ပရမတ္ထ သဘောတရား သက်သက်တို့ဖြင့်ပြောဆိုသုံးနှုန်း၍ ဟောကြားရသော (အဘိဓမ္မာ ဂကျမ်းတို့လို) ဒေသနာကို ""ပရမတ္ထသနာ" ဟုခေါ်ရသည်။

ထို ၂ မျိုးတွင် ""သမ္မုတိဒေသနာဖြင့် ဟောမှ ထူးရမည်" ဟု သိရသောပုဂ္ဂိုလ်တို့အား မြတ်စွာဘုရားက သမ္မုတိသစ္စာဖြင့်သုံးနှုန်း၍ ဟောပြတော်မူ၏။

ထို့အတူ ""ပရမတ္ထဒေသနာဖြင့် ဟောမှ တရားထူးရမည်" ဟုသိရသော ပုဂ္ဂိုလ်တို့အားလည်း ပရမတ္ထသစ္စာဖြင့် သုံးနှုန်း၍ ဟောပြတော်မူသည်။

## မုသာဝါဒ မဖြစ်ဘူးလော

မေး။ ။"သမ္မုတိသစ္စာ" ဆိုတာ တကယ်မရှိဘဲနဲ့ ရှိလေဟန် သမုတ်ထားသော သစ္စာဟု သိရပါသည်၊ ထိုသစ္စာဖြင့် သုံးနှုန်း၍ တရားဟောရာတွင် မုသာဝါဒ မဖြစ်ဘူးလောဟု မေးဖွယ်ရှိ၏ ။

ဖြေ။ ။အဖြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

** သင်္ကေတ ဝစနံ သစ္စံ၊
လောက သမ္မုတိ ကာရဏာ။
ပရမတ္ထ ဝစနံ သစ္စံ၊
ဓမ္မာနံ ဘူတကာရဏာ။

အဓိပ္ပာယ်မှာ-သင်္ကေတ အမုတ်အသားဖြင့် ပြောကြားရသော သစ္စာစကားသည်လည်း မှန်ကန်ပါ၏။ ဘာကြောင့်နည်း-လောကလူအများက အသိအမှတ်ပြု၍ သတ်မှတ် သမုတ်ထားသောကြောင့်ဖြစ်သည်။

တစ်ဖန်- သဘောတရားသက်သက်ဖြင့် အမှန်အကန် ပြောကြားရသော ပရမတ္ထ သစ္စာစကားသည်လည်း မှန်ကန်ပါ၏၊ ဘာကြောင့်နည်း- သဘောသဘာဝတရားတွေက ဟုတ်မှန်နေသောကြောင့် ဖြစ်သည်။

ထို့ကြောင့် ဝေါဟာရကျွမ်းကျင်တော်မူသော မြတ်စွာဘုရားသည် သမ္မုတိသစ္စာ ဒေသနာဖြင့် ဟောကြား မိန့်မြွက်တော်မူသော်လည်း မုသာဝါဒ မဖြစ်ပါ-တဲ့။

---

* ဉာတိဝုတ်အဋ္ဌကထာ၊ဂ၈    ** ဉာတိဝုတ်အဋ္ဌကထာ၊ဂ၉

## တစ်ဘ၀သာသနာ

# သမ္မုတိစကားဖြင့် ဟောကြားရသော နေရာ (၈) ဌာန

၁။ ဟိရောတ္တပ္ပ ဒီပနတ္ထံ = ရှက်ရသူ– ကြောက်ရသူ ဘယ်သူလဲ ဆိုတာ ပံ့ပေါ်လာအောင် ပြောပြလိုတဲ့ အခါမျိုး။

၂။ ကမ္မဿကတာ ဒီပနတ္ထံ = ကံ–ကံ၏ အကျိုးတရား ရရှိသွားကြတဲ့သူတွေ ပေါ်လွင်ထင်ရှား လာအောင် ပြောပြလိုတဲ့ အခါမျိုး။

၃။ ပစ္စတ္တ ပုရိသကာရ ဒီပနတ္ထံ = သီးသန့် ထူးခြားသောပုဂ္ဂိုလ်၊ (ထူးထူးခွန်ခွန် ပြုလုပ်တဲ့ပုဂ္ဂိုလ်) တို့ကို ထင်ရှားအောင် ဖော်ပြလိုတဲ့ အခါမျိုး။

၄။ အာနန္တရိယ ဒီပနတ္ထံ = ဤ ပုဂ္ဂိုလ် ၅ မျိုးတို့ကို စော်ကားလျှင် သေသည်၏ အခြားမဲ့၌ စော်ကားသူသည် ချက်ချင်း အနန္တရိယကံထိုက်သည် (အဝီစိကျရသည်) ဟု ဖော်ပြလိုတဲ့ အခါမျိုး။

၅။ ဗြဟ္မဝိဟာရ ဒီပနတ္ထံ = (ဗြဟ္မဝိဟာရလို့ ခေါ်တဲ့) ဗြဟ္မစိုရ်တရားဖြင့် နေထိုင်သူတွေ ထင်ရှားအောင် ဖော်ပြလိုတဲ့ အခါမျိုး။

၆။ ပုဗ္ဗေနိဝါသ ဒီပနတ္ထံ = ရှေးရှေးဘဝ–ရှေးကာလတို့၌ ဖြစ်ခဲ့ဖူးတဲ့ ခန္ဓာအစဉ်မျိုးစုံကို ပေါ်လွင်အောင် ဖော်ပြလိုတဲ့ အခါမျိုး။

၇။ ဒက္ခိဏာ ဝိသုဒ္ဓိ ဒီပနတ္ထံ = အလှူခံ ပုဂ္ဂိုလ်နှင့် လှူဖွယ်ပစ္စည်းများစင်ကြယ်ပုံကို ထင်ရှားအောင် ပြလိုတဲ့ အခါမျိုး။

၈။ လောကသမ္မုတိယာ အပဟာနတ္ထံ = လောကဝေါဟာရ ပြောရိုးဆိုစဉ်ကို မပယ်ဖျက်လိုတဲ့ အခါမျိုး။

ဤ (၈) ဌာနတို့၌ မြတ်စွာဘုရားက သမ္မုတိစကားဖြင့် ဟောကြားတော် မူတတ်လေသည်။

## ရှစ်မျိုး၏ အဓိပ္ပာယ်အကျယ် ရှင်းပြခြင်း

၁။ ကျောင်းသူကျောင်းသား (၁၀၀) ခန့်မျှ ရှိတဲ့ စာသင်ခန်းမကြီးထဲမှာ ကျောင်းသားတစ်ယောက် စာမရ၍ ဆရာကြီးက ဒဏ်ပေးသည်၊ "ကိုယ့်နားရွက် နှစ်ဘက်ကိုင် ထိုင်–ထ (၁၀) ခါ လုပ်ရမည်" ။

ဆရာကြီးအမိန့်အတိုင်း ကြောက်၍ ဒဏ်ထမ်း ရရှာ၏၊ ထိုအခါ "ဘယ်သူဒဏ်ထမ်းရသလဲဟေ့" ဟူ၍ မေးလျှင် "ရုပ်နမ်ကလေးတစ်ခု ဒဏ်ထမ်း ရတယ်ကွ" "ခန္ဓာတစ်ခု ဒဏ်ထမ်းရတယ်ကွ" "အာယတနကလေးတစ်ခု၊ ဓာတ်ကလေး တစ်ခု ဒဏ်ထမ်းရတယ်ကွ၊ သူ့ခမျာ ရှက်နေရှာတယ် သနားပါရဲ့"

ဟူ၍ ပြောပါက နားမလည်နိုင်ကြ၊ ဒဏ်ထမ်း ရ၍ ရှက်ရသူ၊ ဆရာကြီးကို ကြောက်ရသူ–ဆိုတာ ဘယ်သူလဲ ဟူ၍ မထင်ရှားပေ၊ ဒေါကြောင်စဉ်းစား နေတတ်ကြ၏။

အဘယ့်ကြောင့် ဆိုသော် ရုပ်နာမ် ခန္ဓာ အာယတန ဓာတ်အားလုံး ပရမတ္ထစကားလုံးတို့ဖြင့် သုံးထားသောကြောင့် ဖြစ်၏၊ ထိုအခါ "မောင်ပု တစ်ယောက်ပေါ့ကွ– ဒဏ်ထမ်းရတာ၊ သူ့ခမျာ အရှက်ရလေရဲ့၊ ဆရာကြီးကိုလဲ ကြောက်ရ"

ဤသို့ ပြောလိုက်လျှင်ကား အများက တန်းပြီး နားလည်သွားကြသည်။ ဤကဲ့သို့သော အခါမျိုးတွင် "မောင်ပု" ဆိုတဲ့ သမ္မုတိစကားလုံးဖြင့် သုံးနှုန်း ဟောပြောတော်မူ၏။ [အဋ္ဌကထာ ဆရာ၏ အာဘော်ကို မှီ၍ အဓိပ္ပာယ် ဖော်ခြင်း ဖြစ်သည်။]

၂။ "ခန္ဓာကလေးတွေ၊ အာယတနကလေးတွေ၊

* ဣတိဝုတ် အဋ္ဌကထာ၊ ၇၉

ဓာတ်ကလေးတွေပေါ့ကွ၊ ကံအတိုင်း ဖြစ်နေကြရတာ” ဟု ပြောလျှင် နားမလည်နိုင်ကြပေ။

“မောင်ကိုတို့ဟာ ဖွဲလုံ့လ အသိဉာဏ်စွမ်းကြောင့် ချမ်းသာသွားကြတယ်” “ဖိုးတုပ်တို့ကျတော့ ဒုစရိုက် လုပ်ငန်းတွေလုပ်လို့ ဒုက္ခရောက်–ထောင်တန်း ကျသွားတယ်”

ဤသို့ ပြောလိုက်လျှင် တန်းပြီး သဘောပေါက်သွားကြ၏။ ဤကဲ့သို့ အကြောင်းကံနှင့် ကံ၏အကျိုး ရရှိ သွားကြတဲ့ သူတွေ ပေါ်လွင်လာအောင် ပြောလိုတဲ့ အခါမျိုးမှာလည်း သမ္မုတိစကားကို သုံးနှုန်းတော်မူ၏။ [အဋ္ဌကထာ၏ အာဘော်ကိုယူ၍ အဓိပ္ပာယ်ဖော်ခြင်း ဖြစ်သည်။]

## ထူးထူးချွန်ချွန်ပုဂ္ဂိုလ်တို့ကို ဖော်ပြလိုတဲ့အခါ

၃။ “ဘုရား သီတင်းသုံးတော်မူတဲ့ ဝေဠုဝန်ကျောင်းတော်ကြီးက ခန္ဓာ၊ အာယတန၊ ဓာတ်တွေ ဆောက်လုပ် လှူဒါန်းကြသည်။” “ဇေတဝန်ကျောင်းတော်ကြီးကိုလဲ ခန္ဓာ၊ အာယတန၊ ဓာတ်တွေဆောက်လုပ် လှူဒါန်းကြသည်” ဟု ပြောလျှင် နားမလည်နိုင်ကြ။ အဘယ့်ကြောင့် ဆိုသော် ပရမတ္ထ စကားလုံးတိုဖြင့် သုံးနှုန်းနေသောကြောင့် ဖြစ်၏၊

“အဲ ဝေဠုဝန်ကျောင်းတော်ကြီးကို ဗိမ္ဗိသာရမင်းကြီး ဆောက်လုပ်လှူဒါန်းသည်” “ဇေတဝန်ကျောင်းတော်ကြီးကို အနာထပိဏ်သူဌေးကြီး ဆောက်လုပ် လှူဒါန်းသည်” “ပုဗ္ဗာရုံကျောင်းတော်ကြီးကို ဝိသာခါ ကျောင်းအမကြီး ဆောက်လုပ် လှူဒါန်းသည်။

ဤသို့ ပြောလိုက်လျှင်ကား တန်းပြီးနားလည်သွားကြတော့၏၊ ဤသို့ အသီးအခြား ထူးထူးချွန်ချွန် ပြုလုပ် လှူဒါန်းတဲ့သူတွေထင်ရှားပေါ်လွင်လာအောင် ဖော်ပြလိုတဲ့ အခါမျိုးမှာလည်း သမ္မုတိစကားလုံးဖြင့် သုံးနှုန်းတော်မူ၏။

၄။ “လောကကြီး တစ်ခုလုံးမှာ ရုပ်နာမ်၊ ခန္ဓာ၊ အာယတန၊ ဓာတ်တွေချည်းပါပဲ၊ အမေ–အဖေ ဆိုတာ မရှိပါဘူး၊ ဒီတော့ လေးစားဖို့လဲမလို၊ ပြုစုလုပ်ကျွေးဖို့လဲမလို၊ စည်းကမ်းကလနား ထားဖို့လဲမလို” ဟု ဆိုကာ ထင်ရာကြဲကုန်မှာစိုးရသည်။

သို့ဖြစ်၍ စည်းကမ်းဘောင်ခတ်ရပြန်၏။ “အမေ–အဖေ” ဆိုတာ ရှိတယ်ဟဲ့၊ လေးစားရမယ်၊ ပြုစုလုပ်ကျွေးရမယ်၊ “ရဟန္တာ” ဆိုတာလဲ ရှိတယ်ဟဲ့ မစော်ကားရဘူး၊ ပြီးတော့ ဘုရားကိုလဲ သွေးစိမ်းတည်အောင် မလုပ်ရဘူး၊ အပြစ်ကြီးလှတယ်၊ သံဃာကိုလဲ အသင်းခွဲမှု မလုပ်ရ၊ အပါယ်ကျမယ်၊ ဒီ (၅) မျိုးအပေါ် စော်ကားမိရင် သေသည်၏ အခြားမဲ့၌ ငရဲ အဝီစိကျရတယ်”

ဤသို့လျှင် အနန္တရိယကံ ထိုက်နိုင်သော ပုဂ္ဂိုလ်တို့ကို ဖော်ပြလိုသောအခါမျိုး၌လည်း သမ္မုတိစကားလုံးကို သုံးနှုန်းတော်မူ၏။

## သမ္မုတိစကားလုံးဖြင့် သုံးနှုန်းမှ ပေါ်လွင်လာ

၅။ “နေ့စဉ်နေ့တိုင်း ခန္ဓာ၊ အာယတန၊ ဓာတ်တွေပေါ့၊ မေတ္တာပို့ကြတာ၊ သနားကြတာ၊ ဝမ်းမြောက်ကြတာ၊ ဥပေက္ခာ သဘောနဲ့ နေနိုင်ကြတာဟု ပြောလျှင် နားမလည်ကြ။

“ကျောင်းဒကာကြီး ဦးပုညတို့၊ ကျောင်းအမကြီး ဝိသာခါတို့ပေါ့၊ မေတ္တာပို့ကြ၊ သနားကြ၊

ဝမ်းမြောက်ကြ၊ ဥပေက္ခာသဘောနဲ့ နေနိုင်ကြတာဟု ပြောလျှင်ကား တန်းပြီး နားလည်သွားကြသည်။

ဤကဲ့သို့ (မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ–ဆိုတဲ့) ဗြဟ္မဝိဟာရ တရားဖြင့် နေထိုင်သူတွေ ပေါ်လွင်အောင် ပြောလိုတဲ့ အခါမျိုးလည်း သမ္မုတိစကားလုံး သုံးတော် မူ၏။

၆။ "ရှေးရှေး ဘဝါဘဝတွေက ခန္ဓာ၊ အာယတန၊ ဓာတ်တွေကို ပြန်ပြီး မြင်နိုင်တယ်" ဟု ပြောလျှင် မထင်ရှား၊ အဘယ့်ကြောင့်ဆိုသော် ခန္ဓာ၊ အာယတန၊ ဓာတ်တွေချည်းဖြစ်နေသောကြောင့်ပါပဲ။

"ရှေးအခါ ကကုသန်ဘုရား လက်ထက်တုန်းက ကြက်မကလေး ဖြစ်ခဲ့ဖူးတယ်၊ အဲဒီနောက် ရှင်ဘုရင့်သမီးတော်၊ အဲဒီနောက်– ဗြဟ္မာပြည်တက်၍ ဗြဟ္မာဖြစ်၊ အဲဒီက တစ်ဆင့် လျှော၍ နတ်ပြည်မှာ နတ်သမီးဖြစ်၊ ထိုမှတစ်ဖန် လူ့ပြည်ပြန်၍ သူဌေးသမီးဖြစ်၊ အဲဒီနောက် တိရစ္ဆာန်ဘုံရောက်၍ ဝက်မကလေး ဖြစ်။

ထိုမှတစ်ဖန် သုဝဏ္ဏဘုမ္မိတိုင်းပြည်မှာ ဘုရင့်သမီးလေးဖြစ်ပြန်၊ ထိုနောက် လှေသူကြီးသမီး၊ မြင်းကုန်သည်ကြီး၏သမီး၊ ထို့နောက် သီရိလင်္ကာနိုင်ငံသို့ သွား၍ အမတ်ကြီးတစ်ဦး၏ သမီးကလေးဖြစ်။

ဤသို့လျှင် ပုဗ္ဗေနိဝါသရှေး၌ နေခဲ့ဖူး– ဖြစ်ခဲ့ဖူးတဲ့ ဘဝမျိုးစုံကို ပုံပေါ်အောင် ဖော်ပြလိုတဲ့ အခါမျိုးမှာလည်း သမ္မုတိစကားလုံးကို သုံးနှုန်းတော်မူ၏။

၇။ "စင်ကြယ်တဲ့ ခန္ဓာ၊ အာယတန၊ ဓာတ်တွေ မနက်ပိုင်းတုန်းက မြို့ထဲလှည့်လည်လာကြတယ်"ဟု ပြောလျှင် နားမလည်နိုင်ကြ၊ အဘယ့်ကြောင့်ဆိုသော် ပရမတ္ထစကားလုံးတို့ဖြင့်သုံးနှုန်းထားသောကြောင့် ဖြစ်သည်။

"မြတ်စွာဘုရား အမှူးရှိတဲ့ အရိယာ သံဃာတော်တွေ ဆွမ်းခံကြွလာကြတယ်" ဟု ပြောလိုက်လျှင်ကား တန်းပြီး နားလည်သွားကြ၏။

ဤကဲ့သို့ စင်ကြယ်တဲ့အလှူခံ ပုဂ္ဂိုလ်များ၊ စင်ကြယ်တဲ့ အလှူဒါနများ ဖြစ်ပုံကိုပေါ်လွင် ထင်ရှားအောင်ပြလိုတဲ့ အခါမျိုးမှာလည်း သမ္မုတိစကားလုံး သုံးနှုန်းတော်မူသည်။

## လူတွေရဲ့အသုံး စကားလုံးအတိုင်း လိုက်၍လည်း

၈။ အမှန်စင်စစ်ကား သက်ရှိ သတ္တဝါတွေ ဟူသမျှ အကုန်လုံး ရုပ်နာမ် ၂ ပါး၊ အကျယ်ချဲ့လျှင် ခန္ဓာငါးပါးမျှသာ ဖြစ်ကြကုန်၏။ ထိုပြင် အာယတနတွေ၊ ဓာတ်တွေမျှသာ ဟူ၍လည်း ပြောဆိုနိုင်သေး၏။

ယင်းတို့ကိုပင် ပုဂ္ဂိုလ်–သတ္တဝါ– ငါ– သူတစ်ပါး၊ ယောကျာ်း–မိန်းမ၊ လူ–နတ်–ဗြဟ္မာ စသည်ဖြင့် နာမည်တွေတပ်၍ ပညတ်မှည့်ခေါ်ထားကြ၏။ ပညတ်ဟူသမျှ တကယ်အစစ်အမှန် မရှိကြ။

ဤသို့သိတော်မူကြပါ၏၊ သို့ရာတွင် နားလည်ရေး ကို ရှေးရှု၍ ပညတ်နယ်သားတို့အားပညတ်အပြော၊ ပညတ်အသုံး၊ ပညတ်စကားလုံးတို့ဖြင့်ပင် (လူတို့ အသုံးအတိုင်း လိုက်ကာ) မြတ်စွာဘုရား ဟောကြားသော နေရာများ ရှိပါသည်။

ဥပမာ–

"အာနန္ဒာ ... ငါဘုရား၏ ၂ ထပ် သင်္ကန်းကြီးကို ၄–လွှာခေါက်၍ ခင်းပေးပါ" ဟူ၍ လည်းကောင်း၊ "သာရိပုတ္တရာ... ငါဘုရား၏ကိုယ်စား တရားဟောလိုက်ပါ" ဟူ၍လည်းကောင်း၊ "မောဂ္ဂလာန်...ဘုရား၏ ကိုယ်စား နန္ဒော ပနန္ဒ နဂါးမင်းကြီးကိုဆုံးမလိုက်ပါ" ဟူ၍ လည်းကောင်း– စသည်ရှိပါ၏။

လူတို့ဝေါဟာရကို မပယ်လိုသောအခါ လူတို့အသုံး စကားလုံးအတိုင်းလိုက်၍လည်း မိန့်တတ်ပါ၏၊ ဤသို့လျှင် သမ္မုတိစကားလုံး သုံးစွဲသော နေရာ ဌာန (၈) ဌာန ရှိလေသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# ဥက္ကဋ္ဌကြီး–ဦးသံဒိုင် (၁၉၀၃–၁၉၇၉)



ဥက္ကဋ္ဌကြီး ဦးသံဒိုင်

ဦးသံဒိုင်သည် ခရစ်နှစ် ၁၉၀၃–ခုနှစ်တွင် ဖွားမြင်၏၊ ရန်ကုန်တက္ကသိုလ်တွင် ဘွဲ့ရပြီးနောက် ဒေါ်တင်တင်နှင့် အိမ်ထောင်ကျသည်၊ ထို့နောက် စီးပွားရေးလုပ်ငန်း ကြီးပမ်းခဲ့၏၊ အဆင်ပြေသည်၊ (ဦးဘိုးငြိမ်းကုမ္ပဏီ)ပိုင်ရှင် ဖြစ်၏၊ ကံ–ဉာဏ်–ဝီရိယ စုံညီကြသဖြင့် "လုပ်တိုင်းဖြစ်၊ ပစ်တိုင်းမှန်"ဆိုသလို အောင်မြင်ခဲ့သည်။

သို့သော် အသက် ၅၅–နှစ်ကျော်လာသောအခါ သဘာဝတရားတို့က သတ္တိပြလာကြ၏၊ ကျန်းမာရေး ယိုယွင်းလာကြသည်၊ ဆီးချို၊ သွေးတိုး၊ နှလုံး စသော ရောဂါတို့လည်း ဝင်လာကြသည်၊ ဆရာဝန် ကောင်းကောင်း သမားတော်ကောင်းကောင်းတို့ဖြင့် မိတ်ဖွဲ့ရတော့၏။

သို့သော်လည်း ခေတ္တမျှသာ သက်သာသည်၊ အိုခြင်းသဘော၊ နာခြင်းသဘောတို့ကို မည်သူ တားနိုင်အံ့နည်း၊ သေမင်းက တံခါးကိုလာ၍ ခေါက်သလို ဖြစ်တော့၏။

သို့ဖြစ်၍ အားကိုးရာ တရားကို ရှာခဲ့သည်၊ ဟိုဆရာတော် သည်ဆရာတော်များထံသို့ ချဉ်းကပ်ခဲ့၏၊ ဟိုနည်း သည်နည်းတို့ဖြင့်လည်း အားထုတ်ကြည့်ခဲ့သည်၊ သို့သော် တင်းတိမ်ကျေနပ်မှု မရခဲ့၊ နောက်ဆုံးတွင် မိုးကုတ်ဆရာတော်ဘုရားကြီးထံသို့ ရောက်သွားတော့သည်။

မိုးကုတ်ဆရာတော်ဘုရားကြီးထံသို့ ရောက်သော်လည်း အစပိုင်းတွင် ဘဝင်မကျသေး၊ ထို့ကြောင့် "မှန်ပါဘုရား၊ တင်ပါဘုရား"လို့ မလိုက်သေး၊ ဦးသံဒိုင်နှင့် ဦးထွန်းရင်တို့ ၂–ယောက်လုံး ခေါင်းမာနေကြသေး၏။

ဤအခြေအနေကို သိ၍ မိုးကုတ် ဆရာတော်ဘုရားကြီးက "ဒင်း"ခနဲ "ဒင်း"ခနဲ ထိ၍၊ "လင်း" ခနဲ "လင်း"ခနဲ သိအောင် ဟောလာပြောလာတော့မှ သူတို့တွေ ခေါင်းငုံ့လာကြတော့၏၊ နောက်ပိုင်းကျမှ "မှန်ပါဘုရား၊ တင်ပါဘုရား"လို့ ဝန်ခံလာကြရတော့သည်။

မိုးကုတ် ဆရာတော်ဘုရားကြီးနှင့် တွေ့သော အခါတွင်ကား ဉာဏ်တွေ ပွင့်လင်းသွားတော့၏၊ နေအစင်း(၁၀၀) ထွက်လိုက်သလို လင်းသွားတော့သည်၊ ဤတွင် ဆရာတော်ကြီးအပေါ် အကြွင်းမဲ့ ယုံကြည်သွားတော့၏။

ဆရာတော်ဘုရားကြီး၏ ထံမှောက်တွင် အနီးကပ် ညွှန်ကြားမှုကို ခံယူ၍ ဖိဖိစီးစီး တရားအားထုတ်ခဲ့သည်၊ ဆရာတော်ဘုရားကြီးကလည်း သူ၏ကြိုးစားမှုကို အားရတော်မူ၏၊ ဤနည်းအားဖြင့် ဆရာတော်ဘုရားကြီး၏ တပည့်သာဝက အစစ်ကြီး ဖြစ်၍သွားတော့သည်။

**တစ်ဘဝသာသနာ**

## သူ့ အမြော်အမြင်ကြောင့်

၁၉၆၂–ခုနှစ်မှ ၁၉၇၉–ခုနှစ်တိုင်အောင် နှစ်ပေါင်း (၁၇)နှစ်တိုင်တိုင် လောကဓံ အမျိုးမျိုးကို ရင်ဆိုင်ရင်း မိုးကုတ်ဒေသနာတွေ မပျောက်အောင်၊ တည်တံ့အောင်၊ ပြန့်ပွားအောင် ကြိုးစားနေခဲ့သူ ဖြစ်သည်။

ယနေ့ မိမိတို့ မိုးကုတ်တရားတွေ နာနေရ၊ မိုးကုတ် နည်းဖြင့် တရားတွေ အားထုတ်ခွင့်ရနေသည်မှာ သူ၏ကျေးဇူး၊ သူ၏အရှည်မြော်မြင်မှု၊ သူဦး ဆောင်၍ အဖွဲ့၏ ထိန်းသိမ်းစောင့်ရှောက်မှုကြောင့် ဖြစ်သည်ဟု ဆိုလျှင် မမှားချေ။

ဤသို့အားဖြင့် မနေမနား ကြိုးစားလာခဲ့ပြီး နောက် ၁၉၇၉–ခု ဩဂုတ်လ(၁၇)ရက်နေ့သို့ အရောက်တွင်ကား အသက်(၇၆)နှစ်အရွယ်တွင် ကွယ်လွန်အနိစ္စ ရောက်ခဲ့ရလေသည်၊ သို့ဖြစ်၍ သူ အလွန်မြတ်နိုးခဲ့သော မိုးကုတ်ဝိပဿနာဓမ္မရိပ်သာကြီးကို မျက်နှာလွှဲ၍ သွားခဲ့ရလေသည်။

သို့သော်လည်း အေးမြကြည်လင်သော မိုးကုတ်ဓမ္မဒေသနာ သစ္စာမိုးရေတို့ကိုကား သူသည် အပြည့်အဝ အားရအောင် သောက်ချိုး၍ သွားနိုင်ခဲ့ပြီဟု အားလုံးကပင် ဟုံကြည်ရပါသည်။

ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချပြီးသောအခါ ဦးသံဒိုင်သည် ဆရာတော်ဘုရားကြီး၏ ဟောပြောချက်တို့ကို ပို၍ အာရုံစိုက်လာရတော့၏၊ မပျောက်ပျက်ရအောင် စွမ်းအားရှိသမျှ လိုက်လံရှာဖွေစုဆောင်းခဲ့သည်၊ ဤကိစ္စကို အဖွဲ့အစည်း တည်ထောင်ပြီး ကျယ်ကျယ်ပြန့်ပြန့် ရွက်ဆောင်လေတော့သည်။

ဆရာတော်ဘုရားကြီး ဟောပြောထားသော တရားတိပ်ခွေတို့ကို စုဆောင်းခြင်း၊ တရားတိပ်ခွေမှ စာအဖြစ်သို့ ပြောင်း၍ စာအုပ်ဖြန့်ဝေခြင်း၊ ရန်ကုန်မြို့နှင့်တကွ နယ်မြို့ကလေးများပါ အဖွဲ့ခွဲများ ဖွဲ့ပေးခြင်း၊ ရပ်ကွက်ဓမ္မာရုံများသို့ အနှံ့အပြားသွားကြ၍ ဆရာတော်ဘုရားကြီး၏ တရားတိပ်ခွေတို့ကို ဖွင့်ပြခြင်းလုပ်ငန်းတို့ကို မညည်းမညူ ရွက်ဆောင်ခဲ့သည်။

ဤနည်းအားဖြင့် ၁၉၆၄–ခုနှစ်သို့ ရောက်သောအခါ သူ့ကို အားလုံးက ဝိုင်း၍ ဥက္ကဋ္ဌအဖြစ် တင်ကြသဖြင့် ဥက္ကဋ္ဌအဖြစ်ဖြင့် ဆောင်ရွက်ခဲ့၏၊ သူ့အဖို့ ဥက္ကဋ္ဌအဖြစ် တင်တင်၊ အတွင်းရေးမှူးအဖြစ် မြှောက်မြှောက်၊ အဖွဲ့ဝင်အဖြစ်ပဲ ထားထား အမြဲတမ်း ကြိုးစားနေရမှာပဲ–ဟူသော အသိဖြင့် ဝီရိယရှိသူ၊ အမြဲတမ်း အလုပ်လုပ်သူ ဖြစ်ခဲ့သည်။

## မပျက်ရအောင် ဆက်လက် ထိန်းကိုင်လာခဲ့သော မိုးကုတ်အဖွဲ့ချုပ်

ဦးသံဒိုင် မရှိသောအခါ ဦးသံဒိုင်၏ ဥက္ကဋ္ဌနေရာတွင် ဦးအောင်ကျော် (ကျောင်းအမ အဘွားဖုံ၏ သမက်)ကို ဝိုင်းဝန်းတင်မြှောက်ကြ၏၊ သို့ဖြစ်၍ ထိုအချိန်မှစပြီး ဦးအောင်ကျော်က ဥက္ကဋ္ဌတာဝန်ကို ယူကာ လုပ်ငန်းစဉ်များ မပျက်ရအောင် ထိန်းကိုင်လာခဲ့ရသည်၊ ယနေ့တိုင်အောင်ပင် ဖြစ်တော့၏။

အတွင်းရေးမှူးများကား အစပိုင်းတွင် စတီးဘရားသား ကုမ္ပဏီ ကိုယ်စားလှယ် ဦးဘသောင်းဖြစ်သည်၊ ထို့နောက် ဦးချစ်ယုံ၊ ထို့နောက် ဦးတင်အောင်၊ ထို့နောက် ဦးရှိန်ရုံ ဆောင်ရွက်၏၊ ထို့နောက် ဦးကျော်ညွှန့် ဆောင်ရွက်လာခဲ့ရာ ယခုအခါတိုင်အောင်ပင် ဖြစ်တော့၏။

ဤနည်းအားဖြင့် မိုးကုတ်ဒေသနာတွေ ပြန့်ပွားအောင် တက်ညီလက်ညီ ကြိုးစားခဲ့ကြသဖြင့် တစ်နိုင်ငံ

လုံး ကျေးဇူးများကြရတော့သည်၊ တရားရထိုက်သူများ ရဖို့ဖြစ်တော့၏၊ အားလုံး၏ နှုတ်ဖျားက ကျေးဇူးတင်စကား ပြောလာကြတော့သည်။

တောင်တွင်းကြီးမြို့က မိုးကုတ်ယောဂီ ဦးဘဂျမ်းကြီးကဆိုလျှင် ရန်ကုန်အဖွဲ့ချုပ်က အဖွဲ့ဝင်လူကြီးတွေကိုရော၊ အထူးအားဖြင့် ဦးသံဒိုင်ကိုရော နေ့စဉ်နေ့တိုင်း လက်အုပ်ချီ၍ ချီ၍ ကန်တော့ပါသတတ်။

ဤသို့ တရားရထိုက်သူများ ကျေးဇူးများဖို့အတွက် အခါအားလျော်စွာ အဖွဲ့ခွဲများနှင့် အဖွဲ့ချုပ်ကြီး တွေ့ဆုံညှိနှိုင်းပွဲညီလာခံလည်း ပြုလုပ်ပေးခဲ့သည်၊ ခရစ် ၁၉၇၀–ခုနှစ်က တစ်ကြိမ်၊ ၁၉၉၃–ခုနှစ်တွင် ဒုတိယအကြိမ်အဖြစ် တစ်ကြိမ် ညီလာခံ ကျင်းပခဲ့ကြ၏။

## ပုဂ္ဂိုလ်ကိုးကွယ်မှုနှင့် ဓမ္မကိုးကွယ်မှု

တရားဌာနများ မြန်မာနိုင်ငံ၌ များစွာ ရှိကြ၏၊ ထိုတွင် အချို့ဌာနက ပုဂ္ဂိုလ်ကိုးကွယ်မှုကို ဦးစားပေးသည်၊ အချို့ဌာနကတော့ ဓမ္မကိုးကွယ်မှုကို ဦးစားပေး၏။

ပုဂ္ဂိုလ်ကိုးကွယ်မှုကို ဦးစားပေးခဲ့ပါလျှင် ထိုပုဂ္ဂိုလ် မရှိသောအခါ ထိုဌာနလည်း ကျဆင်း ပျက်ပြားသွားရတတ်၏။

ဓမ္မကိုးကွယ်မှုကို ဦးစားပေးလျှင်ကား ထိုဦးစီး ခေါင်းဆောင် မရှိသော်လည်း ဓမ္မကို နှစ်သက်မြတ်နိုးနေသောကြောင့် ထိုဌာနသည် ကျဆင်းသွားခြင်း မရှိ၊ ပျက်ပြားသွားခြင်း မရှိ၊ ဓမ္မ ခိုင်မာသလောက် တည်တံ့နိုင်လေသည်။

ထို ၂–မျိုးတွင် မိုးကုတ်သည် ဓမ္မကိုးကွယ်မှုကို ဦးစားပေးသော အမျိုး၌ ပါဝင်၏၊ ထို့ကြောင့် လူပုဂ္ဂိုလ်၊ ရဟန်းပုဂ္ဂိုလ်၊ ဓမ္မကထိကပုဂ္ဂိုလ် တစ်ဦးတစ်ယောက် ဖောက်ပြန်ပျက်စီးခဲ့သော် ထိုပုဂ္ဂိုလ်သာလျှင် ကျဆင်းသွား၏၊ ဓမ္မကား မကျဆင်းပေ၊ ဌာနလည်း မပျက်ပြားချေ။

ဤအခြေအနေ ဖြစ်အောင် အစကတည်းကပင် မိုးကုတ်က ဖန်တီးလာခဲ့ကြသည်၊ ထို့ကြောင့် မိုးကုတ်ဝိပဿနာ အဖွဲ့များကို အဓိကအားဖြင့် လူပုဂ္ဂိုလ်များကသာလျှင် ထိန်းကိုင်လာခဲ့ကြခြင်းဖြစ်သည်။

## အဖွဲ့အစည်းဖြင့် ထိန်းသိမ်းလာခဲ့ကြခြင်း

မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဥပနိဿယ၊ ဟောပြောချက်၊ လုပ်ငန်းစဉ်တို့ကို ပျောက်ပျက် မကုန်ရအောင် အဖွဲ့အစည်းဖြင့် စုပေါင်း၍ ထိန်းသိမ်းလာခဲ့ကြ၏၊ ဖွဲ့စည်း ပုံစံမှာ ၁၉၆၂–ခုနှစ်၊ နိုဝင်ဘာလ (၃)ရက်နေ့တွင် စတင် ဖွဲ့စည်းစဉ်က–

၁။ ဥက္ကဋ္ဌ–ဦးအောင်ဇံဝေ (ဝန်ကြီးဟောင်း)
၂။ ဒုဥက္ကဋ္ဌ–မြန်အောင် ဦးတင် (ဝန်ကြီးဟောင်း)
၃။ ဒုဥက္ကဋ္ဌ–ဦးသံဒိုင် (ဦးဘိုးငြိမ်း ကုမ္ပဏီ)
၄။ အတွင်းရေးမှူး–ဦးဘသောင်း (စတီးဘရားသား ကုမ္ပဏီ ကိုယ်စားလှယ်)
၅။ ငွေထိန်း–ဦးသန်းမောင် (ကျားပျံ–မကောက်)
၆။ အဖွဲ့ဝင်–၁၅ဦး (ဖော်ပြပြီး)

## ၁၉၆၃–ခု (ဒုတိယနှစ်အတွင်း)

**အလုပ်အမှုဆောင်အဖွဲ့**

၁။ ဥက္ကဋ္ဌ–ဦးအောင်ဇံဝေ (ဝန်ကြီးဟောင်း)

၂။ ဒုဥက္ကဋ္ဌ–မြန်အောင် ဦးတင် (ဝန်ကြီးဟောင်း)

၃။ ဒုဥက္ကဋ္ဌ–ဦးသံခိုင် (ဦးဘိုးငြိမ်း ကုမ္ပဏီ)

၄။ အတွင်းရေးမှူး–ဦးဘသောင်း (စတီးဘရားသား ကုမ္ပဏီ ကိုယ်စားလှယ်)

၅။ ငွေထိန်း–ဦးသန်းမောင် (ကျားပျံ–မကောက်)

၆။ အဖွဲ့ဝင်များ–မိုးကုတ်မြို့မှ ကျောင်းအမကြီး ဒေါ်ဒေါ်ဖုံနှင့် တကွ၊ သား–ဦးမြင့်၊ သားမက်–ဦးအောင်ကျော်၊ ကျောက်ကုန်သည်–ဦးအောင်ချိတို့ပါ–ပါလာကြသည်။

## ၁၉၆၄–ခု (တတိယနှစ်အတွင်း)

မိုးကုတ်အဖွဲ့သည် တရွေ့ရွေ့ဖြင့် ချီတက်လာခဲ့ကြရာ ၂–နှစ်ကျော် ၃–နှစ် အတွင်းသို့ပင် ချဉ်းနင်းဝင်လာ၏၊

၁၉၆၄–ခု ဧပြီလ (၂၁)ရက်နေ့တွင် ဒုတိယနှစ်ပတ်လည် ကျင်းပသောအခါ ဖွဲ့စည်းပုံ တိုးလာသည်၊ နာယကအဖွဲ့ ပါလာ၏။

## အဖွဲ့ နာယကကြီးများ

၁။ ဦးအောင်ဇံဝေ (ဝန်ကြီးဟောင်း)

၂။ ဦးမာဒင် (ဟသ်ာတ)

၃။ ဦးသန်းမောင် (ကျားပျံ)

၄။ ဒေါ်ဒေါ်ဖုံ (ကျောင်းအမကြီး)

**အလုပ်အမှုဆောင်အဖွဲ့**

၁။ ဥက္ကဋ္ဌ–ဦးသံခိုင် (ဦးဘိုးငြိမ်းကုမ္ပဏီ)

၂။ ဒုဥက္ကဋ္ဌ–မြန်အောင် ဦးတင် (ဝန်ကြီးဟောင်း)

၃။ ဒုဥက္ကဋ္ဌ–ဦးအောင်ချိ (ကျောက်ကုန်သည်)

၄။ ငွေထိန်း–ဦးသံခိုင် (ဦးဘိုးငြိမ်း ကုမ္ပဏီ)

၅။ အတွင်းရေးမှူး–ဦးဘသောင်း (စတီးဘရားသား ကုမ္ပဏီ ကိုယ်စားလှယ်)

၆။ အဖွဲ့ဝင်လူကြီး–၁၉ဦး (ဖော်ပြပြီး)

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

# မကွယ်ပျောက်အောင် စောင့်ရှောက်ထိန်းသိမ်း



မိုးကုတ်တရားတော်များပြန့်ပွားဖို့ရန် ရှေးဦးအမာခံ ဆရာတော်များ
(ဝဲမှယာသို့)
ဆရာတော် ဦးဇနိတာလင်္ကာရ၊ ဆရာတော် ဦးဇဝန၊ ဆရာတော် ဦးဓမ္မိဿရ၊ ဆရာတော် ဦးဓမ္မသာရ

၁၉၆၄–ခုနှစ်မှစ၍ ၁၉၇၀–ခုနှစ်အထိ ဥက္ကဋ္ဌအဖြစ် ဦးသံဒိုင် ဦးဆောင်သော အဖွဲ့က ဆက်လက်ထိန်းသိမ်းလာခဲ့ကြသည်၊ အတွင်းရေးမှူး ဦးချစ်ယုံပြောင်းလာ၏။

**မှတ်ချက်။** ။ဤ ၁၉၇၀–ခုနှစ်တွင် ရန်ကုန်အဖွဲ့ချုပ်ကြီးနှင့် နယ်အဖွဲ့ခွဲ ပေါင်းစုံတို့ ပထမဦးဆုံး အကြိမ် အဖြစ် ညီလာခံ ကျင်းပကြသည်။

၁၉၇၂–ခုနှစ်တွင် ဥက္ကဋ္ဌ–ဦးသံဒိုင်၊ အတွင်းရေးမှူး–ဦးတင်အောင် ဖြစ်လာသည်၊ ၁၉၇၃–ခုနှစ်တွင်ကား ဥက္ကဋ္ဌ–ဦးသံဒိုင်၊ အတွင်းရေးမှူး ဦးရှိန်ရဲ ပြောင်းလာပြန်၏။

ထို ၁၉၇၃–ခုနှစ်ဝါဆိုဦးတွင် ဆင်ဖြူကျွန်းမှ ဦးဓမ္မသာရလည်း ဓမ္မကထိကအဖြစ် တစ်ပါး တိုးလာခဲ့သည်။ အဟောအပြောဘက်တွင် အကျော်အမော်ဖြစ်၏။ နာမည်ကြီးသည်။

ရှေ့ပိုင်းတုန်းက လူပုဂ္ဂိုလ် ဓမ္မ ကထိကများ အနေဖြင့် ဗုဒ္ဓဝင်–ဆရာထွန်း၊ ဦးထူးရွှေ၊ ရတနာပုံ ဆရာချစ်တို့ ဟောပြောခဲ့ကြ၏။

သံဃာတော်များဘက်မှ ဆရာတော် ဦးဓမ္မိဿရ၊ ဦးဇဝန၊ ဦးသောဘိတ၊ ဆရာတော် ဦးဇနိတာလင်္ကာရတို့ ဟောပြောခဲ့ကြသည်၊ နောက်ပိုင်းတွင် ဆရာတော် ဦးဇာနေယျ၊ ဆရာတော် ဦးအနောပမ၊ ဆရာတော် ဦးအဂ္ဂဉာဏတို့ ဟောခဲ့ကြသည်။

ထိုအချိန်မှစ၍ ရန်ကုန်အဖွဲ့ချုပ်ကြီးတွင် လူ့အဖွဲ့အစည်းများ၏ အထက်က ဦးသျှောင်အနေအားဖြင့် သံဃာတော်များအဖွဲ့ တိုးလာသည်။ ပုံစံမှာ–

၁။ ကမ္မဋ္ဌာနာစရိယဆရာတော်အဖွဲ့(၃–ပါးသာ)
၂။ ဓမ္မ ကထိက ဆရာတော်များ (များစွာ)
ဟူ၍ ဖြစ်၏။



ရှေးဦး အမာခံ ဆရာတော်

**ဦးဓမ္မိဿရ**

### တစ်ဘဝသာသနာ

## ဆရာ–ဒကာ ညီညာလက်တွဲ၍

ဥက္ကဋ္ဌကြီး ဦးသံဒိုင် ဦးဆောင်သော လူ့ အဖွဲ့ အစည်းသည် ဖော်ပြခဲ့ပြီးအတိုင်း သံဃာတော်များအဖွဲ့ ကိုပါ တိုးချဲ့ ဖွဲ့စည်းလာခဲ့၏၊ ထိုပုံစံအရ– ကမ္မဋ္ဌာနာစရိယ ဆရာတော်များအဖွဲ့တွင်–

၁။ ဆရာတော် ဦးဇနိတာလင်္ကာရ

၂။ ဆရာတော် ဦးဓမ္မိဿရ

၃။ ဆရာတော် ဦးဓမ္မသာရ

ဟူ၍ သုံးပါးက ဦးဆောင်လာခဲ့သည်၊ ကျန်သော သံဃာများက ဓမ္မ ကထိကများအဖြစ် ဆောင်ရွက်တော်မူကြ၏၊ ဤနည်းအားဖြင့် ၁၉၇၉–ခု ဩဂုတ်လ(၁၇) ရက် အထိ ဦးသံဒိုင်က ဥက္ကဋ္ဌအဖြစ် ဦးဆောင်လာခဲ့သည်။

ဥက္ကဋ္ဌကြီး ဦးသံဒိုင် မရှိသောအခါ– ကျောင်းအမကြီး ဒေါ်ဒေါ်ဖုံ၏ သမက် ဦးအောင်ကျော်ကို ဝိုင်းဝန်း၍ ဥက္ကဋ္ဌ တင်ကြ၏၊ အတွင်းရေးမှူး ဦးရိုန်ရုံ ဖြစ်သည်။

ဤသို့ဖြင့် တရွေ့ရွေ့ ချီတက် လာခဲ့ကြရာ ၁၉၈၂–ခုနှစ်တွင် ဥက္ကဋ္ဌ–ဦးအောင်ကျော်၊ အတွင်းရေးမှူး အဖြစ် ဦးကျော်ညွန့် ပြောင်းလာသည်။

လူပုဂ္ဂိုလ် ဓမ္မကထိကများလည်း တိုးပွားလာခဲ့ကြ၏၊ ယခင်ပုဂ္ဂိုလ်ကြီးများအပြင် နောက်ထပ် ဆရာကြီးဦးလှဖေ (နောင်တွင် ဦးဣန္ဒောဘာသ ဖြစ်လာ) ဆရာကြီး ဦးကျော်စိန်(တောင်ဥက္ကလာပ)၊ ဆရာကြီး ဦးကျော့ရှင်း၊ ဆရာကြီး ဦးကျော်စိန် (ဇလွန်)။။

ဆရာကြီး ဦးကံစိန်၊ ဆရာကြီး ဦးစောအောင်၊ ဆရာကြီး ဦးဆန်းတင့်(သာကေတ)၊ ဆရာကြီး ဦးသန့်စင်၊ ဆရာကြီး ဦးအုန်းရွှေ(စမ်းချောင်း)၊ ဆရာကြီး ဦးခိုင်၊ ဆရာကြီး ဦးချစ်ခိုင်၊ ဆရာကြီး ဦးဘမြင့်၊ ဆရာကြီး ဦးတင့်ဝေ၊ ဆရာကြီး ဦးစိန်ဝ– စသည်ဖြင့် များစွာ တိုးပွားလာ ကြသည်။

ထို့ပြင်လည်း နောက်ထပ်–နောက်ထပ်၊ ရဟန်းပုဂ္ဂိုလ်–လူပုဂ္ဂိုလ် ဓမ္မကထိကများ တိုးလျက်၊ ပွားလျက် မြိုင်မြိုင်ဆိုင်ဆိုင် ဟောကြားလျက် ရှိကြပါသည်။

## ကမ္မဋ္ဌာနာစရိယ ဆရာတော်များ

မိုးကုတ် ဝိပဿနာတရားစဉ်နှင့် လုပ်ငန်းစဉ် ပြန့်ပွားရေး ကိစ္စသည် ယခုအခါ အတော် အရှိန်ကောင်းလာသည်၊ လူ့ဘက်–ရှင့်ဘက် အတော်ပင် အားတက်နေကြ၏၊ ဤအချိန်တွင် ၁၉၈၃–ခု နတ်တော်လ၌ ကမ္မဋ္ဌာနာစရိယ ဆရာတော် ဦးဓမ္မိဿရ ပျံတော်မူခဲ့သည်။

ဆက်လက် ချီတက်လာခဲ့ကြရာ ၁၉၈၅–ခုနှစ်တွင် ဆရာတော် ဦးဃောသိတလည်း မိုးကုတ်သို့ ရောက်လာခဲ့၏၊ ဖွဲ့စည်းပုံအရ ကမ္မဋ္ဌာနာစရိယ ၃–ပါး ရှိရမည် ဖြစ်ရာ ယခုအခါ တစ်ပါး လျော့နေ၏၊ ထို့ကြောင့် တစ်ပါး ထပ်မံ ဖြည့်သွင်းရန် ရှိနေသည်။

ထို့ကြောင့် ၁၉၈၆–ခုနှစ်ဦးပိုင်းတွင် ထပ်မံ ဖြည့်သွင်း၍ ကမ္မဋ္ဌာနာစရိယဆရာတော်များအဖွဲ့တွင်–

၁။ ဆရာတော် ဦးဇနိတာလင်္ကာရ၊

၂။ ဆရာတော် ဦးဓမ္မသာရ၊

၃။ ဆရာတော် ဦးဃောသိတ

တို့ ဖြစ်လာကြသည်၊ ကျန်ဆရာတော်များကား ဓမ္မကထိကများ အဖြစ်ဆောင်ရွက်တော်မူကြသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏



ကမ္မဋ္ဌာနာစရိယ ဆရာတော်များ
(ဝဲမှယာသို့)
၁။ ဆရာတော် ဦးဃောသိတ။ ၂။ ဆရာတော် ဦးဇနိတာလင်္ကာရ။ ၃။ ဆရာတော် ဦးဓမ္မသာရ။

# ရန်ကုန်မြို့၊ မိုးကုတ်အဖွဲ့ချုပ်ကြီး ရပ်တည်နေပုံ

ယခုလက်ရှိအနေအားဖြင့် ရန်ကုန်မြို့၊ မိုးကုတ်ဝိပဿနာ ဓမ္မရိပ်သာ အဖွဲ့ချုပ်ကြီးတွင် ဖွဲ့စည်းပုံအရ ဟောပြောမှုများဘက်၌–

၁။ ကမ္မဋ္ဌာနာစရိယဆရာတော်များ၊

၂။ အရန် ကမ္မဋ္ဌာနာစရိယ ဆရာတော်များ၊

၃။ အဖွဲ့ချုပ်ခန့် ရဟန်းဓမ္မကထိကများ၊

၄။ အဖွဲ့ချုပ်ခန့် လူပုဂ္ဂိုလ်ဓမ္မကထိကများ၊

၅။ မြို့နယ်ခန့် ရဟန်းဓမ္မကထိကများ၊

၆။ မြို့နယ်ခန့် လူပုဂ္ဂိုလ်ဓမ္မကထိကများ ဟူ၍ ရှိကြသည်။

အုပ်ချုပ်ရေးပိုင်းဆိုင်ရာ လူပုဂ္ဂိုလ်များဘက်၌လည်း–

၁။ နာယကပုဂ္ဂိုလ်ကြီးများ၊

၂။ အလုပ်အမှုဆောင်လူကြီးများ၊

၃။ အဖွဲ့ဝင်လူကြီးများ ဟူ၍ ရှိကြသည်။

ဤသို့လျှင် ဥက္ကဋ္ဌကြီး ဦးအောင်ကျော်၊ အတွင်းရေးမှူး–ဦးကျော်ညွန့်တို့ ဦးဆောင်ခဲ့သော အဖွဲ့သည် အရှိန်ကောင်းစွာဖြင့် တရွေ့ရွေ့ ချီတက် လာခဲ့ကြရာ ၁၉၉၃–ခုနှစ်သို့ ရောက်လာတော့သည်။



ယခုလက်ရှိ
ဥက္ကဋ္ဌကြီး
ဦးအောင်ကျော်



ယခုလက်ရှိ
အတွင်းရေးမှူး
ဦးကျော်ညွန့်

မိုးကုတ်ဆရာတော်ဘုရားကြီး၏



၁၉၉၃–ခု၊ ဇန်နဝါရီလ (၂–၃–၄) ရက်
ဒုတိယအကြိမ် ဓမ္မသဘင် ညီလာခံတွင် တက်ရောက်လာကြသော
ကမ္မဋ္ဌာနာစရိယ၊ အဖွဲ့ဝင်လူကြီးများ၊ ဓမ္မကထိကများနှင့် အဖွဲ့ခွဲ ကိုယ်စားလှယ်တော်ကြီးများ။

## ဒုတိယအကြိမ် ညီလာခံ ကျင်းပ

၁၉၉၃–ခုနှစ်သစ်ဦး ဇန်နဝါရီလ (၂.၃.၄)ရက်နေ့များတွင် ရန်ကုန်မြို့၊ မိုးကုတ် ဝိပဿနာ အဖွဲ့ချုပ်ကြီး၌ ဒုတိယအကြိမ်အဖြစ် (စုံညီဓမ္မသဘင်) ညီလာခံပွဲကြီး ကျင်းပကြသည်။ ယခု ဤကျမ်းစာကို ယင်းဒုတိယအကြိမ် ညီလာခံဖြင့် နိဂုံးချုပ်ပါတော့မည်။

ဤအချိန်တွင် တစ်နိုင်ငံလုံး၌ မိုးကုတ်ဝိပဿနာအဖွဲ့ခွဲပေါင်း (၁၆၂)ခုမျှ ရှိလေပြီ၊ ရဟန်းဓမ္မကထိက၊ လူဓမ္မကထိကပေါင်း (၅၀)ကျော် တက်ရောက်လာကြသည်။

ဤနည်းအားဖြင့် စဉ်ဆက်မပြတ် ဆက်လက်ဆောင်ရွက်လာခဲ့ကြရာ– ယနေ့ ၁၉၉၅–ခု တိုင်အောင် ဥက္ကဋ္ဌကြီး – ဦးအောင်ကျော်နှင့် အတွင်းရေးမှူး ဦးကျော်ညွန့်တို့ ဦးဆောင်လျက် ရှိကြပါသည်။

ထို့ပြင် ဒုဥက္ကဋ္ဌ–ဦးအောင်ချို၊ ဒုဥက္ကဋ္ဌ–ဦးမြင့်၊ တွဲဖက်အတွင်းရေးမှူး–ဦးဘတင်၊ အဖွဲ့ဝင်လူကြီးများအဖြစ် ဦးချန်ထွန်း၊ ဦးညွန့်လှိုင်၊ ဦးစိုးမြင့်၊ ဦးထွန်းဉာဏ်၊ ဦးအုန်းမောင်၊ ဦးစိန်တင်၊ ဦးဆွေတင် (အမေရိကန်နိုင်ငံ)၊ ဒေါ်စိန်စိန်၊ ဒေါ်သန်းသန်း၊ ဒေါ်ကြည်ကြည်ဒိုင် (အမေရိကန်နိုင်ငံ)တို့လည်း အားတက်သရော ပါဝင်ဆောင်ရွက်လျက်ရှိကြပါသည်။

**သစ္စာတရားများ ကမ္ဘာအနှံ့**
**ပြန့်စေသောဝ်...။**



# အရှင်ဇောသိတ၏ တစ်ဘဝတာ အကျဉ်းချုပ်



ဤကျမ်းစာကိုရေးသားသော တစ်ဘ၀သာသနာ အရှင်ဇောသိတ

မိုးကုတ်ဆရာတော်ဘုရားကြီး၏ "တစ်ဘ၀ သာသနာ" ဤကျမ်းစာကို ရေးသားသူမှာ– အမရပူရ၊ မဟာဂန္ဓာရုံ၊ ဘာသာဋီကာများ ကျမ်းပြုအကျော်၊ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဇနကာဘိဝံသ၏ "တစ်ဘ၀သာသနာ" ကို ရေးသားခဲ့သော အရှင်ဇောသိတပင် ဖြစ်ပါသည်။

သို့ဖြစ်၍ အရှင် ဇောသိတသည် သာသနာတော်တွင် နေလို–လလို ထွက်ပေါ် ပရိယတ္တိအကျော် အမော် ဆရာတော် အရှင် ဇနကာဘိဝံသနှင့် ပဋိပတ္တိအကျော်အမော် မိုးကုတ်ဆရာတော် ဦးဝိမလ၊ ဤဆရာတော်ဘုရားကြီး ၂–ပါး ၏ "တစ်ဘ၀သာသနာ" ကို ရေးသားခွင့်ရသူ ဖြစ်တော့သည်၊ ကံကောင်းလေစွ...။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

အရှင်ဃောသိတသည် အမရပူရမှာ ကြာရှည်လေးမြင့်စွာ နေထိုင်လာခဲ့သူ ဖြစ်၍ အမရပူရနှင့် ပတ်ဝန်းကျင် သူ့အထာအကြောင်း ကောင်းကောင်း သိနေသည်က တစ်ကြောင်း၊ ဆရာတော်ဘုရားကြီး ၂–ပါးကို မျက်ဝါးထင်ထင် အနီးကပ် ဖူးမြင်ဆည်းကပ် လိုက်ရသည်က တစ်ကြောင်း၊ ဤအကြောင်းတို့ကြောင့် လက်မတွန့်ဘဲ ဝံ့ဝံ့ရဲရဲကြီး ရေးသားနိုင်ခြင်း ဖြစ်လေသည်၊ ယင်း၏ တစ်ဘဝတာအကျဉ်းချုပ်ကား–

## ဇာတိချက်ကြွေ–ဖွားရာမြေ

အရှင်ဃောသိတ လောင်းလျာ သူငယ်ကို မကွေးတိုင်း၊ တောင်တွင်းကြီး၊ မြို့သစ်မြို့နယ်၊ လေးတိုင်စင် အုပ်စု၊ ဖိုကြီးကျေးရွာတွင် ဖွားမြင်သည်၊ သက္ကရာဇ် ၁၂၉၂–ခု၊ ကဆုန်လဆန်း ၉–ရက်၊ တနင်္လာနေ့ ညဉ့်ဦးပိုင်းက ဖွားမြင်ခဲ့၏၊ မိဘများမှာ အဘ–ဦးဘိုးချို၊ အမိ– ဒေါ်ဆယ်မိတို့ ဖြစ်ကြပါသည်။

လယ်မြေ ယာမြေ ဥယျာဉ်ကိုင်းကျွန်းတို့ကို အမှီပြုလျက် သမ္မာအာဇီဝဖြင့် အသက်မွေးကြသော ရိုးသားသူမိဘများဖြစ်ကြပါ၏၊ သားသမီး ၇– ယောက် ဖွားမြောက်ခဲ့ကြရာ ရှေ့ပိုင်း၌ ယောကျ်ား ၄–ယောက် စဉ်လျက်၊ နောက်ပိုင်း၌ မိန်းကလေး ၃–ယောက် စဉ်လျက် ဖွားမြောက်ကြသည်။

ထိုတွင် အရှင် ဃောသိတလောင်းလျာကလေးက စတုတ္ထမြောက် သားရတနာ ဖြစ်ပါ၏၊ အရှင်ဃောသိတ လောင်းလျာကလေး (၇) နှစ်သားအရွယ် ခန့်တွင် အစ်ကိုများနှင့်အတူ ဖိုကြီးရွာမ အနောက်ကျောင်းသို့ ပညာသင်ကြားရန် လိုက်ရသည်။

ကျောင်းထိုင်ဆရာတော်ကြီး ဦးနန္ဒိယ၊ ခန်းနေ လက်ထောက် ဘုန်းတော်ကြီး ဦးဝိမလတို့အထံတော်တွင် အခြေခံပညာရပ်များ သင်ကြားရ၏၊ မြန်မာစာ အရေးအဖတ်၊ အတွက်အချက် ဂဏန်းသင်္ချာတို့ကို ပါ သင်ပြပေးတော်မူကြသည်။

ယဉ်ကျေးမှုအဖြစ် မင်္ဂလသုတ်၊ ပရိတ်ကြီး၊ အတွင်းအောင်ခြင်း၊ အပြင်အောင်ခြင်း၊ နမက္ကာရ၊ စိတ်ဓာတ် မြင့်မားလာရေးအတွက် လောကနီတိနှင့် ငါးရာငါးဆယ် ဇာတ်တော်များကိုလည်း သင်ပြပေးတော်မူကြသည်။

## ရှင်သာမဏေဘဝသို့ မြင့်တက်လာ

တရွေ့ရွေ့ဖြင့် အသက် ၁၂–နှစ် အရွယ်သို့ ရောက်လာသောအခါ အမိအဘတို့၏ ပစ္စယာနုဂ္ဂဟကို ခံယူ၍ ဖိုကြီးရွာမ အနောက်ကျောင်း မှာပင် ရှင်သာမဏေဘောင်သို့ တက်လာပါသည်၊ ဥပဇ္ဈာယ် ဆရာတော်မှာ ဘုန်းတော်ကြီး ဦးဝိမလ ဖြစ်၏၊ ဥပဇ္ဈာယ် ဆရာတော်က “ရှင်ဃောသိတ” ဟုအမည် မှည့်ပေးတော်မူသည်။

ညီအစ်ကို မောင်နှမ (၇) ယောက်တို့တွင် အဦးဆုံးသားကြီးကမူ ငယ်စဉ်ကျောင်းသားကလေးဘဝကပင် ပခုက္ကူမြို့သို့ ရောက်နေ၏၊ အဖေ့ညီ ဘုန်းကြီး (ဘကြီးဘုန်းကြီး) နှင့်အတူ လိုက်ပါသွားကာ မဟာဝိသုတာရာမ ကျောင်းတိုက်ကြီးထဲ၌ စာပေတွေ သင်ကြားနေခဲ့သည်။

ထို့နောက် ရှင်သာမဏေ ဝတ်သောအခါတွင်

"ရှင်သုမန" ဟု နာမည်တွင်၏၊ ပခုက္ကူ– မဟာဝိသုတာရာမတိုက်ကြီးထဲမှ ဆရာတော်ကြီး ဦးပညာသီဟက ဆင်ဖြူကျွန်းမြို့သို့ စာသင်တိုက် ခွဲသောအခါ ရှင်သုမနလည်း ပါသွားသည်၊ ထိုမြို့မှာ ဆက်လက် ပညာသင်၍ အသက် ၂၀–ပြည့်သောအခါ ဦးဘဦး +ဒေါ်လှအုံးတို့၏ ပစ္စယာနုဂ္ဂဟကို ခံယူ၍ ရဟန်းဘဝသို့ ရောက်လာ၏၊ စာဘတ် ပေတော် ဖြစ်၍ "စာချ ဘုန်းကြီးတစ်ပါး" လည်း ဖြစ်လာတော့သည်။

ဤကဲ့သို့ ဘကြီး ဘုန်းကြီးနှင့် အစ်ကိုရင်းဖြစ်သူ ဘုန်းကြီးတို့ကို အကြောင်းပြု အခြေခံပြီးလျှင် ရှင်ဃောသိတသည်လည်း သာသနာတော်နှင့် နီးစပ်ဆွေမျိုးတော်ကာ ရင်းနှီးနေတော့၏၊ ရဟန်းဘဝသို့ ရောက်လာရန် အခွင့်အလမ်း သာနေတော့သည်။

ထို့ပြင် မိမိ၏ဆရာရင်းဆရာတော်ကြီး ဦးနန္ဒိယ၊ လက်ထောက် ဘုန်းတော်ကြီး ဦးဝိမလ တို့ကလည်း ယခုအခါတွင် ပိဋကတ်တော်များသို့ တက်လှမ်းရန် အခြေခံဖြစ်သာ သဒ္ဒါ– သင်္ဂြိုဟ်တို့ကို သင်ပြ ပေးတော်မူနေကြပြီ၊ ထိုမှနောက်၌ ပုဒ်စစ်– သုတ်စစ်– သဒ္ဒါစစ်တို့ကိုလည်း သင်ပေးတော်မူနေကြ ပြန်၏၊ ဂျပန်ခေတ်ကုန်သည့်တိုင်အောင်ပင် ဖြစ်တော့သည်။

## မန္တလေးသို့ ညီအစ်ကို ၂–ပါး စာသင်သွား

ရှင်ဃောသိတ အသက် ၁၆ နှစ်ခန့် အရွယ်တွင် နောင်တော်အရှင်း စာချဘုန်းကြီး ဦးသုမနက မြို့မှလာ၍ ခေါ်သည်၊ ထို့နောက် ညီအစ်ကို ၂–ပါး မန္တလေးသို့ ပညာသင်ရန် သွားခဲ့ကြ၏၊ မန္တလေး၊ တောင်ပြင်၊ ထီးလင်းတိုက်၌ နေခွင့်ရကြသည်၊ အစ်ကို့ထံမှာ မိမိက ပညာသင်ရ၏၊ အစ်ကိုအရှင်း ဦးသုမနကလည်း သူလိုရာ ပရိယတ်အထက်တန်း ပညာရပ်များကို ဆက်လက် သင်ကြားနေသည်။

မန္တလေးမြို့ကြီး၌ ၁–နှစ်ခွဲခန့်မျှနေပြီးကြချိန်တွင် နောင်တော်အရှင်း ဦးသုမနက သူ့မိတ်ဆွေရင်း ဦးဥက္ကဋ္ဌ (ရွာခိုင်) နှင့် တိုင်ပင်ကြပြီးလျှင် ပဌာန်းစာဝါဆိုရန် မန္တလေးမှ တောင်မြို့ (အမရပူရမြို့) သို့ ပြောင်းရွှေ့ကြပြန်၏၊ မိမိလည်း လိုက်ပါရတော့သည်။

ဦးစွာ ပထမ မင်္ဂလာတိုက်ဟောင်း၊ ဒေါ်ဒေါ်ဖုံ၏ ကျောင်းကြီးအောက်တွင် နေရာရကြ၏၊ ထိုနေရာ၌ ခေတ္တခဏ နေထိုင်ကြသည်။ [ထိုအချိန်က မိုးကုတ်ဆရာတော်ကြီး ဦးဝိမလ မိုးကုတ်မြို့မှ အမရပူရသို့ ပြန်လည် ကြွရောက်လာခြင်း မရှိသေးပါ။]

ထို့နောက် –မိမိကို နောင်တော်တို့က အမရပူရ အရှေ့ဖျား၊ တောင်သမန် အင်းရေပြင်ကြီး အရိပ်တွင် တည်ရှိသော မဟာဂန္ဓာရုံကျောင်းတိုက်၊ ဆရာတော်အရှင် ဇနကာဘိဝံသထံသို့ ပို့လိုက်ကြတော့၏၊ ထိုအချိန်မှစ၍ အရှင် ဇနကာဘိဝံသ၏ တပည့်ရင်းကြီး ဖြစ်၍ သွားတော့သည်။

ထိုစဉ်တွင် ဆရာတော် အရှင် ဇနကာဘိဝံသကလည်း အားပြည့် အင်ပြည့်အနေဖြင့် မဟာဂန္ဓာရုံကျောင်းတိုက်ကို ပရိယတ္တိစာသင်တိုက်ကြီး ဖြစ်လာရန် အရှိန်ယူ အားပျိုးနေဆဲ– အားပျိုးခါစ ဖြစ်၏၊ သို့ဖြစ်၍ မိမိဘဝအဖို့ မြင့်တက်လာဖို့ရာ အမှီအခိုကောင်း– ဆရာကောင်း အပြည့်အဝ ရရှိလိုက်ခြင်း ဖြစ်တော့သည်။

ထို့နောက်တွင် မိမိဘဝလည်း တစ်စ တစ်စ ပြောင်းလွဲလာခဲ့ရတော့၏၊ ဆရာတော် အရှင်ဇနကာဘိဝံသက စိတ်နေစိတ်ထားတို့ကို ပြုပြင်ပေးတော်မူသည်၊ အသိဉာဏ်ပညာ– သဒ္ဒါတရား တိုးတက်အောင်လည်း လမ်းညွှန်ပေးတော်မူ၏၊ ပြုပြင်ရေးဆွဲထားသော ဆရာတော်၏ ပညာသင်ကြားရေး မူသစ်–စနစ်သစ်ဖြင့်လည်း သင်ယူရသည်။

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

## ဆောင်းပါးကဗျာ–ဝါသနာစတင် အထုံကပ်ခဲ့

မိမိသည် ဝါသနာအလျောက် ကချွတ်ကချောက် လုပ်တတ်၏၊ ငယ်စဉ်မှစ၍ နောင်တော်အရင်းကသင်ပြပေးသော ကဗျာသီကုံးနည်းကလေးတို့ဖြင့် အချိန်ရလျှင် ရသလို သီကုံးနေတတ်သည်၊ ပြီးလျှင် မိမိကဗျာ–မိမိ တိုးတိုးရွတ်ဆို၍ ခဲတံဖြင့် စည်းလိုက် နေရသည်မှာ အရသာတစ်မျိုးဖြစ်၏။

ထို့နောက် စာစောင် မဂ္ဂဇင်းများသို့ မိမိ ကဗျာကလေး ပါ–ပါစေဆိုတဲ့ မျှော်လင့်ချက်များစွာဖြင့် ပို့တတ်သည်၊ ပါသည့်အခါ ပါ၏၊ မပါသည့် အခါလည်း များစွာရှိသည်၊ မိမိလက်ရာ ကဗျာကလေး ပုံနှိပ်စာလုံးဖြင့် ပါလာလျှင်ကား အိပ်မပျော်နိုင်အောင် ဝမ်းသာရတော့သည်။

ကဗျာအရေးအသားမှာ ကိုယ့်ကဗျာများ အဆင့်အတန်းမြင့်လာအောင် ကြိုးစားရ၏၊ သူများတွေရဲ့ ကဗျာများကိုလည်း ရှာဖွေလေ့လာရတော့သည်၊ ကောင်းတဲ့ကဗျာ– စကားလုံးလှတဲ့ ကဗျာကလေးများဆိုလျှင် ကိုယ်ကလည်း အတုယူရ၏။

ကဗျာများနှင့် ဆက်နွယ်၍ပင် စာပေရေးသားမှုများလည်း ဝါသနာထုံလာတော့၏၊ သို့ဖြစ်၍ စာတိုပေစ ဆောင်းပါးကလေးများ ရေးသားကြည့်သည်၊ သတင်းစာမဂ္ဂဇင်းတိုက်များသို့ စမ်း၍ ပို့ကြည့်၏၊ တချို့ အသုံးပြုသည်၊ တချို့ မသုံး၊ တစ်ခါတလေ ရွေးချယ်၍များ အသုံးပြုလျှင် တပြုံးပြုံးနှင့် နှလုံးစိတ်ဝမ်း ပျော်တော့သည်။

## ငယ်ပါသေးတယ်ကွ၊ မင်း ... ကြီးမှ ရေးပါ–တဲ့

ဤနည်းအားဖြင့် တစ်ခါသော် "ကဆုန်လပြည့် ဗုဒ္ဓနေ့" အကြောင်းကို ဆောင်းပါးရေး၍ သတင်းစာတိုက်သို့ ပို့လိုက်၏၊ ပါလာသည်၊ ဆရာတော် ကြည့်နေကျ သတင်းစာ ဖြစ်နေ၍ သိသွားတော့၏၊ မိမိကို အခေါ်ခိုင်းတော့သည်၊ "ဆူပူမာန်မဲတော့မှာပဲ" ဟူ၍ စိတ်ထဲတွင် တထင့်ထင့်ဖြင့် သွားရ၏၊ ရောက် လျှင် မေးတော့သည်–

"မင်း ... ဆောင်းပါးရေးသလား"

"မှန်ပါ– ရေးမိပါတယ်ဘုရား"

"အေး ... ခုအချိန်မှာ မင်းက ငယ်ပါသေးတယ်ကွ၊ အသက်ကြီးမှရေးပါ၊ အဲဒီ ကျတော့ ဗဟုသုတလဲ စုံတာပေါ့"

"အခုအချိန်မှာဒီစာတွေ ရေးနေရင် ဒီစာတွေထဲမှာပဲ နစ်နေတဲ့အတွက် မင်းသင်နေကျ ပါဠိတော် – အဋ္ဌကထာ – ဋီကာတွေထဲမှာ သမာဓိ နည်းသွားလိမ့်မယ်၊ အဲဒါကြောင့် ကြီးမှ ရေးပါကွာ ..."

"မှန်ပါ အရှင်ဘုရား"

ဆရာတော့်စကားကိုမြေဝယ်မကျ နားထောင်လိုက်နာခဲ့သည်။ နောက်ထပ် မရေးဖြစ်တော့၊ ရေးချင်စိတ်တွေကို မျိုသိပ်ချုပ်တည်းလာခဲ့ရတော့သည်။

## တစ်ဘဝသာသနာ

# စာရေးသားနည်း အတတ်ပညာ ရရှိခဲ့

ဤနည်းအားဖြင့် ဆရာတော့်ထံမှာ ပညာရည် နို့သောက်စို့လာခဲ့ရာ အောက်ပိုင်းကျမ်းစာများမှသည် အထက်ပိုင်း ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကြီးများ ဆုံးခန်းတိုင်ရောက် ပေါက်မြောက်သည်အထိ သင်ယူခွင့် ရခဲ့၏၊ ငယ်–လတ်–ကြီး စာမေးပွဲများလည်း အဆင့်ဆင့် အောင်မြင်ခဲ့သည်၊ အသက် ၂၀ ပြည့်၍ ရဟန်းလည်း ဖြစ်လာခဲ့ပြီ။

သက္ကရာဇ် ၁၃၁၇– ခုနှစ်တွင်မူ နိုင်ငံတော် အစိုးရက ကျင်းပပေးသော ဓမ္မာစရိယ စာချတန်း စာမေးပွဲကို ဝင်ရောက် ဖြေဆိုအောင်မြင်ခဲ့၏၊ ဂုဏ်ထူးများနှင့်တကွ အောင်မြင်သဖြင့် "သာသနဓဇသိရီပဝရ ဓမ္မာစရိယ" ဘွဲ့ကို ရရှိခဲ့လေသည်၊ သို့ဖြစ်၍ "မဟာဂန္ဓာရုံစာချဘုန်းကြီးတစ်ပါး" အဖြစ်လည်း ဆရာတော်၏ အသိအမှတ်ပြုခြင်းကို ခံယူရသည်။

ဆရာတော်က မိမိအား စာရေးဝါသနာပါမှန်း သိတော်မူ၏၊ သို့ဖြစ်၍ စာရေးသားရာတွင် မပါ–မပြီး အချက်အချာအရေးကြီးသော "အလင်္ကာ ဘာသာဋီကာ" ကို ဦးစားပေးပြီး သင်ကြားပေးခဲ့သည်။

ထို့ပြင်– ဆရာတော့်မှာ နေ့စဉ်နေ့တိုင်း စာဝါ (၃) ဝါ ချပို့ပေး၍ ကျမ်းစာ (၃) ဆူ တစ်ပြိုင်နက် ရေးသားနေခဲ့ရာ ကြားမလပ်အောင် ဖြစ်နေခဲ့၏၊ ထိုအထဲတွင် တစ်ခါတစ်ရံ အပိုကိစ္စတွေ ပေါ်ပေါက်လာပြန်သောအခါ လုံးဝမအားလပ်အောင် ဖြစ်သွားတော့၏။

ထိုအခါမျိုးတွင် ရေးလက်စ စာကို မိမိအား တစ်မျက်နှာစ– နှစ်မျက်နှာစ အစမ်းရေးသားခိုင်းတတ်၏၊ ပြုပြင်၍လည်း ပေးတော်မူသည်၊ ဤနည်းအားဖြင့် လက်သားတက်လာကာ ရဲလာတော့၏၊ သို့ဖြစ်၍ "စာရေးသားနည်း အတတ်ပညာ" ကို ကျေးဇူးရှင် ဆရာတော် အရှင်ဇနကာဘိဝံသထံမှ ရရှိခဲ့ပါသည်။

# စာရေးတတ်သူများ ထွက်ပေါ်စေလိုဟန်ရှိ

ဆရာတော်က စာရေးဝါသနာပါသော ပုဂ္ဂိုလ်များအတွက် စာရေးတတ်အောင် စာပေချပို့ရင်း နည်းစနစ်ကလေးများကို ပြော–ပြော ပေးသွားတတ်၏၊ ထောက်–ထောက်ပြသွားတတ်သည်၊ ယူတတ်သော သူများ ရကြ၏။

ပရိသတ် ဗိုလ်ပုံအပေါ် ရွှေဒင်္ဂါးပြားတွေ ပက်၍ ကြဲသောအခါ မကောက်ဘဲ ဆေးနေသူများအဖို့ မရလိုက်ကြ၊ ကောက်၍ ယူတတ်သော သူများအဖို့ ရကြသလို ဖြစ်တော့သည်။

ဆရာတော်က မိမိတပည့်များထဲမှ စာရေးတတ်သူများ ထွက်ပေါ်စေလိုဟန် ရှိပါ၏၊ ထို့ကြောင့် ပင် စာရေးနည်းစနစ်ကို ပြောပြရုံသာမက– ပါဠိဂါထာ ရေးသားနည်း၊ ကဗျာလင်္ကာ သီကုံးနည်းများ ကိုပါ စောစောပိုင်းက ကိုယ်တော်တိုင်သင်ပြပေးတော်မူ၏။

ထိုသီကုံးနှုန်းဖွဲ့မှုသည်လည်း ကျမ်းစာရေးသားရာတွင် အဆင်အပြင် အမွှမ်းအမံ တစ်မျိုးဖြစ်၍ တတ်မြောက်ဖို့ လိုအပ်သည်သာ၊ ထို့ကြောင့် သင်ပေးတော်မူခြင်း ဖြစ်သည်။

မိမိအတွက်မှာကား– ကဗျာ လင်္ကာ – ရတု– ဒွေးချိုး – လေးချိုး – တြိချိုးနှင့် တေးထပ်စသော အသီအကုံး အနှုန်းအဖွဲ့ပညာရပ်များကို ငယ်စဉ်ကပင် နောင်တော်အရင်း ဦးသုမနထံမှ ရရှိခဲ့သည်၊ နောင်တော်အရင်းက "ကဗျာဆရာ" ဖြစ်၏။

ဤနည်းအားဖြင့် ပညာရပ်တို့ကို ဆည်းပူးရင်း

## မိုးကုတ်ဆရာတော်ဘုရားကြီး၏

ဆရာတော့်ထံမှာ ၁၂-နှစ်ကျော်မျှ ခိုလှုံခွင့်ရခဲ့သည်။

နောင်သော အခါတွင် မိမိက ရန်ကုန်သို့ ပြောင်းရွှေ့ခဲ့၏။ ခေတ်မီစနစ်ဖြင့် သာသနာပြု သင်တန်းများ ပို့ချပေးနေသော ကမ္ဘာအေးကုန်းမြေရှိ "သံဃာ့တက္ကသိုလ်" တွင် သင်တန်းများ တက်ခဲ့သည်။

သံဃာ့တက္ကသိုလ်တွင် ၅-နှစ်၊ ကမ္ဘာ့ ဗုဒ္ဓတက္ကသိုလ်တွင် ၂-နှစ် ပညာရပ်များ ဆည်းပူးခဲ့၏၊

သင်တန်းများ ပြီးစီး အောင်မြင်သောအခါ "ဗုဒ္ဓဒေသနာ ဒီပလိုမာ" (Dip. B.D) လက်မှတ်ကို ဆက်ကပ်၍ အသိအမှတ်ပြုခြင်း ခံယူရသည်။

## ပရိယတ်နယ်ပယ်မှ ပဋိပတ်နယ်ပယ်သို့

ထို့နောက် ရန်ကုန်မြို့၊ ကမ္ဘာအေး၊ ရေကူးရပ်တွင် တည်ထောင်ဖွင့်လှစ်ထားရှိသော သာသနာပြုဌာန- "သံဃာ့တက္ကသိုလ်" ၌ ပညာရေးတာဝန်ကို ထမ်းဆောင်ရင်း သာသနာပြု သင်တန်းများကို ပို့ချပေးလျက် နေခဲ့ပါသည်။

ကျေးဇူးရှင် ဆရာတော် အရှင် ဇနကာဘိဝံသက တစ်နိုင်ငံလုံးအတွက် ကျောင်းထိုင်ဘုန်းကြီးသင်တန်းများ ဖြစ်ပေါ်ရေးကို ရှေးရှုနေခဲ့၏၊ ဖြစ်ပေါ်လာအောင် အားယူနေဆဲဖြစ်သည်၊ ယင်းအလိုဆန္ဒကို ပြည့်ဝအောင် မိမိက တစ်စိတ်-တစ်ဒေသ ဖြည့်တင်းပေးနေခြင်း ဖြစ်တော့သည်။

ထိုစဉ်တွင် ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး အရှင်ဇနကာဘိဝံသ ပျံလွန်တော်မူသွားခဲ့၏၊ သို့ဖြစ်၍ မိမိက ဆရာတော်ဘုရား၏ တစ်ဘဝလုံး သာသနာပြုလုပ်ငန်းတို့ကို ဖော်ပြလျက် "တစ်ဘဝသာသနာ" ကျမ်းစာကို ရေးသား၍ ကျေးဇူးဆပ်နိုင်ခဲ့ပါသည်။ "ကြီးမှရေးပါကွာ" ဆို၍ ယခုမှပင် စတင်ပြီး ရေးရပါတော့၏။

ဤနည်းအားဖြင့် အရှင် ယောသိတသည် သာသနာတော်၌ ရဟန်းသိက္ခာ (၅) ဝါခန့်မှ စ၍ နှစ်ပေါင်း (၃၀) ခန့်မျှတိုင်အောင် ပရိယတ္တိနယ်ပယ်၌ ကျင်လည် ကျက်စားကာ ပရိယတ်စာပေများကို စာသင်သားတို့အား ချပို့ပေးခဲ့၏၊ ပရဟိတ လုပ်ငန်းကို မမောမပန်း ထမ်းဆောင်ခဲ့သည်။

အသက်အရွယ် ထောက်လာသောအခါတွင်ကား- စိတ်ဓာတ်တို့သည် ပရိယတ်နယ်ပယ်မှ ပဋိပတ်နယ်ပယ်ဘက်သို့ပါ ယိုင်လာကြတော့၏၊ သဘာဝပင် ဖြစ်ပါလိမ့်မည်။

ထို့ကြောင့်- ရန်ကုန်မြို့၊ ဗဟန်း၊ နတ်မောက်လမ်း၊ ရွှေတိဂုံစေတီတော်ကြီး၏ ထီးတော်အရိပ်နယ်မြေအောက်တွင် တည်ရှိသော "မိုးကုတ်ဝိပဿနာဌာနချုပ်" သို့ ရောက်ရှိသွားရတော့သည်။

တောတောင်စိမ့်စမ်းနှင့် အေးချမ်းသောဌာန၊ ဆိတ်ငြိမ်သော အာဝါသသို့ ဝင်လိုက်ရလျှင်ပင် ဝန်းကျင်အခြေအနေတွေ အကုန်လုံး တစ်မျိုးတစ်ဖုံ ပြောင်းလွဲကုန်တော့၏၊ ငြိမ်းချမ်းမှုကြီး တစ်ဝက်ကို ရလိုက်သလို ဖြစ်တော့သည်။

## ကျေးဇူးဆပ်သော အနေအားဖြင့်

ယခုအခါတွင်ကား မိုးကုတ်ဆရာတော်ဘုရားကြီး ညွှန်ကြားတော်မူသော နည်းစနစ်အတိုင်း ဝိပဿနာအလုပ်တို့ကို ကိုယ်တိုင် ကြိုးကုတ် အားထုတ်နိုင်သော အခွင့်ကို ရနေလေပြီ၊ ဒုက္ခခပ်သိမ်း အေးငြိမ်းမှုကို ရချင်တယ်ဆိုရင် ကိုယ့်ဘာသာကိုယ် ကြိုးစားရမည် မဟုတ်ပါလော။

ဤသို့သော အသိစိတ်ဓာတ်ဖြင့် မပြတ် လှုပ်ရှားကြိုးစားလာခဲ့ရာ မိုးကုတ် ဆရာတော်ဘုရားကြီး၏ ကျေးဇူးတော် အစုတို့သည် မိမိတို့ အပေါ်၌ ပုံ၍-ပုံ၍၊ ထပ်၍-ထပ်၍သာ များလာတော့သည်။

"ယင်း ကျေးဇူးတော်တွေကို ဘယ်လို ဆပ်ရပါမည်နည်း" ဟု စဉ်းစား တွေးတောနေမိစဉ် မိုးကုတ် ဝိပဿနာအဖွဲ့မှ ဂေါပက လူကြီးများက ဤသို့ လျှောက်ထားလာတော့သည်-

> "အရှင်ဘုရား ...ယခုအခါ မိုးကုတ် ဆရာတော်ဘုရားကြီးကို လူတိုင်းလိုလို ကြည်ညိုနေကြပြီ ဘုရား၊ ဦးညွှတ်နေကြပြီဘုရား ...။
>
> အဲဒီလို ကြည်ညိုလေးစားရတဲ့ ဆရာတော်ဘုရားကြီး တစ်ပါးရဲ့ ဘဝကို လူတိုင်းလိုလို သိချင်ကြပါမည် ဘုရား ...။
>
> သို့ဖြစ်ပါ၍ ဆရာတော်ဘုရားကြီးရဲ့ ဘဝကို ပီပီသသ ကျယ်ကျယ်ပြန့်ပြန့် ဖော်ပြလျက် အထ္ထုပ္ပတ္တိစာတစ်အုပ် ရေးသားပါရန် တောင်းပန်လျှောက်ထားပါသည် ဘုရား ...'

ဤသို့ တောင်းပန်ကြသဖြင့် မိမိမှာ ဝမ်းသာမှုလှိုင်းလုံးကြီး ဖြစ်ပေါ်လာရ ပါတော့သည်၊ ထို့ပြင်- မိမိ အနေဖြင့် ဆရာတော်ဘုရားကြီးအား ကျေးဇူးဆပ်ဖို့ အချိန်လည်း ရောက်လာပြီဟု သိလိုက်ရပါတော့သည်။

ဤအသိစိတ်ဓာတ်တို့ဖြင့် ကြိုးစား၍ ဆရာတော်ဘုရားကြီးအား ကျေးဇူးဆပ်သော အနေအားဖြင့် ရေးသား၍ လာခဲ့ရာ ယခု ဖတ်ရှုနေရသော စာအုပ်ကြီး အဖြစ်သို့ ရောက်ရှိလာခဲ့ပါတော့သည်။ ယခုအခါတွင်ကား မိမိသည် သာသနာတော်၌ ကျေးဇူးရှင် ဆရာတော် ဘုရားများ၏ သင်ကြားပေးမှုကြောင့် ပရိယတ်ရော-ပဋိပတ်ပါ နှစ်ဖြာတာဝန်ကို ကျေပွန်အောင် ထမ်းဆောင်နေနိုင်ပါတော့သတည်း။ ။



## ဤတစ်ဘဝသာသနာ၌ ပါဝင်သော အကိုးသာဓက ကျမ်းစာများ





## တစ်ဘဝသာသနာ ကျမ်းပြုဆရာတော်



အရှင်ဃောသိတ
(သာသနဓဇ သိရီပဝရ ဓမ္မာစရိယ)

## မိုးကုတ်ဝိပဿနာအဖွဲ့ချုပ် ပဓါန၊ နာယက ဆရာတော်ကြီးများ



ဆရာတော် ဦးဃောသိတ

ဆရာတော် ဦးဇနိတာလင်္ကာရ



ဆရာတော် ဦးအဂ္ဂဉာဏ



ဆရာတော် ဦးကစ္စာယန



ဆရာတော် ဦးစန္ဒာဝရာဘိဝံသ



ဆရာတော် ဦးပညိန္ဒ

## မိုးကုတ်ဝိပဿနာ အဖွဲ့ချုပ် အလုပ်အမှုဆောင်လူကြီးများ



ဂုဏ်ထူးဆောင်နာယကကြီး

ဦးအောင်ကျော်
ဥက္ကဋ္ဌကြီး
(၁၉၇၉ - ၂၀၀၀)



ဦးကျော်ညွန့်
အတွင်းရေးမှူး
(၁၉[illegible]၂ - ၂၀၀၀)

မိုးကုတ်တရားတော်များပြန့်ပွားရန် ရှေ့ပိုင်းမှ ဆောင်ရွက်ခဲ့ကြသော ပုဂ္ဂိုလ်ကြီးများ (ဇူလိုင်လ - ၁၉၇၈)



ရှေ့တန်း - ဝဲမှယာ - ဦးဘသန်း၊ ဦးသန်းမောင်(ကျားဖြူ)၊ ဦးသံခိုင်(ဥက္ကဋ္ဌ)၊ ဦးရိန်ယန်၊ ဦးကျော်ငြိမ်း၊ ဦးချစ်ယုံ၊
နောက်တန်း - ဝဲမှယာ - ဦးလှရွှေ၊ ဦးချန်တွန်း၊ ဦးအောင်ကျော်၊ ဦးကိုကြီး၊ ဦးမြင့်၊ ဦးအောင်ချို၊ ဦးညွန့်(ဟံဇား)၊ ဦးတင်အောင်၊ ဆရာဦးကျော်။

## မိုးကုတ်ဝိပဿနာ အဖွဲ့ချုပ် အလုပ်အမှုဆောင်လူကြီးများ (၂၀၀၂)



ဦးမြင့်
ဥက္ကဋ္ဌကြီး
ဒုတိယဥက္ကဋ္ဌနှင့်ငွေထိန်း (၁၉၆၉-၂၀၀၀)



ဦးအောင်ချို
ဒုတိယဥက္ကဋ္ဌ (၁၉၆၉-ယခုအချိန်ထိ)



# မိုးကုတ်ဝိပဿနာ အဖွဲ့ချုပ် အလုပ်အမှုဆောင်လူကြီးများ (၂၀၀၂)



ဦးလှရွှေ

ဒုတိယဥက္ကဋ္ဌ

အမှုဆောင် (၁၉၆၉ - ၂၀၀၀)



ဦးစိန်တင့်

ဘဏ္ဍာရေးမှူး

## မိုးကုတ်ဝိပဿနာ အဖွဲ့ချုပ် အလုပ်အမှုဆောင်လူကြီးများ (၂၀၀၂)



ဆရာဦးစောလှိုင်
အတွင်းရေးမှူး



ဦးအောင်နိုင်မြင့်
တွဲဘက်အတွင်းရေးမှူး

၂၀၀၂-၃ ဇန်နဝါရီလ (၁၊၂၊၃) ရက် ပဥ္စမအကြိမ် မိုးကုတ်ဝိပဿနာ ဓမ္မသဘင်



နာယကဆရာတော်များ နှင့် အမှုဆောင်လူကြီးများ

မိုးကုတ်တရားတော်များပြန့်ပွားရန် အဟာ် ကျောင်းအမကြီးများ (ဇူလိုင်လ - ၁၉၇၈)



ရှေ့တန်း - ဝဲမှယာ - ဒေါ်လှသန့်၊ ဒေါ်ကောက်(ကျူးမျှ)၊ ဒေါ်ဒေါ်ပုံ၊ ဒေါ်တင်တင်၊ နောက်တန်း - ဝဲမှယာ - ဒေါ်သန်းသန်း၊ ဒေါ်စိန်စိန်၊ ဒေါ်လှလှ။

# ကျောင်းအမ နာယကကြီးများ



[illegible]



ဒေါ်လှလှ
ကျောင်းအမကြီး



ဒေါ်သန်းသန်း
ကျောင်းအမကြီး



ဒေါ်ကြည်ကြည်နိုင်
ကျောင်းအမကြီး

## မိုးကုတ်ဝိပဿနာ အဖွဲ့ချုပ်၊ နာယကများနှင့်အမှုဆောင်လူကြီးများ (၁၉၉၇ - ၁၉၉၈)





၁၉၉၃ - ခု၊ ဇန်နဝါရီလ (၂၊၃၊၄) ရက်၊ ဒုတိယအကြိမ် ဓမ္မသဘင်ညီလာခံတွင်
တက်ရောက်လာကြသော ဓမ္မကထိကများနှင့် ကိုယ်စားလှယ်တော်ကြီးများ





၁၉၉၆ - ခု၊ ဇန်နဝါရီလ(၂၊၃၊၄)ရက်၊ တတိယအကြိမ် ဓမ္မသဘင်ညီလာခံတွင်
တက်ရောက်လာကြသော ဓမ္မကထိကများနှင့် အဖွဲ့ဝင်လူကြီးများ



၁၉၉၉ - ခု၊ ဇန်နဝါရီလ (၁၊၂၊၃)ရက်၊ စတုတ္ထအကြိမ်၊ ဓမ္မသဘင်ညီလာခံ
နာယကဆရာတော်ကြီးများနှင့် အမှုဆောင်လူကြီးများ



# အမှားပြင်ဆင်ချက်

| အမှား | အမှန် | စာမျက်နှာ |
|---|---|---|
| လဲ | လည်း | ၂၁၅ |
| လဲ | လည်း | ၃၁၉ |
| ရှမ်းပြည် | ရှမ်းပြည်နယ် | ၃၅၅ |
| ရှမ်းပြည်တောင်ပိုင်း | ရှမ်းပြည်နယ်တောင်ပိုင်း | ၃၅၈ |
| ဆင်းဒဝစ်လမ်း | ဗိုလ်ရာညွှန့်လမ်း | ၃၈၀ |
| ဟာမစ်တစ်လမ်း | သာသနာ့ရိပ်သာလမ်း | ၃၈၁ |
| ယိုးဒယားပြည် | ယိုးဒယားနိုင်ငံ | ၃၈၁ |
| လဲ | လည်း | ၄၁၉ |
| လဲ | လည်း | ၄၃၇ |
| လဲ | လည်း | ၄၉၉ |
| လဲ | လည်း | ၅၀၀ |
| အဖွားသဲနု | အဘွားသဲနု | ၅၀၃ |
| အဖွားဖုံ | အဘွားဖုံ | နောက်ဆက်တွဲခေတ်ပုံကြီး |



ဤကျမ်းစာကို ရေးသားသူမှာ အမရပူရ၊ မဟာဂန္ဓာရုံ ဆရာတော် အဂ္ဂမဟာပဏ္ဍိတ၊ဆရာတော် အရှင်ဇနကာဘိဝံသ၏ 'တစ်ဘဝသာသနာ' ကို ရေးသားခဲ့သော အရှင်ဃောသိတပင်ဖြစ်ပါသည်။

အရှင်ဃောသိတသည် မကွေးတိုင်း၊တောင်တွင်းကြီး မြို့သစ်မြို့နယ်၊ ဖိုကြီးကျေးရွာတွင် ၁၂၉၂ ခု၊ ကဆုန်လဆန်း ၉ ရက်၊တနင်္လာနေ့တွင် ဖွားမြင်ခဲ့၏။ မိဘများမှာ အဘ ဦးဘိုးချို အမိ ဒေါ်ဆယ်မိတို့ ဖြစ်ပါသည်။

အရှင် ဃောသိတ အသက်၁၈နှစ်သား အရွယ်ခန့်တွင်အမရပူရ၊မဟာဂန္ဓာရုံကျောင်းတိုက်၊ ဆရာတော်အရှင်ဇနကာဘိဝံသထံသို့ရောက်ခဲ့၏။ ဆရာတော်၏ ဆုံးမသင်ကြားမှုကို အပြည့်အဝရရှိခဲ့သည်။ ဆရာတော်ထံမှာပင် ငယ်-လတ်-ကြီး စာမေးပွဲများ အောင်ခဲ့၏။

၁၃၁၇ ခုနှစ်တွင်မှ ဓမ္မာစရိယ စာချတန်းကို ဂုဏ်ထူးများနှင့် တကွ အောင်မြင်၍ 'သာသနဓဇသီရိပဝရဓမ္မာစရိယ' ဘွဲ့ကို ရရှိခဲ့သည်။

နှစ်ပေါင်း(၃၀)ခန့်မျှ ပရိယတ်သာသနာကို ရွက်ဆောင်ခဲ့ပြီးလျှင် ယခုအခါ ပဋိပတ်သာသနာဘက်ကိုပါကူးပြောင်း၍ရွက်ဆောင်လျက်ရှိပါသည်။



1998.GRAPHIC DESIGN : KYAW MINN MOUNG